၁၉၄၈၉

မန္တလေးမြို့ရှိ

အာနန္ဒာ ဘုရားကြီးသမိုင်း၊
သတိုးမဟာ သက်တော်ရှည် မင်းကြီး ဦးပွား ကျောင်းမှုတော်ဘုရားကြီးသမိုင်း၊
ဒက္ခိဏာရာမ ဘုရားကြီးတိုက်သမိုင်း၊
ဒက္ခိဏာရာမ သာသနာ့ဝန်ဆောင်များ အဖြစ်တော်စဉ်တို့ဖြင့်
တန်ဆာဆင်အပ်သော

# မန္တလေးသာသနာဝင်

[ဒုတိယတွဲ]


အရှင် ကေလာသ

ဓမ္မာစရိယ၊ ဂဏဝါစက၊ B. A. Hons. ဝိဇ္ဇာဂုဏ်ထူး (သီရိလင်္ကာ)


စုဆောင်းရေးသားသည်




ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်

သာသနာ ၂၅၂၅၊ ကောဇာ ၁၃၄၃၊ ခရစ် ၁၉၈၂
သာသနာဝင်–A (ဒု)




# မန္တလေးသာသနာဝင် ဒုတိယတွဲ

(ဒက္ခိဏာရာမ သာသနာဝင်)

ပဉ္စမနှိပ်ခြင်း ၁၉၈၂-ခု ၃၀၀၀

ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဦးစီးဌာနအတွက်
အမှတ် ၁၁၊ ၁၂၅-လမ်း၊ ကန်တော်ကလေး၊
နေလင်းပိဋကတ်ပုံနှိပ်တိုက် (၀၂၀၃၀)တွင် ဒေါ်တင်လှကဲ ပုံနှိပ်၍
ဒုတိယ ညွှန်ကြားရေးမှူး ဦးမြင့်မောင်
မှတ်ပုံတင်အမှတ် (၀၂၅၂၇) က ထုတ်ဝေသည်။

မန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲ

# ကျမ်းဦးမှတ်ဖွယ်

**စိတ်ဝင်စားစရာကျမ်းကြီး။** ။မန္တလေး သာသနာဝင်ကျမ်း ဒုတိယတွဲသည်လည်း စိတ်ဝင်စားစရာကောင်းလှသည့်သာသနာ ...ိုင်းကျမ်းကြီးဖြစ်လေသည်။သာသနာ့ဝန်ဆောင် ဆရာတော်ဘုရားကြီးတို့၏ ...သနာပြုတော်မူခဲ့ပုံမှာ နှောင်းခေတ် သာသနာ့ဝန်ဆောင် ဆရာတော်များ၏ အတုယူဖွယ်ရာ စံစစ်ဖြစ်ပေသည်။

**...ါဝင်သောအကြောင်းအရာများ။** ။ဤ မန္တလေးသာသနာဝင် ဒုတိယတွဲကျမ်းကြီး၌ အာနန္ဒာဘုရားကြီးသမိုင်း၊ ဒက္ခိဏာရာမတိုက်ကြီး၏ ဘုရားကြီးတိုက်အမည်တွင်ခြင်းအကြောင်း၊ ကျောင်း...ိုက်ဒါယကာ သတိုးမဟာ သက်တော်ရှည်မင်းကြီး ဦးပွားကောင်းမှုတိုက်ဦး...စေတီတော်ကြီး သမိုင်းနှင့် ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနာ့သမိုင်း ...က္ခိဏာရာမသာသနာဝင်တို့ ပါရှိလေသည်။

**...က္ခိဏာရာမသာသနာဝင်၌ အပိုင်းငါးပိုင်း။** ။ဒက္ခိဏာရာမသာသနာဝင်၌—

၁။ ပဌမပိုင်း၊

၂။ ဒုတိယပိုင်း၊

၃။ တတိယပိုင်း၊

၄။ စတုတ္ထပိုင်း၊

၅။ ပဉ္စမပိုင်း—

အားဖြင့် အပိုင်းကဏ္ဍ ပရိစ္ဆေဒ ငါးပိုင်းပါရှိလေသည်။

**...ဌမပိုင်း၌ ပါဝင်သည့် အချက်အလက်များ။** ။ပဌမပိုင်း၌ ဒက္ခိဏာရာမကျောင်းတိုက်ကြီး ပေါ်...ာပုံမှစ၍ ကျောင်းရေစက်ချပွဲအကြောင်းနှင့် ဒက္ခိဏာရာမဘုရားကြီးတိုက် ...ျောင်းတော်ရေစက်ချ အမျှဝေစာတမ်းတို့ ပါရှိလေသည်။

**ဒုတိယပိုင်း၌ ပါဝင်သည့် အချက်အလက်များ။** ။ဒုတိယပိုင်း၌ ပဌမတိုက် တော်ဘည် "ဇာဂရာ ဘိဇေမဟာမွေ့ရာဇာဓိရာဇဂုရု" စသည့် ဘွဲ့တံဆိပ်တော်သုံးထပ်ရ ဆရာတော် ဘုရားကြီးမှ စ၍ ဒက္ခိဏာရာမတိုက် သံဃနာယကဆရာတော်ဘုရားကြီး ဆယ်ပါးတို့၏ အဖြစ်တော်စဉ်များကို လုပ်ဆောင်ချက်များနှင့်တကွ သမိုင်း သုတေသီတို့ စိတ်ဝင်စားလောက်အောင် ဖော်ပြထားသည်။

**တတိယပိုင်း၌ ပါဝင်သည့် အချက်အလက်များ။** ။တတိယပိုင်း၌ ပါရာဇိကကဏ္ဍ ဋီကာ စသည့် ကျမ်းဂန်ပြု ဒက္ခိဏာရာမ စာချဆရာတော် အရှင်သုတဗုဒ္ဓိ၏ အဖြစ်တော်စဉ်မှစ၍ ဒက္ခိဏာ ရာမတိုက် သာသနာ့ဝန်ဆောင် ဂဏဝါစက စာချဆရာတော်များ၏ အဖြစ် တော်စဉ်တို့ ပါဝင်သေသည်။

**စတုတ္ထပိုင်း၌ ပါဝင်သည့် အချက်အလက်များ။** ။စတုတ္ထပိုင်း၌ ဒက္ခိဏာရာမ အနွယ် ပညာရှင်များ ဖြစ် တော်မူကြသော ပဌမစာတော်ချ ဝိနိစ္ဆယကျမ်းပြု အကျော်မို နံကုန်းဆရာတော် အရှင်ဇေယန္ဒ၊ ပကိဏ္ဏက ဒီပနီ စသည့် ကျမ်းပြု ညောင်လွန့်တောရ ဆရာတော် အရှင်မေဓာဝီစသည့် ပရိယတ္တိဝန်ဆောင် ပဋိပတ္တိဝန်ဆောင်ဆရာတော်များ၊ ဒက္ခိဏာရာမအနွယ် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော်များ စသည့်ကျမ်းဂန်ဘတ် ဒက္ခိဏာရာမအနွယ် သာသနာ့ဝန်ဆောင် ပညာရှင် ဆရာတော်များ၏ အဖြစ်တော်စဉ်များစွာတို့ ပါရှိသေသည်။

**ပဉ္စမပိုင်း၌ ပါဝင်သည့်အချက်အလက်များ။** ။ပဉ္စမပိုင်း၌ ဒက္ခိဏာရာမတိုက် သံဃကဘ်ကာတ် ဥပဒေသ တော်၊ ဒက္ခိဏာရာမတိုက် အနှစ်တရာပြည့် သဘင်ကြီးသမိုင်းနှင့် ဒက္ခိဏာရာမ တိုက် ဆက်ဘရာ မင်္ဂလာ သြဘာစာတမ်း၊ ဒက္ခိဏာရာမဆရာတော်များ ဝိုင်- အမ်-ဘီ-အေ အသင်းအား ပိဋကတ်တော်များ သုတ်သင်ချီးမြှင့်ပေးခြင်း၊ အမရပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ အမှူးပြုသည့် ဂဏဝါစက အဘိဓာန် ကျမ်းပြုအဖွဲ့သမိုင်း၊ ဒက္ခိဏာရာမဘုရားကြီးတိုက် လက်ရှိကျောင်းများစာရင်း စသည် ပါရှိလေသည်။

**သိသာရုံ ဖော်ပြခြင်း။** ။ဒက္ခိဏာရာမ သာသနာဝင်သည် ဤမျှဖြင့် ပြည့်စုံ လုံလောက်သော သာသနာဝင်သမိုင်းဟု မဆိုနိုင်သေး ချေ။ စင်စစ် တမူထား ပြည့်စုံအောင် ရေးသားပြုစုရလျှင် ယခုသာသနာဝင်

ကျမ်းမျိုး သုံးတွဲခန့် ပြုစုရေးသားရမည်ဟု ခန့်မှန်းမိပါသည်။ သို့ရာတွင် ဤ ယခုဖော်ပြခဲ့ပြီးသော အကြောင်းအရာဖြင့်ပင်လျှင် ဒက္ခိဏာရာမ သာသနာ့ ဝန်ဆောင် ဆရာတော်ဘုရားကြီးတို့၏ လုပ်ဆောင်တော်မူချက်တို့ကို ရိပ်စား သိရှိတော်မူနိုင်ကြမည်ဖြစ်ပါသည်။ ယခုဖော်ပြချက်ကား သိသာရုံဖော်ပြချက် အကျဉ်းမျှသာ ဖြစ်ပေသည်။

**သာသနာ ပြုနိုင်ကြပါစေ။**

။သာသနာ့ဝန်ထမ်း ရဟန်းတော်များသည် မန္တလေး သာသနာ့ဝင်ကျမ်း ဒုတိယတွဲ၌ ဖော်ပြပါ ဒက္ခိဏာရာမသာသနာ့ဝန်ဆောင် ဆရာတော်ကြီးများ၏လုပ်ဆောင်ချက်တို့ကို အတုယူ စံနမူနာထားတော်မူကြ၍ သဒ္ဓါ၊ပညာ၊ဝီရိယ၊သမာဓိတို့ကို လက်ကိုင်ထားတော်မူကြကာ ဘုရားမြတ်စွာ သာသနာတော်ကြီး တိုးတက်စည်ပင်ပွားများအောင် ဆောင်ရွက်တော်မူနိုင်ကြပါစေဟု ဆန္ဒပြုပါသည်။

ဗုဒ္ဓမြတ်စွာ သာသနာ ရောင်ဝါနေသို့ ထွန်းစေသော်


အရှင်ကေလာသ

ဓမ္မာစရိယ၊ ဂဏဝါစက၊ ဘီ-အေ (ဂုဏ်ထူး)

သာသနဇောတိပါလကျောင်း

မဟာဝိသုတာရာမတိုက်၊ ပခုက္ကူမြို့


၁၃၄၂-ခု နှောင်းတန်ခူးလဆန်း ၁-ရက်။



မန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲ

# မာတိကာ


ရတနာ့တ္တယ ပဏာမ .... ၁
ဒက္ခိဏာရာမတိုက် အပြင်ထပ်အတွင်းရှိ အာနန္ဒာဘုရားကြီး .... ၅
အာနန္ဒာ ဘုရားရှိခိုး .... ၇
ဒက္ခိဏာရာမတိုက်တော်ကြီး ဒါယကာ
သတိုးမဟာသက်တော်ရှည် မင်းကြီး ဦးပွား၏
ကောင်းမှုတော် ဆုတောင်းပြည့်ဘုရားကြီး .... ၈
စေတီရာပြင်တော် ဘုရားဂုဏ်အားရုံပွဲကြ .... ၉
တိုက်ဦးစေတီတော်ကြီး ဝန္ဒနာဂါထာ .... ၉

ဒက္ခိဏာရာမ သာသနာဝင် ပဌမပိုင်း

ဒက္ခိဏာရာမ ကျောင်းတိုက်ကြီး .... ၁၀
စေတီတော်နှစ်ဆူ .... ၁၀
မစဲသုံးပါး ကွဲပြားမရှိ ဒက္ခိဏာရုံကျောင်းရွှေဘို .... ၁၁
ပညာရှိပုဂ္ဂိုလ်များ မဆိတ်သုဉ်းဘူးခြင်း .... ၁၁
ဗားကရာသာသနာပိုင်ထံ ကျောင်းထိုင်ဆရာတော်အတွက်
ရွေးနွေးခြင်း .... ၁၂
ဖိနပ်အရုံပေါင်း လေးဆူကျော် .... ၁၃
ကျောင်းရေစက်ချပွဲ .... ၁၃
ဘုရားကြီး တိုက်ဟု တွင်ခြင်း .... ၁၄
ဒက္ခိဏာရာမဟု တွင်ခြင်း .... ၁၄
ဘုရားကြီးတိုက်ကျောင်းတော် ရေစက်ချအမျှဝေသောတမ်း .... ၁၅

ဒက္ခိဏာရာမသာသနာဝင် ဒုတိယပိုင်း

ဒက္ခိဏာရာမ ဘုရားကြီးတိုက်ဇာည်ရာဇဂုရု တံဆိပ်တော်သုံးထပ်ရ
အရှင်ဇာဂရမဟာထေရ် (၁၁၇၂-၁၂၃၆) .... ၂၁
ဖွားမြင်တော်မူခြင်း — ၂၁
ကျောင်းနေပညာသင် ရှင်ရဟန်းပြုခြင်း .... ၂၁
သဲအင်း သာသနာပိုင် ဆရာတော်ထံပညာသင် .... ၂၂
ရဟန်းပြု သာသနာ့ဝန်ထမ်းဆောင်တော်မူခြင်း .... ၂၂

| | | |
|---|---|---|
| ဗားဏရာသာသနာပိုင်ဆရာတော် အရှင်ပညာဇောတထံ ပညာသင်ကြားတော်မူခြင်း | .... | ၂၂ |
| ပညာသင်ဘက်များ | .... | ၂၃ |
| အင်္ဂုတ္တိုရ်နိဿယများ ရေးကူးစဉ် ကူညီတော်မူခဲ့ခြင်း | .... | ၂၃ |
| စာပေချပို့တော်မူခြင်း | .... | ၂၃ |
| အသောကာရာမတိုက် လိုက်ပါသီတင်းသုံး စာချ | .... | ၂၄ |
| ဘုရားကြီးဆရာတော်လောင်းလျာ အရှင်ဇာဂရ စာပြောနည်း | .... | ၂၄ |
| ဂါထာအရေးအသား နိုင်နင်းခြင်း | .... | ၂၄ |
| ဒက္ခိဏာရာမဘုရားကြီးတိုက်ကြီး အလှူခံတော်မူခြင်း | .... | ၂၅ |
| စာပေကြိုးစားချ သံဃာတော်ထောင်ကျော် | .... | ၂၅ |
| ဂုံကောင်းထောက်မသဖြင့် အသက်ဘေးမှချမ်းသာခြင်း | .... | ၂၅ |
| အတုလဒေဝီ တောင်ဆောင်တော်မိဖုရားကြီးက တဖန် ကျောင်းဆောက်လှူဒါန်းကိုးကွယ်ခြင်း | .... | ၂၆ |
| ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခြင်း | .... | ၂၇ |
| သဒ္ဒစုတ္တဋီကာသစ်ကျမ်း | .... | ၂၈ |
| အမရပူရခေတ်စာချနည်းကို ပြောနေသောဋီကာ | .... | ၃၀ |
| ဂန္ထာဘရဏ ဋီကာသစ် | .... | ၃၁ |
| ဓါတ်ပဝံသဋီကာပါဌ် | .... | ၃၃ |
| ပါစိတျာဒိယောဇနာ | .... | ၃၄ |
| သံဝေဂဝတ္ထုဒီပနီကျမ်း | .... | ၃၇ |
| အထူးကြိုးစား၍ ရေးသားခြင်း | .... | ၃၈ |
| ရေးသားပုံ စနစ်အလွန်ကျ | .... | ၄၄ |
| မမွသံဝေဂ သရုပ်သဘောပြ ဂါထာအနက် | .... | ၄၇ |
| ချစ်ခင်ခြင်းအကြောင်း ၂-ပါးပြ ဂါထာအနက် | ... | ၄၇ |
| စိတ်ကြည်လင်ခြင်း အကျိုးရပုံပြဂါထာအနက် | .... | ၄၈ |
| သာဓုခေါ်လျှင် ခံတွင်းက ကြာနံ့သင်း ဂါထာအနက် | .... | ၄၈ |
| အခြံအရံ အကျော်စော တိုးတက်ကြောင်းပြ ဂါထာအနက် | .... | ၄၉ |
| ကိုယ်ဝန်တည်ကြောင်း ၈-ပါးပြ ဂါထာအနက် | .... | ၄၉ |
| ပဋ္ဌမ သံဂါယနာတင် မင်းတရားကြီး သံဝေဂဝတ္ထုဒီပနီ ကျမ်းကြီးကို နာယူတော်မူခြင်း | .... | ၅၀ |
| ပါရာဇိကဏ် ပါဠိတော်နိဿယ | — | ၅၁ |
| ခိုးသူကြီး ၅-ဦးလက္ခဏာ | .... | ၅၄ |
| ပါစိတ်ပါဠိတော် နိဿယသစ် | .... | ၅၄ |

သံပျင်ဋီကာနိဿယ ... ၅၆
န္ယာသ-ဉာသ် ... ၅၈
ထိပ်တန်းပါဠိမြန်မာပညာရှင် ... ၆၂
မောဂ္ဂလ္လာန် နိဿယသစ် (ဝုတ္တိမောဂ္ဂလ္လာန် နိဿယသစ်) ... ၆၂
ဒီပဝံသ နိဿယ ... ၆၄
အဘိဓမ္မတ္ထ သင်္ဂြိုဟ်ဂဏ္ဌိသစ် ... ၆၆
ကဗျာလင်္ကာလည်းနိုင်သော ဆရာတော် ... ၆၈
ပုံနှိပ်လုပ်ဆောင် အောင်မြင်ပြီးစီးခြင်းနိဂုံး လင်္ကာ ... ၆၉
ဆရာတော်၏အနက်ဉာဏ် ... ၇၀
၅၂၈-သွယ်ဓမ္မဘာရေတွက်ပုံသံပေါက်ကဗျာ ... ၇၁
မင်းတုန်းမင်းတရား ရှေးဦးစွာ ပိဋကတ်တော်ကို ပေထက်
အက္ခရာတင်တော်မူခြင်း ... ၇၆
စာကြပ်ဆရာတော်များ ... ၇၆
ကြပ်မကြည့်၍ ပြင်ဆင်တော်မူခြင်း ... ၇၈
ဆရာတော်များ သုတ်သင်တင်သွင်းတော်မူကြခြင်း ... ၇၉
မင်းတုန်းမင်းတရား၏ ရွှေစာနိဂုံး ... ၈၂
မင်းတုန်းမင်းတရား၏ ရွှေစာနိဂုံးတမျိုး ... ၈၃
ကျောက်ထက် အက္ခရာတင် (သီလာရုဠှ) သင်္ဂါယနာတင်ရန်
နန်းတော်သို့ ဆရာတော်ကြီးများ ပင့်လျှောက်ခြင်း ... ၈၅
ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်
တော် ဆက်ကပ်လှူဒါန်းခြင်း ... ၈၆
သီလာရုဠှ (ပဉ္စမ) သင်္ဂါယနာ မဟာနာယက ... ၈၇
သီလာရုဠှ ပဉ္စမသင်္ဂါယနာတင် အံချင်း ... ၈၈
နှုတ်ဖြင့်ရွတ်တင် (မုခါရုဠှ) ပဉ္စမသင်္ဂါယနာတင် ... ၈၉
ပဉ္စမသင်္ဂါယနာတင်စဉ် ပိဋကတ်တော်များ ပြန်ဆိုပုံ
အစီအစဉ် ... ၈၉
နှုတ်ဖြင့်ရွတ်တင် ပဉ္စမသင်္ဂါယနာတင်သမိုင်း ချင်း ... ၉၀
ပဉ္စမသင်္ဂါယနာတင် ရတုပိုဒ်စုံ (စာဆိုတော်ဦးတိုးလင်း) ... ၉၀
ပဉ္စမသင်္ဂါယနာတင် ဒွေးချိုးလင်္ကာ (သံတော်ဆင့်မင်းဦးမောင်) ... ၉၁
ပဉ္စမသင်္ဂါယနာတင် ရတုပိုဒ်စုံ (စိန္တကျော်သူ) ... ၉၃
မင်္ဂလာချောင်း ၉-ပုဒ် (လယ်ကိုင်းမြို့စား ကင်းဝန်၊သေနတိ
ဝန်မင်းကြီးဆို) ... ၉၄

ပဥ္စမသင်္ဂါယနာတင်တော်မူသည့် အကြောင်းအရာများကို လည်း နာခံတော်တို့၏ မင်္ဂလာစကား မင်္ဂလာရတုကို ဖတ်လျှောက်ခြင်း .... ၉၅
ဒက္ခိဏာရာမတိုက်တည် အရှင်ဇာဂရဆရာတော်ဘုရားကြီး၏ ပမာပမေဆောင်၍ မိန့်ကြားချက်စကားများ .... ၉၆
၁။ တောထွက်တရားကျင့်သော ရဟန်းတပါးဥပမာ .... ၉၆
၂။ ပေါက်ပွင့်သုတ်ဥပမာ .... ၉၈
၃။ ဖိုးသူတော် ပုတီးစိပ်သလိုမလုပ်နှင့် ဥပမာ .... ၉၉
၄။ စာမှားဖြင့် တရားနိဂုံးအုပ်သောရဟန်းဥပမာ .... ၁၀၁
၅။ အပျိုကြီးနှင့် လူပျိုကြီးစကားထာဝှက်သလို ဥပမာ .... ၁၀၃
၆။ ကွမ်းထမ်းသမား ဥပမာ .... ၁၀၅
၇။ ငယ်ပါကိုပါ တွေ့မြင်သိမ့်မည် ဥပမာ .... ၁၀၆
၈။ မီးအိမ်ပုံ နန်းတော်သို့ ကြွသောအကြောင်းနှင့် စပ်လျဉ်း၍ စာသွင်းတော်မူခြင်း .... ၁၀၈
၉။ ကျမ်းဂန်ကို အသေအချာမထောက် ခြေရာပျောက် စကားပြောသည်ဟု မိန့်တော်မူခြင်း .... ၁၀၉
၁၀။ မုတ်ဆိတ်မီးမြှိုက်မှ ကိုယ့်အမိုက်ကိုယ်သိပုံ ဥပမာ .... ၁၁၁
၁၁။ ငရဲကြီးမှ ငရဲလေးကို နိုင်သည်ဆိုသော စကားကို ဖြေကြားတော်မူခြင်း .... ၁၁၃
၁၂။ အသက်ရှည်စေလို ထန်းရည်ခါးနှင့် ကြက်သားကိုမျို သေစေလို စိန်မစားနှင့် ဥပုသ်စောင့်သွားဟူသော စကားကို ဖြေတော်မူခြင်း .... ၁၁၄
၁၃။ ငိုက်မျဉ်း၍ အကျိုး မရှိသည်ကို သူခိုးဥပမာဖြင့် ထုံးပြ၍ဆုံးမတော်မူခြင်း .... ၁၁၆
ဘွဲ့တံဆိပ်တော် ၃-ထပ်အလှူခံရှိတော်မူခြင်း .... ၁၁၉
တပါးတည်းရရှိသော ဘွဲ့တံဆိပ်တော် .... ၁၂၀
ရာဇဂုရု၊ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ရ အင်္ဂါ .... ၁၂၀
ရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီးများကို ကြောက်ကြရ ရိုသေကြရခြင်း .... ၁၂၁
မင်းသားတို့၏ ဆရာလည်းဖြစ် .... ၁၂၂
ဘဝနတ်ထံ ပျံလွန်တော်မူခြင်း .... ၁၂၂
သံဝေဂယူရန် .... ၁၂၂
စေတီတည်ထားကိုးကွယ်ခြင်း .... ၁၂၃

| | |
|---|---|
| ဒက္ခိဏာရာမဘုရားကြီးတိုက် ဒုတိယမြောက် ရာဇာဂုရုဘွဲ့တံဆိပ်နှစ်ထပ်ရ ဆရာတော် အရှင်ပဏ္ဍိတ (၁၁၈၈-၁၂၄၆) .... | ၁၂၃ |
| ဖွားမြင် ရှင်ရဟန်းပြု ပညာသင်ခြင်း .... | ၁၂၄ |
| ပဉ္စမကျော်အောင် စာပေချပို့သာသနာပြုခြင်း .... | ၁၂၄ |
| ဒက္ခိဏာရာမတိုက် အဓိပတိဖြစ်တော်မူခြင်း .... | ၁၂၅ |
| ရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်နှစ်ထပ် ရရှိတော်မူခြင်း .... | ၁၂၆ |
| ဘဝနတ်ထံ ပျံလွန်တော်မူခြင်း .... | ၁၂၆ |
| ဒက္ခိဏာရာမဘုရားကြီးတိုက် တတိယမြောက် သံဃမဟာနာယက ဆရာတော် အရှင်သုန္ဒရာဘိဝံသ (၁၁၉၇-၁၂၅၀) .... | ၁၂၈ |
| ဖွားမြင် ရှင် ရဟန်းပြု ပညာသင်ခြင်း .... | ၁၂၈ |
| ဒက္ခိဏာရာမတိုက် သံဃနာယက ဖြစ်တော်မူခြင်း .... | ၁၂၉ |
| ဘဝနတ်ထံ ပျံလွန်တော်မူခြင်း .... | ၁၂၉ |
| ဒက္ခိဏာရာမဘုရားကြီးတိုက် စတုတ္ထမြောက် သံဃမဟာနာယက ဆရာတော် အရှင်အာစာရာဘိဝံသ (၁၂၀၅-၁၂၈၇) — | ၁၃၁ |
| ဇာတိချက်ကြွေ မွေးရပ်မြေ ပညာသင် သာမဏေဝတ် — | ၁၃၁ |
| ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူခြင်း .... | ၁၃၂ |
| အဆင့်အတန်းလေးမျိုးဖြင့် ချီးမြှောက်တော်မူခြင်း .... | ၁၃၂ |
| ရာဇာဓိရာဇဂုရု ရထိုက်သော ဆရာတော်၏အင်္ဂါ .... | ၁၃၃ |
| ပဌမစာတော်ချ အင်္ဂါ — | ၁၃၃ |
| ဒုတိယစာတော်ချ အင်္ဂါ .... | ၁၃၃ |
| တတိယစာတော်ချ အင်္ဂါ .... | ၁၃၄ |
| ရာဇဂုရုဘွဲ့ မလိုချင်သဖြင့် ဦးရန်နှင့် အတွေ့မခံ .... | ၁၃၄ |
| ဒက္ခိဏာရာမတိုက် မဟာနာယက .... | ၁၃၅ |
| ဘုရားကြီးဂိုဏ်း သံဃမဟာနာယက ဖြစ်ခြင်း .... | ၁၃၆ |
| ဘုရားကြီးဂိုဏ်းဝင် မူလဆရာတော်များ .... | ၁၃၇ |
| ဘဝနတ်ထံ ပျံလွန်တော်မူခြင်း .... | ၁၃၈ |
| ကြီးကျယ်ခမ်းနားသော ဈာပနသဘင် .... | ၁၃၉ |
| အခမ်းအနားဖွင့် သြဘာစာတမ်း .... | ၁၄၀ |
| ထေရုပ္ပတ္တိ သြဘာစာတမ်း .... | ၁၄၅ |
| ဒက္ခိဏာရာမဘုရားကြီးတိုက် ပဉ္စမမြောက် သံဃမဟာနာယက ဆရာတော် အရှင်ဝိမလဗုဒ္ဓိ (၁၂၂၀-၁၃၀၅) .... | ၁၅၅ |
| သာသနာတော်ကို သုတ်သင်ခြင်း .... | ၁၅၆ |

မန္တလေးမြို့ တောင်ပြင် ဘုရားကြီးဂိုဏ်း ဆရာတော်တို့၏
ပုစ္ဆာ ၉-ချက် ရှင်းလင်းချက်အဖြေ .... ၁၅၇
ဒက္ခိဏာရာမဘုရားကြီးတိုက် ဆဋ္ဌမမြောက် သံဃမဟာနာယက
အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဥက္ကံသမာလာ
(၁၂၃၀-၁၃၀၆) .... ၁၆၉
ဒက္ခိဏာရာမဘုရားကြီးတိုက်သတ္တမမြောက်သံဃမဟာ
နာယက အဂ္ဂမဟာပဏ္ဍိတ ပင်းသာဆရာတော်အရှင်ခန္တိဓမ္မ
(၁၂၃၂-၁၃၀၉) .... ၁၇၁
ဒက္ခိဏာရာမဘုရားကြီးတိုက် အဋ္ဌမမြောက် သံဃမဟာနာယက
ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသ (၁၂၃၉-၁၃၂၄) .... ၁၇၅
ဒက္ခိဏာရာမဘုရားကြီးတိုက် နဝမမြောက် သံဃမဟာနာယက
အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီ ဆရာတော် အရှင်ဣန္ဒာသဘ
(၁၂၄၉-၁၃၃၄) .... ၁၇၇
ဟံသာဝတီ ဆရာတော်ဟု ထင်ရှားခြင်း .... ၁၈၄
ဘုရားကြီးတိုက် သံဃကတိကဝတ် စည်းမျဉ်းပေးတော်မူခြင်း .... ၁၈၅
အရှင်ဝိမလဗုဒ္ဓိ လက်ထက်က သမ္မုတိရ ၇-ပါး .... ၁၈၆
အင်္ဂလိပ်အစိုးရ၏ ပုစ္ဆာ ၉-ချက်ကို ဖြေကြားတော်မူခြင်း .... ၁၈၇
သက္ကျသီဟ အသင်းတိုက် အခွန်လွတ်ငြိမ်းရန် ဆောင်ရွက်ခြင်း .... ၁၈၈
ပဋ္ဌမပြန် စုံစမ်းရေးကော်မတီတွင် ပါဝင်တော်မူခြင်း .... ၁၉၀
နှစ်တရာပြည့်ပွဲတွင် ဆောင်ရွက်တော်မူခြင်း .... ၁၉၁
နိုင်ငံတော် ဝိနည်းဓိုရ်နှင့် တာဝန်ခံ ဝိနည်းဓိုရ် .... ၁၉၂
ပါဠိတက္ကသိုလ်နှင့် မွောစရိယ အက်ဥပဒေ ပါဝင်ရေးဆွဲခြင်း .... ၁၉၃
ဆဋ္ဌသင်္ဂါယနာဝန်ဆောင် သံဃာ့အဖွဲ့ဝင် တာဝန် .... ၁၉၃
သီဟိုဠ်ကျွန်းသို့ ကြွတော်မူခြင်း .... ၁၉၃
ယိုးဒယားနိုင်ငံသို့ ကြွတော်မူခြင်း .... ၁၉၄
သာသနဗိမာန်တော်ကြီး မြေနေရာ ရရှိရန် ဆောင်ရွက်ခြင်း .... ၁၉၄
မဟာမြတ်မုနိ ဘဏ္ဍာဂါရိက ဩဝါဒါစရိယ တာဝန် .... ၁၉၉
ဘဝနတ်ထံ ပျံလွန်တော်မူခြင်း .... ၂၀၃
ဒက္ခိဏာရာမဘုရားကြီးတိုက် ဒသမမြောက် သံဃမဟာနာယက
အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးကြေယ်(၁၂၅၁-၁၃၃၇) .... ၂၀၄
မဇ္ဈိမဒေသသို့ ဘုရားဖူး ကြွတော်မူခြင်း .... ၂၁၀
သီဟိုဠ်ကျွန်း၊ ယိုးဒယားနိုင်ငံသို့ ကြွတော်မူခြင်း .... ၂၂၅

ဘ၀နတ်ထံ ပျံလွန်တော်မူခြင်း .... ၂၂၆
မဟာနာယက နှစ်ပါး အုပ်ချုပ်ခြင်း .... ၂၃၀

## ဒက္ခိဏာရာမ သာသနာ၀င် တတိယပိုင်း

### ဒက္ခိဏာရာမဘုရားကြီးတိုက် ဂဏ၀ါစက စာချ ဆရာတော်များ

ဆရာတော် အရှင်သုဘဗုဒ္ဓိ (၁၂၀၀-၁၂၄၂) .... ၂၃၁
ဆရာတော် ဦးရန်ကုန် (၁၂၀၉-၁၂၆၉) .... ၂၃၉
ဆရာတော် အရှင်မဟာတေဇ၀န္တ (၁၂၀၀-၁၂၇၀) .... ၂၅၆
ဆရာတော် အရှင်မဟာဉာဏ (၁၂၁၀-၁၂၈၁) .... ၂၅၇
ဆရာတော် အရှင်မဟာနန္ဒိယ (၁၂၁၁-၁၂) .... ၂၅၈
ဆရာတော် အရှင်အရိယ၀ံသ (၁၂၁၃-၁၂၆၉) .... ၂၆၀
ဆရာတော် အရှင်၀ိဇာရ ( - ) .... ၂၆၁
ဆရာတော် အရှင်သံ၀ရ (၁၂၂၁-၁၂၉၈) .... ၂၆၂
ဆရာတော် ဦးပခန်း (၁၂၂၄-၁၃၀၂) .... ၂၆၄
ဆရာတော် အရှင်နန္ဒိယ (ကဗျာနန်) (၁၂၂၇-၁၂၉၁) .... ၂၈၀
ဆရာတော် အရှင်ဇာဂရာဘိ၀ံသ (၁၂၂၉- ) .... ၂၈၈
ဆရာတော် အရှင်ဥယျောဘိ၀ံသ (၁၂၃၁-၁၃၂၅) .... ၂၉၁
ဆရာတော် အရှင်မဟာနာရဒ (၁၂၁၅- ) .... ၂၉၃
ဆရာတော် အရှင်နာရဒ (အဂ္ဂမဟာပဏ္ဍိတ)
(၁၂၅၀-၁၃၂၇) .... ၂၉၄
အန္တိမပူဇော်ပွဲ အခမ်းအနားၵ၌ တိပိဋကဓရ အဂ္ဂမဟာပဏ္ဍိတ
အရှင်၀ိစိတ္တသာရာဘိ၀ံသ၏ သောမနာစာတမ်း .... ၃၂၇
ဆရာတော် အရှင်သဒ္ဓမ္မာလင်္ကာရ (၁၂၄၆-၁၃၁၃) .... ၃၃၄
ဆရာတော် အရှင်ဥယျောဓမ္မ (၁၂၅၃-၁၃၀၅) .... ၃၃၇
ဆရာတော် အရှင်ပါသာ (အဂ္ဂမဟာပဏ္ဍိတ)
(၁၂၃၁-၁၂၈၅) .... ၃၃၉
ဆရာတော် အရှင်၀ိမလာစာရ (၁၂၃၈-၁၃၀၃) .... ၃၄၀
ဆရာတော် အရှင်သာသန (၁၂၄၀-၁၂၈၉) .... ၃၄၂
ဆရာတော် အရှင်အာစာရ (၁၂၅၈- ) .... ၃၄၆
ဆရာတော် အရှင်ဣန္ဒာဘာသ (၁၂၅၉- ) .... ၃၄၇
ဆရာတော် အရှင်ပဏ္ဍိတ ( - ) .... ၃၄၈
ဆရာတော် အရှင်ခန္တိမ္မောဘိ၀ံသ (၁၂၅၉-၁၃၁၈) .... ၃၄၉
ဆရာတော် အရှင်သီလ၀ံသ (၁၂၆၁-၁၃၂၉) .... ၃၅၀

ဆရာတော် အရှင်ပဏ္ဍဝ (၁၂၆၃-    ) .... ၃၅၂
ဆရာတော် အရှင်အရိယဝံသ (၁၂၆၃-၁၃၂၇) .... ၃၅၆
ဆရာတော် အရှင်ပညိန္ဒ (၁၂၆၅-    ) .... ၃၅၇
ဆရာတော် အရှင်ပဒုမ (၁၂၆၅-    ) .... ၃၅၈
ဆရာတော်အရှင်ဥက္ကံသာဘိဝံသ (၁၂၆၉-    ) .... ၃၅၉
ဆရာတော်အရှင်မေဓိယာဘိဝံသ (၁၂၇၃-    ) .... ၃၇၇
ဆရာတော်အရှင်သီလာစာရ (၁၂၇၃-    ) .... ၃၈၂
ဆရာတော်အရှင်ပညာဇောတာဘိဝံသ (၁၂၇၀-၁၃၃၉) .... ၃၈၄
ဆရာတော်အရှင်ဇနိတာဘိဝံသ (၁၂၇၃-    ) .... ၃၈၆
ဆရာတော်အရှင်သာသနာဘိဝံသ (၁၂၇၆-    ) .... ၃၈၈
ဆရာတော်အရှင်ဉာဏောဘာသာဘိဝံသ (၁၂၇၇-    ) .... ၃၈၉
ဆရာတော်အရှင်နန္ဒဝံသာဘိဝံသ (၁၂၈၀-    ) .... ၃၉၁
ဆရာတော်အရှင်သုမန (၁၂၈၂-    ) .... ၃၉၃
ဆရာတော်အရှင်တိက္ခာစာရ (၁၂၈၆-    ) .... ၃၉၄
ဆရာတော်အရှင်သောဘန (၁၂၉၁-    ) .... ၃၉၅
ဆရာတော်အရှင်ဣန္ဒာစက္က (၁၂၉၇-    ) .... ၃၉၇
ဆရာတော်အရှင်သြဘာသာဘိဝံသ (၁၂၉၈-    ) .... ၃၉၈
ဆရာတော်အရှင်ပညောဘာသာဘိဝံသ (၁၃၀၁-    ) .... ၄၀၀
ဆရာတော်အရှင်ပဏ္ဍိတာဘိဝံသ (၁၃၀၀-    ) .... ၄၀၂
ဆရာတော်အရှင်ကုသလာဘိဝံသ (၁၃၀၁-    ) .... ၄၀၄
ဆရာတော်အရှင်သဒ္ဓမ္မာနန္ဒ (၁၃၀၉-    ) .... ၄၀၅

**ဒက္ခိဏာရာမ သာသနာဝင် စတုတ္ထပိုင်း**

**ဒက္ခိဏာရာမအနွယ် ဆရာတော်များ**

မိုးနံ့ကုန်းဆရာတော် အရှင်ဇယန္တ (၁၂၀၉-၁၂၇၄) .... ၄၀၇
ညောင်လွန့်တောရဆရာတော် အရှင်မေဓာဝီ
(၁၂၂၉-၁၂၉၅) .... ၄၁၁
ရစ်ကန်ကြီးဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိမလာဘိဝံသ
(၁၂၂၉-    ) .... ၄၁၉
ပဋ္ဌာန်းညဝ ဂဏ္ဍိ ကျမ်းပြု ဆရာတော် အရှင်ကလျာဏာဘိဝံသ
(၁၂၃၀-    ) .... ၄၂၈
မစိုးရိမ်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်သောမာဘိသိရီ
(၁၂၃၉-၁၃၀၁) .... ၄၃၀

မြို့မိဆရာတော် အရှင်ဇေယျသေန (၁၂၄၄-၁၃၀၆) .... ၄၃၆
တောင်ပုလုတောရဆရာတော် အရှင်ဓမ္မနန္ဒိယ
(၁၂၅၈- ) — ၄၄၇
သထုံစန္ဒာရုံဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်အာစိဏ္ဏ
(၁၂၂၇-၁၂၉၀) .... ၄၅၅
ပေါင်းတည်ဘုရားကြီးဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်ပညာဘိဓဇ (၁၂၃၁-၁၃၁၅) .... ၄၅၇
ဖြူးမြို့ထောင့်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဇဝန
(၁၂၃၇-၁၃၂၃) .... ၄၅၈
ယိုးဒယားနိုင်ငံ လန်းပန်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်ခေမိန္ဒ (၁၂၃၉- ) — ၄၆၀
ရေကြည် ဒီပါရုံဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဥတ္တရာဇီဝ
(၁၂၄၉-၁၃၃၄) — ၄၆၁
မော်လမြိုင် မင်းကျောင်းဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်ပဏ္ဍိစ္စ (၁၂၅၁-၁၃၂၆) .... ၄၆၃
ဇေယျဝတီဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဥက္ကံသ
(၁၂၅၀-၁၃၃၇) — ၄၆၄
ဘုရားဖြူဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာဝံသ
(၁၂၅၄-၁၃၃၃) .... ၄၆၆
မဟာဝိသုတာရာမ ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဂန္ဓမာ
(၁၂၅၄-၁၃၄၂) .... ၄၆၈
ရွှေဘို မွေသုခဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိသုတ
(၁၂၅၆-၁၃၄၁) .... ၄၇၀
တောင်ကြီးမြို့ တောင်ကျောင်းကြီးဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်နန္ဒိယ (၁၂၅၇- ) .... ၄၇၂
ဖြူးမြို့ မင်းကျောင်းဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ကုသလ
(၁၂၆၀- ) .... ၄၇၄
မဟာနန္ဒိသေနာရာမ ဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်နန္ဒိသေန (၁၂၆၁- ) .... ၃၇၆
မော်လမြိုင် တောင်လေးလုံးဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်နာဂသေနာဘိဝံသ (၁၂၆၄- ) .... ၄၇၈
ဗားကရာတိုက် တိလောကာရုံဆရာတော် အဂ္ဂမဟာပဏ္ဍိတ
အရှင်တိလောက (၁၂၆၈- ) — ၄၈၂

တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက (ပြည်) ဆရာတော်
အရှင်ကောသလ္လ (၁၂၈၉- ) .... ၄၈၄
စာချဆရာတော် အရှင်ပရမာဘိဝံသ (၁၂၃၅- ) .... ၄၈၆
စာချဆရာတော် အရှင်သုစိတ္တ (၁၂၄၁-၁၂၉၇) .... ၄၈၆
ရူပသိဒ္ဓိဂဏ္ဌိ ကျမ်းပြုဆရာတော် အရှင်ဥက္ကံသာဘိဝံသ .... ၄၈၇
သာလေးဆရာတော် အရှင်နေမိန္ဒာဘိဝံသ (၁၂၆၈-၁၃၂၇) .... ၄၈၉
ပါသာဒိကာရုံဆရာတော် အရှင်သာဂရ (၁၂၆၉-၁၃၀၆) .... ၄၉၁
မိဂဒါဝုန်ဆရာတော် အရှင်အာစိက္ခဏ (၁၂၆၉- ) .... ၄၉၂
ထုံးဘိုဆရာတော် အရှင်တိလောက .... ၄၉၃
ကော့ကပ်ကြီးဆရာတော် အရှင်စာရိတ္တာဘိဝံသ .... ၄၉၃
စာချဆရာတော် အရှင်ပဏ္ဍဝ .... ၄၉၅
သထုံလယ်ဝန်ကျောင်းဆရာတော် အရှင်အဂ္ဂဝံသာဘိဝံသ .... ၄၉၆
မွန်ဘာသာ ကောဝိဒဆရာတော် အရှင်အာဒိစ္စ .... ၄၉၇
ရေဦးဝါဆိုကျောင်းဆရာတော် အရှင်နေမိန္ဒာဘိဝံသ .... ၄၈၉
အမေရိကန်သာသနာပြုဆရာတော် အရှင်သီလာနန္ဒာဘိဝံသ .... ၄၉၉
နာလန္ဒတက္ကသိုလ် ဆရာတော် အရှင်ဇာဂရာဘိဝံသ — ၅၀၀
ညောင်ရွှေသာသနဝိပုလတိုက်ဆရာတော် နိုင်ငံတော်
သံဃမဟာနာယက အရှင်ဝိလာသာဘိဝံသ .... ၅၀၁
ပေါင်းတည်ရွှေကျောင်းကြီးဆရာတော် နိုင်ငံတော်
သံဃမဟာနာယက အရှင်တေဇောဘာသာဘိဝံသ .... ၅၀၃
မကွေးမဟာမြို့ကာရာမဆရာတော် နိုင်ငံတော်သံဃမဟာနာယက
အရှင်ကုမာရာဘိဝံသ .... ၅၀၅
ဗန်းမော်ဆရာတော် နိုင်ငံတော်ဗဟိုဝန်ဆောင်
အရှင်ကုမာရာဘိဝံသ .... ၅၀၆
ရွှေဘိုပခန်းဆရာတော် ကျောက်သဘော်ဝိနည်းဓိုရ်
အရှင်ဝိမလာဘိဝံသ .... ၅၀၈
ကျောက်မဲမြို့ သဒ္ဓမ္မပါလဆရာတော် အရှင်ကေလာသာဘိဝံသ
(၁၂၈၆-၁၃၂၉) .... ၅၁၀
ပဋိဝိသောကဆရာတော် အရှင်ပညောဘာသ .... ၅၁၂
သဟာသီဟဝဋ္ဋံသကာသီရောမဏိ အရှင်သုနန္ဒ .... ၅၁၃
အဂ္ဂမဟာအကျော် အရှင်ဓာတ္တဝယနာလင်္ကာရ — ၅၁၅
သ-စ-အ-သုမေဓာစရိယ ဒီဃနိကာယကောဝိဒ
အရှင်ဝိလာသဂ္ဂါဘိဝံသ .... ၅၁၇

ဝေတ္တုတ္ထမဉ္ဇူရိကျမ်းပြုဆရာတော် အရှင်ဩဘာသ .... ၅၁၉
ဆုထူးပန်ဆရာတော် အရှင်နာယကာ (၁၂၉၄-၁၃၄၂) .... ၅၂၁
မေဒိနီစာချဆရာတော် အရှင်ဉာဏဝံသ .... ၅၂၃
ဂန္ဓဂေါ မြို့မဆရာတော် အရှင်ဝိသုဒ္ဓ .... ၅၂၄
ဂန္ဓဂေါ လာပိုဆရာတော် အရှင်ခေမာဝံသ .... ၅၂၅
ရွှေဦး၀ါဆိုကျောင်းစာချဆရာတော်အရှင်ဥတ္တမဉာဏာဘိဝံသ .... ၅၂၆

## ဒက္ခိဏာရာမသာသနာဝင် ပဉ္စမပိုင်း

ဒက္ခိဏာရာမတိုက် သံဃဏတိကာဝတ် ဥပဒေသနကာ .... ၄၂၉
ဒက္ခိဏာရာမတိုက် အနှစ်တရာပြည့် သဘင်ကြီး .... ၅၃၄
ဒက္ခိဏာရာမတိုက်သက်တရာ မင်္ဂလာသြဘာစာတမ်း .... ၅၃၇
သန့်ရှင်းသော ပိဋကတ်တော်တစုံ ရရှိရေးဆွေးနွေး .... ၅၅၅
အမရပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ အမှူးပြုသည့်
ဂဏဝါစက စာချအဘိဓာန်ကျမ်းပြုအဖွဲ့ .... ၅၅၆
ဦးနုတိုက်တွန်းစကားပြောကြားခဲ့ခြင်း .... ၅၅၇
အဘိဓာန်စနစ်တကျ ရေးဆွဲရေးအဖွဲ့ ဖွဲ့စည်းခြင်း .... ၅၅၇
ကမ္ဘာအေး ဇမ္ဗူဒီပ အဘိဓာန်အဖွဲ့ .... ၅၅၇
မစိုးရိမ် နာယကစာချ အဘိဓာန်အဖွဲ့ .... ၅၅၈
မဟာဝိသုဒ္ဓါရုံ ဂဏဝါစက အဘိဓာန်အဖွဲ့ .... ၅၅၉
ပခုက္ကူ မဟာဝိသုတာရာမ အဘိဓာန်အဖွဲ့ .... ၅၅၉
ဒက္ခိဏာရာမဘုရားကြီးတိုက် အဘိဓာန်အဖွဲ့ .... ၅၆၀
ဒက္ခိဏာရာမဘုရားကြီးတိုက် အဘိဓာန်အဖွဲ့ဝင် ဆရာတော်များ .... ၅၆၁
ထိပ်တန်းပရိယတ္တိစာသင်တိုက် မဟာဝိဇ္ဇာယတနကြီး .... ၅၆၂
ကျောင်းပေါင်း ၆၀-ကျော် .... ၅၆၂
သံဃာတော်ဦးရေ .... ၅၆၄
မန္တလေးသာသနာဝင် ဒုတိယတွဲနိဂုံး .... ၅၆၆
အရှင်ကေလာသပြုစုသော ကျမ်းစာများ .... ၅၆၉



ဒက္ခိဏာရာမတိုက် အပြင်ထပ် အတွင်းရှိ အာနန္ဒာဘုရားကြီး

# မန္တလေး သာသနာဝင်

## ဒုတိယတွဲ

နမော တဿ ဘဂဝတော အရဟတော
သမ္မာသမ္ဗုဒ္ဓဿ။

### ရတနတ္တယပဏာမ

နတွာ သာသနဝံသဿ၊ ဒေသကံ အဂ္ဂပုဂ္ဂလံ။
သောဝိတံ တေန ဓမ္မဉ္စ၊ သံဃဉ္စာပိ နိရင်္ဂဏံ။

အဟံ၊ အရှင်ကေလာသ ခေါ်ဝေါ်ကြသား နှစ်ပါးနာမ်ရှပ် အကျွန်ုပ်သည်။ သာသနဝံသဿ၊ ကိုယ်တော်မြတ်စွာ ဦးစွာတီထွင် ကိုယ်တော့်သာသနာဝင်ကို။ ဒေသကံ၊ ရွှေနှုတ်ခမ်းကျူ ဟောကြားတော်မူတတ်သော။ အဂ္ဂပုဂ္ဂလံ၊ လောကဓာတ်အားလုံး အမြတ်ဆုံးခေါ်ဆို ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသော သဗ္ဗညုဘုရားရှင်ကို လည်းကောင်း။ တေန၊ ထိုသဗ္ဗညုတ ဉာဏသခင် ဘုရားရှင်သည်။ သောဝိတံ၊ အမြဲနိစ္စ ထာဝရမှိဝဲတော်မူအပ်သော။ ဓမ္မဉ္စ၊ မဂ်ဖိုလ်နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ်တန်ထင်ပေါ် တရားတော်မြတ်ကို လည်းကောင်း။ နိရင်္ဂဏံ၊ ရာဂ, ဒေါသ, မောဟ အင်္ဂဏကင်းစင်ပတော်မူသော။ သံဃဉ္စ၊ ရှစ်ပါးအရိယမြတ်သံဃာကို လည်းကောင်း။ နတွာ၊ ကာယတလီ ငစီမနသုံးဒွါရဖြင့် ညွတ်ခကိုင်းရှိုင်းပြီး၍။ ဝါ၊ ရှိခိုးပြီး၍—

[မိမိသည် မန္တလေးသာသနာဝင်ကျမ်းကြီး ဒုတိယတွဲကို ရေးသားစီရင်ရာ၌ အန္တရာယ်ကင်းပျောက်၊ ကျမ်းပြီးမြောက်ခြင်းကို အလွန်ပင်အလိုရှိပါသည်။သို့ဖြစ်၍ ဘုရား, တရား, သံဃာဟူသော ရတနာမြတ် ၃-ပါးနတ်ကို ပျပ်ဝပ်ရိုကျိုး ရှိခိုးပူဇော်ပါသည်။ ယင်းသို့ ရတနာ ၃-ပါးအား လေးစားကော်ရော်ပူဇော်ရသဖြင့် ဗုဒ္ဓါရမ္မဏ ဓမ္မာရမ္မဏ, သံဃာရမ္မဏ ပီတိများဖြင့် ကာယဗလတွေ, ဉာဏဗလတွေ ပြည့်လျှမ်းသဖြင့် ဤမန္တလေးသာသနာဝင် ဒုတိယတွဲကျမ်းကြီးလည်း အောက်လံစိုက်ဆောက် ပြီးမြောက်လိမ့်မည်ဟု ယုံကြည်ပါသည်။]

## အာစရိယပဏာမ

ဇိနသာသနဝံသမှိ ဂုရဝေါ ထေရပုင်္ဂဝါ။
တေသမ္ပိ စရဏာမ္ဘောဇေ၊ သုနိဝါတေန စေတသာ။

ဇိနသာသနဝံသမှိ ဘုရားဇိနေ၏ သာသနာ့အနွယ်တော်၌။ ဂုရဝေါ၊ ကျောက်ထီးအသွင် ထာဝစဉ် အလေးအမြတ် ပြုအပ်သော ဆရာသခင် ကျေးဇူးရှင်ဖြစ်တော်မူကြကုန်သော၊ ယေ ထေရပုင်္ဂဝါ၊ အကြင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယမဟာထေရ် မန္တလေးမြို့ တောင်ပြင်ဒက္ခိဏာရာမ ဘုရားကြီးတိုက် အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ အစရှိကုန်သော မထေရ်မြတ်တို့သည်။ သန္တိ၊ သာသနာဝန် အားသွန်ကြိုးပမ်း ထမ်းရွက်ကာပျော် ရှိတော်မူကုန်၏။ တေသမ္ပိ ထေရပုင်္ဂဝါနံ၊ ထိုအရှင်နန္ဒိယ အရှင်ဥက္ကံသာဘိဝံသဟူသော မထေရ်မြတ်တို့၏လည်း။ စရဏာမ္ဘောဇေ၊ ခြေတော်အစုံ ကြာပဒုံတို့ကို။ သုနိဝါတေန၊ လွန်စွာနှိမ်ချ ရိုတုပ်ကွသော။ စေတသာ၊ သဒ္ဓါယိုဖိတ် ကုသိုလ်စိတ်ဖြင့်။ နတွာ၊ ဆယ်လက်မြှောက်မိုး ရှိခိုးဦးချပြီး၍—

[ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ မန္တလေးမြို့ ဒက္ခိဏာရာမတိုက် အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသတို့ကား မိမိအား စာဆိုစေ၍ သွန်သင်ညွှန်ကြားခြင်း ဩဝါဒအနုသာသနီပေး၍ သွန်သင်ညွှန်ကြားခြင်း စသည်တို့ဖြင့် ချီးမြှောက်တော်မူကြကုန်၏။ ထိုကျေးဇူးရှင် ဆရာတော်ဘုရား ၂-ပါးတို့၏ ခြေတော်အစုံကြာပဒုံတို့ကိုလည်း ရှိခိုးဦးညွတ်ပါသည်။]

## အဘိယာစကနှင့် ပဋိညာဉ်

ကရိဿံ မဟုဿာဟေန၊ ဂန္ထံ သဗ္ဗင်္ဂသောဘနံ။
ဝံသတ္ထိကာနမတ္ထာယ၊ သာဓူနံ သာဓုယာစနာ။

ဝံသတ္ထိကာနံ၊ မန္တလေးသာသနာဝင် ဖတ်ချင် ကြည့်ချင် သာသနာဝင် သမိုင်းဝါသနာရှင်တို့၏။ အတ္ထာယ၊ အကျိုးစီးပွားများစိမ့်သောငှာ။ သာဓူနံ၊ သူကျိုးကိုယ်ကျိုး သည်ပိုးမပြတ် ပြီးစေတတ်သော ပြည်ထောင်စုဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော် နိုင်ငံတော်ကောင်စီဝင် ဦးလှမောင်, သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့် အစရှိသော သူတော်ကောင်းတို့၏။ သာဓုယာစနာ၊ သာသနာဝင်ကျမ်းကြီးတစောင် ထွန်းပြောင်ထိန်

ကြည်တည်ရစ်ပါရန် ဖန်ဖန်ညွှတ်ပျောင်း တောင်းပန်ခြင်းကြောင့်။ မဟာသာ-ဟောန၊ သည်းစွာလို့လ ဝါယာမဖြင့်၊ သဗ္ဗဂ်သောဘနံ၊ အလုံးစုံသော အစိတ်အပိုင်း အခန်းကဏ္ဍတိုင်း၌ တင့်တယ်သော။ ဂန္ထံ၊ မန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲကို။ ကရိဿံ၊ဂန္ထခုရ ကိစ္စလပ်လျား ချိန်အကြား၌ ရေးသားပြုပြင် စီရင်ပါအံ့သတည်း။

[ပြည်ထောင်စုဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော်အစိုးရ နိုင်ငံတော်ကောင်စီဝင် ဦးလှမောင်သည် ဗုဒ္ဓသာသနာ့အဖွဲ့ အုပ်ချုပ်ရေး အရာရှိချုပ် အဖြစ်ကပင် မန္တလေး သာသနာဝင် ကျမ်းကြီး ရေးရန် မိမိအား အကြိမ်ကြိမ် တောင်းပန်ခဲ့သည်။ တဖန် သာသနာရေးဦးစီး ဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်ကလည်း ဦးပဥ္ဇင်း မန္တလေး သာသနာဝင်ကျမ်းကြီးကို အပြီးတိုင်တည်းဖြတ် သုတ်သင် ပြင်ဆင် ဖြည့်စွက် ရေးသားပေးပါ။ တပည့်တော်တို့ ရိုက်နှိပ်ထုတ်ဝေလိုပါ သည် စသည်ဖြင့် တောင်းပန် လျှောက်ထားခဲ့လေသည်။ ယင်းသို့ ဖော်ပြပါ ပုဂ္ဂိုလ် ၂-ဦးတို့၏ တောင်းပန်ခြင်းကြောင့် ဤမန္တလေး သာသနာဝင် ဒုတိယတွဲ ကျမ်းကြီးကိုလည်း ဆက်လက်ရေးသား စီရင် ပါသည်။]

ပဌာမ အဘိယာစက ပဋိညာဉ်ပြီး၏။

# မန္တလေး သာသနာ့ဝင်

## ဒက္ခိဏာရာမတိုက် အပြင်ထပ်အတွင်းရှိ အာနန္ဒာဘုရားကြီး

မဟာမုနိဘုရားကြီးမှ အရှေ့တောင်ယွန်းတွင် လွန်စွာမြင့်မားလှသည့် အုတ်အဆောက်အအုံကြီးတခုကို တွေ့မြင်နိုင်လေသည်။ ယင်းအဆောက်အအုံကြီးကား ကကုသန် ကောဏာဂုံ ကဿပ ဂေါတမ ဟူသော ဆင်းတုတော်မြတ်စွာဘုရား လေးဆူတို့၏ ကိန်းဝပ်ရာ ဂန္ဓကုဋီတိုက်ကြီး (အာနန္ဒာဘုရားကြီး ဖြစ်လေသည်။ မဟာမုနိရုပ်ရှင်တော်ကြီးကို ဖူးမြော်ပြီးလျှင် မဟာမုနိစေတင်းတန်းကြီးခါးပြတ်မှ တောင်ဘက်လျှောက်ခဲ့လျှင် အာနန္ဒာဘုရားကြီးသို့ ရောက်တော့သည်။

### သမိုင်းအကျဉ်းချုပ်

အာနန္ဒာဘုရားကြီးကား မူလက သိမ်ကြီးဖြစ်လေသည်။ အသောကာရာမတိုက် စသည့်ကျောင်းတိုက်တို့၌ သီတင်းသုံးတော်မူကြသော ရဟန်းသံဃာတော်တို့ ဥပုသ် ပဝါရဏာပြုခြင်း ရဟန်းခံခြင်းအစရှိသော ကံကြီးကံငယ်ပြုရာ သိမ်ဖြစ်လေသည်။အသောကာရာမကျောင်းတိုက်ကြီးညောင်ကန်ကျောင်းတိုက်ကြီးများနှင့် မရှေးမနှောင်းသိမ်သမုတ်၍ အောက်ကအုတ်တိုက်ခံသိမ်အဆောက်အအုံ ကျွန်းပြာသာဒ်တော်ကြီးကို ဘိုးတော်မင်းတရားတည်ဆောက်လှူဒါန်းခဲ့လေသည်။သိမ်တော်ကိုလည်း "အာနန္ဒာသိမ်" ဟူ၍ အမည်မှည့်ခေါ်သတ်မှတ်တော်မူခဲ့ကြကုန်၏။

သက္ကရာဇ် ၁၁၉၉-ခုနှစ်တွင် နန်းတက်သော ရွှေဘိုမင်းတရားကြီးလက်ထက်တွင် ငလျင်ပြင်းထန်စွာ လှုပ်သဖြင့် ယင်းသိမ်အဆောက်အအုံကြီး ပြိုပျက်ခဲ့လေသည်။ မဟာမုနိဘုရားကြီး ရခိုင်ပြည်မှ ပင့်သာပြီးနောက် ဘုရားအသုံးအဆောင်ပစ္စည်းများ၊ ကြေးရုပ်ကြီးများ စသည်တို့ကို ရှေးဦးစွာ ဖော်ပြပါ အာနန္ဒာသိမ်တော်ကြီးအတွင်း၌ ထားခဲ့သည်။ သိမ်တော်ကြီးပြိုပျက်ပြီးနောက်ဘှင် မဟာမုနိတံဘိုင်းအတွင်း သယ်ယူထားရှိကြသည်။

## သိမ်နီကြီးဟုတွင်ခြင်း

သက္ကရာဇ် ၁၂၀၈-ခုနှစ်တွင် ပုဂံမင်းတရား နန်းတက်ခဲ့သည်။ နန်းစံ ၆-နှစ်ဖြစ်သည်။ ယင်းပုဂံမင်းလက်ထက်တွင် ပဋိမိဖုရားက အာနန္ဒာသိမ်ကြီးကို ပြုပြင်တည်ဆောက်စေခဲ့သည်။ မုခ် ၄-ဘက်နှင့်ကုသားကျောင်း ပြီးစီးသည်။ သို့ရာတွင် အင်္ဂတေမဖွပ်ပဲ အုတ်နီသက်သက်ချည်း ထားရှိရကား မူလအာနန္ဒာသိမ်အမည်ပျောက်၍ "သိမ်နီကြီး" ဟု ခေါ်ကြသည်။

## သိမ်နီကြီးမှ အာနန္ဒာဘုရားဖြစ်

ၚင်းနောက် စတုတ္ထမြောက် သံဃနာယက ဆရာတော်ဘုရားကြီး အရှင်အာစာရ မဟာထေရ်လက်ထက် ၁၂၇၅-ခုနှစ်လောက်တွင် တောင်ခွင် သာသနာပိုင် ဆရာတော်ဘုရားကြီး ချီးမြှင့်တော်မူသည့် "သာသနဟိတ ဓဇနာယက" ဘွဲ့တံဆိပ်တော်ရ ရသေ့ကြီး ဦးခန္တီသည် ဖော်ပြပါ သိမ်နီကြီးကို ဆက်လက် ပြင်ဆင် မွမ်းမံ တည်ဆောက်ခဲ့လေသည်။ ရသေ့ကြီး ဦးခန္တီ လက်ထက်တွင် အချွန်ကြီးတခုသာ ပြီးသည်။ အရံစေတီများနှင့် အင်္ဂတေ ဖွပ်ခြင်း စသည်တို့ကို သက္ကရာဇ် ၁၂၈၇-ခုနှစ် ဒက္ခိဏာရာမ ဘုရားကြီး တိုက်မှ စတင်ပေါ်ပေါက်လာခဲ့သည့် သမ္မုတိဆရာတော်များ လက်ထက်တွင် သမ္မုတိဆရာတော်များ၏ တာဝန်ပေးအပ်ချက်အရ ဆရာတော် အရှင်တေဇဝန္တ၊ ဆရာတော် အရှင်နရိန္ဒ၊ ဆရာတော် အရှင်ပညာဇောတ၊ မင်းမာဆရာတော် အရှင်ဇောတိကတို့က ဆက်လက် ပြုလုပ်တည်ဆောက်တော်မူကြသည်။

## အာနန္ဒာဘုရားဟု တွင်ခြင်း

မူလက အာနန္ဒာသိမ်ကို ဆက်လက်မွမ်းမံပြင်ဆင် တည်ဆောက်ခြင်းဖြစ်ရကား အာနန္ဒာဘုရား မည်ကြောင်း မှတ်သားရာ၏။ ယခုအခါ ယင်း အာနန္ဒာစေတီတော်ကြီးကား ကြည့်ရှု လေ့လာဖွယ်ရာ ကောင်းလှသည့် စေတီကြီး,ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ ဟူသော ဆင်းတုတော်မြတ်ကြီး ၄-ဆူတို့၏ ကိန်းဝပ်ရာ ဂန္ဓကုဋိကြီး ဖြစ်တော်မူလာခဲ့လေပြီ။

အာနန္ဒာဘုရားကြီးသို့ ရောက်ရှိဖူးမြော်သူသည် ဘုရားရှင်၏ ဘုန်းတော်၊ ကံတော်၊ ဉာဏ်တော်၊ သမ္ဘာတော်အနန္တကို မှန်းဆရည်စူး၍ အောက်ပါ ဝန္ဒနာဂါထာပါဌ်အနက်ဖြင့် သဒ္ဓါကြည်နူး ဖူးမြော်ရာသည်။

## အာနန္ဒာဘုရားရှိခိုး

ဦးခန္တီ သ နာမကေန၊ ဂူသိနာ အဘိနိမ္မိတံ။
အာနန္ဒံ ဂူတိ ပညာတံ၊ နမာမိ သိရသာဒရံ။

အဟံ၊ အကျွန်ုပ်သည်။ ဦးခန္တီသနာမကေန၊ ဦးခန္တီဟူ၍ ထင်ရှားသော အမည်ရှိသော။ ဂူသိနာ၊ ရသေ့ကြီးသည်။ အဘိနိမ္မိတံ၊ ပြုလုပ်စီမံ တည်ဖန်ကိုးကွယ်အပ်သော။ အာနန္ဒံ ဂူတိ ပညာတံ၊ အာနန္ဒာဟူ၍ ထင်ရှားသော အမည်ရှိသော စေတီတော်မြတ်ဘုရားကို။ သိရသာ၊ ဥတ္တမင်္ဂရတနာ မြတ်အင်္ဂါဖြင့်။ အာဒရံ၊ လေးမြတ်ကြည်ညို ရိုသေလျှစွာ။ နမာမိ၊ ရှိခိုး ဦးချပါ၏။

# ဒက္ခိဏာရာမ တိုက်တော်ကြီး ဒါယကာ

# သတိုးမဟာ သက်တော်ရှည် မင်းကြီး ဦးပွား၏

# ကောင်းမှုတော် ဆုတောင်းပြည့် ဘုရားကြီး

ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ တောင်ဘက်တွင် ကြည်ညိုဖွယ်ကောင်းပြီး မြင့်မားခန့်ထယ်လှသည့် ပုထိုးတော်ကြီး တည်ရှိလေသည်။ ကျယ်ဝန်းလှသော မဟာရံတံတိုင်းကြီး ဝန်းရံလျက် တည်ရှိပြီး ဖူးမြင်ရသူ သပ္ပုရိသန္တယ်ဝင် သူတော်စင်တို့၏ စိတ်အစဉ်ကို ရွှင်ပြုံးနှစ်သက် အားတက်စေနိုင်သော ပုထိုးတော်ကြီး ဖြစ်လေသည်။

စေတီတော်ကြီး၏ ထောင့်လေးထောင့်တွင် ခြင်္သေ့ရုပ်ကြီး လေးကောင်၊ ပစ္စယာ၏ ထောင့်လေးထောင့်၌ ဩောင်ရေအိုးကြီး လေးလုံး၊ သပိတ်ခမှောက် အောက်ခြေ ထောင့်လေးထောင့်၌ အရံစေတီတော်လေးဆူတို့ဖြင့် တင့်တယ်လှ၁ ဖူးမြော်မဝအောင် ရှိလှပေသည်။ စင်စစ်ဘမူ ဖော်ပြပါ စေတီတော်ကြီးသည် အမရပူရခေတ်၏ စေတီယနိမ္မာနအတတ်ကို ဖော်ပြနေသည်။

## သမိုင်း အကျဉ်းချုပ်

သက္ကရာဇ် ၁၂၀၉-ခုနှစ်တွင် အမရပူရ ရာဇဌာနီ စံမြိသနင်း ပုဂံမင်းတရားကြီး လက်ထက်တော်တွင် သတိုးမင်းကြီး မဟာသက်တော်ရှည် ဦးပွားသည် မိးတဆယ့်တပါးတို့၏ ငြိမ်းရာ ကေန် စင်စစ်မှန်သည့် နိဗ္ဗာန်ပုရီ ရည်မှန်းတောင့်တတော်မူ၍ သဗ္ဗညုဘုရားမြတ်၏ ဓာတ်တော် မွေတော်တို့ကို ကိန်းဝပ်စေတော်မူလျက် သံတောင်-၇၀ အမြင့်ဆောင်တော်မူသော ဤမည်သော ဆုတောင်းပြည့် စေတီတော်ကြီးကို နိဗ္ဗာန်အောင်မြို့ ပို့ဆောင်မည့် လှေဖောင်သဘောကြီးပမာ တည်ထား ကိုးကွယ်တော်မူခဲ့လေသည်။ ယင်း စေတီတော်ကြီး တည်ထားပြီး မခရှးမနှောင်း ဒက္ခိဏာရာမ ဘုရားကြီး ကျောင် ဘိုက်ကြီးကိုလည်း ဟည်ဆောက်ခဲ့ခြင်း ဖြစ်သည်။ ဖော်ပြပါ ဘုရားကြီးကိုစွဲ၍ ဘုရားကြီးတိုက်ဟု တွင်လေသည်။ ယခင် အမရပူရ ကောင်းစားစဉ်က မြောက်ပြင်ကျောင်းတိုက် (ဥဇ္ဇရာရာမ) ဖြစ်ခဲ့ပြီး မန္တလေးမြို့တော်ကြီး တည်ပြီးနောက်တွင် ဒက္ခိဏာရာမတိုက်ဟူ၍လည်းကောင်း၊ ဘုရားကြီးတိုက်ဟူ၍လည်းကောင်း၊



ဒက္ခိဏာရာမ တိုက်တော်ကြီး ဒါယကာ သတိုးမဟာ သက်တော်ရှည်
မင်းကြီး ဦးပွား၏ ကောင်းမှုတော် ဆုတောင်းပြည့် ဘုရားကြီး

နှစ်မည်တွဲစပ်၍ ဒက္ခိဏာရာမဘုရားကြီးတိုက်ဟူ၍လည်းကောင်း ခေါ်ဝေါ် သမုတ်ခဲ့ကြကုန်၏။

## စေတီရင်ပြင်တော် ဘုရားဂုဏ် အာရုံပြုကြ

ဒက္ခိဏာရာမဘုရားကြီးတိုက်မှ နာယကဆရာတော်ကြီးများ၊ စာချ ဆရာတော်များ၊ စာသင်သား ရဟန်းတော်အချို့တို့သည် အခါ အားလျော်စွာ ဖော်ပြပါ ဦးပွား ကောင်းမှုတော်ဘုရားကြီး ရင်ပြင်တွင် အခိုက်အတန့် ကြွရောက်တော်မူကြကုန်၍ ဘုရား အာရုံ ယူတော်မူကြသည်။ စင်စစ်တမူကား ဤပုထိုးတော်ကြီးကား တိုက်ဦးပုထိုးတော်ကြီး ဖြစ်လေသည်၊ ဖော်ပြပါ စေတီကြီးကို အောက်ပါ ဝန္ဒနာဂါထာဖြင့်သည်း ရှိခိုးဦးချ ဖူးမြော်ရာ၏။

## တိုက်ဦး စေတီတော်ကြီး ဝန္ဒနာ ဂါထာ

သတိုး မဟာသက်တော်ရှည်တိ-နာမေနာပိ သုဓီမတာ။
ကာရိတံ သုထူပရာဇံ၊ အဟံ ဝန္ဒာမိ အာဒရံ။

အဟံ၊အကျွန်ုပ်သည်။ သတိုး မဟာသက်တော်ရှည်တိ နာမေနာပိ၊ သတိုး မဟာ သက်တော်ရှည် အမည့်ရှိသည်လည်း ဖြစ်သော။ သုဓီမတာ၊ တော့ခေါ် မြော်မြင် ပညာရှိသော မင်းကြီး ဦးပွားသည်။ ကာရိတံ၊ ဘုရားမြတ်စွာ ဓာတ်မွေ့သရီ ဌာပနာ၍ တည်ထား ကိုးကွယ်စေအပ်သော။ သုံထူပရာဇံ၊ တင့်တယ်တောက်ပ ထူးခြားလှသည့် ထူပဥက္ကဋ္ဌ ဆုတောင်းပြည့် စေတီတော် မြတ်ကြီးကို။ အာဒရံ၊ လေးမြတ်ကြည်ညို ရိုသေလှစွာ။ ဝန္ဒာမိ၊ ရိုသေမြတ်နိုး ရှိခိုးဦးချပါ၏။



# ဒက္ခိဏာရာမ သာသနာဝင်

## ပဉ္စမပိုင်း

ဒက္ခိဏာရာမ သာသနာဝင်ဟူသည် မန္တလေးမြို့ တောင်ပြင် မဟာမြတ်မုနိ ဘုရားကြီး၏ အရှေ့တောင်ဘက်၌ တည်ရှိသော ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ စာပဲ့သင် အမြဲယင်၍ ဘုရားမြတ်စွာ သာသနာ စည်ပင်ရေး ပြုလုပ်တော်မူခဲ့ကြသော မထေရ်မြတ်တို့၏ အန္တယ်အဆက်ဖြစ်စဉ် အဋ္ဌုပ္ပတ်ကို ပြဆိုရာ အခန်းကဏ္ဍ ပရိစ္ဆေဒ ဖြစ်သည်။

### ဒက္ခိဏာရာမ ကျောင်းတိုက်ကြီး

ဒက္ခိဏာရာမ ကျောင်းတိုက်ကြီးသည် ကျယ်ဝန်းလှသော ကျောင်းတိုက်ကြီး ဖြစ်သည်။ ကျယ်ဝန်းသည်နှင့် အမျှ အုတ် သွပ် သံ ကျောက် သစ်သား ဖြင့် ပြီးသော ကျောင်း အဆောက်အအုံ ကြီးငယ်တို့မှာလည်း နေရာမဆန့် ပြည့်ကျပ် များပြားလှသည်။ ကျောင်းတိုက်သည် အတွင်းထပ် အပြင်ထပ် အားဖြင့် ၂-ထပ်ရှိရာ ၂-ထပ်စလုံး ကျောင်း အဆောက်အအုံတို့ဖြင့် ပြည့်ကျပ်နေသည်သာ ဖြစ်သည်။ ဖော်ပြပါ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ အဆောက်အအုံ အသေးအကြီးပေါင်း ၁၀၀-ကျော်မျှ ရှိလေသည်။

### စေတီတော် နှစ်ဆူ

ဖော်ပြပါ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ တောင်ဘက်၌ ကျောင်းတိုက် ဒါယကာ သတိုး မဟာသက်တော်ရှည် မင်းကြီး ဦးပွား၏ ဘုရားကြီးတိုက် အမည်တွင်ကြောင်း ကောင်းမှုတော် ဘုရားစေတီကြီး တည်ရှိလေသည်။ ယင်းစေတီကြီးကား ကျယ်ဝန်းသော မဟာရံ တံတိုင်းကြီးအတွင်း၌ ညာဏ်တော် အတောင် ၈၀-ခန့် အမြင့်ဆောင်လျက် ဖူးချင်စဖွယ် သပ္ပါယ်လှပေ၏။[၁]

---

၁။ သတိုး မဟာသက်တော်ရှည် မင်းကြီး ဦးပွါး၏ ကောင်းမှုတော် ဘုရားကြီး ကြည့်။

ရင်းပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် မြောက်ပိုင်း အပြင်ထပ်တွင်လည်း မူလက တည်ရှိခဲ့သော သိမ်နီကြီးကို ရသေ့ကြီး ဦးခန္တိ တည်ဆောက်ခဲ့သော လွန်စွာ မြင့်မားလှသော အာနန္ဒာဘုရားကြီး တည်ရှိလေသည်။[၂] ယင်းစေတီ တော်ကြီး နှစ်ဆူမှာ အထူးအားဖြင့် ဘုရားကြီးတိုက်ပျော် သံဃာတော်တို့ လေးမြတ်ကော်ရော် ပူဇော်ရာ ကုသိုလ်ပုညပြုရာ ပုညဘူမိ ပုညတိတ္ထကြီးများ ဖြစ်လေသည်။ ယင်း စေတီကြီး နှစ်ဆူဖြင့်လည်း ဒက္ခိဏာရာမ ဘုရားကြီး တိုက်သည် လွန်စွာသိုက်မြိုက် တင့်တယ် ကျက်သရေ ရှိလှပေသည်။

ဒွီဟိပိ ထူပသေဋ္ဌေဟိ၊ အာရာမော ရာမဏေယျကော။
ဒက္ခိဏာရာမသဝှယော၊ သောဘနော လက္ခဉ္ဇော ဘဝေ။

## မစဲသုံးပါး ကွဲပြားမရှိ ဒက္ခိဏာရုံ ကျောင်းရွှေဘုံ

ဒက္ခိဏာရာမ ဘုရားကြီးတိုက်ကို ဖော်ပြပါ "မစဲသုံးပါး ကွဲပြားမရှိ ဒက္ခိဏာရုံ ကျောင်းရွှေဘုံ" ဟူသော လင်္ကာဖြင့် ချီးကျူး ဂုဏ်ပြုကြသည်။ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ကုဋီ၌ ရဟန်းသာမဏေ မစဲခြင်း၊ စာအံသံ မစဲခြင်း၊ ကျောင်းတိုက်အတွင်း သံဃာတော်များ အသွားအလာ မစဲခြင်း ဟူသော မစဲသုံးပါးနှင့် ပြည့်စုံသည်ဟူ၏။ ယခင်က သံဃာတော် ၁၀၀၀ (တထောင်) ကျော် ရှိခဲ့ရာ အဘယ်မှာလျှင် အသံသုံးပါး စဲနိုင်မည်နည်း။ ယခုအခါတွင် လည်း သံဃာတော် ၆၀၀၊ ၇၀၀၊ ၈၀၀-ခန့် သီတင်းသုံးလျက်ရှိရာ မြန်မာ ပြည်၌ သံဃာတော် အများဆုံး သီတင်းသုံးရာ ကျောင်းတိုက်ကြီး ဖြစ်လေ သည်။

ဒက္ခိဏာရာမအာရာမေ၊ ဝသိံသု သမဏာ ပုရေ။
ပဆရောသဟာဿဂဏာနာ၊ ဓုရဒ္ဒယေ သုသံယုတာ။

## ပညာရှိပုဂ္ဂိုလ်များ မဆိတ်သုဥ်းဖူးခြင်း

ဒက္ခိဏာရာမတိုက်သည် ဘူမိ နက်သန် အောင်မြေမှန်လှသည်။ ကျောင်း တိုက်တည်ရာ ၁၂၀၉-ခုနှစ်မှ စ၍ ဆုတ်ယုတ်သည်မရှိ တိုးတက် စည်ကားလာ သည်သာ ဖြစ်သည်။ ထ:ဝစဉ် အတက် ဒီဂရီကို ပြနေသည်။ တိုက်တာတည် "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မ ရာဇ ဓိရာဇဂုရု" ဘွဲ့တံဆိပ် စသည် ဘွဲ့တံဆိပ်တော် ၃-ထပ်ရ ဆရာတော် အရှင်ဇာဂရ လက်ထက်မှစ၍ ယနေ့အထိ

---

၂။ ဒက္ခိဏာရာမ တိုက်ဝန်းအတွင်းရှိ အာနန္ဒာဘုရားကြီး ကြည့်။

၂၂၇၉

တိပိဋကကျမ်းတတ် အကျော်အမော်ရဟန်းတော် ပညာရှင်တို့ မဆိတ်သုဉ်းပဲ တည်ရှိခဲ့သော တိပိဋကတ် အတတ် အမျိုးမျိုးကို နောက်ဆုံး သင်ပြပေးရာ မဟာဝိဇ္ဇာလယတနကြီး ဖြစ်လေသည်။

## သမိုင်းအကျဉ်း

လောကမဏိစူဠာစေတီ ဒါယကာ အမရပူရ ဒုတိယ ရွှေမြို့ ရွှေနန်းတည် သာယာဝတီ ဘုန်းလျှံ နတ်ရွာစံပြီးနောက် "သီရိပဝရသုဓမ္မ မဟာဓမ္မရာဇာ" မည်သော သားတော် ပုဂံမင်းသည် ခမည်းတော်၏ အရိုက်အရာ ဖြစ်သော ရွှေထီး ရွှေနန်း တိုင်းကား ပြည်ရွာအလုံးကို သိမ်းအုပ် စိုးစံတော်မူ၍ သက္ကရာဇ် ၁၂၁၀–ခု တပေါင်းလဆန်း ၁၃-ရက် စနေနေ့မှစ၍ မင်းအဖြစ်သို့ ရောက်တော်မူသည်။ ယင်းပုဂံရွှေနန်းတက်ရာ အချိန်ကာလကို "အဂ္ဂေါနရာ ပုဂံမင်း ရာဇာ" ဟု မှတ်တမ်းပြုခဲ့ကြကုန်၏။ ပုဂံမင်းလက်ထက်ကျိဝန် အတွင်းဝန် သတိုးမင်းကြီး မဟာသက်တော်ရှည်အမတ်ကြီး ဦးပွားသည် အမရပူရမြို့ မြောက်မျက်နှာ အသောကာရာမတိုက် အရှေ့ဘက်၌ မဟာရံတံတိုင်း မိုးတားမှခံ လေးမျက်နှာနှင့်တကွ ဘောဂဆောင် ကျောင်းဦးပြာသာဒ်ပါ စမြင် ပတ်လည်ခံ ၅-ထပ်ကျောင်းကြီးကို ဆောက်လုပ်စေခဲ့လေသည်။ ကျောင်းတိုက်၏ တောင်ဘက်၌လည်း ဉာဏ်တော်မြင့်မားလှသည့် စေတီတော်ကြီးကိုလည်း တည်ထား ကိုးကွယ်စေခဲ့ပြီး စေတီမြတ်၏ ပတ်ဝန်းကျင်၌ ဥပုသ်သီတင်းသည်တို့ တရား ဘာဝနာပွားများရန် ရည်သန်၍ ဇရပ်ကြီး ၈-ဆောင်ကိုလည်း ဆောက်လုပ်စေခဲ့လေသည်။ ကျောင်းတိုက်ကြီးနှင့် ဘုရားကြီးကို ၁၂၀၈–ခုမှ စ၍ ကြပ်မနိုးဆော် ဆောက်လုပ်စေရာ ၁-နှစ်ကျော်ကာလအတွင်း အားလုံး ပြီးစီးလေသည်။ ကျောင်းတိုက်ကြီးကား စေတီကြီး ပြာသာဒ်ကြီးတို့ဖြင့် သီဟိုဠ်ကျွန်း မဟာဝိဟာရကျောင်းတိုက်ကြီးပမာ လွန်စွာ တင့်တယ်လှလေသည်။

သံပဋ္ဌရာဓိကေနေဝ၊ အာရာမံ ပာပယီ သုဓိ။
စေတိယပါသာဒါဒီဟိ၊ အာရာမော မနုညော ဘဝိ။

### ဗားကရာသာသနာပိုင်ထံ ကျောင်းထိုင်ဆရာတော်အတွက် ဆွေးနွေးခြင်း

မဟာသက်တော်ရှည်အမတ်ကြီး ဦးပွားသည် ကျောင်းတိုက်ကြီးအားလုံး ပြီးစီးပြီဖြစ်သဖြင့် မိမိ၏ကျောင်းတိုက်၌ ကျမ်းဂန်တတ် ကျောင်းထိုင်ဆရာတော် ရလိုသဖြင့် အသောကာရာမတိုက်၌ စာပွဲသဘင် မစဲနေ့ညဆင်ယင်လျက်



ဧက္ခိဏာရမတိုက်တွင်းရှိ တောင်ဘက်သုံးစင်း မြေ က်ဘက်သုံ;စင်းအားဖြင့်
လှေကားခြောက်စင်းတပ် ခမ်းနားကျယ်ဝန်းလှသော
အလယ်တိုက်ကျောင်းတော်ကြီး
ယင်းတိုက်ကျောင်းတော်ကြီးကို ၁၃၂၇-ခုနှစ်၌ မိုးကုတ်မြို့ ဦးတိုးလုံ-ဒေါ်ကု
သား ဦးဘသော်၊ သမီး ဒေါ်ခင်ညွန့်၊ မြေး ခင်ပြုံးကြည်၊အေးအေးဖြူတို့က
ပြင်ဆင်ကောင်းမှု ပြုကြသည်။

ရှိသော "ပညာဇောတာဘိဝံသ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော် စသည့် ဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဗားကရာ သာသနာပိုင်ဆရာတော်ဘုရားကြီး အရှင်ပညာဇောတ ထံ ချဉ်းကပ်၍ ဆရာတော်ဘုရားထံမှ စာပေကျမ်းဂန်အဘတ်သုံး စာလိုက်သံဃာအများဆုံး၍ သေးစာချဆရာတော်တပါးကို တပည့်တော်၏ကျောင်းတိုက်ကိုအာရာမာဓိပတိ ဆရာတော်အဖြစ် လွှဲအပ်တင်လျှောက်ပါသဖြင့် ညွှန်ကြားတော်မူပါဟု လျှောက်ထားလေ၏။ ထိုအခါ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီး အရှင်ပညာဇောတမဟာထေရ်က "မိမိ ဤပုဂ္ဂိုလ်ကို ပင့်ပါဟု မညွှန်ပြလို၊ မိမိအထံ၌ စာချနေသော စာချဆရာတော် အများအပြားရှိသည်။ စာပေ အရည်အသွေးရှိသော ပုဂ္ဂိုလ်ချည်းသာ ဖြစ်သည်"ဟု မိန့်ကြားတော်မူသည်။

## ဖိနပ်အရံပေါင်း လေးရာကျော်

ထိုအခါ မင်းကြီးဦးပွားသည် စာလိုက်သံဃာအများဆုံးရှိသည်ဟု ကျော်ကြားသော ဆရာတော်ဦးဇာဂရ စာချရာကျောင်းသို့ စာချနေချိန် လှေကားရင်းရှိ ဖိနပ်အားလုံးကို ယူခဲ့ရမည်ဟု သိစေလေသည်။ ဖိနပ်များ ပွေ့ဆောင်လာ၍ ရေတွက်ကြည့်သောအခါ ဖိနပ်လေးရာကျော်ရှိသော ဟူ၏။ မင်းကြီးဦးပွားသည် များစွာမှ ကျေနပ်နှစ်သက်လှပြီး ဤပုဂ္ဂိုလ်ကို ငါ့တိုက်သစ်လျှောက်မည်ဟု ဆုံးဖြတ်ချက်ချကာ သာသနာပိုင်ဆရာတော်နှင့်တကွ စာချဆရာတော် အရှင်ဇာဂရအား လျှောက်ထားလေတော့သည်။

## ကျောင်းရေစက်ချပွဲ

မင်းကြီးဦးပွားသည် သက္ကရာဇ် ၁၂၀၉-ခုနှစ် တပေါင်းလဆန်း ၁၃-ရက်နေ့တွင် ကျောင်းတိုက်ကြီးကို ရေစက်သွန်းချ လှူဒါန်းခြင်းပြုလေသည်။ ယင်းကျောင်းရေစက်ချပွဲ၌ ပင့်သံဃာ ၅၈-ပါးတို့ကို သီးမျိုးစုံ ငဒေသာပင် စသည်တို့ဖြင့် လှူဒါန်း၍ ပိဋကတ်စာအင်္ဂါ ၄၀၀၀ (လေးထောင်)ကျော်နှင့်တကွ အမျဝေစာတမ်းပါ အခြား ကျောင်းပရိဘောဂအမျိုးမျိုးတို့နှင့် တကွ ကျောင်းတိုက်ကြီးကို—

ဣမံ ဘန္တေ မဟာထေရ၊ စေတိယပဋိမဏ္ဍိတံ၊
ဂမနာဂမနသမ္ပန္နံ၊ သာဓူနံ စိတ္တတောသနံ။
သမ္ပဋိစ္ဆတံ သမ္ဗုဒ္ဓ-သာသနဿ ဝိရူဠ္ဟိယာ။

၁။ ဒုတိယ ဗားကရာ သာသနာပိုင်ဆရာတော် အရှင်ပညာဇောတ အဖြစ်တော်စဉ် မန္တလေးသာသနာဝင်။ ၁။ ၃၂၇-၃၆၄-ကြည့်။

မဟာထေရ်သခင် အရှင်သူမြတ်ဘုရား အတုလဦးသျှောင် ငါးမာရ်အောင်မြတ်ဘုရား၏ ဓာတ်သားမွေသရီတို့၏ တည်ရှိရာ ကိန်းဝပ်ရာ စေတီမြတ်ကြီးဖြင့် တန်ဆာဆင်အပ်သော သွားလမ်းလာလမ်းနှင့် ပြည့်စုံသော သူတော်ကောင်းတို့စိတ်နှလုံးကို နှစ်သက်ရွှင်ပြုံးစေနိုင်သော ဤကျောင်းတိုက်ကြီးကို ဘုရားမြတ်စွာ သာသနာစည်ပင်ပြန့်ပွားရန်အလို့ငှာ အလှူခံတော်မူပါဘုရားဟု မြွက်ဆိုလျှောက်ထားပြီး ရေစက်ချ၍ လှူဒါန်းလေသည်။

## ဘုရားကြီးတိုက်ဟု တွင်ခြင်း

ကျောင်းတိုက်၏ နာမည်သည်လည်း ဦးပွား၏ ကောင်းမှုတော်ဘုရားစေတီတော်ကြီးကို စွဲ၍ ဘုရားကြီးတိုက်ဟု ခေါ်တွင်လေသည်။

## ဒက္ခိဏာရာမဟု တွင်ခြင်း

သာသနာသက္ကရာဇ် ၄၅၅-ခုနှစ်တွင် သီဟိုဠ်ကျွန်း၌ ဒုတိယအကြိမ်မြောက် ဝဋ္ဋဂါမဏိမင်းကြီးနန်းတက်ခဲ့သည်။ ဝဋ္ဋဂါမဏိမင်းကြီး၌ သူရဲကောင်း ၇-ယောက်ရှိခဲ့သည်၊ ယင်းသူရဲကောင်း ရ-ယောက်အနက် ဥတ္တိယ သူရဲကောင်း ဥတ္တိယအမတ်သည် အနုရာဓမြို့၏ တောင်ဘက်၌ ကျောင်းတိုက်ကြီး ဆောက်လုပ်၍ မင်းဆရာ မဟာတိဿထေရ်အား လှူဒါန်းလေသည်။ ယင်းကျောင်းတိုက်သည် မြို့၏ တောင်ဘက်၌ တည်ရကား ဒက္ခိဏာရာမကျောင်းဟု အမည်တွင်သည်။

တေသု သတ္တသု ယောဓေသု၊ ဥတ္တိယော နာမ ကာရယိ။
နဂရမှာ ဒက္ခိဏတော၊ ဝိဟာရံ ဒက္ခိဏဝှယံ။-[၁]

သီဟိုဠ်ကျွန်း အနုရာဓမြို့၏ တောင်ဘက်၌ တည်သဖြင့် ဥတ္တိယအမတ်၏ ကျောင်းတိုက်သည် ဒက္ခိဏာရာမဝိဟာရ-ဒက္ခိဏာရာမမည်သည့်နည်းတူ ဦးပွား၏ ကုသိုလ်တော် ဘုရားကြီးကျောင်းတိုက်သည်လည်း နောက်တွင် ရတနာပုံ မန္တလေးမြို့တော်၏ တောင်ပြင်၌ တည်သောကြောင့် ဒက္ခိဏာရာမ မည်ကြောင်း—

ရတနာပုဏ္ဏပုရဿ၊ အာရာမော အာသိ ဝိပုလော။
တေနေဝ ဒက္ခိဏာရာမ-အာရာမော နာမတော အဟု—

ဟူသော ဂါထာဖြင့် မှတ်တမ်းတင်အပ်ပါသည်။

---

၁။ မဟာဝံသ။ ၃၃။ ၈၉၊

တနည်းအားဖြင့် ရတနာပုံမြို့တည် နန်းတည် ဘုရင်မင်းတုန်းမင်းတရားကြီး လက်ထက်သို့ ရောက်သောအခါ သီရိသုမင်္ဂလာစန္ဒာမဟေဟူ၍ လည်းကောင်း၊ အတုလဒေဝီ ဟူ၍လည်းကောင်း ဘွဲ့ပုံတံဆိပ် ခပ်နှိုင်ချီးမြှောက်ခြင်း ခံရသော တောင်ဆောင်တော်မိဖုရား ခင်ဆုံသည် မင်းကြီးဟောင်း ဦးပွား၏ အာရာမ် အတွင်းကျောင်းဆောက်ရန် အကြောင်း အမိန့်တော်ခွင့်ပန်တောင်းရာ အမိန့် တော် သာသဖြင့် ဝန်ထောက်တော် ဦးကောင်းကို ကြပ်မစေ၍ ပြာသာဒ် စနု ဘောဂ စမြင်တင့်တယ်စွာ ဆင်ယင် ဆောက်လုပ်ပြီးလျှင် အရှင်ဇာဂရာဘိဝံသ မထေရ်မြတ်အား လှူဒါန်းလေသည်။ ရတနာပုံမြို့တော်၏ ဒက္ခိဏဒိသာ တောင်အရပ်မျက်နှာ၌ တည်ရှိလေရကား ကျောင်းတော်ကို "ဒက္ခိဏာဝိဟာရ" အာရာမ်ကို "ဒက္ခိဏာရာမ" ဟု သမိုက်မေ်ာကွန်း ထွန်းလင်းစေသည်။

သတိုးမင်းကြီး မဟာသက်တော်ရှည် အမတ်ကြီး ဆောက်လုပ်ဆက်သ တော်မူသော ကုသိုလ်တော်ပွားဘုရားကြီးတိုက်ကျောင်းတော်ကြီးကို အမရပူရ ပုဂံရွှေနန်းရှင် မင်းတရားကြီးဘုရား ထွက်တော်မူကြီး ထွက်တော်မူ၍ ကျောင်း လွှတ်သဘင် ယင်တော်မူသောအခါ စာဆိုတော်ကြီး စလေဦးပုည ရေး သော ဆုတောင်းပတ္ထနာစာတမ်းကို သံဃာတော်များနှင့် မင်းမှူးမတ်ပရိသတ်အလယ် ဖတ်ကြားစေအပ်ရာ အဆုံးတွင် သာခုခေါ် သံကြီး တခဲနက် ပေါ်ထွက်လာလေ သည်။ ၎င်းအမျှဝေစာတမ်းကို သုတေသီတို့ အလွယ်တကူ ဖတ်ရှုနိုင်ရန် ဤ၌ ဖော်ပြအပ်ပါသည်။

## ဘုရားကြီးတိုက် ကျောင်းတော် ရေစက်ချအမျှဝေစာတမ်း

အောင်သူတကာတို့၏ မဟန္တာဘိဇေယျ ဝိသိဋ္ဌမင်္ဂလာ မဟိန္ဒာဒိပေဘိ တြိဘဝန္တဂူ အဘိဘူပါမောက္ခ ဒွိပဒုတ္တမ အနုတ္တရပုဂ္ဂိုလ်ထူး အောင်ပွဲမှူးဖြစ် တော်မူသော သမ္မာဒိပ္ပင့်လျာ မဟာဏ္ဏဝါ သံသာလောက ဩဃနက်ဝှမ်း နရက် ကမ်းမှ တတ်လှမ်းဆောက်စိုက် ကျောက်တိုက်ခွေပတ် လောကဓာတ်ထုတ် ပေါက် ဆဲ့ခြောက်လက်သစ် တာလစ္ဆရ မြှားမကျမီ ရှရှခုန်စိုင်း ဂဋ္ဌုန်မနိုင်း မုန်တိုင်းယန္တရား မျှားမျှားမြူးရှင် ဟူးဟူးနှင်သော သသက်လက္ခဏာ စကြာ ရထား ပတ္တမြားငွေကြော စန္ဒောဘာရောင် ပြောင်ယာဉ်ရတနာ မင်္ဂလာဆဒ္ဒန် နိဗ္ဗာန်ပစ္စည်း ရန်လှည်းခွာနှုတ် နဂုတ္တမ ကေလာသဂိရိ ဆဒ္ဒန်ဆင်မင်းသခင်.... တြိဝိဒ္ဒသ် ပယ်ဖြတ်မိုက်မှောင် စွေးစွေးပြောင်လျက် လေးတောင်လျှားရှည် ပြည်ရာဇဂြိုဟ် မဂဓိုရ်ချက်ဌေ စက်ခွေရိုပတ် ဝေပုလ်ထွတ်မှ မိုဃ်းနတ်ဝတြဘူ ဆွတ်ယူလျက်သာ ရွှေစက်ပဏ္ဏာ ဘုန်းကြောင့် လာသော ကာမာဝစရို ရူပါဝစရို မြင်းမိုရ်ပရိသမန် သတ္တရဘန်ရေတောင် မြေတောင်လေးကျွန်းခွေဝန်း

အုတ်ရိုးအင်္ဂတေ ပျက်ကြွေယွင်းယို မခိုင်သည်ကို အရှည်သာသနာ တည်ကြာမြဲမြံအောင် လုပ်ဆောင်ပြင်ဆင်သော ပုထိုးတော်ကြီး ၁(တဆူ)

အသစ်ကြည့်ကြပ် ဆောက်လုပ်အပ်သော စရပ်ကြီး ၈(ရှစ်ဆောင်) မြစ်မဂင်္ဂါ သီဘာရေမျိုး သောက်ချိုး သုံးဆောင် ကောင်းသော ရေတွင်း ၁(တစ်တွင်း)

ပိဿာဆယ်လီ ချိန်မှီသွန်းဖြစ် ကြေးဟစ်သံတင် ငြိမ့်ငြိမ့်ရှင်သောကြေးစင်ခေါင်းလော ၅၈(ငါးဆယ်ရှစ်)

အလုပ်သေချာ ပြောက်စုံပါသျှက် သိင်္ဂါရောင်မှည့် ရွှေပိန်းထည့်သော ညောင်စောင်း ၅၈(ငါးဆယ်ရှစ်)

အာနာပါန ကာလခန့်တွက် လျှပ်တပျက်၌ ဆယ်ချက်မကာ လက်သီးကျသော ဗလဒေဝ မုဋ္ဌိကတို့ကဲ့သို့ ခုန်ကြွသန်စွမ်း လက်ပန်းလုလင်တို့အား သနားဖုံးလွှမ်းရန် ကြိုးစုံကတင် မြင်းလျှင်စီးရေ ၁၀၀(တရာ)

အသျှင်ကေရာဇ်မင်းမြတ် ဥပါတ်နိစ်ပြ ပျောက်ပမပေါ် သက်တော်ရှည်မည်ကိုရည် မှန်း၍ သက်တော်စေ့ ပမာဏ ဇီဝိတဒါန အသက်ဘေးမှလွှတ်သော ရာဇဝတ်သား ယောကျ်ား မိန်းမ ဦးရေ ၃၈ (သုံးဆယ်ရှစ်)

တွက်စစ်ကုန်အောင် များမြောင်ဝတ္ထု ရောရှု ခြံရံလျက် "ဇာဂရာ ဘိဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု" တံဆိပ်တော်ရ ဆရာတော် အမှူးရှိသော သမ္မုတိ သံဃာဂဏာစရိယ အာသဘာပုဂ္ဂိုလ် မင်္ဂဖိုလ် ရှာဆွတ် အာစွတ် မုံသောက် ဉာဏ်ဂုဏ်မောက်သော စွယ်ရောက်ညီညာ ဆရာမထေရ် ပေါက်သားကြီးတို့အား ရှစ်ပါး ဆယ်ပါး တဆယ့်နှစ်ပါး ပရိက္ခရာ သံဃာတို့၌ သုံးထိုက်သမျှ သီးစုံပွင့်စုံ နှင်နှင် ပင်ရေပဒေသာ ၅၈ (ငါးဆယ်ရှစ်)

အထီး ကပ္ပနာ လာလာသမျှ ဒုက္ခိတ လူတို့ကို မရမင မရှိစေရ ဝေငှပေးကမ်းရန် ပင်ရေပဒေသာ ၅၈(ငါးဆယ်ရှစ်)

ခပ်သိမ်း ပရိစ္ဆာဂ ဒါနကြိယာတို့ကို စေတနာထက်သန် မျက်မာန်ကင်းရှင်း ပွဲဘောင်ကျင်းလျက် ကောဇာသက္ကရာဇ် ၁၂၀၉-ခု ဥတုဂိမှန္တ ဖဂ္ဂုနပုဏ္ဏမီ သရဖီ ရွှေဝဘ်ညှာ လေညှတ်၍ ခွေဝတ်ညှာညောင်း မြေထက်လျောင်းသော တပေါင်းလဆန်း ၁၃-ရက်နေ့ ကောင်းမြတ်သော မင်္ဂလာ အခါတော်၌ သခွတ်ဗိမာန် သူရိန်ရန်ကို ကေန်အောင်အံ့ စနည်းငုံ၍ ပတ်ခြံဗိုလ်အင်နတ်သေနင်ဖြင့် ကောင်းကင်ပြည့်နှက် သိကြားထွက်ဆဲ အခါကဲ့သို့လည်း

ကောင်း၊ညာရှီးချီမြှောက် လက်ပန်းပေါက်ဖြင့် ဖြောက်ဖြောက်ရတနာ မိုးကြီးရွာသော စကြာမန္တာတ်မင်းသည် ဗိုလ်သင်းကိုးကုဋေ မိုးမြေအုတ်အုတ် စက်လည်ခုတ်၍ သမုဒ်ခြားသန်း စတုရန်းဖြင့် လေးခန်းစစ်အင် ဗိုလ်ပွဲယင်လျက် စံရှင်တော်မူဆဲ အခါကဲ့သို့လည်းကောင်း၊ ဗိမ္ဗိသာရမင်းကြီး ဝေဓဒဟီ မိဖုရားနှင့်တကွ ဝေဠုဝန် ကျောင်းတော်သို့ ထွက်စံဆဲ အခါကဲ့သို့လည်းကောင်း၊ သီရိဓမ္မာသောကမင်းကြီး ဝေဒိဿကာ ဒေဝီမိဖုရား (အသန္ဓိမိတ္တာ?)ကြီးနှင့်တကွ အသောကာရုံ ကျောင်းတော်ကို ရေစက်သွန်းထွက်တော်မူဆဲ အခါကဲ့သို့လည်းကောင်း၊ ၁၁၅၃-ခုနှစ် ဘေးလောင်းတော် မင်းတရားကြီး မိဖုရားခေါင်ကြီးနှင့်တကွ အောင်မြေဘုံကျော်ကျောင်းတော်ကို ရေစက်သွန်းထွက်တော်မူဆဲ အခါကဲ့သို့လည်းကောင်း၊ ၁၂၀၄-ခုနှစ် ခမည်းတော် မင်းတရားကြီး မယ်တော်တောင်နန်းသူ အရှင်မိဖုရားခေါင်ကြီးနှင့်တကွ မဟာတုလွတ်ဘုံကျော် ကျောင်းတော်ကို ရေစက်သွန်းထွက် စံတော်မူဆဲ အခါကဲ့သို့လည်းကောင်း၊ မင်းညီမင်းသား မိဖုရား မင်းမှူးမတ်ပရိသတ်များစွာ စစ်အင်္ဂါလေးပါး ရထား မြင်းဆင် ခြေလျင်ဗိုလ်လူ ကျူနတိန်း စစ်ဆင်ကိန်းလျှင် တြိန်းခြောက်လီ ခေါ်ဘာဏီဖြင့် မဟီထုတ်သန်း ပြတ်ဘနန်းမျှ နားပန်းယှက်စပ် ရွက်ထပ်ဦးကင်း လည်ချင်းလက်ရုံး ပခုံးနံဘီ ဗိုလ်ပြိုင်ချီလျက် ထွက်တော်မူကြီး ထွက်တော်မူ၍ အနုမောဒနာ သဘင် ဆင်ယင်တော်မူသည်။

ဤကောင်းမှုကြောင့် နှစ်ဆယ့်လေးသင်္ချေနှင့် ကုဋေခြောက်ဆယ် ဗိုလ်ခြေတသိန်း အကိန်းများလှ ဝေနေယျအား တရားမြိုက်ဆေး တိုက်ကျွေး ကယ်ချွတ်နိုင်သည် ဖြစ်စေသော်။

အပြောကျယ်စွာ သံသရာလည်း ပါရမီဆယ်ပါး တရားအထွတ် တိုင်လိုသော်၊ ဆုတောင်းပတ္ထနာနှင့်တကွ ဝသုန္ဓြေမြေချရက္ခ နတ်ဒေဝအား နောင်ဖန်ကာလ ဒိဋ္ဌသုတ မုချသက်သေ သဝေမထောင့် အစောင့်အရှိ သိစေဘိ လောဟူ၍လည်း ရွှေကရားဖြင့် ရေစက်သွန်းချတိုင်တမ်းတော်မူသည်။

ဤကောင်းမှုအဖို့ကိုလည်း ရတနာသိင်္ခ ရတနာပူရ ဇေယျာပူရမြို့တည် ဘေးလောင်းတော် မင်းတရား မင်းဖျား၊ အမရပူရ ပဌမမြို့တည် ဘေးတော်မြတ်ရင်း မင်းတရား၊ အမရပူရ ရတနာပူရ ဌာနပတ်ကုံး ပြည်အလုံးကို လက်ရုံးဆန့်ထူ အောင်ပွဲယူသော ဘကြီးတော်မင်းဖျား မင်းတရား၊ အမရပူရ တတိယဗိမာန် ဝေဇယန်ထွတ် တမွတ်ချပ်ချာ သမုဒ္ဒရာ ဥက္ကလာပ ရာမညရောက်လျှိုတောက်နှုံးနည်း ဇမ္ဗူလှည်းသော ခမည်းတော် မင်းခေါင်မင်းဖျား မင်းတရားမဟာ မြေထုမေရုဂိရိ ကျေးဇူးတော်ရှိသော ဘေးတော်နှစ်ပါး ဘိုးတော်

မြတ်ဖျား ဘုရားတော်မြတ်စစ် မဟာဒေဝရင်ဇ် ဆွေတော်မျိုးချစ် ခြောက်ရွာ ဖြစ်တို့အား အဦးထား၍ အများဝေနေယျာ သင်္ချာတွက်ဖွဲ့ သုံးဆယ့်တဘုံ၌ ကျင်လည်ကုန်သော ဝေနေယျတို့အား အမျှပေးဝေတော်မူသည်။ အမျှရ ကြသည် ဖြစ်စေသော်....



ဒက္ခိဏာရာမ တိုက်တော်တည် ''ရာဇာဓိရာဇဂုရု'' ဘွဲ့ဘာံဆိပ်တော်သုံးထပ်ရ
ဆရာတော်ဘုရားကြီး အရှင်ဇာဂရ၏ အရိုးအိုးစေတီတော်

# ဒုတိယပိုင်း

## ခန္တီဓာရာမ ဘုရားကြီးတိုက်တည်

### ဇာဂရာဘိဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု
### ဇာဂရာဘိဓဇ သိရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု
### ဇာဂရာဘိဝံသ ဏီပိဋကဓရ မဟာဓမ္မရာဇာဓိ ရာဇဂုရု
### ဘွဲ့တံဆိပ်တော် ၃–ထပ်ရ အရှင်ဇာဂရမဟာထေရ်

အရှင်ဇာဂရာ ဘိဝံသသည် ရတနာပုံခေတ်တွင်အထူးမြတ်ဆုံးသော ပညာရှိ သာသနာ့ဝန်ဆောင် ဆရာတော် ဖြစ်တော် မူသည်။ သိလာရင်္ဂပဥ္စမသံဂါယနာ မဟာဓမ္မသဘင်တွင် အထွတ်အထိပ်အရာ၌ တည်တော်မူ၍ ပရိယတ္တိသာသနာတော် ကာလကြာရှည် တည်တော်မူရန် ပြောင်မြောက်လှသော သာသနာ့ကိစ္စလုပ်ငန်းကို ကြိုးပမ်းအားထုတ်တော်မူခဲ့သည့် ထိပ်တန်းသာသနာ့ဝန်ဆောင် ဖြစ်တော်မူသည်။

### ဖွားမြင်တော်မူခြင်း

မိတ္ထီလာမြို့ အရှေ့ဖက် ၅–မိုင်ခန့် ကွာလှမ်းသော ကဖြူရွာ၌ တောင်ယာလယ်ခုတ် တောင်သူအလုပ်ဖြင့် အသက်မွေးကြသော အဖဦးရွှေစ အမိဒေါ်မင်းရင်တို့မှ သက္ကရာဇ် ၁၁၇၂ ခုနှစ်တွင် ဖွားမြင်တော် မူခဲ့လေသည်။ ငယ်မည် မောင်ညိုဖြစ်လေသည်။ ယင်းကဖြူရွာသည် မိတ္ထီလာ သာစည်ကားလမ်းပေါ်ရှိ ညောင်ကိုင်းရွာမြောက်ဖက် ၂–မိုင်ခန့်အကွာတွင် တည်ရှိသည်။

### ကျောင်းနေပညာသင် ရှင်, ရဟန်းပြုခြင်း

ကျောင်းသားအရွယ်တွင် ကျောင်းနေပညာ သင်ကြားတော် မူခဲ့လေသည်။ ကျောင်းသားဝတ်နှင့် သက်တော် ၁၅–နှစ်၊ ၁၆–နှစ်ခန့် တိုင်အောင် နေထိုင်ပြီးမှ သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့လေသည်။

## သဲအင်းသာသနာပိုင် ဆရာတော်ထံ ပညာသင်

ဆရာတော် လောင်းလျာသည် သက်တော် ၁၆-နှစ်ခန့်အရွယ်တွင် ပိဋက အခြေခံ ကျမ်းဂန်များ၊ ပိဋက ၃-ပုံ ပါဠိနှင့် အဋ္ဌကထာ ဋီကာကျမ်းများကို သင်ယူရန် ရည်သန်တော်မူ၍ အမရပူရမြို့တော်သို့ ကြွတော်မူသည်။

မူလတွင် အဆက်အသွယ်မရှိသဖြင့် အမရပူရမြို့ ဇရပ်တဆောင်၌ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန် တတ်မြောက်တော်မူသော ဆရာတော်များထံ ပညာသင်ကြားတော်မူခဲ့လေသည်။ နောက်တွင် ပုဗ္ဗေကတပုည ပင့်ထောက်သဖြင့် "သဒ္ဓမ္မဝံသာဘိ သီရိဓဇ မဟာဓမ္မရာဇဂုရု ဘွဲ့တံဆိပ်တော်နှင့် သူရိယဝံသာဘိသီရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော် ၂-ထပ်ရ ပဋ္ဌာန်းသုံးချက်စု၊ ပဋ္ဌာန်းပစ္စည်းပြိုင် ပဋ္ဌာန်းရာသီစု၊ ယမိုက်အရကောက်၊ ပဋ္ဌာန်းအရကောက်၊ ဝီထိလက်ရိုးကျမ်း၊ ဉာသ်ကောက်ကျမ်း စသည်တို့ကို ပြုစီရင်တော် မူခဲ့သော သဲအင်းသာသနာပိုင် ဆရာတော်ကြီး[၁] ထံ ရောက်ရှိတော်မူ၍ ပိဋက အခြေခံ ကျမ်းဂန်များနှင့်တကွ ပိဋကကျမ်းဂန် အချို့ကို ဆိုဝါလိုက်ဝါဖြင့် သင်ယူတော် မူခဲ့လေသည်။

သန္တိကေသူရိယဿာပိ၊ သူရိယဉာဏိကော ဝိဒ္ဒါ။
ဗဟူနိ ဂန္ထာနိ သောဟိ၊ သမ္မာ ဥဂ္ဂဏှိ အကာ။

## ရဟန်းပြု သာသနာ့ဝန်ထမ်းဆောင်တော်မူခြင်း

သက်တော် ၂၀-ပြည့်မြောက်ရာ အခါတွင် လောကီယ သမ္ပဒါတို့ထက် ဆထက်လွန်ကျူး ထူးမြတ်သော ရဟန်းဘဝ ဒုလ္လဘသို့ ရောက်တော်မူ၍ စာပေကျမ်းဂန် အတန်တန်ကို ဆက်သက်၍ သင်ယူတော်မူခဲ့လေသည်။

## ဗားကရာသာသနာပိုင် ဆရာတော်အရှင်ပညာဇောတထံ ပညာသင်ကြားတော်မူခြင်း

ရဟန်းသိက္ခာ ၃-ဝါအရတွင် ပညာဇောတာဘိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်၊ ပညာဇောတာဘိ သီရိပဝရ လင်္ကာရ ဓမ္မသေနာပတိ

---

၁။ သဲအင်း သာသနာပိုင် ဆရာတော်ဘုရားကြီး အဋ္ဌုပ္ပတ္တိ မဟာဝိသုတာရာမ နိကာယ သာသနာဝင်ကျမ်း။ ၁၆၈-၁၇၀-နှင့် အမရပူရ သာသနာဝင် ကျမ်းများကြည့်။

**မဟာဓမ္မရာဇာဓိ ရာဇဂုရုဘွဲ့တံဆိပ်တော်၊ ပညာဇောတာဘိသီရိပဝရ ဝိဇယာလင်္ကာရ ဓမ္မသေနာပတိ** မဟာဓမ္မရာဇာဓိ ရာဇဂုရုဘွဲ့တံဆိပ်တော် ပညာဇောတာ ဘိသီရိသဒ္ဓမ္မပါလ၊ အရိယဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု ဟူသော ဘွဲ့တံဆိပ်တော်၊ ပညာဇောတဓမ္မသီရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု ဟူသော ဘွဲ့တံဆိပ်တော်အားဖြင့် ဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဒုတိယ ဗားကရာ သာသနာပိုင်ဆရာတော်ဘုရားကြီး အရှင်ပညာဇောတထံ ရောက်ရှိကာ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်တို့ကို ဆို၀ါ၊ လိုက်ဝါဖြင့် သင်ယူတော်မူခဲ့လေသည်။[၁] ဆရာတော်သည် အလွန်လျှင် ဉာဏ်ထက်မြက်တော်မူသည်။ ရဟန်း ၆-ဝါအတွင်း ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းအားလုံး မွှေနှောက်ချောက်ချား ကျွမ်းကျင်တတ်မြောက်တော်မူသည်။

## ပညာသင်ဖက်များ

ငပေါ်မြို့ ဗားကရား **သာသနာပိုင်** ဆရာတော် ဘုရားကြီး အရှင်ပညာဇောတထံပညာသင်ကြားစဉ်က အုတ်ဖိုရှိဆရာတော်ဘုရားကြီး အရှင်ဥက္ကံသမာလာ၊ မေ့ပဒမဟာဋီကာ-စသည့် ကျမ်းဂန်ပြု ရေစကြိုဆရာတော်အရှင်ဝရသမ္ဘောဓိ၊ ပခန်းမင်းကြီး ဦးရန်ဝေးလောင်းလျာ အရှင်ဝိသုဒ္ဓ-စသည်တို့ကား ဘုရားကြီး ဆရာတော်အရှင်ဇာဂရနှင့် ပညာသင်ဖက်တို့ ဖြစ်ကုန်၏။

## အင်္ဂုတ္တိုရ်နိဿယများ ရေးစဉ် ကူညီတော်မူခဲ့ခြင်း

**သာသနာပိုင်** ဒုတိယ **ဗားကရာဆရာတော်ဘုရားကြီး အရှင်ပညာဇောတ** မဟာထေရ်အင်္ဂုတ္တိုရ် ပါဠိတော်နိဿယ၊ အင်္ဂုတ္တိုရ် အဋ္ဌကထာနိဿယတို့ကို ရေးသားပြုစီရင်စဉ်က အမိန့်တော်ရှိသည့်အတိုင်း ရေးမှတ်ကူညီတော်မူခဲ့ရသည်။

## စာပေချူပို့တော်မူခြင်း

သာသနာပိုင် ဆရာတော်ဘုရားကြီး၏ အမိန့်အရ အမရပူရမြို့ မင်းအိုတိုက်၌ သီတင်းသုံးတော်မူ၍သံဃာတော်များစွာတို့အား စာပေချူပို့တော်မူ၍ပရိယတ္တိ သာသနာတော်ကို ချီးမြှောက်တော်မူခဲ့လေသည်။

---

၁။ ဗားကရာဆရာတော် အရှင်ပညာဇောတ အဌ္ဌုပ္ပတ္တိအကျဉ်း မန္တလေး သာသနာဝင်၊ ၁။ ၃၂၇-၃၆၄-ကြည့်။

## အသောကာရာမတိုက် လိုက်ပါသီတင်သုံး စာချခဲ့

သာသနာပိုင် ဗားကရာဆရာတော်ဘုရားကြီး အသောကာရာမတိုက်သို့ ကြွရောက်သီတင်းသုံးတော်မူသောအခါ အတူလိုက်ပါ သီတင်းသုံးတော်မူ၍ ဆရာတော် လွဲအပ်ထားရှိသော အသောကာရာမတိုက်အတွင်း စနေထောင့်ရှိ သုံးထပ်ကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေချပို့တော်မူခဲ့လေသည်။ စာပြောအလွန်ကောင်းလှသဖြင့် ရဟန်းသာမဏေ ၄၀၀-ကျော်တို့ ဆရာတော် အရှင်ဇာဂရထံ စာပေကျမ်းဂန်လိုက်နာ သင်ယူကြကုန်၏။

## ဘုရားကြီးဆရာတော်လောင်းလျာ အရှင်ဇာဂရ စာပြောနည်း

ဆရာတော်ကား စာပြောအလွန်ကောင်းလှသည်ဟု ကျော်စောကိတ္တိရှိသည်၊ သဒ္ဒါအရာ၌ ပါရဂူမြောက် တစ်-ခေါ်လောက်အောင် တတ်မြောက်သည့် ပုဂ္ဂိုလ်ထူးဖြစ်တော်မူရာ—

တပည့်တို့အားလည်း ပါရဂူပေါက် တတ်မြောက်စိမ့်သောငှာ သဒ္ဒါပုဒ်ပါဌ်ရုပ်ခေတ်ပစ္စည်းတို့ဖြင့် ပုဒ်ပြီးသို့ ရောက်အောင် ရှင်းလင်းစွာ ဖေါ်ပြ၍ ဝိဂ္ဂိုဟ်ဝစနတ္ထလှစ်ပြ ဖေါ်ထုတ်ပြီးလျှင် ပုဒ်စပ်နည်း ဝေဖန်၍ နိဿယံကို ရွတ်ဆိုဖေါ်ပြကာ အဓိပ္ပါယ်ပြောလေ့ရှိတော်မူသည်။

## ဂါထာအရေးအသား နိုင်နင်းခြင်း

ဆရာတော်သည် သဒ္ဒါလည်းတတ်၊ ဆန်းလည်းနိုင်၊ အလင်္ကာလည်းပိုင်၊ အဘိဓာန်တကျမ်းလုံးကိုလည်း မြှိုင်မြှိုင်ကြီး ရွတ်ဆိုနိုင်အောင် နှုတ်တက်ရွရွ အာဂုံရလေရာ ဂါထာစီကုံးဖွဲ့ဆိုမှု၌ နိုင်နင်းလှလေသည်။ တခါက သာသနာပိုင် ဗားကရာ ဆရာတော်ဘုရားကြီး အမှတ်တမဲ့စီကုံးသည့် ဂါထာကို ရဲရဲဝံ့ဝံ့ ထောက်ပြ ပြင်ဆင်တော်မူခဲ့သည်ဟု မှတ်တမ်းတဆောင်၌ဆိုသည်။

---

၁။ စစ်ကိုင်းသာသနာဝင်။ ၁၅၆။

## ဇက္ခိဏာရာမ ဘုရားကြီးတိုက်ကြီးအလှူခံတော်မူခြင်း

ဆရာတော်သည် သက္ကရာဇ် ၁၂၀၉-ခုနှစ် တပေါင်းလဆန်း ၁၃-ရက်နေ့တွင် ဒက္ခိဏာရာမ ကျောင်းတိုက်ကြီးကို အလှူခံတော်မူရလေသည်။ ယင်းသို့ဖြစ်ကြောင်း ရာဇဝင်၌ [၁]-

"ယင်းသည့်နှစ် တပေါင်းလ ကျိဝန်အတွင်းဝန် သတိုးမင်းကြီး မဟာသက်တော်ရှည်က အသောကာရာမ တိုက်အရှေ့ မဟာရံတံတိုင်း မီးတား ၂-ထပ် မုခ်လေးမျက်နှာနှင့်တကွ ဘုံ ၉-ဆင့်ရှိအမိုးဘုံ ၅-ဆင့်ရှိဆောင်မ ကျောင်းဦးပြာသာဒ်နှင့်တကွ စမြင် ပတ်လည်ခံကျောင်းကြီး ဆောက်လုပ်ပြီး ပြေသည်ကို ကုသိုလ်ပွားဆက်သရန်လည်းကောင်း၊ လဆန်း ၁၃-ရက်နေ့ ဘဝရှင်မင်းတရားကြီး ဘုရား [၂]- ထွက်စံတော်မူ၍ တိပိဋကခရ သီလဝိသုဒ္ဓိဖြစ်သော "ဇာဂရာဘိသီရိပဝရာ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ပုဂ္ဂိုလ်ထူးမြတ်ကို ရေစက်သွန်းချ တင်လှူတော်မူ၏။ ထောင်တန်းအကျဉ်းကျခံနေရသူ လူပေါင်း သုံးဆယ့်ရှစ်ယောက်ကိုလည်း ဘေးမဲ့ချမ်းသာ ပေးတော်မူ၏"ဟု ဖေါ်ပြပါရှိသည်။

### စာပေကြိုးစားချ သံဃာတော်ထောင်ကျော်

ဆရာတော်ကား စာပေ၌ အလွန်မြတ်နိုးတော်မူသည်။ ထာဝစဉ် စာပေကြည့်ရှုချပို့မှု၌သာ မွေ့လျော်တော်မူလေ့ရှိသည်။ စာပေကြည့်ရှုရာမှ ထ၍ စာပေချပို့တော်မူလေ့ရှိသည်။ ကျောင်းဦးပြာသာဒ်စနု၌ စာပေကို ကြည့်ရှုသုံးသပ်တော်မူ၍ စာချချိန်တွင် ဘောဂဆောင်သို့ ကြွတော်မူ၍ စာပေချပို့တော်မူသည်။ ဆရာတော် စာပေကြိုးစားချပို့မှုကြောင့် သံဃာတော်ပေါင်းများစွာတို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိ သီတင်းသုံးတော်မူကြရာ၊ ထိုစဉ်က သံဃာတော် ၁၀၀၀-ခန့် ၁၀၀၀-ကျော်ရှိသည်ဟု သိရ၏။

### ကံကောင်းထောက်မသဖြင့် အသက်ဘေးမှ ချမ်းသာခြင်း

သက္ကရာဇ် ၁၂၁၄-ခုနှစ်ဘွင် ညီတော် အိမ်ရှေ့မင်းဖြစ်သော မင်းတုန်းမင်းက နောင်တော်ပုဂံမင်းကို တိုက်ခိုက်အောင်မြင်သောအခါ ဒက္ခိဏာရာမ ကျောင်းတိုက်ကြီး၏ ဒါယကာကျိဝန် အတွင်းဝန် သက်တော်ရှည်မင်းကြီး

---

၁။ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီး။ ၃။ ၆၆။

၂။ ပုဂံမင်းဘုရားကိုဆိုသည်။ ပုဂံမင်းနန်းတက် (၁၂၀၈-၁၂၁၄)

ဦးပွားကိုလည်း မင်းတုန်းမင်း၏ စစ်သည်တော်ဘပ်သားတို့က ကွပ်မျက်ကြသည်။ ၎င်းပြင် ရွှေရောင်တောက်နေသော ဒက္ခိဏာရာမ ကျောင်းတိုက် အတွင်းရှိ ဘုံကိုးဆင့်ပြာသာဒ်တော်ကြီး၊ အမိုးငါးဆင့်ရှိ ကျောင်းတော်ကြီးနှင့် အရံ ကျောင်းများစွာတို့ကို မီးရှို့ဖျက်ဆီးကြရန် ဒက္ခိဏာရာမ တိုက်သို့ လာကြသည်။

သွေးဆူနေကြသော စစ်သားတို့သည် သက်တော်ရှည်မင်းကြီး ဦးပွား၏ ဆရာဖြစ်သည့် ဆရာတော် အရှင်ဇာဂရမဟာထေရ်ကိုလည်း ကွပ်မျက်လိုကြသည်။ ဆရာတော် ကျောင်းတော်ကြီးမှ ဆင်းကြွလာတော်မူစဉ် တံခါးမုခ်တွင် စစ်သားများနှင့် ပက်ပင်းပါဆုံမိသည်။ သို့ရာတွင် စစ်သားများသည် ဆရာတော်မှန်း မသိကြချေ။ ဆရာတော်ကား စာပေဘက် မင်းဆရာဖြစ်၍ နာမည်ကျော်၍သော အကြီးကြီးထင်မှတ်ကြသည်။ ထိုစဉ်က သက်တော် ၄၂-ခန့်သာ ရှိသေးသည်။ အနုပ်သိပ်မမြင့် ကိုယ်လုံးကိုယ်ပေါက် ခပ်သေးသေးဖြစ်ဟန် ရှိသည်။ စစ်သားများက ဆရာတော်ကိုပင် အရှင်ဘုရား ဆရာတော်ဦးဇာဂရ ဘယ်မှာနေတုန်းဟုမေးရာ ဆရာတော်ကပင် အဲသည်ကျောင်းဟာ ဆရာတော် နေတဲ့ကျောင်းဖြစ်သည်ဟု မိန့်ကြားတော်မူပြီး မြောက်ဖက်ကြွတော်မူလာပြီး ထီးလင်းတိုက်၌ ခေတ္တ သီတင်းသုံးတော်မူသည်။ စစ်သားတို့သည် ဆရာတော် သီတင်းသုံးရာ ရွှေရောင်တောက်နေသည့် ပြာသာဒ်တော်ကြီးနှင့် ကျောင်းမကြီး အရံကျောင်းတို့ကို မီးရှို့ဖျက်ဆီးကြကုန်၏။ ဆရာတော်ကား ကံကောင်းထောက်မသဖြင့် အသက်ဘေးမှ ချမ်းသာရာ ရခဲ့လေပြီ။ ဆရာတော်ကား စိတ်မညစ်၊ သောကမဖြစ်—

အနိစ္စာဝတ သင်္ခါရာ၊ ဥပ္ပါဒဝယဓမ္မိနော။
ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ၊ တေသံ ဝူပသမော သုခေါ။

ရုပ်နာမ်ခမ္မ သင်္ခါရတို့ကား မမြဲကုန်စွတကား။ ရုပ်နာမ်ခမ္မ သင်္ခါရတို့ကား ဖြစ်လျှင် ပျက်မြဲ ပလ္လင်တံတွာ ဓမ္မကာတို့သာတည်း။ ဖြစ်ပြီးလျှင် ချုပ်ပျက်ရိုးမှန်လှကုန်၏။ ယင်းသင်္ခါရတို့၏ ချုပ်ရာမှန်လှ အမဘနန်း နိဗ္ဗာန်သည်သာလျှင် ကြည်သာအေးမြ ဘေးမခပဲ ချမ်းသာလှချေ၏ဟူ၍ သံဝေဂဖြစ်တော်မူခဲ့လေသည်။

အတုလဒေပိတောင်ဆောင်တော် ပိဖုရားကြီးကဘဖန်
ကျောင်းဆောက်လှူဒါန်း ကိုးကွယ်ခြင်း

မင်းတုန်းမင်းတရား လက်ထက်တွင် တောင်ဆောင်တော် အတုလဒေဝီ မိဖုရားကြီးက ဖော်ပြပါ ကျိဝန်အဘွင်းဝန်မင်းကြီး ဦးပွား၏ မီးလောင်ပြင်

ကျောင်းနေရာတွင် ကျောင်းတော် ဆောက်လုပ်၍ ဆရာတော် အရှင်ဇာဂရ အား ပင့်တင် လှူလိုကြောင်း လျှောက်ထားရာ မင်းတရားက— အို မိဖုရား၊ သင့်မှာ ကိုးကွယ်စရာ ဘုန်းကြီး ဒီလောက်တောင် ရှားသလား စသည်ဖြင့် မိန့်ကြား၍ ပယ်မြစ်တော်မူခဲ့လေသည်။ သို့ရာတွင် နောက်တွင် သံတော်ဦးတင် ခွင့်တောင်းပါများလေသော် ကျောင်းတော် ဆောက်ခွင့်ပြုသဖြင့် ပြာသာဒ် စနု ဘုံလေးဆင့်ရှိ ဆောင်မစသည်တို့ဖြင့် တန်ဆာဆင်လျက် ရတနာအမျိုးမျိုး တို့ဖြင့် စီခြယ်၍ များစွာသော ဓာတ်ခွန် မှန်ကင်းတို့ဖြင့် တန်ဆာဆင် မွမ်းမံ ဆောက်လုပ်ပြီး အရှင်ဇာဂရမဟာထေရ်မြတ်အား ပင့်တင်လှူလေသည်။

ကျမ်းဂန် များစွာတို့ကို ပြုစီရင်တော်မူခြင်း

ဆရာတော်သည် စာပေပို့ချယင်း အချိန်ယူ ဝတ်ထား၍ စာပေကျမ်းဂန် မြားမြောက်စွာတို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။ ဆရာတော် ပြုစုသည့် ကျမ်းများမှာ ဋီကာ၊ ယောဇနာ၊ ဒီပနီ၊ နိဿယ၊ ဂဏ္ဌိ၊ နိယံ၊ စသည်ဖြင့် မျိုးစုံလှ၏။ ၎င်းတို့မှာ—

၁။ သဒ္ဒဝုတ္တိ ဋီကာသစ်
၂။ ဂန္ထာဘရဏ ဋီကာသစ်
၃။ ဒီပဝင် ဋီကာ
၄။ ပါစိတျာဒိ ယောဇနာ
၅။ အဘိဓမ္မတ္ထသင်္ဂဟ ယောဇနာ
၆။ သံဝေဂ ဝတ္ထု ဒီပနီကျမ်း
၇။ ဗြဟ္မဝိဟာရ ဒီပနီကျမ်း
၈။ ပါရာဇိကဏ် ပါဠိတော် နိဿယသစ်
၉။ ပါစိတ် ပါဠိတော် နိဿယသစ်
၁၀။ မူလသိက္ခာ နိဿယသစ်
၁၁။ မင်္ဂလသုတ် နိဿယသစ်
၁၂။ နေတ္တိပါဠိတော် နိဿယသစ်
၁၃။ သံပျင်ဋီကာ နိဿယသစ်
၁၄။ ကာရိကာ နိဿယသစ်
၁၅။ မောဂ္ဂလ္လာန် နိဿယသစ်
၁၆။ ဒီပဝံသ နိဿယသစ်
၁၇။ သင်္ဂြိုဟ် ဂဏ္ဌိသစ်
၁၈။ ဘုရားကြီး နိယံကျမ်း
၁၉။ ဆန်းပုံကျယ်ကျမ်း- စသည်တို့ ဖြစ်ကြသည်။

## သဒ္ဒဝုတ္တိ ဋီကာသစ်ကျမ်း

ပင်းယမြို့ သာသနာ့ဝန်ဆောင် ဆရာတော်တပါး ဖြစ်တော်မူသော အရှင် သဒ္ဓမ္မဂုရု မထေရ်သည်–

၁။ အနန္တဂုဏ သမ္ဗုဒ္ဓံ၊ သဒ္ဒဝုတ္တိ ပကာသကံ။
သဒ္ဓမ္မံ ရိယသံဃဉ္စ၊ သက္ကစ္စံ အဘိဝါဒိယ။
၂။ သဒ္ဒဝုတ္တိ နိမိတ္တေသု၊ ဆေကကာမေန ဘိက္ခုနာ။
ယာစိတောဟံ ကရိဿာမိ၊ သဒ္ဒဝုတ္တိ ပကာသကံ။

ဟူသော ၂-ဂါထာဖြင့် ရတနတ္တယ ပဏာမ၊ အဘိယာစက၊ ပဋိညာဉ် ဖော်ပြလျက် ဂန္ထာရမ္ဘ ပြုတော်မူ၍ သဒ္ဒဝုတ္တိပါဠ်ကို စီရင်တော်မူခဲ့သည်။ ယင်း သဒ္ဒဝုတ္တိပါဠ်မှာ ဂါထာပေါင်း ၁၁၅-ဂါထာရှိရာ အဆုံးဂါထာမှာ–

ယတ္ထ ယတ္ထ ပဒေသေ့ဝ၊ ဒိဋ္ဌေ ဝိသဇ္ဇနေ သတိ။
တတ္ထ တတ္ထာဒ္ဓရိတဗ္ဗာ၊ ပုဗ္ဗာတာဝ ဝိဘာဝိနာ။

ဖြစ်သည်။[၁]

ဖော်ပြပါ သဒ္ဒဝုတ္တိပါဠ်၏ အဖွင့်ဋီကာတစောင် (ဋီကာဟောင်း) ကို ပုဂံမြို့ မြင်းကပါဆရာတော် အရှင်သာရိပုတ္တရာထေရ် စီရင်တော်မူခဲ့လေသည်။ အရှင်သာရိပုတ္တရာသည်–

ကျမ်းဦး၌–

အနန္တဉာဏ သမ္ဗုဒ္ဓံ၊ သဒ္ဒဝုတ္တိ ဝိဇာနနံ။
မေဟာယသ ခံသကံ ဓမ္မံ၊ သံဃဉ္စာပိ နိရင်္ဂဏံ။

သက္ကစ္စံ အဘိဝါဒိယ၊ သိဿာနံ ဆေကပါပကံ။
သဒ္ဒဝုတ္တိ ပကာသဿ၊ ကရိဿာ မတ္ထဝဏ္ဏနံ။

ဟူသော ၂-ဂါထာဖြင့် ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။
ကျမ်း၏ အဆုံး၌လည်း–

---

၁။ အကျယ် ပင်းယ သာသနာဝင်ကြည့်။

၁။ ပေါက္ခာရာမောတိဝှယဿ၊ နဂရဿ ဒက္ခိဏတော။
မြင်းကပေါ ဣတိနာမေန၊ ဥယျာနံ ပါကဋံ အိယာ။
၂။ နာနာ ရုက္ခေဟိ သဉ္ဆန္နံ၊ ဖလပုပ္ဖေဟိ လင်္ကတံ။
နိသိန္နော တတ္ထ ယော ထေရော၊ ဒိဿမဒ္ဒါန မာဂတော။
၃။ သာရိပုတ္တောတိ နာမေန၊ မဟာထေရေန ဝိညုနာ။
ရစယိတော အယံ ဂန္ထော၊ သဒ္ဒေသု ဗျတ္တိဇနကော။

ဟူသော ၃-ဂါထာဖြင့် နိဂုံးအုပ်တော်မူခဲ့သည်။[၁]

အရှင်ဇာဂရသည် ဖေါ်ပြပါ အရှင်သာရိပုတ္တရာ၏ သဒ္ဒဝုတ္တိ ဋီကာဟောင်းကို အကြိုက်နည်းတော်မူသည်။ ယင်းဋီကာဟောင်းဖြင့် သောတုဇနတို့အဖို့ မလုံလောက်သေးဟု ယူဆတော်မူကာ သဒ္ဒဝုတ္တိ ဋီကာသစ်ကျမ်းကို ဉာဏ်မီး တောက်စ ၆-၀ ရွ ရဟန်းပျိုဘဝက ရေးသား စီရင်တော်မူခဲ့လေသည်။ ဆရာတော်သည် ကျမ်းဦး၌—

၁။ နာထာနန္တ ဒယာဉာဏံ၊ ဓမ္မံ မောဟဝိဓံသကံ။
ဂဏုတ္တမဉ္စ ဝန္ဒိတွာ၊ ဝိပ္ပသန္နေန စေတသာ။
၂။ ပါဠိယဋ္ဌကထာဒီနံ၊ ဝဏ္ဏနေ အတိကောဝိဒေ။
ပုဗ္ဗာ စရိယသီဟေစ၊ ပရိယတ္တိ ဝိသာရဒေ။
၃။ ပေါရာဏေဟိ ကတာ အတ္ထိ၊ ယာ သဒ္ဒဝုတ္တိဝဏ္ဏနာ။
န သက္ကာ ပန တာယေတ္ထ၊ အတ္ထော သောတုဟိ ဉာတဝေ။
၄။ တသ္မာ လီနပဒါနတ္ထံ၊ သာဓိပ္ပါယ မဟာပယံ။
သဒ္ဒဝုတ္တိ ပကာသဿ၊ ကရိဿာမတ္ထဝဏ္ဏနံ။

ဟူသော ၄-ဂါထာဖြင့် ဂန္ထာရမ္ဘ ပြုတော်မူ၍ သဒ္ဒဝုတ္ထိ ဋီကာသစ်ကျမ်းကို ပြုစီရင်တော်မူခဲ့သည်။

ကျမ်း၏ အဆုံး၌လည်း—

"ရတနာပုရာတိ အဝှယဿ ရာဇဓာ(ဌာ)နီ နဂရဿ ဒက္ခိဏသ္မိံ ဒိသာ ဘာဂေ ပဉ္စ ယောဇန ပ္ပမာဏေဌာနေ ဒိဗ္ဗဟိမဟာ-တဋ္ဌာကေဟိ သုသော ဘိတဿ မိဓိလာနာမ နဂရဿ ပုရတ္ထိမသ္မိံ ဒိသာ ဘာဂေ ဒိယဍ္ဍ ဂါဝုတ

---

၁။ တိပိဋကရေ့ ဝုတ္တန္တ ဗိဏ္ဍာသိနီကျမ်း။ ဂ၄-ကြည့်။ အကျယ်ပွင့် သာသနာဝင်လည်းကြည့်။

ပဌမာဘော ဌာနေ နေကတာလပဋ္ဌိဟိသောဘိ-တော စတုန္နံ ကုလာနံ အာရမ္မဏိယ ဘူတော ကမ္ဘုဏ္ဏတိ ဝေါဟာရိတော ယော သော မဟာဂါမော ပတိဋ္ဌိတော။ တတ္တ ပဋိသန္ဓိယာ ဇာတေန သီလာဒိဂုဏေဟိ ပသံသိတေန ဇာဂရောတိ ဂရှုဟိ ဂဟိတ နာမဓေယျေန ဆဝဿေန မေ ကတာ အယံ သဒ္ဒဝုတ္တိ ပကာ သကာဝဏ္ဏနာ သမ္ပတ္တော ဇိနစက္ကေ နဝ သတ္တတိ တိသတဝဿာဓိကံ ဒွိသဟဿံ ကလိယုဂေ ပန သတ္တနဝုတေက ဝဿသတာဓိက မေက သဟဿံ ဝသန္တေ ဒုတိယ ကတ္တိကမာသေ ဇုဏှပက္ခဿ ပန္နရသမေ အင်္ဂါရဝါရေ နိဋ္ဌံ ပတ္တာ အနာကုလေနာတိ။

ဝဏ္ဏနာယ ကုမိဋ္ဌာယ၊ ရစနာယ နုဘာဝတော။
ဘဝေယျံ နေကဇာတီသု၊ ပိဋကတ္တယ ဓာရကော။
ကုသလော စ ဘာယ်တ္တေသု၊ ပရိသာသု ဝိသာရဒေါ။
သမိဇ္ဈန္တု သုသက်ပ္ပါ၊ မယှဉ္စ သဗ္ဗပါဏိနံ။
ဝပ္ပါဒိ မနတိက္ကမ္မ၊ သမ္မာ ဒေဝေါ ဝပဿတု။
အတ္တဇမိဝ ရက္ခန္တု၊ ရာဇာနော စာပိ မေဒိနိန္တိ။

ဤကျမ်းကို ဘဒန္တ ဇာဂရ စရိယေန ကတာ သဒ္ဒဝုတ္တိပ္ပကာသ ဋီကာသမတ္တာ” ဟူသော စုဏ္ဏိယ ဂါထာ ၂-ဖြာ ရေးသော စမ္ပူပါဠိ ရေးနည်းဖြင့် ရေးစီရင်တော်မူ၍ ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။ စာမူမှာ ရှိုင်ဆိုက် စာမျက်နှာ ၃၄-ရှိလေသည်။

### အမရပူရခေတ် စာချနည်းကို ပြောနေသော ဋီကာ

ယင်း သဒ္ဒဝုတ္တိ ဋီကာသစ်သည် အမရပူရ သာသနာတော်ခေတ်က စာချစာပြောနည်းကို ပြောနေသည်။ ဂန္ထာရမ္ဘ အဆုံး၌ ရှေးဦးစွာ—

“ယံ ကိဉ္စိ ဂန္ထံ သမာရဘိတုကာမေန-တာဝ၊ စရိယေန ရတနတ္တယဿ ပဏာမံ ကတွာ တဗ္ဗိဟတန္တရာယေန သမာရဘိ တဗ္ဗန္တိ သဒ္ဒပ္ပဝတ္တိ ပကာသကံ ပကရဏ မိဒမာရဘန္တော ယမာစရိယော အနန္တဂုဏဿ သဒ္ဒစုတ္တိ နိမိတ္တ ပကာ သကဿ ဗုဒ္ဓဿ ဘဂဝတော တေန သုဒေသိတတ္တာ ဟောတု ပစာရတော ယထာ ဝုတ္တဂုဏ သမ္ပန္နဿ သဒ္ဓမ္မဿစ တဿောရသတ္တာ ဝုတ္တနယေန ဝုတ္တဂုဏ သမ္ပန္နဿ အရိယသံဃဿ စ ပဏာမံ သဟ ပဏာမ ပဏာမိတဗ္ဗ ပဏာမ ဟောတူတိ ဒဿေန္တော အနန္တဂုဏ သမ္ဗုဒ္ဓံတျာဒိ”ဟူ၍ ကျမ်းတက်တော်မူခဲ့သည်။

ငင်းပြင် အဘိယာစက ပဋိညာဉ် ပဋိညာတဗ္ဗတို့ကိုလည်း ကွဲကွဲပြားပြား ပြဆိုတော်မူခဲ့သည့်အပြင် သညာ နိမိတ် ကတ္တား ပရိမာဏ ပယောဇဉ်တို့ကို ချာသ စသည်ကို ညွှန်းဆို ဖွင့်ပြတော်မူခဲ့သည်။ ထို့ပြင် တပါး အနက် ယောဇနာပုံ နည်းမျိုးစုံ အက္ခရုဒ္ဓါရ အတ္ထုဒ္ဒေသ စသည်တို့ကို ဖော်ပြ၍လည်း ဖွင့်ဆိုတော်မူခဲ့သည်။ စင်စစ်တမူကား သဒ္ဒဝုတ္တိ ဋီကာသစ်သည် "စာတတ်ခြင်း၊ စာကုန်မန်ကျည်းတော၊ စာပြောသဲအင်း" ဟူသည်နှင့်အညီ သဲအင်း ဆရာတော်ကြီး၏ စာပြောနည်းကို ဖော်ပြလျက်ရှိ၏။

## ဂန္ထာဘရဏ ဋီကာသစ်

သက္ကရာဇ် ၇၀၀-ကျော်တွင် ပေါ်ထွန်းတော်မူခဲ့သော မဟာသာမိ မဉ္ဇူသာ ဋီကာ မဏိဒီပ ဋီကာ ဇာတက ဝိသောဓန အနုဋီကာ မဟာနိဿယစသည့် ကျမ်းဂန်ပေါင်း များစွာတို့ကို ပြုစီရင်တော်မူခဲ့သော အရှင် အရိယဝံသ သည်—

ဝိစိတြနယသမ္ပန္နာ၊ ဒေသနာယဿ တာဒိနော။
နမော သဒ္ဓမ္မသံဃဿ၊ ကာယာ အာဒိစ္စ ဗန္ဓုနော။
ဝန္ဒနေယျ ပဏာပဿ၊ အာနုဘာဝေ နုပဒ္ဒဝေ။
သော သေတ္ဗာဟံ ကရိဿာမိ၊ နိပါဘတ္ထ ဝိဘာဝိနိံ။

ဟူသော ဂန္ထာရမ္ဘ ၂-ဂါထာ ဖော်ပြပါ နိပါတတ္ထ ဝိဘာဝိနီ အမည်ရှိသော ဂန္ထာဘရဏ ကျမ်းကို ရေးသားစီရင်တော်မူခဲ့သည်။ ယင်း ဂန္ထာဘရဏကျမ်း၏ အဖွင့် သံဝဏ္ဏနာ ဂန္ထာဘရဏ ဋီကာပါဌ်ကို သက္ကရာဇ် ၉၆၀-ခုနှစ်က ရတနာပူရမြို့ မဟာဝိဇယာရာမတိုက်နေ အရှင်သုဝဏ္ဏရံသီထေရ် ရေးသားဖွင့်ဆိုတော်မူခဲ့သည်။

ရဟန်းသိက္ခာ ၆-ဝါသာရရှိသော အရှင်ဇာဂရသည် ဖော်ပြပါ အရှင် သုဝဏ္ဏရံသီ၏ ဋီကာဟောင်းကို အကြိုက်နည်းနေသည်။ လိုလောက်သည်ဟု ယူဆတော်မမူ။ သို့ဖြစ်၍ ဖော်ပြပါ ဂန္ထာဘရဏ ကျမ်း၏အဖွင့် သံဝဏ္ဏနာ ဋီကာသစ်ကိုလည်း ဆန္ဒ စိတ္တ ဝီရိယ ဝိမံသ တို့ ရှေ့သွားပြုကာ စီရင်တော်မူခဲ့လေသည်။

ဆရာတော်သည် ကျမ်းဦး၌—

၁။ နာထာနန္တဒယာဉာဏံ၊ မေမ္ဗုဇ္ဇမာဟာဓိသကာံ၊
ဂဏုတ္တမဥ္စ ဝန္ဒိတွာ၊ ဝိပ္ပသန္နေန စေတသာ။

၂။ ပါဠိယဋ္ဌကထာဒီနံ၊ ဝဏ္ဏနေသု တိကောဝိဒေ။
ပုဗ္ဗာစရိယ သီဟောစ၊ ပရိယတ္တိ ဝိသာရဒေ။
၃။ ပေါရာဏေဟိကတာ ယတ္ထိ၊ ဂန္ထာဘရဏဝဏ္ဏနာ။
န သက္ကာ ပနတာဟေတ္ထ၊ အတ္ထော သောတူဟိ ဉာတဝေ။
၄။ တသ္မာ လီနပဒါနတ္ထံ၊ သာဓိပ္ပါယမဟာပယံ။
သမာသေန ကရိဿာမိ၊ ဂန္ထာဘရဏဝဏ္ဏနံ။

ဟူသော ၄-ဂါထာဖြင့် ရတနတ္တယပဏာမ၊ အာစရိယပဏာမ၊ ကရဏပ္ပကာရ ပဋိညာဉ်ပြုတော်မူခဲ့သည်။

ကျမ်း၏ အဆုံး၌လည်း—

"ရတနာပုရေတိ အဝှယသာရာဇဓာ (ဌာ)နီနဂရဿ ဒက္ခိဏသ္မိံ ဒိသာဘာဂေ ပဉ္စယောဇနပ္ပမာဏေဌာနေ ဒွိဟိ မဟာတဠာကေဟိ သုသောဘိတဿ မိထိလာနာမ နဂရဿ ပုရတ္ထိမသ္မိံ ဒိသာဘာဂေ ဒိယဍ္ဎဂါဝုတပ္ပမာဏေ ဌာနေ အနေကတာလပန္တိဟိ သုသောဘိတော စတုန္နံ ကုလာနံ ရမဏီယ ဘူတော ကပ္ပူရတိ ဝေါဟာရိတော ယောသော မဟာဂါမောပတိဋ္ဌိတော။ တတ္ထ ပဋိသန္ဓိယာဇာတေန သီလာဒိဂုဏေဟိ ပသံသိတေန ဇာဂရောတိ ဂဟိတနာမဓေယျေန ဆဗ္ဗဿေန မေ ကတာ ဂန္ထာဘရဏဝဏ္ဏနာ သမ္ဗတ္တေ ဇိနစက္ကေနဝသတ္တတိ တိသတဿာဓိကံ ဒွိသဟဿံ ကလိယုဂေ ပန သတ္တနဝုတျက ဝဿသတာဓိကမေကသဟဿံ ဟောမန္တ မိဂသိရမာသေ ဇုဏှပက္ခဿ အဋ္ဌမေ ဂုရုဝါရေ နိဋ္ဌံပတ္တာ အနာယာသေနာတိ။

ဝဏ္ဏနာယ ဂ္ဂမိဿာဟံ၊ ရစနဿာနုဘာဝတော။
ဘဝေယျာနေကဇာတိသု၊ ပိဋကတ္တယ ဓာရကော။

ကုသလော စုဘယတ္ထေသု၊ ပရိသာသု ဝိသာရဒေါ။
သမိဇ္ဈန္တု သုသင်္ကပ္ပါ၊ မယှံ စ သဗ္ဗပါဏိနံ။
ဝပ္ပါဒိမနတိက္ကမ္မ၊ သမ္မာဒေဝေါ ပဝဿတု၊
အတ္တဇမိဝ ရက္ခန္တု၊ ရာဇာနော စာပိ မေဒိနိံ။

ဟူသော စုဏ္ဏိယ ဂါထာ ၂-မျိုးဖြင့် ပြည့်စုံစွာ ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။ ၎င်းဂန္ထာဘရဏဋီကာသစ်သည် ရှိုင်ဆိုက်စာမျက်နှာ ၃[illegible] ရှိသည်။

## ဒီပဝံသဋီကာပေါ်ခြင်း

ဒီပဝံသဋီကာရေးရန်မှာ လွယ်ကူသောလုပ်ငန်းမဟုတ်ပါချေ။ ဒီပဝံသကျမ်းမှာ သီဟိုဠ်ကျွန်း၌ အရှင်မဟာဗုဒ္ဓဃောသမပေါ်ခင် သာသနာသက္ကရာဇ် ၉၅၀-မတိုင်မီက ရှေးဆရာတို့ ရေးခဲ့သော ဘုရားရှင် သီဟိုဠ်ကြွတော်မူပုံ၊ ဓာတ်ကျွန်းပုံ ဓာတ်တော်တို့ ကြွရောက်တော်မူပုံ၊ သံဃမိတ္တာ ဗောဓိပင် သီဟိုဠ်ကြွရောက်တော်မူပုံ၊ သံဂါယနာ ၃-တန်တင်ပုံ၊ ပေါ်ထွက်ရာဂိုဏ်း သံဂါယနာသမိုင်းအမြွက် သာသနာရောက်လာပုံ-စသည်တို့ကို ဖော်ပြသော အပိုင်း ၂၂-ပိုင်းရှိ အဖိုးတန် ရှေးသာသနာသမိုင်းကျမ်းဖြစ်သည်။

ဒီပါဂမနံ ဗုဒ္ဓဿ၊ ဓာတု စ ဗောဓိယာဂမံ။
သင်္ဂဟာစေရဝါဒဉ္စ၊ ဒီပမှိ သာသနာဂမံ။
နရိန္ဒာဂမနဝံသံ၊ ကိတ္တယိဿံ သုဏာထ မေ။[၁]

ယင်းကျမ်းကို ဖွင့်ရာမှာ ဗျာကရုဏ်းကျမ်း ဗဟုသုတနှင့် မလုံလောက်ပါ၊ သမိုင်းရာဇဝင် ဗဟုသုတအမျိုးမျိုးလည်း ရှိမှ ဖွင့်နိုင်မည်ဖြစ်သည်။ ဆရာတော်သည် အစစအရာရာ ဗဟုသုတ ပြည့်ဝလုံလောက်သဖြင့် ဖွင့်နိုင်ခြင်းဖြစ်သည်။ ဒီပဝံသဋီကာကျမ်းဦး၌—

နမဿိတွာန သမ္ဗုဒ္ဓံ၊ မဟာဒီပံ မဟာဝံသံ။
သွာက္ခာတံ တဿ ဓမ္မဉ္စ၊ သံဃဉ္စ သုပ္ပဋိပန္နံ။

ပုဗ္ဗာစရိယသီဟေဟိ၊ ဒီပဝံသော နာမ ယော ကတော။
လင်္ကာဒီပနိဝါသီဟိ၊ ကရိဿံ တဿ ဝဏ္ဏနံ—

ဟူသော ၂-ဂါထာဖြင့် ပဏာမ ပဋိညာဉ် ပြုတော်မူခဲ့သည်။ ဒီပဝံသဋီကာ ရေးသား၍ ပြီးချိန်မှာ သာသနာသက္ကရာဇ် ၂၄၁၇-ခုနှစ် ကောဇာသက္ကရာဇ် ၁၂၃၅-ခုနှစ် တပေါင်းလဆန်း ၈-ရက်နေ့ ဖြစ်သည်။ ဆရာတော်သည် ဖော်ပြပါ ဒီပဝံသဋီကာသစ်အဆုံး၌—

"ရတနာပုဏ္ဏာတိ အဝှယဿ ရာဇဋ္ဌာနီနဂရဿ ဒက္ခိဏသ္မိံ ဒိသာဘာဂေ ဆယောဇနပ္ပမာဏေ ဌာနေ ဒ္ဒီဟိ မဟာတဠာကေဟိ သုသောဘိတဿ မိမိလနဂရဿ ပုရတ္ထိမသ္မိံ ဒိသာဘာဂေ ဒိယဍ္ဍဂါဝုတပ္ပမာဏေ ဌာနေ အနေ-

---

၁။ ဒီပဝံသကျမ်းဦးဂါထာများ။

ကတာ-လပဎ္ဌိတိ သုသော-ဘိတော ကဖ္ဖုဂ္ဂတိ ဝေါဟ-ရိ-တော ယော သော ပဟာ-ဂါမော-၊ တိဋ္ဌိတော။ တတ္ထ ပဋ္ဌိသန္ဒိယာ ဇ-တေန သီလ-ဒိဂုဏေဟိ ပသံ သိတေန "ဇာဂရော" တိ ဂန္ထေဟိ ဟိတနာမဓေယျေန မေ ကတာယံ ဒီပဝံသ-ဝဏ္ဏနာ သစတ္တေ ဇိနစက္ကေ သတ္တရသဝဿ-မိကစတုသတာ-တိရေကံ ဒွိသ-ဟဿံ ဂေါ-ဇ ပန ပဋ္ဌတိ ံ သာ-မိကဒွိသတ-တိရေကံ သဟဿံ ဟေမန္တ-ဖဂ္ဂုဏမာသေ ဇုဏှပက္ခဿ ဆဋ္ဌမေ စန္ဒဝါရေ နိဋ္ဌံ ပတ္တာ အနာယာသေနာတိ။

၁။ ဝဏ္ဏနာ-ယ ဣမိဿာဟံ၊ ရစနဿာနုဘာဝတော။
ဘဝေယျာ-မနုက-ဇာတိသု၊ ပိဋ္ဌကတ္တ-ယ ဓာရကော။

၂။ ကုသလော စုဘယတ္ထေသု၊ ပရိသာသု ဝိသာရဒေါ။
သမိဇ္ဈန္တု သုသက်ပ္ပါ၊ မယှဥ္ဇ သဗ္ဗပါဏိနံ။

၃။ ဝပ္ပာဒိမနတိက္ကမ္မ၊ သ-မ္မာ ဒေဝေါ ပဝဿတု။
အတ္တဇမိဝ ရက္ခန္တု၊ ရာဇာနော စာပိ မေဒိနိန္တိ။

ဣတိ ဘဒ္ဒန္တဇာဂရာစရိယေန ကတာ ဒီပဝံသဋ္ဌကာ သမတ္တာ" ဟူ၍ စုဏ္ဏိယ ဂါထာ ၂ မျိုး (စမ္ပူ)ဖြင့် ဇာတိချက်ကြွေ မွေးရပ်မြေ ကျမ်းစာပြီးချိန် ဆုတောင်းစသည်တို့ကို ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့ လေသည်။ ဒီပဝံသဋ္ဌကာ ကား အဖိုးတန်ပါဠိကျမ်းစာ ဖြစ်လေသည်။

## ပါစိတျာဒိယောဇနာ

ပါရာဇိကဏ်ယောဇနာမှာ ရှိပြီးဖြစ်သဖြင့် ဝိနည်းအာဏာဒေသနာကိုလည်း ပူဇော်တော်မူသည့်အနေဖြင့် ပါစိတ်အဋ္ဌကထာမှ—

ပရိဝါ အဋ္ဌကထာအဆုံး ဝိနည်းအဋ္ဌကထာ ပြီးဆုံးသည့်အထိ အဋ္ဌကထာ၏ ယောဇနာကို ရေးသားတော်မူသည်။ ကျမ်းဦး၌—

မဟာကာရုဏိကံ နာ-ထံ၊ အဘိနတွာ သမာသတော။
ပါစိတျာဒိဝဏ္ဏနာယ၊ ကရိဿာမတ္ထယောဇနံ-

ဟူသော ဂါထာဖြင့် ပဏာမ ပဋိညာဉ် ပြုတော်မူခဲ့သည်။

ပါစိတ် အဋ္ဌကထာ ယောဇနာ အပြီးအဆုံး၌—

ဇာဒိလဋ္ဌိကနာမေန၊ နေကာနံ ဝါစိတော မယာ။
ဘိက္ခုနီနံ ဝိဘင်္ဂဿ၊ သမတ္တော ယောဇနာနယော–[၁]

ဟူသော ဂါထာဖြင့် နိဂုံးအုပ်ခဲ့သည်။

ဝိနည်း မဟာဝါ အဋ္ဌကထာ ယောဇနာ အစ၌–

ဇေယျာဘာဝဝိဘင်္ဂဿ၊ ကတ္ဘာန ယောဇနာနယံ။
မဟာဝဂ္ဂခန္ဓကဿ၊ ကရိဿံ ယောဇနာနယံ[၂]–

ဟူသော ဂါထာဖြင့် အနုသန္ဓေနှင့် ပဋိညာဉ်ကို ပြတော်မူပြီးအဆုံး၌–

ဇာဒိလဋ္ဌိတနာမေန၊ နေကာနံ ဝါစိတော မယာ။
မဟာဝဂ္ဂခန္ဓကဿ၊ သမတ္တော ယောဇနာနယော[၃]–

ဟူသော ဂါထာဖြင့် မိမိဘွဲ့တံဆိပ်တော်နှင့် များစွာသော ရှင် ရဟန်းတို့၏ ဂဏဝါစက စာချဆရာ၏အဖြစ်ကို ဖော်ပြလျက် နိဂုံးအုပ်တော်မူသည်။

တဖန် စူဠဝါ အဋ္ဌကထာ ယောဇနာ အစ၌လည်း–

မဟာဝဂ္ဂခန္ဓကဿဝ၊ ကတွာန ယောဇနာနယံ။
အဓုနာ စူဠဝဂ္ဂဿ၊ ကရိဿံ ယောဇနာနယံ[၄]–

ဟူသော ဂါထာဖြင့် အနုသန္ဓေ၊ ပဋိညာဉ်ကို ဖော်ပြတော်မူပြီး အဆုံး၌–

ဇာဒိလဋ္ဌိတနာမေန၊ နေကာနံ ဝါစိတော မယာ။
စူဠဝဂ္ဂခန္ဓကဿ၊ သမတ္တော ယောဇနာနယော[၅]–

ဟူသော ဂါထာဖြင့် နိဂုံးပြုတော်မူခဲ့သည်။

ၡင်းပြင် ပရိဝါအဋ္ဌကထာ ယောဇနာ၏ ဂန္ထာရမ္ဘ၌လည်း–

စူဠဝဂ္ဂခန္ဓကဿဝ၊ ကတွာန ယောဇနာနယံ။
အဓုနာ ပရိဝါရဿ၊ ကရိဿံ ယောဇနာနယံ[၆]–

ဟူသော ဂါထာဖြင့် အနုသန္ဓေနှင့် ပဋိညာဉ်ကို ဖော်ပြတော်မူခဲ့သည်။

---

၁။ ပါစိတ်၊ ယော။ ၁၀၂။ ၄။ ပါစိတ်၊ ယော။ ၄၀၉။
၂။ ပါစိတ်၊ ယော။ ၁၀၃။ ၅။ ပါစိတ်၊ ယော။ ၅၄၅။
၃။ ပါစိတ်၊ ယော။ ၄၀၇။ ၆။ ပါစိတ်၊ ယော။ ၅၄၇။

ပါစိတျာဒိယောဇနာကျမ်း၏ အဆုံး၌ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ တည်ရာဌာန မိဖုရားကြီး၏ ကျောင်းပြာသာဒ်တော်၌ သီတင်းသုံးစဉ် ရတနာပုံမြို့နန်းတည် မင်းတရားကြီး၏ နန်းသက် ၁၇-နှစ်ပြည့်မြောက် ၁၈-နှစ် အရောက်တွင် ရေးသားပြီးစီးကြောင်း စသည် အင်္ဂလိပ်ယ်တို့ ပါရှိသော=

ရတနပုဏ္ဏနာမယာ၊ ပုရယာ ရာဇဓာနိနော၊
ဒက္ခိဏေ မုနိရူပယာ၊ ဤသံ ပါစိနနိဿိတေ။

ယော ဝိဟာရော သပါသာဒေ၊ ကာရိတော ရာဇဒေဝိယာ။
ယာဝ သတာ မယော တတြ၊ ကတာ ပါစိတျာဒိယောဇနာ။

မာပိတရတနပုဏ္ဏာယ၊ သတ္တရသော ရာဇိနော။
ဇယဝဿော ဌာရသမို၊ သမ္ပတ္တော ယံ သုနိဋ္ဌိတာ—

ဟူသော ဂါထာများဖြင့်လည်း နိဂုံးအုပ်တော်မူခဲ့သည်။ ၎င်းကျမ်းပြီးချိန်မှာ ၁၂၃၁-ခုနှစ် နွေရာသီ နယုန်လဆန်း ၅-ရက်နေ့ဖြစ်ကြောင်း နိဂုံး၌ပင် ဖော်ပြတော်မူခဲ့သည်။

၎င်းပြင် မိမိ၏ဖွားမြင်ရာဇာတိ မိတ္ထိလာမြို့၏ တည်ရာဌာန အကွာအဝေး ဇာတ်ရပ်ရွာတည်ရာ ဘွဲ့တံဆိပ်တော် ၃-ထပ် ဆက်ကပ်ခံရပုံ၊ ကျမ်းပြီးရာ အချိန်ကာလ ခါသမယ၊ ဤကျမ်းစာ ရေးသားပါ၍ မြက်ပုညကြောင့် ဘဝ များစွာတို့၌ ပိဋကတ် ၃-ပုံဆောင် ဖြစ်ရလိုကြောင်း၊ ရဟန်းပရိသတ်၊ လူ ပရိသတ် ၂-မျိုးတို့၌ ရှိုရှားခြင်းကင်း ရဲရင့်သူဖြစ်ရလိုကြောင်း၊ စိုက်ချိန် ပျိုးချိန်၌ မိုးမှန်မှန် ရွာသွန်းပါစေသတည်း—စသည် ပါရှိသော—

"ရတနပုဏ္ဏာတိဝှယာယ ရာဇဓာနိနဂရဿ ဒက္ခိဏာသို့ ဒိသာဘာဂေ ပဉ္စ-ယောဇနပ္ပမာဏေ ဌာနေ ဒွိဗ္ဗဟိ မဟာတဋ္ဌာကေဟိ သုသောဘိတာယ မိတ္ထိ-လနာမနဂရဿ ပုရတ္ထိမသို့ ဒိသာဘာဂေ ဒိယစုဂါဝုတပ္ပမာဏေ ဌာနေ အနေကတာလပန္တိဟိ သုဿောဘိတော ယော သော မဟာဂါမော ပတိဋ္ဌိတော။ တတ္ထ ပဋိသန္ဓိယာ ဇာတေန သီလာဒိဂုဏေဟိ ပသံသိတေန ဇာဂရောတိ ဂဟိတနာမဓေယျေန တိက္ခတ္တုံ ရာဇမုဒ္ဒိနာ လဒ္ဓိတေန မေ ကတာယံ ပါစိတျာ-ဒိဝဏ္ဏနာယ ယောဇနာ သမ္ပတ္တေ ဇိနစက္ကေ တေရသာဓိကစတုဝဿသတာဓိကံ ဒွိသဟဿံ သက္ကရာဇေ ပန ဧကတိံသာဓိကဒွိဝဿသတာဓိကံ သဟဿံ ဂိမှာနေ ဇေဋ္ဌမာသေ ဇုဏှပက္ခဿ ပဥ္စမေ သုက္ကဝါရေ နိဋ္ဌံ ပတ္တာ အနာ-ယာသေနာတိ။

ယောဇနာယ ဣမိဿာဟံ၊ ရစနဿာနုဘာဝတော။
ဘဒ္ဒေယျာနေကဇာတီသု၊ ပိဋကတ္တယဓာရကော။

ကုသလော စုဘာယတ္တေသု၊ ပရိသာသု ဝိသာရဒေါ။
သမိဇ္ဈန္တု သုံသက်ပ္ပါ၊ မယှံ စ သဗ္ဗပါဏိနံ။

ဝပ္ပါဒိမနုတိက္ကမ္မ၊ သမ္မာ ဒေဝေါ ပဝဿတု။
အတ္တဇမိဝ ရက္ခန္တု၊ ရာဇာနော စ ပိ မေဒိနိန္တိ။

ဣတိ ဘဒန္တဇာဂရဓမ္မေန ကတာ ပါဠိတျာဒိဝဏ္ဏနာယ ယောဇနာ သမတ္တာ”

ဟူသော စုဏ္ဏိယ၊ ဂါထာ ၂-ဖြာရေးသောစကားဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။ ဆရာတော်ကား စံပြထိပ်တန်း ပါဠိပညာရှင် ပုဂ္ဂိုလ်လည်း ဖြစ်တော်မူသည်။ ဖော်ပြပါ ပါဠိတျာဒိယောဇနာ ကျမ်းကြီးကို ယခင်က အကြိမ်ကြိမ်ပုံနှိပ်ခဲ့ရာ ယခုဖန် ၁၃၃၄-ခုနှစ်က ပြည်ထောင်စု မြန်မာနိုင်ငံ ဗုဒ္ဓသာသနာ့အဖွဲ့ ပုံနှိပ်တိုက်၌ ရိုက်နှိပ်၍ ဗုဒ္ဓသာသနာ့အဖွဲ့ ယခု သာသနာရေးဦးစီးဌာနမှ ထုတ်ဝေခဲ့ရာ ရှိုင်ဆိုက် စာမျက်နှာ ၆၅၅-ရှိလေသည်။

## သံဝေဂဝတ္ထုဒီပနီကျမ်း

သံဝေဂဝတ္ထုဒီပနီကျမ်းကြီးကား ရတနာပုံခေတ်တွင် လျှမ်းလျှမ်းတောက် ပေါ်ထွန်းလာသည့် ကျမ်းစာကြီးဖြစ်လေသည်။ ဤရွှေ့ဤမျှ ထိုက်တန်၏ဟု တန်ဖိုးပိုင်းဖြတ်ခြင်းငှာ မတတ်ကောင်းသည့် လောကုတ္တရာ မြေအမြုတေ ရတနာကြီးလည်း ဖြစ်ပေသည်။

ရတနာပုံ ရန်မျိုးလုံသည့် မန္တလေး ရွှေမြို့တော်ကြီး တည်ပြီးကာစတွင် မင်းတုန်းဘုရင်၏ သံဝေဂဝတ္ထုနှင့် စပ်သည့် အဖွင့်ကျမ်းတကျမ်းရေးရန် တိုက်တွန်းက ပေါ်ထွန်းသည့် ထံဆိပ်တော်ရ၊ မရ ပညာရှိ ရဟန်းတော်အားလုံး တို့အား လျှောက်ထားတောင်းပန်ရာတွင် အကောင်းဆုံး ကျမ်းအဖြစ်ဖြင့် ပေါ်ထွက်လာသည့် ကျမ်းကြီးလည်း ဖြစ်ပေသည်။

မင်းတရားသည် “တပည့်တော် ရေမြေ့ရှင်ဒါယကာတော် မပြတ်ဖတ်ရှု ကြည်ညိုရန် သံဝေဂကျေတရား ရှစ်ပါးကို အကျယ်အားဖြင့် ဝတ္ထုသက်သေ နှင့်တကွ သံဝေဂရလောက်အောင် သံဝေဂဝတ္ထုအဖွင့်ကျမ်းတစောင် တပါး

လျှင် တကျမ်းစီ သင့်သလို ရေးသားချီ မြှင့်တော်မူ၍'' ဟု မြွက်တော် လေးပြင် လေးရပ်ရှိ တံဆိပ်တော်ရ၊ မရ ကျမ်းဂန်တတ် သံဃာတော် ၄၀၀-ခန့်တို့ မဟာဒါနီစာရေးတို့ကို စာဆက်ကပ်စေ၍ လျှောက်ထားတောင်းပန်တော်မူခဲ့လေသည်။ ယင်း အလျှောက်ထားခံ ဆရာတော်များအနက် ဒက္ခိဏာရာမ ဆရာတော် အရှင်ဇာဂရလည်း ပါဝင်တော်မူသည်။

ဆရာတော်များသည် ဉာဏ်ထက်တော်မူသမျှရေး၍ နန်းတော်သို့ ဆက်သွင်းတော်မူကြရသည်။ နန်းတော်တွင် မင်းမိဖုရားကြီးငယ်တို့၏ ရှေ့တွင် အကောင်းဆုံးသံဝေဂဝတ္ထုအဖွင့်ကျမ်းအဖြစ် ပညာရှိ မှူးမတ်များက ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော် အရှင်ဇာဂရာဘိဝံသ၏ သံဝေဂဝတ္ထုဒီပနီကျမ်းကို ရွေးကောက်၍ မင်းတုန်းမင်းအား ဆက်ကပ်ကြလေ၏။ ထိုအခါတွင် တောင်ဆောင်မိဖုရားကြီး အတုလဒေဝီက—

မမ အာဒေရေဝတ္ထေရော ဟိ၊ ဇမ္ဗူဒီပေ သုဒုလ္လဘော။
ဗုဒ္ဓေ ဝိဒ္ဒါ ဝိဘာဝီ စ၊ သဒ္ဒတ္ထ အတိဝ ကောဝိဒေါ။

နှမဆရာ၊ဇမ္ဗူမှာ၊ မှန်စွာရှာမှရှား။
ပညာခေါင်ထိ၊မြော်ပတ္တိ၊ ကဝိထွတ်ထိပ်ဖျား။
သီလ သမာ၊ ပညာတော်ဂုဏ်၊ အဖုံဖုံ၊စုံပြည့်လွန်ကျော်ကြား–

စသော အဓိပ္ပါယ်ပါရှိသော စကားဖြင့် သံတော်ဦးတင်သော ဟူ၏။

## အထူးကြိုးစား၍ ရေးသားခြင်း

ဒက္ခိဏာရာမ ဆရာတော်ဘုရားကြီး အရှင်ဇာဂရကား ပုဂံမင်း၏ ဆရာဖြစ်၍ မင်းတုန်းမင်းသည် များစွာ စိတ်ဝင်စားခဲ့ချေ။ သို့ဖြစ်၍ ဆရာတော်သည် အထူးကြိုးစား၍ ဤသံဝေဂဝတ္ထုဒီပနီကျမ်းကြီးကို ကြိုးပမ်းစီရင်တော်မူခြင်း ဖြစ်ဟန်တူပေသည်။ ဆရာတော်သည် ဤကျမ်းကြီးကို သက္ကရာဇ် ၁၂၂၂-ခုနှစ် တပေါင်းလဆန်း ၅-ရက် ဗုဒ္ဓဟူးနေ့တွင် အပြီးရေးသားစီရင်တော်မူသည်။ ပိဋကတ်တော်များ ကျောက်ထက်အက္ခရာတင်တုန်း အလုပ်ကိစ္စတွေ များပြောင်သည့်ကြားမှာပင် ဤကျမ်းကြီးကို စီရင်တော်မူခြင်း ဖြစ်သည်။ ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့တွင် စ၍ ပိဋကတ်တော်များ ကျောက်ထက်အက္ခရာတင်သည်။ ၁၂၃၀-ပြည့်နှစ် ကဆုန်လဆန်း ၁၄-ရက် နေ့တွင် ပြီးဆုံးသည်။ ဆရာတော်သည် ကျမ်းဦး၌—

၁။ သံဝေဂဉာဏဇံ နာထံ၊ သံဝေဂဒဿနံ နမေ။
ကတာဒျန္တေသု တဇ္ဇဉ္စ၊ ပါဏီနဉ္စသာ ဒေသကံ ။

၂။ သံဝေဂဉာဏသမ္ပန္နာ၊ ယေန တရန္တိ အဏ္ဏဝံ၊
နမေ တံ တရဏံ ဓမ္မံ၊ သံဝေဂဝတ္ထုနာသကံ၊

၃။ သံဝေဂဉာဏသမ္ပန္နော၊ ဇိနတော သံဝေဂမူလကံ။
ယော နမေဒိယသံဃန္တံ၊ သံဝေဂဝတ္ထုတိက္ကမံ။

၄။ နမနာဇနိတံ ပုညံ၊ က္လတိ ယံ ရတနတ္တယေ။
ဟုတွာ ဟတန္တရာယောဟံ၊ သံဝဏ္ဏ ကထာ ဇောတသာ။

၅။ သဗ္ဗခတ္တိယဓမ္မေန၊ သဗ္ဗသတ္တဟိတတ္ထိနာ။
မာပိတရတနပုဉ္ဇေန၊ ဓမ္မရာဇေန ယာစိတော။

၆။ အနာကုလံ ကရိဿာမိ၊ သံဝေဂဝတ္ထုဒီပနိံ။
သံဝေဇနီယဋ္ဌာနေသု၊ သံဝိဂ္ဂတ္ထာယ ပါဏီနန္တိ။

(၁) သံဝေဂဉာဏဇံ၊ သံဝေဂဉာဏ်တော်ကြောင့် သဗ္ဗညုအစစ် ဖြစ်ဟော်မူထသော။ ဝါ၊ သံဝေဂဉာဏ်ကို ကိုယ်တော်နှင့်တကွ ဝေနေယျတို့အား ဖြစ်တော်မူထသော။သံဝေဂဒဿနံ၊သံဝေဂဉာဏ်ကို လက်ဝယ်တင်ထား ပတ္တမြားသို့ ပိုင်းခြားထင်ထင် သိမြင်တော်မူထသော။ ဝါ၊ ဇာတိစသော သံဝေဂဝတ္ထုတရား ရှစ်ပါးကို ပိုင်းခြားထင်ထင် သိမြင်တော်မူထသော။ တဇ္ဇဉ္စ၊ ထိုသံဝေဂဝတ္ထုတရား ရှစ်ပါးကို ပိုင်းခြားထင်ထင် သိမြင်သည်နှင့် လျော်စွာလည်း။ အာဒျန္တေသု၊ သဗ္ဗညုအစစ် ဖြစ်တော်မူခြင်း၏ အစအဆုံးတို့၌။ ကတံ၊ ဝတ္ထုကာမ၊ ကိလေသကာမနှစ်ပါး၏ ကင်းဝေးခြင်းကို ပြုတော်မူပြီးထသော။ ပါဏီနဉ္စ၊ သတ္တဝါတို့အားလည်း။ အသာ၊ ထိုဇာတိစသော သံဝေဂဝတ္ထုတရား ရှစ်ပါးကို။ ဒေသကံ၊ ဟောကြားတော်မူဘတ်ထသော။ နာထံ၊ မြတ်စွာဘုရားကို။ အဟံ၊ ငါသည်။ နမေ နမာမိ၊ ရှိခိုးပါ၏။

(၂) သံဝေဂဉာဏသမ္ပန္နာ၊ သံဝေဂဉာဏ်နှင့် ပြည့်စုံကုန်သည်ဖြစ်၍။ ဝါ၊ သံဝေဂဉာဏ်နှင့် ပြည့်စုံကုန်သောသူတို့သည်။ ယေန၊ အကြင်ဆယ်ပါးသော တရားတော်ဖြင့်။ ဝါ၊ အကြင်ဆယ်ပါးသော တရားတော်ကြောင့်။ အဏ္ဏဝံ၊ သံသရာတည်းဟူသော သမုဒ္ဒရာကို၊ တရန္တိ၊ ကူးမြောက်ကုန်၏။ တရဏံ၊ သံသရာတည်းဟူသော သမုဒ္ဒရာကို ကူးမြောက်ကြောင်းဖြစ်ထသော။ သံဝေဂဝတ္ထုနာသကံ၊ ဇာတိစသော သံဝေဂဝတ္ထုရှစ်ပါးကို ဖျက်ဆီးတတ်ထသော။ ဝါ၊ ဇာတိစသော သံဝေဂဝတ္ထု ရှစ်ပါး၏ အကြောင်းဖြစ်သော အဝိဇ္ဇာ

တဏှာကို ဖျက်ဆီးတတ်ထသော။ တံမှေမှိ၊ ထိုဆယ်ပါးသော တရားကိုလည်း။[၁]
အဟံ၊ ငါသည်။ နမေ နမာမိ၊ ရှိခိုးပါ၏။

(၃) ယော အရိယသံဃော၊ အကြင်ရှစ်ယောက်သော အရိယာသံဃာ
တော်သည်။ သံဝေဂဉာဏာဘမ္ဗန္ဓော၊ သံဝေဂဉာဏ်နှင့် ပြည့်စုံတော်မူ၏။ သံဝေဂ-
မူလကံ၊ ဇာတိစသော သံဝေဂဝတ္ထုတရား ရှစ်ပါးကို။ ဝါ၊ ဇာတိစသော
သံဝေဂဝတ္ထုတရား ရှစ်ပါး၏ အကြောင်းဖြစ်သော အဝိဇ္ဇာတဏှာကို၊ ဇိတော၊
အောင်တော်မူတတ်၏။ သံဝေဂဝတ္ထုတိက္ကမံ၊ ဇာတိစသော သံဝေဂဝတ္ထုတရား
ရှစ်ပါးကို လွန်တော်မူပြီးထသော။ တံ အရိယသံဃမ္ပိ၊ ထိုရှစ်ယောက်သော
အရိယာ သံဃာတော်ကိုလည်း။ အဟံ၊ ငါသည်။ နမေ နမာမိ၊ ရှိခိုးပါ၏။

(၄) ဣတိ ဧဝံ ယထာဝုတ္တဂါထတ္တယေန၊ ဤသို့ အကြင်အကြင်ဆိုအပ်ပြီး
သော ဂါထာတို့၏ သုံးခုတို့၏ အပေါင်းဖြင့်။ ရတနတ္တယေ၊ ရတနာတို့၏
သုံးပါးတို့၏ အပေါင်း၌၊ နမနာဇနိတံ၊ ရှိခိုးခြင်းသည် ဖြစ်စေအပ်သော။
ဝါ၊ ရှိခိုးခြင်းကြောင့်ဖြစ်သော။ ယံ ပုညံ၊ အကြင်ကောင်းမှုသည်။ အတ္ထိ၊
ရှိ၏။ တဿ ပုညဿ၊ ထိုကောင်းမှု၏။ တေဇသာ၊ အစွမ်းဖြင့်။ ဝါ၊
အစွမ်းကြောင့်။ သဗ္ဗတ္ထ၊ အလုံးစုံသော ကျမ်း၏ အစ အလယ် အဆုံး
သုံးပါးတို့၌။ အဟံ၊ ငါသည်၊ ဟတန္တရာယော၊ ပယ်ဖျောက်အပ်ပြီးသော
အန္တရာယ်ရှိသည်။ ဟုတွာ၊ ဖြစ်၍။

(၅) သဗ္ဗခတ္တိယမေမ္မန၊ သင်္ဂဟတရားလေးပါး၊ အပရိဟာနိယတရား
ခုနစ်ပါး၊ မင်းကျင့်တရားဆယ်ပါးစသော ခပ်သိမ်းသော မင်းတို့၏တရားအ
ပေါင်းနှင့်ပြည့်စုံတော်မူထသော။ သဗ္ဗသတ္တဟိတတ္ထိနာ၊ ခပ်သိမ်းသောသတ္တဝါ
တို့၏ ပစ္စုပ္ပန်သံသရာစီးပွား၊ လောကီ လောကုတ္တရာစီးပွားကို အလိုရှိတော်မူ
ထသော။ မာပိတရတနပုဏ္ဏေန၊ ရတနာပုံးည်သော ထုဇာဝ(၅၁)နိမန္တလေး
ရွှေမြို့ကြီးကို တည်ထောင်တော်မူထသော။ မေမ္မဟာဇေန၊ သာသနာ့ဒါယကာ
အစဉ် မွေ့ရေ့ဇ်ဖြစ်တော်မူသော။ ရညာ၊ မင်းကြည်။ ယာစိတော၊ အာဇီယာ-
စိတော၊ ရှိသလေးမြတ် တောင်းပန်အပ်သည်ဖြစ်၍။ ဝါ၊ ရှိသလေးမြတ်
တောင်းပန်အပ်သောကြောင့်၊

(၆) အနာကုလံ၊ နှောင့်ယှက်ရေပြွမ် ခြင်း ကင်းစွာထသော။ သံဝေဂ-
ဇနိယာဋ္ဌာနေသု၊ သတ္တဝါတို့အား ထိတ်လန့်ခြင်းကို ဖြစ်စေတတ်သော ဇာတိ

---

၁။ သမုစ္စယတ္ထဝါစကပိသဒ္ဒါကား လုတ္တန်မှီ၌။

စသော အကြောင်းတရားရှစ်ပါးတို့၌။ ပါဏီနံ၊ သတ္တဝါတို့အား။ သံဝိဂ္ဂတ္ထဥ္စ၊ ထိတ်လန့်စေခြင်း အကျိုးငှာ လည်းကောင်း။ သံဝိဂ္ဂါနံ၊ ထိတ်လန့်ကုန်သော သတ္တဝါတို့အား။ ယောနိဓသော၊ အသင့်အားဖြင့်။ ပဒဟနတ္ထဥ္စ၊ အားထုတ်စေခြင်း အကျိုးငှာလည်းကောင်း။ သံဝေဂဝတ္ထုဒီပနီ၊ ဇာတိစသော သံဝေဂဝတ္ထုတရား ရှစ်ပါးကို ပြရာပြကြောင်း ဖြစ်သောကြောင့် "သံဝေဂဝတ္ထုဒီပနီ" အမည်ရှိသော။ ပကရဏံ၊ ကျမ်းကို။ ကရိဿာမိ၊ ပြုပေလတ္တံ့သတည်း။ ဣတိ၊ ဤသည်လျှင် ရတနတ္တယပဏာမ၊ ပယောဇဉ်၊ ပဋိညာဉ်၊ အဘိဓာနစကာ စသည်ကို ပြဆိုသော စကားရပ် အပြီးသတ်တည်း။

ဟူသော ၆-ဂါထာ ပါဠိနိသယဖြင့် ရတနတ္တယပဏာမ၊ ပယောဇဉ်၊ ပဋိညာဉ်၊ အဘိဓာနစာ-စသည်တို့ကို ပြုတော်မူခဲ့သည်။

သံဝေဂဝတ္ထုဒီပနီကျမ်း၏ အဆုံးနိဂုံး၌လည်း—

ဤသို့လျှင် ရတနာပုံမည်သော ရာဇဌာနီ မန္တလေး ရွှေမြို့တော်ကြီးကို တည်ထောင်ပြီးလျှင် ထီးနန်းကနက် စိုက်ဆောက်၍ စံနေတော်မူသော သာသနာ့ဒါယကာ မဟာဓမ္မရာဇ်တရားမင်းမြတ်သည် သံဝေဂဝတ္ထုတရား ရှစ်ပါးကို အကျယ်အားဖြင့် ဝတ္ထုသက်သေနှင့်တကွ သံဝေဂ ရလောက်အောင် ထုတ်ပြပါဟု ဆရာတော် အရှင်ဇာဂရအား တိုက်တွန်းနိုးဆော်တော်မူသောကြောင့် "ဇာဂရာဘိဓေ သီရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" အမည်ရှိသော ဆရာတော်သည် အထူးထူးသော ကျမ်းဂန်တို့မှ ထုတ်နုတ်၍ ဝတ္ထုသက်သေနှင့်တကွ သံဝေဂဝတ္ထုတရား ရှစ်ပါးကို အကျယ်ပြုရာ သံဝေဂဝတ္ထုဒီပနီ အမည်ရှိသော ကျမ်းကား သာသနာတော် ၂၄၀၄-ခု၊ကောဇာ သက္ကရာဇ် ၁၂၂၂-ခု တပေါင်းလဆန်း (၅)ရက် ဗုဒ္ဓဟူးနေ့တွင် ပြီးအောင်မြင်သည်။

၁။ သဒ္ဓါဒိဂုဏသမ္ပန္နာ၊ ဓီမန္တီ ဃာစုသမ္ပတာ။
ကုသလာ ဗဟုသုတ္တေသု၊ အတိမနာပစာရိနီ။

၂။ ပဥ္စကလျာဏသမ္ပန္နာ၊ ယာ ဒေဝီ ဓမ္မရာဇိနော။
တဿောရသာ စ ဒွေ ပုတ္တာ၊ အာဇာနေယျာတိ လက္ခိတာ။

---

၁။ ဤ ၃ ပုဒ်ကား သံဝိဂ္ဂထွင်၌ ဆေးခွာ်ဖြင့် ပေါင်းထပ်သော ပုဒ်တည်း။

၃။ သဒ္ဓိတာ ပိတုရာဇေန၊ ရဝိစန္ဒယုဂဿမာ။
ဓေတဟိ နဂရေ ရမ္မေ၊ ရတနပုဏ္ဏလဉ္ဆိတေ။

၄။ ရဇ္ဇ.ဓိရာဇအာဝါသေ၊ ဤသံ ပါဓိနိသီဒတေ။
ဒက္ခိဏာသို့ ဒိသာဘာဂေ၊ ရူပဿ မုနိနာမိနော။

၅။ ကာရာပိတာ သုသမ္ဗုဒ္ဓော၊ ဝိဟာရော စတုဘူမကော။
အနေကေဟိ ပရိက္ခိတ္တော၊ ကေတူဟိ စ အလင်္ကတော။

၆။ ယော သာဓုရမ္မဏော တတ္ထ၊ ဝသတာ ဇ.တဗ္ဗာနဘော။
မိဓိလာနာမပုရဿ၊ ဌာနေ ပါဓိနိသီဒတေ။

၇။ ဒက္ခိဏာသို့ ဒိသာဘာဂေ၊ ရာဇာဓိရာဇဗ္ဗာနီယာ။
ကပ္ပူဂါမမှိ ဇာဘေန၊ နာမေန ဇာဂရောတိ မေ။

၈။ သဗ္ဗဓတ္တိယခမ္မေန၊ ဓမ္မရာဇေန ယာစိတော။
မာပိတရတနပုဏ္ဏေန၊ ကတာ သံဝေဂဒီပနီ။

၉။ နိဋ္ဌိတော ယေသ သမ္ဗတ္တေ၊ သက္ကရာဇေ ရဋ္ဌက္ခယံ။
ဘာနုဝက္ခံ ဇိနဒက္ကေ၊ ဖဂ္ဂုနမာသပဉ္စမေ။

၁၀။ ဟုတွာ အနန္တရာယော စ၊ ဂန္ထောယံ နိဋ္ဌိတော ယထာ။
တထာ ကလျာဏသင်္ကပ္ပါ၊ သီဃံ သိဇ္ဈန္တု ပါဏိနံ။

(၁) သဒ္ဓါဒိဂုဏသမ္ပန္နာ၊ ကံ ကံ၏အကျိုး ရတနာသုံးပါး ဂုဏ်ကို ယုံကြည်သော သဒ္ဓါစသောဂုဏ်နှင့် ပြည့်စုံထသော။ ဓိမန္တိ၊ လေးကျွန်း သေဋ္ဌနိုင်း မြင်းမိုရ်ကြခိုင် တောင်မဏ္ဍိုင်လို ယိမ်းယိုင်းမရှိ သမာဓိဂုဏ်နှင့် ပြည့်စုံထသော။ သာဓုသမ္မတာ၊ နှန်းတွင်း နန်းပ နေကြသူ ခပ်သိမ်းလူတို့ သူတော်ကောင်းဟု သမုတ် အပ်ထသော။ ဗဟုသု၊ များစွာကုန်သော။ အတ္တေသု၊ ပစ္စုပ္ပန်သံသရာ နှစ်ဖြာသော အကျိုးကျေးဇူးသခင် အရှင်မင်းမြတ် သမ္မုနတ်၏ ကောင်းမြတ်ပြည့်ဖြိုး အကျိုးစီးပွားတော်တို့၌၊ကုသလာ၊သူ့ထက် ထူးချွန် အလွန်လိမ္မာထသော။ အတိမနာပစာရိနီ၊ မိန်းမမြတ်တို့၏ အကျင့်ဖြင့် အလွန်နှစ်သက်ဖွယ်သော အကျင့်ရှိထသော။

(၂) (၃) ပဉ္စင်္ကလျာဏသမ္ပန္နာ၊ ဆံရေ၊ အသား၊ အကြော၊ အရိုး၊ အရွယ်အားဖြင့် ငါးသွယ်သော ကောင်းခြင်းနှင့် ပြည့်စုံထသော။ ဓမ္မ-ရာဇိနော၊ တရားဘာတစင်း ထီးသောင်းမင်းတို့ ဝပ်စင်းခယ နေ့ညမပြတ် ရှိခိုး အပ်သော တရားမင်းစစ် ဧကရာဇ်၏။ ယာ ဒေဝီ အကြင် တောင်ဆောင်

တင်ထား မိဖုရားသည်လည်းကောင်း။ တဿာ ဒေဝိယာ၊ ထိုတောင်ဆောင် တင်ထား မိဖုရားမြတ်၏။ ဩရသာ၊ ရင်ဘော်၌ ဖြစ်ကုန်သော။ အာဇာ-နေယျောတိ၊ ယောကျ်ားအာဇာနည် ဟူ၍။ လက္ခိတာ၊ ခပ်သိမ်းလူရှင် မှတ်ထင်အပ်ကုန်သော။ ပိတုရာဇေန၊ ခမည်းတော်ဘုရား မင်းတရားသည်။ သဒ္ဓိတာ၊ ငါ့ရိုက်ရာကို ငါ၏နည်းတူ ယူသိမ့်ဟူ၍ ယုံကြည်အပ်ကုန်ထသော။ ရဝိစန္ဒယုဂဿမာ၊နေလအစုံနှင့် တူကုန်ထသော။ ဒွေ ပုတ္တာ စ၊ညီနောင်နှစ်ပါး သားတော် နှစ်ယောက်တို့သည်လည်းကောင်း။ သန္တိ၊ ရှိကုန်၏။ တေဟိ၊ ထိုမယ်တော်မိဖုရား သားတော် မင်းညီနောင်တို့သည်။ ရမ္မေ၊ နှလုံးမွေ့လျော် ပျော်ဖွယ်ရှိထသော။ ရတနပုဏ္ဏလင်္ကတေ၊ အထူးထူးသော သဝိညာဏက အဝိညာဏက ရတနာမျိုးတို့ဖြင့် ပြည့်သောကြောင့် ‘‘ရတနာပုံ’’ ဟူသော အမည်တံဆိပ်ဖြင့် ခပ်နှိပ်အပ်သော။

(၄) (၅) ရာဇာဓိရာဇအာဝါသေ၊ မင်းထက်မင်းမြတ် သမ္မုနတ်တို့ ပျော်မှတ်စံနေရာ ဖြစ်ထသော။ နဂရေ၊ မင်းနေပြည်ကြီး၌။ မုနိနာမိနော၊ မဟာမုနိ အမည်ရှိသော။ရုပဿ၊ရုပ်ပွားစေတီတော်၏။ ဤသံပါစီနနိဿိတေ၊ စဉ်းငယ်အရှေ့အရပ်သို့ မှီသော။ ဒက္ခိဏာသို့ ဒိသာဘာဂေ၊တောင်အရပ်အဖို့၌။ သုသမ္ဗဒ္ဓေ၊ အလွန်ကောင်းမွန်ပြေပြစ်သော။ စတုဘူမကေ၊ ဘုံလေးဆင့် ရှိသော။ အနေကေဟိ၊ များစွာသောကျောင်းတို့ဖြင့်။ ပရိက္ခိတ္တေ၊ ခြံရံအပ် သော။ ကေတုဟိ စ၊ များစွာသော မှန်ကင်းတို့ဖြင့်လည်း။ အလင်္ကတေ၊ တန်ဆာဆင်အပ်ထသော။ ယော ဝိဟာရော။ အကြင်ကျောင်းကို။ ကာရာပိ-တော၊ ဆောက်လုပ်စေအပ်ပြီ။

(၆) တတ္ထ၊ ထိုကျောင်း၌။ ဝသတာ ဝသန္တေန၊ ကျောင်း ထိုင် ရပ် သွား လေးပါးဣရိယာ သာယာရွှင်ပြုံး သီတင်းသုံးသော။ ဇာတဋ္ဌာနတော၊ ဖြစ်ရာဌာန ဒေသအားဖြင့်။ မိခိလာနာမပုရဿ၊ နေမိဇနက မဟော်စသည့် ဗုဒ္ဓလောင်းစစ် ဓမ္မရာဇ်တို့ ပျော်မြစ်စံရာ မိခိလာနှင့် သဏ္ဌာတစိဘ် အချိပ် တူသည်၏ အဖြစ်ကြောင့် မိခိလာ အမည်ရှိသော မြို့၏။ ပါစီနနိဿိတေ၊ အရှေ့အရပ်ကို မှီသော။ ဌာနေ၊ နှစ်ထောင်ကျော်တာ ဝေးကွာသောအရပ်၌။

(၇) ရာဇာဓိရာဇဋ္ဌာနိယာ၊ မင်းထက်မင်းမြတ် သမ္မုနတ်တို့ ပျော်မှတ် စံရာ ရတနာပုံ အောင်မြေခံဟု ရွှေဘုံနန်းတည် မြို့ရွှေပြည်၏။ ဒက္ခိဏာသို့ ဒိသာဘာဂေ၊ တာအပေါင်းဖြင့် သုံးသောင်းခြောက်ထောင် ကွာဝေးဆောင် သည့် တောင်ဟုခေါ်မှတ် လက်ျာရပ်၌။ ဇာဖြူဂါမမှိ၊ အလောင်းဘုရား မင်းတရား၏ သားတော်အလတ် ခုမင်းမြတ်ဘေး ရန်လွှေးသုတ်သင် ဆင်ဖြူ ရှင်

သည့် ကြည်လင်မိန့်ဟ ကကောင်ဏကို ရှေးချပဲ အဖြူခဲဖြင့် အမြဲလိမ်းကျံ မွမ်းမံခြယ်လှယ် မြင်းထက်သယ်၌ အလှယ်ပြီးပြေ တက်စီးစေဟု မသေ့မိန့်ချက် ဗျာဒိတ်စကားကြောင့် ခုထက်တိုင်သာ ကဖြူရွာဟု သညာ မည်ရ ယင်းဂါမ၌။ ဇာတေန၊ ပင်္ကိုသဘောအားဖြင့် ဖြစ်ထသော။ ဇာဂရောတိ၊ ဇာဂရဟူ၍။ ဝါ၊ "ဇာဂရာဘိဓဇ သီရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူ၍။ နာမေန၊ ဆရာတော်ဘွဲ့ မှည့်ခေါ်အပ်သော အမည်၊ သာသနဒါယကာ မဟာဓမ္မရာဇ် တရားမင်းမြတ် ကပ်လှူအပ်သော အမည်သညာဖြင့် ထင်ရှားစွာသော။ မေ မယှာ၊ ငါသည်။

(ဂ) သဗ္ဗခဏ္ဍိယဓမ္မေန၊ အလုံးစုံသော မင်းတို့၏ ကျင့်ဝတ်တရားနှင့် ပြည့်စုံသော။ မာပိတရတနပုဏ္ဏေန၊ ရတနာပုံမည်သော မန္တလေးမြို့တော်ကြီး ကို တည်ထောင်တော်မူထသော။ ဓမ္မရာဇေန၊ သာသနဒါယကာအဖြစ် ဖြစ် တော်မူသော မင်းတရားသည်။ ယာစိတော၊ ရှိခိုးလေးမြတ် တောင်းပန် အပ်သည်ဖြစ်၍၊ ဝါ၊ တောင်းပန်အပ်သောကြောင့်၊ သံဝေဂဒီပနီ၊ သံဝေဂ ဝတ္ထုဒီပနီ အမည်ရှိသော ကျမ်းကို။ ကတာ၊ ပြုအပ်၏။

(ဃ) (၁၀) သက္ကရာဇေ၊ ဂေါဇာ (ဇာ) သက္ကရာဇ်သည်။ ရဋ္ဌကွယံ၊ ၁၂၂၂-ခုသို့။ ဇိနစက္ကေ၊ ဘုရားသခင် သာသနာတော်သည်။ ဘာနူကံ၊ ၂၄၀၄-ခုသို့။ သမ္ပတ္တေ၊ ရောက်သည်ရှိသော်။ ဖဂ္ဂုနမာသပဉ္စမေ၊ တပေါင်း လဆန်း ၅-ရက် ဗုဒ္ဓဟူးနေ့၌။ နိဋ္ဌိတာ၊ အပြီးအဆုံးသို့ ရောက်၏။ အယံ ဂန္ထော၊ ဤသံဝေဂဝတ္ထုဒီပနီ အမည်ရှိသော ကျမ်းသည်။ အန္တရာယော စ အနန္တရာယော ဝ၊ အန္တရာယ်မရှိသည့်သာလျှင်၊ ဟုတွာ၊ ဖြစ်၍။ နိဋ္ဌိတော ယထာ၊ အပြီးအဆုံးသို့ ရောက်သကဲ့သို့။ တထာ၊ ထိုအတူ။ ပါဏီနံ၊ သတ္တဝါ တို့၏၊ ကလျာဏာ သင်္ကပ္ပါ၊ ကောင်းသော အကြံတို့သည်။ သီဃံ၊ လျင်စွာ။ သိဇ္ဈန္တု၊ အပြီးအဆုံးသို့ ရောက်စေကုန်သတည်း-

ဟူသော မြန်မာစကားပြေနှင့်တကွ ၁၁-ဂါထာ ပါဠိ နိဿယဖြင့် ပြည့်စုံစွာ နိဂုံးချုပ်တော်မူခဲ့လေသည်။

## ရေးသားပုံစနစ် အလွန်ကျ

ဆရာတော်၏ သံဝေဂဝတ္ထုဒီပနီကျမ်းကြီး ရေးသား စီရင်တော်မူပုံမှာ စနစ်အလွန်ကျ ခေါ်မီလှပေသည်။ ဂန္ထာရမ္ဘအပြီး ပဌမတွဲ၌ ပါဠိတော်လာ ဇာတိ၊ ဇရာ၊ ဗျာဓိ၊ မရဏဟူသော သံဝေဇနီယ ၄-ပါးကိုပြ၍ ယင်း ၄-ပါး

ထဲ၌ အဋ္ဌကထာ၏ ထပ်ဖြည့်ဖော်ပြသည့် အပါယဒုက္ခ၊ အတီတေ ၀ဋ္ဋမူလဒုက္ခ၊ အနာဂတေ ၀ဋ္ဋမူလဒုက္ခ၊ ပစ္စုပ္ပန္န အာဟာရ ပရိယေသနမူလက ဒုက္ခ ဟူသော သံဝေဂဝတ္ထု ၄-ပါး နှစ်ရပ်ပေါင်း သံဝေဂဝတ္ထု ရှစ်ပါးကို ကျနစွာ ရှင်းလင်း၍ ပြတော်မူသည်။ ၎င်းပြင် ဆရာတော်သည်—

၁။ စိတ္တုတြာသသံဝေဂကား ဒေါသ စေတသိက်၊

၂။ သြတ္တပ္ပ သံဝေဂကား သြတ္တပ္ပစေတသိက်၊

၃။ ဉာဏ သံဝေဂကား သြတ္တပ္ပနှင့်တကွ ပညာစေတသိက်၊

၄။ ဓမ္မသံဝေဂကား သြတ္တပ္ပါကာရအားဖြင့် တည်သော အမောဟ စေတသိက်—

ဟူ၍ သံဝေဂ၄-ပါးသရုပ်ကို အရကောက်တရားကိုယ်နှင့်တကွ ပြတော်မူသေးသည်။ ဖော်ပြပါ သံဝေဂဝတ္ထုဒီပနီ ကျမ်းကြီးမှာ—

ပဌမတွဲမှ နဝမတွဲအထိ ၉-တွဲရှိ၏။ ဆရာတော်သည် လင်္ကာကဗျာရေးမှု၌ လည်း အထုံဝါသနာ ပါတော်မူသည်။ သံဝေဂဝတ္ထုဒီပနီကျမ်းကြီး၌—

မဟာသာဝက ပါရမီရှင် အရှင်အာနန္ဒာ နှစဉ် ရာဇဂြိုဟ်ပြည် ရွှေပန်းထိမ် သည်သား ဖြစ်စဉ် သြတ္တပ္ပ သံဝေဂကင်းခဲ့၍ ပြုမိသော ပရဒါရကံကြောင့် ရောရုဝရဲကျရ၊ ဆိတ်၊ မျောက် စသည် ဖြစ်ရ၊ ကျင်လည်ရသည့်ဘဝများကို—

> ပန်းထိမ်ခေါ်ရေး သဌေးသားနောက် ရောရုရောက်၍ ဆိတ် မျောက်နွားစစ် နပုံးဖြစ်လတ် နတ်မိဖုရား ငါးကြိမ်ဖြစ်ကာ ရှစ နတ်သား ဆယ့်လေးပါးသည် ညီဘွားအာနန်ဖြစ်ရချက်–[၁]

ဟူ၍ လင်္ကာစပ်ဆိုတော်မူခဲ့သည်။

၎င်းပြင် သံဝေဂဝတ္ထုဒီပနီကျမ်း တတိယတွဲ၌ ကလလရေကြည် ပမာဏ ကို—

> ယင်ငယ်သောက်လောက် ထိုနောက်အပ်ဖျား တောင်ကျွန်းသား၏ ဆံဖျားတသွယ် မြောက်ဝယ်ကျွန်းသား ဆံဖျားတင်ရှိ ဇာတိဉဏ္ဏာ

---

၁။ သံဝေဂဝတ္ထု၊ ပဌမတွဲ။ ညီတော်အာနန္ဒာမထေရ်ဝတ္ထု။

သား၊မြတ်စွာ၏ မွေးမှာတမျှင် အဖျားဘွင်၌ တင်သည့်ဆီမျှ ပမာ-
ဏသည် ကလလရှင်၏ အတိုင်းအရှည်တည်း—[၁]

ဟု စပ်ဆိုတော်မူခဲ့လေသည်။

၎င်းပြင် ကင်္ခါရမဏ္ဍကတက္ကဒွန်း၏ ကျင့်ဝတ် ၇-ပါးဖြစ်သော—

၁။ အဝတ်မဝတ်ခြင်း၊

၂။ မေထုန်မမှီဝဲပဲ ဗြဟ္မစရိယကိုကျင့်ခြင်း၊

၃။ ထမင်းမုယောမုန့်ကို မစားပဲ ဖေသရည်အမဲဖြင့်သာ မျှတခြင်း၊

၄။ ဝေသာလီပြန် အရှေ့ ဥတေနစေတီကို မလွန်ခြင်း၊

၅။ ဝေသာလီပြည်တောင် ဂေါတမကစေတီကို မလွန်ခြင်း၊

၆။ ဝေသာလီပြည်အနောက် သတ္တမ္ဗစေတီကို မလွန်ခြင်း၊

၇။ ဝေသာလီမြောက် ဗဟုပုတ္တကစေတီကို မလွန်ခြင်း—

ဟူသော ၇-ပါးကို—

အဝတ်မှဆောင် မေထုန်ရှောင်ခြင်း ထမင်းမမှီ ဝေသာလီ၏ ရှေ့ဆီ
ဥတေ တောင်နေဂေါတမ နောက်မှ သတ္တမ် မြောက်မှန် ဗဟု
ဤလေးခုကို မလွန်လိုဟု ဝတ်ကိုသက်ဆုံး ကျင့်သတည်း—
ဟု စပ်ဆိုတော်မူခဲ့လေသည်။

၎င်းပြင် ဖဒဝဒူတသုတ်လာ ကမ္မကရဏအစဉ်အကျဉ်းကို "ပဥ္စဝိဓဗန္ဓန ဟု
ဆိုအပ်သော ငါးပါးအပြားရှိသော နှောင်ဖွဲ့ခြင်း ပဌမ၊ ဓားမခွဲခြင်းတို့ဖြင့်
ရွေခြင်း ဒုတိယ၊ ရထား၌ ကခြင်း တတိယ၊ မီးကျီးတောင်သို့တင်ခြင်း စတုတ္ထ၊
လောဟကုမ္ဘီ၌ ချခြင်း ပဉ္စမ၊ အဝီစိငရဲကြီး၌ ချခြင်း ဆဋ္ဌ၊ ဂူထငရဲ၌ ချခြင်း
သတ္တမ၊ကုက္ကုလငရဲ၌ ချခြင်း အဋ္ဌမ၊ သိမ္ဗလိဝနငရဲ၌ လက်ပံပင်သို့ တင်ခြင်း
ချခြင်း နဝမ၊ အသိပတ္တတောသို့ ဝင်ရခြင်း ဒသမ၊ ဝေတ္တရဏီမြစ်၌ မျောရ
ခြင်း ဧကာဒသမ၊ သံတွေသံချောင်းကို ခံတွင်း၌ သွင်းခြင်း ဒွါဒသမ၊ သံရည်
ကို ခံတွင်း၌ လောင်းခြင်း တေရသမ" ဟူ၍ ပြဆိုတော်မူပြီး—

---

၁။ သံဝေဂဝတ္ထု၊ ယောနိလေးပါးဖြင့်.... ခန္ဓာတို့ကို ရေတွက်ပြခြင်း။

"ဗန္ဓနနှင့် တစ္ဆတခြား ရထားပဗ္ဗတ လောဟစိစိ ထို၏နောက်မှ ဂူထကုက္ကု မှတ်ရှုသိမ္ဗလိ အသိပတ္တ ဝေတ္တသံချောင်း သံရည်လောင်းဟု ပေါင်းတေ ရသ ကရဏသည် ဒူတသုတ်၏အစဉ်ဘည်း"ဟု စပ်ဆိုတော်မူခဲ့လေသည်။

ဆရာတော်သည် မြန်မာပြန်ဆိုမှု၌လည်း ကျွမ်းကျင်တော်မူလှ၏။ ယင်းသို့ ဖြစ်ကြောင်းကား အောက်ဖော်ပြပါ ဂါထာ အနက် ယောဇနာပုံများဖြင့် သိရာ၏။

## ဆရာတော် အရှင်ဇာဂရာဘိဝံသ အနက်ယောဇနာပုံ

ဆရာတော် ဂါထာဗန္ဓများကို အနက်ယောဇနာရာ၌ ရှည်လျားစွာ ယောဇနာတော်မမူ တိုတိုကျဉ်းကျဉ်းနှင့် လိုရင်းမိအောင် ယောဇနာတော်မူလေ့ ရှိသည်။ အောက်ပါ ဂါထာပါဌ် နိဿယတို့မှာ ဆရာတော် သံဝေဂဝတ္ထုဒီပနီ ကျမ်းလာ ယောဇနာပုံတို့ ဖြစ်ကုန်၏။

### ဓမ္မသံဝေဂ သရုပ်သဘောပြဂါထာနက်

သဗ္ဗသင်္ခတဓမ္မေသု၊ ဩတ္တပ္ပါကာရသဏ္ဌိတံ။
ဉာဏမောဟိတကာရုန်၊ ဓမ္မသံဝေဂသညိတံ။[၁]

ဩဟိတကာရုန်၊ ချအပ်ပြီးသော ကိလေသာဝန်ရှိကုန်သော ရဟန္တာ ပုဂ္ဂိုလ်တို့အား။ ဝါ၊ ချအပ်ပြီးသော ခန္ဓာဝန်ရှိကုန်သော ရဟန္တာပုဂ္ဂိုလ်တို့ အား။ တို့၏။ သဗ္ဗသင်္ခတဓမ္မေသု၊ အလုံးစုံသော သင်္ခတတရားတို့၌။ ဩတ္တပ္ပါ-ကာရသဏ္ဌိတံ၊ ထိတ်လန့်သော အခြင်းအရာဖြင့် တည်သော။ ဉာဏံ၊ ဉာဏ်ကို။ ဓမ္မသံဝေဂသညိတံ၊ ဓမ္မသံဝေဂဟု မှတ်အပ်၏။[၂]

### ချစ်ခြင်းအကြောင်း ၂-ပါးပြဂါထာနက်

ပုဗ္ဗေဝ သန္နိဝါသေန၊ ပစ္စုပ္ပန္နဟိတေန ဝါ။
ဧဝံ တံ ဇာယတေ ပေမံ၊ ဥပ္ပလံဝ ယထောဒကေ။[၃]

---

၁။ သာရတ္ထ၊ ၁။ ၃၂။ သီ၊ ဋီ၊ သစ်၊ ၁။ ၄၃။
၂။ သံဝေဂဝတ္ထု၊ ၁။ ၁၁။
၃။ ဇာ၊ ၁။ ၆၆။၀ိ၊ ဌ၊ ၁။ ၃၅။ဓမ္မ၊ ဋ္ဌ၊ ၁။ ၁၁၆။ ဓမ္မ၊ ဋ္ဌ၊ ၂။၂၀။

ဥဒကေ၊ ရေ၌။ ဥပ္ပလံ ဝါ၊ ကြာသည်လည်း။ ဇာယတေ ယထာ၊ ဖြစ်သကဲ့သို့။ ဧဝံ တထာ၊ ထိုအတူ။ ပုဗ္ဗေဝသန္နိဝါသေန ဝါ၊ ရှေး၌ တကွ နေဖူးသောကြောင့်လည်းကောင်း။ ပစ္စုပ္ပန္နဟိတေန ဝါ၊ ပစ္စုပ္ပန် အစီးအပွားကြောင့်လည်းကောင်း။ တံ ပေမံ၊ ထိုချစ်ခြင်းသည်။ ဇာယတေ၊ ဖြစ်၏။[၁]

## စိတ်ကြည်လင်က အကျိုးရပုံပြ ဂါထာနက်

နတ္ထိ စိတ္တေ ပသန္နမှိ၊ အပ္ပိကာ နာမ ဒက္ခိဏာ။
တထာဂတေ ဝါ သမ္ဗုဒ္ဓေ၊ အထဝါ တဿ သာဝကေ။[၂]

စိတ္တေ၊ စိတ်သည်။ ပသန္နမှိ၊ ကြည်ညိုသည်ရှိသော်။ တထာဂတေ ဝါ၊ မြတ်စွာဘုရား၌လည်းကောင်း။ သမ္ဗုဒ္ဓေ ဝါ၊ ပစ္စေကဗုဒ္ဓါ၌လည်းကောင်း။ အထ၊ ထိုမှ။ တဿ၊ ထိုမြတ်စွာဘုရား၏။ သာဝကေ ဝါ၊ တပည့်သာဝက၌သော်လည်းကောင်း။ အပ္ပိကာ၊ အနည်းငယ်သော။ ဒက္ခိဏာ နာမ၊ အလှူမည်သည်။ နတ္ထိ၊ မရှိ။[၃]

## သာဓုခေါ် လျှင် ခံတွင်းက ကြာနံ့သင်းဂါထာနက်

သဒ္ဓမ္မဒေသနာကာလေ၊ သာဓုသာဓူတိ ဘာသတော။
မုခတော ဇာယတေ ဂန္ဓော၊ ဥပ္ပလံ ယထောဒကေ။[၄]

သဒ္ဓမ္မဒေသနာကာလေ၊ သူတော်ကောင်းတရားကို ဟောကြားသောကာလ၌။ သာဓုသာဓူတိ၊ ကောင်း၏ ကောင်း၏ဟူ၍။ ဘာသတော၊ ဆိုသောသူ၏။ မုခတော၊ ခံတွင်းမှ။ ဂန္ဓော၊ မွှေးသောအနံ့သည်။ ဇာယတေ၊ ဖြစ်၏။ ယထာ ကိံ၊ အဘယ်ကဲ့သို့နည်းဟူမူကား။ ဥပ္ပလံ ဝါ၊ ကြာညိုသည်လည်း။ ဥဒကေ၊ ရေ၌။ ဇာယတေ ယထာ၊ ဖြစ်သကဲ့သို့တည်း။[၅]

---

၁။ သံဝေဂဝတ္ထု၊ ၂။ ၁၃၂။
၂။ ဝိမာန။ ဋ္ဌ။ နေတ္တိ။ ၁၁၇။
၃။ သံဝေဂဝတ္ထု။ ၂။ ၁၄၄။
၄။ အံ၊ ဋ္ဌ၊ ၁။ ၂၂။
၅။ သံဝေဂဝတ္ထု။ ၂။ ၁၆၀။

## အခြံအရံအကျော်စော တိုးတက်ကြောင်းပြ ဂါထာနက်

ဥဋ္ဌာနဝတော သတိမတော၊ သုစိကမ္မဿ နိသမ္မကာရိနော။
သညတဿ ဓမ္မဇီဝိနော၊ အပ္ပမတ္တဿ ယသောဘိဝဍ္ဍတိ။[၁]

ဥဋ္ဌာနဝတော၊ လုံ့လရှိသော သူအားလည်းကောင်း။ သတိမတော၊ သတိရှိသောသူအားလည်းကောင်း။ သုစိကမ္မဿ၊ စင်ကြယ်သော ကိုယ်နှုတ်အမှုရှိသောသူအားလည်းကောင်း။ နိသမ္မကာရိနော၊ အကျိုးအပြစ်ကို ဆင်ခြင်၍ ပြုလုပ်လေ့ရှိသောသူအားလည်းကောင်း။ သညတဿ စ၊ ကိုယ်နှုတ်ဖြင့် စောင့်စည်းသောသူအားလည်းကောင်း။ ဓမ္မဇီဝိနော၊ တရားသဖြင့် အသက်မွေးသောသူအားလည်းကောင်း။ အပ္ပမတ္တဿ၊ မမေ့မလျော့သော သူအားလည်းကောင်း။ ယသော၊ ပရိဝါရယသ ကိတ္တိယသ တရားနှစ်ပါးသည်။ အဘိဝဍ္ဍတိ၊ လွန်စွာပွားများ၏။[၂]

## ကိုယ်ဝန်တည်ကြောင်း ၈-ပါးပြဂါထာနက်

မေထုနံ စောဠဂ္ဂဟဏံ၊ တနုသံသဂ္ဂေါ စ နာဘိပရာမသနံ။
ပါနံ ဒဿနံ သဝနံ ဃာယန-မိတိ ဂဗ္ဘဟေတဝေါ။[၃]

မေထုနံ၊ မေထုန်စပ်ခြင်းလည်းကောင်း။ စောဠဂ္ဂဟဏံ၊ ပုဆိုးဖြင့် သုက်သွေးကိုယူခြင်းလည်းကောင်း။ တနုသံသဂ္ဂေါ စ၊ ကိုယ်လက်နှီးနှောခြင်းလည်းကောင်း။ နာဘိပရာမသနံ၊ ချက်ကိုသုံးသပ်ခြင်းလည်းကောင်း။ ပါနံ၊ သုက်သွေးကို သောက်ခြင်းလည်းကောင်း။ ဒဿနံ၊ အဆင်းကို မြင်ခြင်းလည်းကောင်း။ သဝနံ၊ အသံကိုကြားခြင်းလည်းကောင်း။ ဃာယနံ၊ အနံ့ကိုနမ်းခြင်းလည်းကောင်း။ ဣတိ ဤသို့။ ဂဗ္ဘဟေတဝေါ၊ ကိုယ်ဝန်ယူခြင်း၏ အကြောင်းတို့သည်။ အဋ္ဌ၊ ရှစ်ပါးတို့တည်း။[၄]

ဤသည်လျှင် ဒက္ခိဏာရာမဘုရားကြီး ဆရာတော် အရှင်ဇာဂရာဘိဝံသ၏ ဂါထားများ အနက်ယောဇနာပုံ အမြွက်တည်း။ ဆရာတော်၏ မြန်မာစကားကား ကျစ်လျစ်လှ၏၊ သိုသိပ်လှ၏။ တကယ်တော့ ဆရာတော်ကား မြန်မာစာ ပေလည်းနိုင်၊ ပါဠိစာပေလည်း ပိုင်သည့် ဆရာတော်ဖြစ်၏။

---

၁။ ဓမ္မပဒ။ ၂။ သံဝေဂဝတ္ထု၊ ၂။ ၁၀၃။
၃၊ ၄။ သံဝေဂဝတ္ထု၊ ၃။ ၂၃၀။

မရမ္မသဘာသာသယာပီ၊ တန္တိယာပီ သုကောဝိဒေါ။
ဇာဂရော ဇာဂရတ္တေရော၊ ဥဘယောသု သုကောဝိဒေါ။

ယင်းသံဝေဂဝတ္ထုဒီပနီကျမ်းကြီးကို ပေမှကူး၍ မြန်မာပြည်၌ အကြိမ်ကြိမ် ရိုက်နှိပ်ထုတ်ဝေခဲ့ရာ အကြိမ်ပေါင်း များလှလေပြီ။ ၁၃၃၀-ခုနှစ် မန္တလေးမြို့ ပိဋကတ်တော် ပြန့်ပွားရေးပုံနှိပ်တိုက် ရိုက်မှု ရှိုင်ဆိုက်ဖြင့်ကား စာမျက်နှာ ၇၃၆-ရှိလေသည်။

## ပဥ္စမ သံဂါယနာတင် မင်းတရားကြီး
## သံဝေဂဝတ္ထု ဒီပနီကျမ်းကြီးကို
## နာယူတော်မူခြင်း

ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီးသည်—

ပုဒ်စစ်ချောပြေ သန္ဓေခြားဖြတ် သံလွှတ်ဖွင့်ဆို ရှည်တိုလေးပေါ့ တင်းလျော့နိဂ္ဂဟိတ် အစိတ်အဖြာ အင်္ဂါဆယ်စု ဖတ်ရွတ်မှု၌ ကျွမ်းကျင်လိမ္မာ၍ လေးနက်သာယာ နာပျော်ဖွယ်အသံနှင့် ပြည့်စုံသူများကို ရွေးချယ်၍ စာတော်ဖတ် ခန့်တော်မူသည်။ ယင်းစာတော်ဖတ်များမှာ ၆-ယောက်ရှိသော ဟူ၏။ ဖော်ပြပါစာတော်ဖတ်များမှာ မှန်နန်းတော်အရှေ့ စနေဆောင်တွင် အလှည့်ကျ အိပ်ကြရသည်။ ညအခါ မင်းတုန်းမင်းတရားကြီး စက်တော်ခေါ်ရာ သလွန်တော်သို့ စံတော်မူလျှင် စက်ခန်းတော်ပြင်ဘက် ရွှေနားတော် ကြားတော်မူလောက်သည့်နေရာက ပုဆစ်ဒူးတုပ်ပျပ်ဝပ်လျက် တရား ကျမ်းစာများကို ဖတ်ရလေသည်။ ယင်းတရားကျမ်းစာများအနက် ဖော်ပြပါ သံဝေဂဝတ္ထု ဒီပနီကျမ်းကြီးကိုလည်း စာတော်ဖတ်တို့ကို ဖတ်စေတော်မူ၍ တဝတ္ထု၊ သို့မဟုတ် အကြောင်းအရာတခု ဆုံးတိုင်း မင်းတုန်းမင်းတရားကြီးက သာဓု ၃-ကြိမ် ခေါ်တော်မူသည်။ မင်းကရာဇ်သည် တောင်လေးလုံးဆရာတော် စီရင်တော်မူခဲ့သော ရှုဖွယ် ၃၇-ကျမ်း။ ထွင့်ခေါင်ဆရာတော်၏ အဇ္ဈာသယ ပါမောက္ခကျမ်း၊ သမန္တပါမောက္ခကျမ်း၊ သာသနာပိုင် ဆရာတော်ဘုရားကြီး ဦးဉေယျ စီရင်တော်မူသော သုရာဇမဂ္ဂဒီပနီကျမ်း စသည်တို့ကိုလည်း နာယူတော်မူသည်။ စာတော်ဖတ်တို့မှာ ညဦးလှည့်၊ အလယ်လှည့်၊ အလင်းလှည့် ထားသည့်အတိုင်း စာတော်ဖတ် ၃-ယောက်တို့က ဖတ်၍ ရွှေနားတော်ကြားရသည်။ စာတော်ဖတ် ၆-ယောက်တို့မှာ တလလျှင် လစာငွေတော် ၁၀၀-ကျပ် မင်းမြတ်က သနားတော်မူလေသည်။

ဘုရားကြီး ဆရာတော် အရှင်ဇာဂရ၏ သံဝေဂဝတ္ထု ဒီပနီကျမ်းကြီး ရေးရကျိုးကား နပ်လှပါပေ၏။ သာသနာတော်၌ မရိုးနိုင်သည့် ကျမ်းဂန်ကြီး ပါတည်း။

သံဝေဂဝတ္ထုဂန္ထောပိ၊ အနဏ္ဍော သာဓုမာနိတော။
သချာဇာသပ္ပုရိသေဟိ၊ မာနိတော ဟတ္ထပေါတ္ထကော။

## ပါရာဇိကဏ် ပါဠိတော် နိဿယ

ဆရာတော်သည် ပါရာဇိကဏ် ပါဠိတော် နိဿယကိုလည်း ပဌမ သံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီး တောင်းပန်သဖြင့် အဆုံးအဖြတ် အမှာအထား စသည်တို့ဖြင့် ပြည့်စုံစွာ ရေးသား စီရင်တော်မူခဲ့ လေသည်။ ကျမ်းဦး၌—

ဥဘတော ဒေသကံ ဗုဒ္ဓံ၊ ဝန္ဒိတွာ ကရုဏာလယံ။
မောဟဝိဒ္ဓံသကံ ဓမ္မံ၊ သံဃံ စ ကွေသဃာတကံ။

သဗ္ဗခတ္တိယဓမ္မေန၊ သဗ္ဗသတ္တဟိတတ္ထိနာ။
မာပိတရတနပုဏ္ဏေန၊ ဓမ္မရာဇေန ယာစိတော။

ကရိဿာမိ ဝိဘင်္ဂဿ၊ ဘာသာယ ပရိဝတ္တနံ။
သာဓုကံ နိဿယတ္ထံ တံ၊ သုဏာထ မမ ဘာသတော‌တိ။

အဟံ၊ ငါသည်။ ဥဘတော ဒေသကံ၊ ဘိက္ခု, ဘိက္ခုနီအားဖြင့် နှစ်ပါးသော ဝိဘင်းကို ဟောကြားတော်မူတတ်သော။ ကရုဏာလယံ၊ အသာဓာရဏ မဟာကရုဏာတော်၏ တည်ရာဖြစ်တော်မူထသော။ ဗုဒ္ဓံ စ၊ မြတ်စွာဘုရားကို လည်းကောင်း။ မောဟဝိဒ္ဓံသကံ၊ ကိလေသာတို့၏ အထွတ်မကိုင်၍ မိုက်တတ် မိုက်စေတတ်သော မောဟမြစ်ကို သဘ်ညှစ် ဖျက်ဆီးတော်မူတတ်သော။ ဓမ္မံ စ၊ ပရိယတ္တိနှင့်တကွ ဆယ်ပါးသော တရားတော်မြတ်ကိုလည်းကောင်း။ ကွေသဃာတကံ၊ တထောင့်ငါးရာ ကိလေသာရန် ဝဋ်ဘေးဒဏ်ကို လေးတန် သော မဂ် ဉာဏ်သန်လျက်ဖြင့် ခုတ်ဖျက်ပယ်ဖြတ် သတ်တော်မူတတ်သော။ သံဃံ စ၊ ကလျာဏ ပုထုဇဉ်နှင့်တကွ ရှစ်ယောက်သော အရိယာသံဃာတော်ကို လည်းကောင်း။ ဝန္ဒိတွာ ဝန္ဒာမိ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ၍။

သဗ္ဗခတ္တိယဓမ္မေန၊ စတုသင်္ဂဟစသော ခပ်သိမ်းသော မင်းတို့၏ကျင့်ဝတ် တရားအပေါင်းနှင့် ပြည့်စုံတော်မူထသော။ သဗ္ဗသတ္တဟိတတ္ထိနာ၊ ခပ်သိမ်း

သော သတ္တဝါအပေါင်းတို့၏ ကောင်းသော အစီးအပွားကို များစွာ အလိုရှိသသေး။ မာပိတချ တနပုဏ္ဏနံ၊ သတ္တဝါအပေါင်းတို့၏မှီရာ ရတနာပုဏ်မည်သော မန္တလေးမြို့ကြီးကို တည်ထောင် ဖန်ဆင်းတော်မူထသော။ ဓမ္မရာဇေန၊ သာသနာ့ဒါယကာ မှန်စွာအစစ် ဓမ္မရာဇ်သည်။ ယာစိတော၊ တိုက်တွန်းနှိုးဆော် တောင်းပန်တော်မူအပ်သည်ဖြစ်၍၊ ဖြစ်ရကား၊ ဖြစ်သော ကြောင့်။ ဝါ၊ တောင်းပန်နှိုးဆော် တိုက်တွန်းတော်မူအပ်သော။ အဟံ၊ သည်။ ဝိဘင်္ဂဿ၊ ဥဘတောဝိဘင်း၏။ ဘာသာယ၊ မြန်မာဘာသာဖြင့်။ ပရိဝတ္တနံ၊ မာဂဓဘာသာကို လဲလှယ်ပြန်လှန်ကြောင်းဖြစ်သော။ တနည်း၊ ဘာသာယ၊ နိရုတ္တိသဘာဝမာဂဓဘာသာကို။ ပရိဝတ္တနံ၊ မြန်မာဘာသာ ပြန်လှန်လဲလှယ်ကြောင်းဖြစ်သော။ နိဿယတ္တံ၊ ကြည့်ရှုသင်ကြား မှတ်သားနာခံသူအပေါင်းတို့၏ မှီရာဖြစ်သော အနက်ကို။ သာဓုကံ၊ ကောင်းစွာ။ ကရိဿာမိ၊ ပြုပေအံ့။ ဝါ၊ ကရိဿာမိ ဘာသိဿာမိ၊ ဆိုပေလတ်အံ့။ ဘာသတော၊ မြန်မာတိုင်းလာ ဘာသာပြန်နည်း နိဿျည်းကိုဆိုသော။ မမ၊ ငါ၏။ သန္တိကာ၊ အထံမှ။ တံ၊ ထိုဥဘတောဝိဘင်း၏ ဘာသာပရိဝတ္တန နိဿျအနက်ကို။ တုမှေ၊ ကြည့်ရှုသင်ကြား မှတ်သားနာခံသူ လူအပေါင်းဟုဆိုအပ်သော သင်တို့သည်။ သုဏာထ၊ နာကြကုန်လော့။ ဣတိ၊ ဤသည်လျှင် ကျမ်းပြုဆရာ သူတော်စွာတို့ ဆိုရာသမျှ သဘာဝကိုပြဆိုသော စကားရပ် အပြီးသတ်တည်း—ဟူသော ၃-ဂါထာ ပါဠိနိဿယဖြင့် ဂန္ထာရမ္ဘပြုတော်မူခဲ့သည်။

ဤ ၃-ဂါထာတွင် ပဌမဂါထာဖြင့် ကျမ်းပြီးခြင်း၏ အန္တရာယ်ကို ပယ်ဖျောက်တတ်သော ရတနတ္တယပဏာမကို ပြသည်။ ဒုတိယဂါထာဖြင့် ကျမ်းပြုခြင်း၏ အကြောင်း အဘိယာစကကို ပြသည်။ ထိုအဘိယာစကကား လူရဟန်းသာမန်မဟုတ်၊ ဂါထာ၌ဆိုအပ်သော သဗ္ဗညုတ္တယမ္မဂုဏ်၊ သဗ္ဗသတ္တဟိတတ္တိကဂုဏ်တို့နှင့် ပြည့်စုံတော်မူသော သက္ကရာဇ် ၁၂၁၉-ခု၊ ခပ်သိမ်းသော သဝိညာဏက၊ အဝိညာဏကရတနာ၊ လောကီ လောကုတ္တရာရတနာအပေါင်းတို့၏ပြည့်စုံစုပုံရာ ရာနာပုံမည်သော မန္တလေးနေပြည်တော်ကြီးကို တည်ထောင်စံနေတော်မူသော သာသနာ့ဒါယကာ မဟာဓမ္မရာဇ် တရားမင်းမြတ်ပင်တည်း။

ထိုမင်းမြတ်ကား ကိုယ်ခတော်နှင့်တကွ တိုင်းပြည်လူရှင် အပေါင်းမှစ၍ ခပ်သိမ်းသော နတ်လူတို့၏ ပဋိဝေဓမဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ကိုရခြင်း၌ အလွန်အလိုတော်ရှိသည်။ ယင်းသို့ရှိသည့်အဘိုင်း "န ဟိ ပရိယတ္တိယာ အသတိ ပဋိပေဓော အတ္ထိ၊ န ပန ပရိယတ္တိယာ သတိ ပဋိဝေဓော နတ္ထိ" ဟု အဋ္ဌကထာဆရာမြတ်တို့ မိန့်အပ်သည်နှင့်အညီ" ပရိယတ်သည် ထင်ရှားမရှိမူ

ပဋိသမ္ဘိဒါမဂ်ဉာဏ် ဖိုလ်ဉာဏ် မရှိ၊ ပရိယတ်ရှိမှုကား ပဋိဝေဓမဂ်ဉာဏ်ဖိုလ်ဉာဏ် မရှိဟု မဆိုသာ၊ ရှိသည်သာ တည်း''ဟု မိန့်ဆိုသော စကားကို အသင့်အားဖြင့် နှလုံးထားတော်မူ၍ ပရိယတ္တိသာသနာတော် အမှန်အကန် စည်ပင်ဖြစ်ထွန်း အောင် တိုက်တွန်းနှိုးဆော်ချီးပင့်တော်မူသတည်း။ တတိယဂါထာဖြင့်ပဋိညာဉ် ဥယျောဇဉ်ကို ပြသည်။ ယင်းသို့ပဋိညာဉ်ကိုပြသည့်အတိုင်း ဥဘတောဝိဘင်း၏ နိသျည်းကို ရေးပေအံ့သတည်း—ဟု ၃-ဂါထာနိဿယ၊ အမှာကားတို့ဖြင့် ဂန္ထာရမ္ဘပြုတော်မူခဲ့သည်။ ဆရာတော်၏ ဂန္ထာရမ္ဘကား ပါရာဇိကဏ်ပါဠိ ပါစိတ်ပါဠိ ဟူသော ဥဘတောဝိဘင်း ပါဠိတော်ကို နိဿယပြုရန် ဂန္ထာရမ္ဘ ဖြစ်သည်။

## မရိုးနိုင်သော ဆရာတော်၏ အနက်များ

ဆရာတော်၏ အနက်ပေးဟန်မှာ မရိုးနိုင်၊ ထာဝစဉ်သစ်ဆန်းနေလေသည်။ အောက်ပါပုံစံများကို လေ့လာကြည့်ရှုရာ၏။

နဠေရုပုစိမန္ဒမူလေ။ ။နဠေရုအမည်ရှိသော ဘီလူး ဘုမ္မစိုးသည် လွှမ်းမိုး သိမ်းဆည်းအပ်သော တမာပင်၏အနီး၌။

ဝိဟရတိ။ ။လျောင်း၊ ထိုင်၊ ရပ်၊ သွား လေးပါးဣရိယာ သာယာရွှင် ပျော် နေတော်မူ၏။

တဒေဝ။ ။ထိုမြင်သည်နှင့်မထူး ကြားဖူးတိုင်း မှန်သည်သာလျှင်။

ဝိပစေတယျ။ ။တောင်းလောင်းပြွတ်ကြွေ မြေ၌ကျရော၏။

ပဿေဒ္ဒါ။ ။ပူပန်မလိမ်း ငြိမ်းခြင်းသည်။

မဟာဝနေ။ ။ကြီးကျယ်အလွန် မဟာဝန်၌။ ဝါ၊ သီးပွင့်များပုံ မဟာ ဝုန်၌။

ကဏ္ဍကီယေန။ ။မချွတ်းကန် ပြုရန်ကိစ္စဖြင့်။

အနဂါရိယံ။ ။အိမ်ရာမထောင် ရဟန်းဘောင်၌။

တာဘ သုဒိန္န။ ။မိဘနှစ်တည် ချစ်ရည်ချိစိမ် သားသုဒိန်။

ဥပ္ပဇ္ဇဟိ။ ။လျှောင်းစက်ရာမှ ထပါဦး။

ဘုဉ္ဇ။ ။ထမင်းမုန့်ငါး စားလည်းစားပါဦး။

ပိဝ စ။ ။ဖျော်ရည်ရေပေါက် သောက်လည်း သောက်ပါဦး။

သုခပရိဟတော။ ။ချမ်းသာစွာ အထိန်းတို့သည် ခါးထစ်ရင်ခွင် ပွေ့ပိုက်တင်လျက် ဆောင်ရွက်အပ်သည်။

ဥတုနိ။ ။မိန်းမတို့တမ်း ပန်းဟုဆိုအပ်သော ဥတုလာသည်။
ပုပ္ဖ။ ။ဥတုရှင်လန်း လာမြဲပန်းသည်။

ဤသည်လျှင် ဆရာတော် အရှင်ဇာဂရာဘိဝံသ၏ အနက် ယောဇနာပုံအမြွက်တည်း။

ရင်းပြင် ပါရာဇိကဏ် ပါဠိတော် နိဿယ၌ ကျစ်လျစ် သိပ်သည်းသောအောက်ပါ ခိုးသူကြီး ၅-ဦး လင်္ကာကိုလည်း တွေ့ရသည်။

ခိုးသူကြီး ၅-ဦး လင်္ကာ

ပဌမခိုးသူ စရတိ၊ ဒုတိယခိုးသူ ဟရတိ၊ တတိယခိုးသူ အနုဒ္ဓံသေတိ၊ စတုတ္ထခိုးသူ သံဂဏှာတိ၊ ပဥ္စမခိုးသူ ဥလ္လပတိ။

လှည့်လည် ခိုးဆောင်၊ ထို့နောင်ဖျက်ဆီး၊ ချီးမြှောက်တခြား၊ သူလှည့်စား၊ ငါးယောက်ခိုးသူကြီး[၁]။

ဆရာတော်သည် ပါရာဇိကဏ် ပါဠိတော် နိဿယအဆုံး၌–

ဇာဒိလဥ္ဆိတနာမေန၊ နေဏာနံ ဝါစိတော မယာ။
ပါရာဇိကာယ ကဏ္ဍာယ၊ သမတ္တော အတ္ထနိဿယော–

ဟူသော ဂါထာဖြင့် မိမိ၏ဘွဲ့မည်၊ တပည့်ပေါင်းများစွာတို့၏ စာချ ဆရာတော်အဖြစ်ကို ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်း နိဿယသည် မြန်မာ့ ပရိယတ္တိသာသနာ့ဝန်ထမ်းတို့၏ ပခာနလက်ကိုင် ကျမ်းစာသဖွယ် ဖြစ်လေသည်။

## ပါစိတ် ပါဠိတော် နိဿယသစ်

ဆရာတော်သည် ပါဠိတော် နိဿယကို ပြုစီရင်တော်မူခဲ့ရာ ယင်း ပါစိတ် ပါဠိတော်နိဿယသည် ပခန်းကြီး ရွှေဥမင်ဆရာတော်ဘုရားကြီး ဦးဇမ္ဗုဓဇ၏

---

၁။ တေတ္တပါရာဇိက သိက္ခာပုဒ်။ ၁၅၄–နှာ။

ပါစိတ် ပါဠိတော် နိဿယကိုထောက်၍ ပါစိတ် ပါဠိတော် နိဿယသစ်ဟု တွင်သည်။ ဆရာတော် အရှင်ဇာဂရာဘိဝံသသည် ယင်းပါစိတ်ပါဠိတော် နိဿယသစ်ကို ပါဌသော ထည့်၍ ယောဇနာခြင်း၊ နိယတ် အနိယတ် အစုံပြု၍ ယောဇနာခြင်း၊ အလိုက်အခံ ပြုသင့်ရာများ၌ အလိုက်အခံပြု၍ ယောဇနာခြင်း စသည်ဖြင့် သိပ်သည်းကျစ်လျစ် သေသပ်စွာ ပြုစီရင်တော်မူခဲ့သေးသည်။ ဆရာတော်သည် ယင်း နိဿယကို ပဌမ သံဂါယနာတင် ဘဝရှင်မင်းတရားကြီး တောင်းပန်သဖြင့် ရေးစီရင်တော်မူခြင်းဖြစ်သည်။ နိဿယ အဆုံး၌လည်း အောက်ပါအတိုင်း အကျဉ်းချုံး၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

ရတနာပုဏ်မည်သော မန္တလေး[1]ပြည်ကြီးကို တည်ထောင် စံနေတော်မူသော သာသနဒါယကာ မဟာဓမ္မရာဇ်မင်းမြတ်သည် တိုက်တွန်းနှိုးဆော် တောင်းပန်တော်မူအပ်သည်ဖြစ်၍ "ဇာဂရာဘိဓဇ သိရိပဝရာလင်္ကာရ မဟာဓမ္မရာဇဂုရု" အမည်နာမ တံဆိပ်ရှိသော ဆရာတော်သည် ရေးအပ်သော ဥဘတောဝိဘင်း ပါဠိတော်၏ နိဿယသစ်ကား သာသနာတော် ၂၄၁၅-ခု၊ ဂေါဇာသက္ကရာဇ်[2] ၁၂၃၃-ခု၊ ဟေမန္တဥတု ပြာသိုလပြည့်ကျော် (၈)ရက် အင်္ဂါနေ့နံနက် တချက်တီးကျော်အချိန်တွင် အပြီးသို့ ရောက်သတည်း။ ဤ ဥဘတောဝိဘင်း နိဿယသစ်၌ ထူးရာအနက် ခဲခက်ရာဝယ် ဘယ်သည်တွင်မျှ လစ်သပ်သည်မရှိ၊ နည်းနာနယ ရလောက်အောင် သဒ္ဒါကျမ်းတို့၌ လာသော နည်းကိုပြ၍ အနက်သမ္ဗန်သည်ချည်းသာ ဖြစ်သည်။ ယင်းသို့ဖြစ်၍ ရောက်ရာရောက်ရာ အက္ခရာပုဒ် ဝါကျတို့၏ အနက်ကို မှတ်မိအောင် သင်ရမည်။ အောက်အောက်က မှတ်မိလျှင် အထက်အထက်ကို အထပ်ထပ် လာသမျှတို့၌ ယုံမှားမရှိ သိလိမ့်မည်။

ဇာဒိလဉ္ဆိတနာမေန၊ ဌိတတ္ထံ လိခိတော မယာ။
ဘိက္ခုနီနံ ဝိဘင်္ဂဿ၊ နယသမ္ဗန္ဓ'တ္ထနိဿယော။

မာပိတရတနပုဏ္ဏဿ၊ ဇယဝီသတိမေ ပဝတ္တော။
နိဋ္ဌံ ဗလက္ခယေ ဂေါဇေ[3]၊ ကာဠဋ္ဌမေဝ ဗေါသဿ။

ဇာဒိလဉ္ဆိတနာမေန၊ ဇာအစရှိသော အက္ခရာဖြင့် မှတ်အပ်သော တံဆိပ်နာမံရှိသော။ မယာ၊ ငါသည်။ ဌိတတ္ထံ၊ သုံးပါး သာသနာ

---

၁။ မန္တလေးအခေါ်ကို ဆရာတော်ကြိုက်သည်။ တချို့က မဏ္ဍလေး၊ တချို့က မန္တလေးဟု ရေးထုံးပြုကြသည်။
၂။ မူရင်းအတိုင်း။ ၃။ ဂေါဇေ။

တော်၏ တည်ခြင်းအကျိုးငှာ။ လိခိတော၊ ရေးအပ်သော။ ဘိက္ခုနီနံ၊ ဘိက္ခုနီမတို့၏။ ဝိဘင်္ဂဿ၊ ဝိဘင်း၏။ နယာသမ္ဘွေဒ္ဓေသ၊ သဒ္ဒနယ အတ္ထနယတို့နှင့်ပြည့်စုံသော။ အတ္ထနိဿယော၊ အနက်ဟု ဆိုအပ်သော မှီရာသည်။ မာပိတရတနပုဏ္ဏဿ၊ ရတနာပုဏ်မည်သော မန္တလေး ပြည်ကြီးကို တည်ထောင် ဖန်ဆင်းတော်မူသော မင်းတရား၏။ ဇယဝိသတိမေ၊ ရန်ကိုအောင်တော်မူသည်မှ နှစ်ဆယ်မြောက်သောနှစ်၌။ ဂေါစေ(ဇ)၊ ဂေါဇာသက္ကရာဇ်သည်။ ဗလက္ခယေ၊ ၁၂၃၃-ခုသို့ ရောက်လတ်သော်။ ဇေဌဿ၊ ပြာသိုလ၏။ ကာဠပက္ခမေဝ၊ လဆုတ် ပက္ခ (၈)ရက်မြောက်သော အင်္ဂါနေ့၌သာလျှင်။ နိဋ္ဌံ၊ အပြီးအဆုံးသို့။ ဂတော၊ ရောက်လေ၏—

ဟူသောစကားဖြင့် ရေးသားပုံအခြင်းအရာ၊ တံဆိပ်နာမံတော်၊ ပြီးရာချိန်ခါ စသည်ကို ဖော်ပြတော်မူ၍ နိဂုံးအုပ်တော်မူခဲ့သည်။

## သံပျင်ဋီကာနိဿယ

ဆရာတော်သည် သံပျင်ဋီကာနိဿယကိုလည်း သက္ကရာဇ် ၁၂၁၂-ခုနှစ်က ရေးသားစီရင်တော်မူခဲ့သည်။ ပုဂံခေတ်က ကျစွာမင်းကြီး၏ သမက်တော် သံပျင်အမတ်သည်—

သံသာရဝဋ္ဋ ဂမနဋ္ဌဂုဏာဓိဝါသံ၊
နိရန္တရူပဂတဥေ ယျမနာထနာထံ။

ဗုဒ္ဓဉ္စ မေ့မခိနီဟရမဂ္ဂသံဃံ၊
နျာသပ္ပဒီပမဘိနမျ ကရောမိ သာရံ-

ဟူသော ရတနတ္တယပဏာမ ပဋိညာဉ်ပြု၍ နျာသ (ဉာသ်)ကျမ်း၏ အဖွင့် ဋီကာကို ရေးသားစီရင်ခဲ့သည်။ ယင်းကျမ်းသည် ရေးသားစီရင်သူ သံပျင် အမတ်၏ အမည်ကို စွဲ၍ သံပျင်ဋီကာဟု တွင်သည်၊[၁]

ဖော်ပြပါ သံပျင်ဋီကာမှာ ယခင်က မှီရာအတ္ထနိဿယမရှိသဖြင့် ကူးခပ် သက်ဝင်ချင်းနင်းရန် ကြည့်ရှုရန် မလွယ်ပါချေ။ ဆရာတော်သည် စာသင်သား များစွာတို့၏ တောင်းပန်ခြင်းကို အရင်းပြု၍ ဖော်ပြပါ သံပျင်ဋီကာ၏ မှီရာ

---

၁။ အကျယ် ပုဂံသာသနာဝင်ကြည့်။

အတ္ထနိဿယကိုလည်း အဓိပ္ပါယ် အဆုံးအဖြတ်၊ အနုသန္ဓေ-စသည်တို့ဖြင့် တန်ဆာဆင်၍ ပြုစီရင်တော်မူခဲ့သည်၊ ဆရာတော်သည် ကျမ်းဦး၌—

ဗုဒ္ဓံ နိရုတ္တိဝိသရန္တဂမင်္ဂမင်္ဂံ၊
ဝေနေယျပင်္ကဇသုဗောဓမနန္တဉာဏံ။

ဓမ္မဉ္စ မောဟဝိဟတံ မုနိပူဇနီယံ၊
နတွာ ဂဏုတ္တမမနုတ္တရပုညက္ခေတ္တံ။

ပေါရာဏေဟိ ကတော နတ္ထိ၊ နိဿယော ဉာသင္ဂီကာယ။
တသ္မာ တာဟံ ကရိဿာမိ၊ ယာစိတော ဗဟုသော တူဟိ။

အဟံ၊ ငါသည်။ နိရုတ္တိဝိသရန္တဂံ၊ သမုဒ်ပမာ ကျယ်ဝန်းစွာသော သဒ္ဒါအပေါင်း၏ အဆုံးသို့ ဉာဏ်ဖြင့်ရောက်တော်မူထသော။ ၁ ါ၊ သဒ္ဒါအပေါင်း၏ အဆုံးကို သိတော်မူထသော။ အင်္ဂံ အင်္ဂံ၊ မြတ်ကုန်သော ပစ္စေကဗုဒ္ဓါ သာဝကတို့ထက် မြတ်တော်မူထသော။ ဝေနေယျပင်္ကဇ-သုဗောဓံ၊ ဝေနေယျ သတ္တဝါတည်းဟူသော ကြာအပေါင်းကို ကောင်းစွာ ပွင့်စေတော်မူတတ်ထသော။ အနန္တဉာဏံ၊ အဆုံးမရှိသော သဗ္ဗညုတဉာဏ်ရှိတော်မူထသော။ ဗုဒ္ဓဉ္စ၊ မြတ်စွာဘုရားကိုလည်းကောင်း။ မောဟဝိဟတံ၊ မောဟတရားကို အထူးအားဖြင့် ထွားထွားညက်ညက် ပယ်ဖျက်တော်မူထသော။ မုနိပူဇနီယံ၊ ဘုရားတို့သည် ပူဇော်အပ်ပူဇော်ထိုက်သော။ ဓမ္မဉ္စ၊ တရားတော်မြတ်ကိုသည်းကောင်း။ ဥတ္တမံ၊ ကျော်စောသော ကလျာဏပုထုဇဉ် ထေရ်မှန်ပုဂ္ဂိုလ်တို့ထက် အထူးသဖြင့် ကျော်စောတော်မူထသော။ ဝါ၊ မောဟအဝိဇ္ဇာကို ပယ်ခွာနုတ်တော်မူပြီးထသော။ ဝါ၊ မြတ်သောကလျာဏပုထုဇဉ် ထေရ်မှန်ပုဂ္ဂိုလ်တို့ထက် အထူးသဖြင့် မြတ်တော်မူထသော။ အနုတ္တရပုညက္ခေတ္တံ၊ အတုမရှိ မြတ်သည်ဖြစ်၍ ကုသိုလ်မျိုးစေ့ ငဲ့ချရာ ဖြစ်တော်မူထသော။ ဂဏဉ္စ၊ ရှစ်ယောက်သော အရိယာ သံဃာတော်မြတ်အပေါင်းကိုလည်းကောင်း။ နတွာ၊ ရှိခိုးပါ၍။ နတွာ၊ ရှိခိုးပြီး၍။

ပေါရာဏေဟိ၊ ရှေးဆရာတို့သည်။ ကတော၊ ပြုအပ်သော။ ဉာသင္ဂီကာယ၊ ဉာသင္ဂီကာ၏။ ဝါ၊ ဉာသ်ဋီကာ၏။ နိဿယော၊ မြန်မာအတ္ထနိဿယသည်။ ယသ္မာ၊ အကြင်ကြောင့်။ နတ္ထိ၊ မရှိ။ တသ္မာ၊

ထိုကြောင့်။ ဗဟုသောတုပဟိ၊ များစွာသော စာသင်သားတို့သည်။ ယာစိတော၊ ရှိသေလေးမြတ် တောင်းပန်အပ်သည်ဖြစ်၍၊ တောင်းပန် အပ်ရကား၊ တောင်းပန်အပ်သောကြောင့်၊ တောင်းပန်အပ်သော။ အဟံ၊ ငါသည်။ တံ၊ ထိုနျာသဋီကာ၏မှီ၍ အတ္ထနိဿယကို၊ ကရိဿာမိ၊ ပြုပေအံ့-

ဟူသော ၂-ဂါထာ ပါဌ် နိဿယဖြင့် ရတနတ္တယ ပဏာမ အဘိယာစက ပဋိညာဉ်ကို ဖော်ပြ၍ ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။

## နျာသ ဉာဏ်

ဆရာတော်သည် သတ်ရှိစွာ နျာသ ဝိဂြိုဟ်၊ ဉာဏ်ခေါ်ကြောင်းတို့ကို အောက်ပါအတိုင်း ဖော်ပြတော်မူခဲ့သည်။

''နျာသော တုပနိဓိရိတော (အဘိဓာန်)[၁] နိဿေသေန ကစ္စာယနဿ အတ္ထာ အသီယန္တိ နိက္ခိပိယန္တိ ဧတ္ထာတိ နျာသော''ဟူသော ဝစနတ္ထကြောင့် နျာသမည်၏။ ယင်း နျာသကိုပင် ယာကဲ-သုတ်ဖြင့် ယ-အက္ခရာရှိသော န-ဗျည်းကို ယအက္ခရာနှင့်တကွ ဉ-ပြု၍ ဉာဏ်ဟုလည်း ခေါ်ဝေါ်သည်။[၂]

## ပဌမံ ကရေ ပဒစ္ဆေဒံ ဂါထာ အနက်ပေးပုံ

ပဌမံ ကရေ ပဒစ္ဆေဒံ၊ သမာသာဒိံ တတော ကရေ။
သမာသာဒေါ ကတေ ပစ္ဆာ၊ အတ္ထံ နိယျာထ ပဏ္ဍိတော။

ပဏ္ဍိတော၊ ကျမ်းပြုဆရာပညာရှိသည်။ ပဌမံ၊ ရှေးဦးစွာ။ ပဒစ္ဆေဒံ၊ ပုဒ်ဖြတ်ခြင်းကို။ ကရေ၊ ပြုရာ၏။ တတော၊ ထိုပုဒ်ဖြတ်ခြင်းကို ပြုပြီးသည်မှ။ ပစ္ဆာ၊ နောက်၌၊ သမာသာဒိံ၊ သမာသ်စသည်ကို။ ကရေ၊ ပြုရာ၏။ သမာသာဒေါ၊ သမာသ်စသည်ကို။ ကတေ၊ ပြုအပ်ပြီးသည်ရှိသော်၊ ဝါ၊ ပြုပြီးမှ။ ပစ္ဆာ၊ နောက်၌။ အတ္ထံ၊ အနက်ကို။ နိယျာထ၊ ထုတ်ဆောင်ရာ၏။

---

၁။ ဓာန်။ ၄၇၂-ဂါထာ။

၂။ သံပျဉ်ဋီကာနိဿယ။ ၇-နှာ။

[နိဿယ၌ ထေသာ:ထ-ဟူသော သဒ္ဒနီတိသုတ်ဖြင့် ထေဝိဘတ်ကို အာထ-ပြု။]

ဟူ၍ "ပဌမံ ကရေ ပဒစ္ဆေဒံ" အစရှိသော ဂါထာ အနက်ယောဇနာတော် မူခဲ့သည်၊ ဂါထာအတွက် သံသယရှင်းလင်းအောင် အမှာစကားကိုပါ မိန့်ကြား တော်မူသည်။[၁]

သံပျင်ဋီကာ နိဿယ၏ အဆုံး၌လည်း အောက်ဖော်ပြပါ ၉-ဂါထာပါ၌ နိဿယဖြင့် ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။

၁။ သဒ္ဓါဒိဂုဏသမ္ပန္နော၊ ဓီတိမာ သာဓုသမ္မတော။
ကုသလော ဗဟုသုတ္တေသု၊ ယော သေနာပတိ ရာဇိနော။

၂။ သဟ တေန ကတာ ဒေဝီ၊ အဘိမနာပစာရိနီ။
သေတေ ဟိ နဂရေ ရမ္မေ၊ အာဒိရန္တေန လဒ္ဓိတေ။

၃။ ရာဇာဓိရာဇအာဝါသေ၊ ဤသံပါစီန နိဿိတေ။
ဒက္ခိဏာသ္မိံ ဒိသာဘာဂေ၊ ရူပဿ မုနိနာမိနော။

၄။ ကာရာပိတော သပါသာဒေ၊ ဝိဟာရော ပဉ္စဘူမိကော။
ပါကာရေဟိ ပရိက္ခိတ္တော၊ ကေတူဟိ စ အလင်္ကတော။

၅။ ယော သောဝဏ္ဏမယော တတ္ထ၊ ဝဿတာ ဇာတဋ္ဌာနတော။
မိဓိလာနာမပုရဿ၊ ဌာနေ ပါစီနနိဿိတေ။

၆။ ဒက္ခိဏာသ္မိံ ဒိသာဘာဂေ၊ ရာဇာဓိရာဇဓာနိယာ။
ကပ္ပူရဂါမမှိ ဇာတေန၊ နာမေန ဇာဂရောတိ မေ။

၇။ ဇနေသု ဒယာမာဂမ္မ၊ ရစိတော ဉာသဋီကာယ။
ပသံသိတာယ ဝိညူဟိ၊ နိဿယော နယသမ္ပန္နော။

၈။ နိဋ္ဌိတော ယေသ သမ္ဘတ္တေ၊ သက္ကရာဇေ ခယဂ္ဂယံ။
ဝရူလိခိ ဇိနစက္ကေ၊ ကတ္တိကဇုဏှပဉ္စမေ။

၉။ ဟုတွာ အနန္တရာယော စ၊ ဂန္ထောယံ နိဋ္ဌိတော ယထာ။
တထာ ကလျာဏသင်္ကပ္ပါ၊ သီဃံ ပပ္ပောန္တု ပါဏိနံ။

---

၁။ သံပျင်ဋီကာနိဿယ၊ ၇-နှာ။

သဒ္ဓါဒိဂုဏာသမ္ပန္နော၊ သဒ္ဓါအစရှိသော ဂုဏ်နှင့် ပြည့်စုံသော။ ဝါ၊ ကံ ကံ၏အကျိုး ရတနာသုံးပါးဂုဏ်ကို ယုံကြည်သော သဒ္ဓါ၊ စာရိတ္တ ဝါရိတ္တ ဟု ဆိုအပ်သော သီလ၊ အကြားအမြင်ဟု ဆိုအပ်သော သုတ၊ စွန့်ကြဲပေးကမ်း လှူဒါန်းခြင်းဟု ဆိုအပ်သော စာဂ၊ အကျိုးစီးပွါးရှိသည်ကို သိခြင်းဟု ဆိုအပ်သော ပညာ၊ မကောင်းမှုမှ ရှက်ကြောက်ခြင်းဟု ဆိုအပ်သော ဟိရိ-ဩတ္တပ္ပဂုဏ်နှင့် ပြည့်စုံထသော။ မိတိမာ၊ လေ ကျွန်းသနင်း မြင်းမိုရ်ကြွခိုင် တောင်မက္ကိုင်သို့ ယိမ် ယိုင်မရှိ သမာဓိဂုဏ်နှင့်ပြည့်စုံထသော။ သာခုသမ္မတော၊ ပြည်တွင်းပြည်ပ နေကြသူ ခပ်သိမ်းလူတို့ သူတော်ကောင်းဟု သမုတ်အပ်ထသော။ ဗဟူသု၊ များစွာကုန်သော။ အတ္တေသု၊ ပစ္စုပ္ပန်သံသရာနှစ်ဖြာသော အကျိုးစီးပွါးတို့၌။ ဝါ၊ ကျေးဇူးသခင် အရှင်မင်းမြတ် သမ္မုနတ်၏ ကောင်း မြတ်ပြည့်ဖြိုး အကျိုးစီးပွါးတို့၌။ ကုသလော၊ သူ့ထက်ထူးချွန် အလွန်လိမ္မာ ထသော။ ရာဇိနော၊ တရာ့ဘခင်း ထီးဆောင်းမင်းတို့ ဝပ်စင်းခယ နေ့သုမပြတ် ရှိခိုးအင်သော ကောရာဇ်မင်းမြတ်၏။ ယော စ သေနာပတိ၊ အကြင်စစ်သူကြီး သည်လည်းကောင်း။[၁]

တေန သေနာပတိနာ၊ ထိုစစ်သူကြီးနှင့်။ သဟ ကတာ၊ ဘဝများစွာ သံသရာက တကွအဘူ အလှူရေစက် ပြုကြဖက်ဖြစ်သော။ သဒ္ဓါဒိဂုဏာသမ္ပန္နာ၊ သဒ္ဓါ၊ သီလ, သုတ, စာဂ, ပညာဂုဏ်နှင့် ပြည့်စုံထသော။ မိတိမန္တိ၊ ကျောက် စာတိုင်သို့ ယိမ်းယိုင်ခြင်းမရှိ မိတိဂုဏ်နှင့် ပြည့်စုံထသော။ သာခုသမ္မတာ၊ သူတော် ကောင်းဟု အပေါင်းရှင်လူ ခပ်သိမ်းသူတို့ ကြည်ဖြူမယုတ် သမုတ်အပ်ထသော။ ဗဟူသု၊ များစွာကုန်သော။ အတ္တေသု၊ မိမိအကျိုးစီးပွား သူ့ကပါး အကျိုး စီးပွားတို့၌၊ ဝါ၊ မိမိသခင် အရှင်စစ်သူကြီး၏ အစီးအပွားတို့၌။ ကုသလာ၊ သူ့ထက်ထူးချွန် အလွန် လိမ္မာထသော။[၂] အာတိမနာပစာရိနီ၊ မိန်းမမြတ်တို့ အကျင့်ဖြင့် အလွန် နှစ်သက်ဖွယ်သော အကျင့်ရှိသော။ ယာ စ ဒေဝီ၊ အကြင် မိဖုရားသည် လည်းကောင်း။ အတ္ထိ၊ ရှိ၏။

ဧတေဟိ၊ ထိုစစ်သူကြီး မင်းမိဖုရားတို့သည်။ ရမ္မေ၊ နှလုံး မွေ့လျော် ပျော် ဖွယ်ရှိသော။ အာဒိရဇ္ဇနာ၊ အ-အစ ရ-အဆုံးရှိသော ငါးလုံးသော အက္ခရာ ဖြင့်။ လဉ္ဆိတေ၊ အမရပူရ တံဆိပ်ခတ်အပ်သော။

ရာဇာဓိရာဇ အာဝါသေ၊ မင်းထက်မင်းမြတ် သမ္မုနတ်တို့ ပျော်မွတ်စံရာ ဖြစ်သော။ နဂရေ၊ မြို့၌။ မုနိနာပမိနော၊ မဟာမုနိ အမည်တော်ရှိသော။

---

၁။ စသဒ္ဒါ လုတ္တနိဒ္ဒိဋ္ဌ

၂။ နောက်ပုဒ်ဘို့ကို လိင်ပြန်၍ လိုက်စေသည်။

ရှုပသာ၊ ရုပ်ပွားစေတီတော်၏။ ဤသံပါဠိနိဿယတော၊ စဉ်းငယ် အရှေ့အနုပ်ကို မှီသော။ ဒက္ခိဏာသို့ ဒိသာဘာဂေ၊ တောင်အရပ်အဖို့၌။

သပါသာဒေါ၊ဘုံကိုးဆင့်ရှိသော ကျောင်းဦးပြာသာဒ်နှင့်တကွ ဖြစ်သော။ ပဉ္စဘူမိကော၊ ဘုံငါးဆင့်ရှိသော။ ပါကာရေဟိ၊ နှစ်ထပ်သောတံတိုင်းတို့ဖြင့်။ ပရိက္ခိတ္တော၊ ခြံရံအပ်သော။ ကေတုဟိ စ၊ များစွာသော တုရင်မှန်ယင်းတို့ဖြင့်လည်း။ အလင်္ကတော၊ တန်ဆာဆင်အပ်သော။

သောဝဏ္ဏမယော၊ အတွင်းအပ ရွှေဖြင့်ပြီးသော။ ယော ဝိဟာရော၊ အကြင်ကျောင်းကို။ ကာရာပိတော၊ဆောက်လုပ်အပ်ပြီ။ တတ္ထ၊ ထိုကျောင်း၌။ ဝသတာ ဝသန္တေန၊ လျှောင်းထိုင်ရပ်သွား လေးပါးဣရိယာ သာယာစွာရှင်ပြုံး သီတင်းသုံးသော။ဇာတဌာနတော၊ ဖြစ်ရာဌာန ဒေသအားဖြင့်။ မိဓိလာနာမ-ပုရဿ၊ နေမိ, ဇနက, မဟော်သဓသည့် ဗုဒ္ဓလောင်းစစ် မဗ္ဗရာဇ်တို့ ပျော်မြစ် စံရာ မိဓိလာနှင့် သာယာကံဆိပ် အရိပ်တူသည်၏ အဖြစ်ကြောင့် မိခိလာအမည်ရှိသော မြို့၏။ ပါစီနနိဿိတော၊ အရှေ့အနုပ်ကိုမှီသော။ ဌာနေ၊ နှစ်ထောင် ကျော်ဘာ ဝေးကွာသော အရပ်၌။

ရာဇာဓိရာဇဓာနိယာ၊ မင်းထက်မင်းမြတ် သမ္မုနတ်တို့ ပျော်မှဘ်စံရာ မဟာ အမရ ဌာနနန်းတည် မြို့ရွှေပြည်၏။ ဒက္ခိဏာသို့ ဒိသာဘာဂေ၊ တာအပေါင်းဖြင့် သုံးသောင်းခြောက်ထောင် ကွာဝေးဆောင်သည့် တောင်ဟုမည်မှတ် လကျ်ာရပ်၌။ ကဖြူဂါမမှို၊ အလောင်းဘုရား မင်းတရား၏ သားတော်အလတ် ခုမင်းမြတ်ဘေး ရန်လေးသုတ်သင် ဆင်ဖြူရှင်သည် ကြည်လင်မိန့်ဟ ခါးတောင်ကကို ရွှေမချပဲ အဖြူခဲဖြင့် အမြဲလိမ်းကျံ မွမ်းမံခြယ်လှယ် မြင်းထက်ဝယ်၌ အလှယ်ပြီးပြေ တငစီးစေဟု မသေ့မိန့်ချက် ဗျာဒိတ်စက်ကြောင့် ခုထက်တိုင်သာ ကဖြူရွာဟု သညာမည်ရ ယင်းဂါမ၌။ ဇာတေန၊ ပဋိသန္ဓေအားဖြင့်ဖြစ်သော။ ဇာဂရောတိ၊ ဇာဂရဟူ၍။ ဝါ၊ ဇာဂရာဘိဓဇာသီရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရုဟူ၍။ နာမေန၊ ဆရာတော်တို့ မှည့်ခေါ်အပ်သော သညာ၊ သာသနာ့ဒါယကာ မဟာဓမ္မရာဇ်တရားမင်းမြတ် ကပ်လှူအပ်သော အမည်သညာဖြင့် ထင်ရှားစွာသော။ မေ မယာ၊ ငါသည်။

ဇနေသု၊ စာသင်သားတို့၌။ ဒယံ၊ သနားခြင်းကို။ အာဂမ္မ၊ စွဲ၍။ ဝိညူဟိ၊ ကျမ်းပြုဆရာ ပညာရှိတို့သည်။ ပသံသိတာယ၊ သာသနာတော်၏ အစီးအပွား များလောက်သော ကျမ်းကောင်း ကျမ်းမြတ်ဟု ချီးမွမ်းအပ်သော။ ဉာသဒ္ဒီ-

ကာယ၊ နရပတိစည်သူ ဇမ္ဗူသခင် ထွတ်ဘုရင်၏ သံပျင်ခေါ်လတ် မင်း၊ အမတ်သည် ရေးမှတ်ပြုစု ထိုအမှုကြောင့် ယခုတိုင်ပင် ကမ်းသံပျင်ဟုခေါ်တွင် နာမ အမည်ရသော ဉာဏ်ဓိကာ၏၊ နယသမ္မန္ဒော၊ သဒ္ဒနယ အတ္ထနယနှင့် ပြည့်စုံသော။ နိဿယော၊ မှိုရာအတ္ထ နိဿယကို။ ရစိတော၊ စီရင်အပ်ပြီ။

သေ ဧသော နိဿယော၊ ဤမှိုရာအတ္ထ နိဿယသည်။ သက္ကရာဇေ၊ ကောဇာသက္ကရာဇ်သည်။ ခယက္ခယံ၊ ၁၂၁၂-ခုသို့။ ဇိနစက္ကေ၊ ဘုရားသခင် သာသနာတော်သည်။ ဝဠုလိခံ၊ ၂၃၉၄-ခုသို့။ သမ္ပတ္တေ၊ ရောက်သည် ရှိသော်၊ ကပ္ပ်ကဇုဏှပဥ္စမေ၊ ပုဗ္ဗကတ္တိကမည်သော သီတင်းကျွတ်လဆန်း ၅-ရက် ကြာသပတေးနေ့၌။ နိဋ္ဌိတော၊ အပြီးအဆုံးသို့ ရောက်၏။

အယံ ဂန္ထော၊ ဤသံပျင်ဋီကာကျမ်း၏ မှိုရာအတ္ထနိဿယသည်။ အနန္တရာယော စ အနန္တရာယော ဧဝ၊ အန္တရာယ်မရှိသည်သာလျှင်။ ဟုတွာ၊ ဖြစ်၍။ နိဋ္ဌိတော ယထာ၊ အပြီးအဆုံးသို့ ရောက်သကဲ့သို့။ တထာ၊ ထို့အတူ။ ပါဏိနံ၊ သတ္တဝါတို့၏။ ကလျာဏာသင်္ကပ္ပါ၊ ကောင်းသောအကြံတို့သည်။ သီဃံ၊ လျင်စွာ။ သိဇ္ဈန္တု၊ အပြီးအဆုံးသို့ ရောက်စေကုန်သတည်း။

## ထိပ်တန်းပါဠိ မြန်မာပညာရှင်

ဖော်ပြပါ ပါဠိစကားလုံး မြန်မာစကားလုံးတို့ဖြင့်ပင် ဆရာတော်၏ ထိပ်တန်းပါဠိပညာရှင် မြန်မာပညာရှင်ဖြစ်ကြောင်း သိသာသည်။ သမိုင်း ပညာရပ်နှင့်လည်း မယုတ်ကိုလုံ ပြည့်စုံတော်မူသည်။

> ပါဠိယာ ကောဝိဒေါ စေဝ၊ သဘာသာယ သုကုသလော။
> သုဝိဒူ ဣတိဟာသေသု၊ အနူနော ပရိပူရော ဟိ သော။

ဖော်ပြပါ သံပျင်ဋီကာ နိဿယကျမ်းကြီးကို ခရစ်သက္ကရာဇ် ၁၉၁၃-ခုနှစ်တွင် ပေမှ ရေးကူး၍ ရန်ကုန်မြို့ ပြည်ကြီးမဏ္ဍိုင် ပိဋကတ်ပုံနှိပ်တိုက်မှ ရိုက်နှိပ် ထုတ်ဝေခဲ့ရာ ရှုပ်ဆိုက် စာမျက်နှာ ၅၄၈-ရှိလေသည်။

## မောဂ္ဂလ္လာန် နိဿယသစ် (ဝုတ္တိမောဂ္ဂလ္လာန် နိဿယသစ်)

ဆရာတော်သည် ဝုတ္တိမောဂ္ဂလ္လာန် အစရှိသော မူလ မောဂ္ဂလ္လာန် စာ ကိုယ်များ နိဿယကိုလည်း ရေးသားစီရင်တော်မူခဲ့လေသည်။ မောဂ္ဂလ္လာန် ဆရာတော်၏—

---

၁။ ကျူးစွာမင်း၏ အမတ်ဟူ၍လည်း ဆိုကြသည်။

သိဒ္ဓမိဒ္ဓဂုဏံ သာဓုံ၊ နမဿိတွာ တထာဂတံ။
သဒ္ဓမ္မံ သံဃံ ဘာသိဿံ၊ မာဂဓံ သဒ္ဒလက္ခဏံ—

ဟူသော ပဏာမ ပဋိညာဉ်ပါဌ်ကို အောက်ပါအတိုင်း အနက် ယောဇနာတော်မူ၍ နိဿယကို ဆက်လက် စီရင်တော်မူခဲ့လေသည်။

အဟံ၊ ငါသည်။ သိဒ္ဓံ၊ ဗုဒ္ဓကိစ္စကို ပြီးစေခြင်း၌ မချွတ်မလွဲ ပြီးတော်မူထသော။ ဝါ၊ ကိုယ်တော်၏ အစီးအပွား ပရဝေနေယျတို့၏ အစီးအပွားကို ပြီးစေတော်မူတတ်ထသော။ ဝါ၊ သုံးဆယ့်တခွင် ဘုံအပြင်၌ ထင်ရှားရှိတော်မူထသော။ ဣဒ္ဓဂုဏံ၊ ပြည့်စုံခိုင်ဖြိုး ပွားစီးသော အရဟံ အစရှိသော ဂုဏ်ရှိတော်မူထသော။ ဝါ၊ အရဟံ အစရှိသော ဂုဏ်တို့ဖြင့် ပြည့်စုံခိုင်ဖြိုး ပွားစီးတော်မူထသော။ တထာဂတံ၊ ဝိပဿီ အစရှိသော ရှေးဘုရားရှင်တို့ကဲ့သို့ လာခြင်းကောင်းတော်မူသော မြတ်စွာဘုရားကို။ သာဓုံ၊ ဘယလာဘ စသည် ညစ်ကြေး ကင်းဝေးစွာရှောင်သဖြင့် ကောင်းစွာ။ နမဿိတွာ၊ ရှိခိုးပါ၍။ နမဿိတွာ၊ ရှိခိုးပြီး၍။ သိဒ္ဓံ၊ မိမိကို ကျင့်ဆောင်ကုန်သောသူတို့အား အပါယ်ဝဋ်မှ လွတ်ကင်းစေခြင်း၌ မချွတ်မလွဲ ပြီးတော်မူထသော။ ဝါ၊ မိမိကို ကျင့်ဆောင်ကုန်သော သူတို့အား သုံးပါးသော သမ္ပတ္တိကို ပြီးစေတော်မူတတ်ထသော။ ဝါ၊ တရားအပေါင်းတို့တွင် ထင်ရှားတော်မူထသော။ ဝါ၊ ဣဒ္ဓဂုဏ်နှင့် ပြည့်စုံခိုင်ဖြိုး ပွားစီးသော သွာက္ခာတတာ အစရှိသော ဂုဏ်ရှိတော်မူသော။ ဝါ၊ သွာက္ခာတတာ အစရှိသော ဂုဏ်တို့ဖြင့် ပြည့်စုံခိုင်ဖြိုး ပွားစီးတော်မူထသော။ သဒ္ဓမ္မံ၊ သူတော်ကောင်းတရား ဆယ်ပါးကိုသည်။ သာဓုံ၊ ဘယလာဘ စသည်ညစ်ကြေး ကင်းဝေးစွာရှောင်သဖြင့် ကောင်းစွာ။ သိဒ္ဓံ၊ အာဘိသမာစာရိက စသော ဝတ်၌ မချွတ်မလွဲ ပြီးတော်မူထသော။ ဝါ၊ အနုတ္တရ ပုညက္ခေတ္တဖြစ်၍ စင်စစ် မဟပ္ဖလကိုပြီးစေတော်မူတတ်ထသော။ ဝါ၊ ဒေဝသံဃ စသည်တို့တွင် ထင်ရှားတော်မူထသော။ ဣဒ္ဓဂုဏံ၊ ပြည့်စုံခိုင်ဖြိုး ပွားစီးသော သုပ္ပဋိပန္နတာ စသော ဂုဏ်ရှိတော်မူထသော။ ဝါ၊ သုပ္ပဋိပန္နတာ ဂုဏ် စသော ဂုဏ်တို့ဖြင့် ပြည့်စုံခိုင်ဖြိုး ပွားစီးတော်မူထသော။ သံဃဉ္စ၊ ကလျာဏပုထုဇဉ်နှင့်တကွ ရှစ်ယောက်သော အရိယာ သံဃာတော်ကိုလည်း။ သာဓုံ၊ ဘယလာဘ စသည်ညစ်ကြေး ကင်းဝေးစွာ ရှောင်သဖြင့် ကောင်းစွာ။ နမဿိတွာ၊ ရှိခိုးပါ၍။ နမဿိတွာ၊ ရှိခိုးပြီး၍။ မာဂဓံ၊ မာဂဓဘာသာဖြစ်သော။ သဒ္ဒလက္ခဏံ၊ သဒ္ဒါ၏ မှန်ကြောင်းသုတ်ကို။ သာဓုံ၊ အက္ခရာ စသော အညစ်အကြေး ကင်းဝေးစွာ ရှောင်သဖြင့် ကောင်းစွာ။ မာဂဓံ မာဂဓနေ၊ မာဂဓ စကားဖြင့်။ ဘာသိဿံ၊ ဆိုပေအံ့။

ဤကား ဆရာတော် အရှင်ဇာဂရာဘိဝံသ၏ မောဂ္ဂလ္လာန် စာကိုယ်ကျမ်း ပဏာမ ပဋိညာဉ် ဂါထာ အနက်ယောဇနာပုံဖြစ်သည်။ ဆရာတော်ကား သဒ္ဒါဉာဏ်၊ အနက်ဉာဏ် ဆန်းကြယ်လှ၏။ မောဂ္ဂလ္လာန် နိဿယနိဂုံး၌—

ဇာဒိသဥ္ဇိတနာမေန၊ နေကာနံ ဝါစိတော မယာ။
နိဋ္ဌိတော'နာကုလံ မူလ-မောဂ္ဂလ္လာနဿ နိဿယော။

ဇာဒိလဥ္ဆိတနာမေန၊ ဇာအစရှိသော အက္ခရာဖြင့် မှတ်အပ်သော အမည်ရှိသော။ ဝါ၊ "ဇာဂရာဘိဓဇ သိရိပဝရာလင်္ကာရ မဟာဝမ္မ ရာဇာဓိရာဇဂုရု"ကံဆိပ်ဖြင့် မှတ်အပ်သော အမည်ရှိသော။ မယာ၊ ငါသည်။ နေကာနံ၊ များစွာကုန်သော စာသင်သားတို့အား။ ဝါစိ-တော၊ သင်ကြားပို့ချအပ်သော။ မူလမောဂ္ဂလ္လာနဿ၊ မူလမောဂ္ဂလ္လာန်၏။ နိဿယော၊ မြိုရာအတ္ထ မြန်မာဘာသာဟု ဆိုအပ်သော နိဿယ သည်။ အနာကုလံ၊ အနှောင့်အယှက်မရှိ။ နိဋ္ဌိတော၊ ပြီးဆုံးအောင် မြင်ခြင်းသို့ရောက်ပြီ—

ဟူသော ဂါထာပါ၌ နိဿယဖြင့် နိဂုံးအုပ်တော်မူသည်။ ၎င်းပြင် နိဿယ အဆုံး၌ သက္ကရာဇ် ၁၂၂၉-ခု၊ တော်သလင်းလပြည့်ကျော် ၃-ရက်နေ့ တချက်တီးကျော်အချိန်တွင် ရေးကူးပြီးသည်။ ပု-ဒိ-အာ နှင့် ပြည့်စုံရပါလို၏ ဟူသည်း ပါရှိသည်။

## ဒီပဝံသ နိဿယ

ဒီပဝံသ စာကိုယ်ကို ဆရာတော်ကိုယ်တိုင် ကျနစွာ ပြင်ဆင်တော်မူပြီး ယင်းဒီပဝံသ စာကိုယ်ပါဠိ၏ မြိုရာအတ္ထနိဿယကိုလည်း ရေးသား စီရင်တော်မူ ခဲ့သည်။

နိဿယ ၏ အဆုံး၌—

တွေ့ဝတာ

ဇာဒိယဥ္ဆိတနာမေန၊ မဟာထေရေန လိခိတော။
နိဿယော ဒီပဝံသဿ၊ အနာကုလော ဝ နိဋ္ဌိတော။

ဧတ္တာဝတာ၊ ဤမျှ အတိုင်းအရှည်ရှိသော အက္ခရာ ဝါကျအစဉ်ဖြင့်သာလျှင်။ ဇာဒိသုဋ္ဌိတနာမေန၊ ဇာစသောအက္ခရာဖြင့် မှတ်အပ်သော အမည်တံဆိပ်ရှိသော။ ဝါ၊ ဆရာတော်တို့ မှည့်ခေါ်အပ်သော ဇာဂရ ဟူသောအမည် သာသနာ့ဒါယကာ မဟာဓမ္မရာဇ် တရားမင်းမြတ်တို့ ဆက်ကပ်လှူအပ်သော "ဇာဂရာဘိဓဇ သိရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော အမည်တံဆိပ်ရှိသော။ မဟာထေရေန၊ မဟာထေရ်သည်။ လိခိတော၊ ရေးအပ်သော။ ဒီပဝံသော၊ ဒီပဝံသကျမ်း၏။ နိဿယော၊ မြန်မာ့ဘာသာ မှီရာအတ္ထနိဿယသည်။ အနာကုလောဝ၊ အနှောင့်အယှက် အကန့်အကွက် အဖျက်အဆီး မရှိသည်ဖြစ်၍သာလျှင်။ နိဋ္ဌိတော၊ သာသနာတော်နှစ် ၂၄၁၇-ခု၊ ကောဇာသက္ကရာဇ် ၁၂၃၅-ခု ဟေမန္တဥတု တပေါင်းလဆန်း ၈-ရက် ၅-ချက်တီးအချိန်၌ အပြီးအဆုံးသို့ ရောက်လေ၏။

ဟူသောပါဠိနိဿယဖြင့် နာမည်၊ တံဆိပ်၊ ကျမ်းပြီးရာ ချိန်ခါကာလ သမယကို ဖော်ပြတော်မူ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

## သင်္ဂြိုဟ်ဂဏ္ဌိကျမ်းများ

သာသနာတော်၌ သင်္ဂြိုဟ်ဂဏ္ဌိကျမ်းများ တော်တော်များများရှိခဲ့သည်။

ဓီယဿ တာဒိနော မောဟံ၊ ဥဒ္ဒိတံ ဓမ္မသာရဂံ။
စန္ဒာမဟံ ဓမ္မဂဏံ၊ ပုညခေတ္တ အနုတ္တရံ။

အစရှိသော ဂန္ထာရမ္ဘ ၄-ဂါထာဖြင့် စတင်ရေးသားအပ်သော ရေစကြိုမှူ သင်္ဂြိုဟ်ဂဏ္ဌိကျမ်း။

ပကာရေနာဘိဓမ္မဿ၊ သင်္ဂဟဿ သသောခနံ။
ပဏ္ဍမျ လောကဇေဋ္ဌဿ၊ လိခိဿံ ဂဏ္ဌိပဒ္ဒကံ။

ပဿတွိဒံ နုရိန္ဒဿ၊ ဝိစယံ သောမ္မစက္ခုနာ။
သေဋ္ဌော ရာဇာ နိစံ ဂရု-ဂါဟတံ သုသုဟတ္တေနှ—

ဟူသော ဂန္ထာရမ္ဘ ၂-ဂါထာဖြင့် စဘင်ရေးသားစီရင်အပ်သော ကျော်အောင်စံထားမှူ သင်္ဂြိုဟ်ဂဏ္ဌိကျမ်းစသည်ဖြင့် သင်္ဂြိုဟ်ဂဏ္ဌိကျမ်းများ တော်တော်များများ ပေါ်ထွန်းခဲ့သည်။

ရေစကြိုမှူ သင်္ဂြိုဟ်ဂဏ္ဌိကျမ်းဂန္ထာရမ္ဘ၌--

ပေါရာဏေဟိ ပနာနေကာ၊ ဂဏ္ဌိပဗ္ဗာ သုလိက္ခိတာ။
န သက္ကာ ဣမ သောတူနံ၊ ဂုဠှတ္ထဒယေ အဇောတတာ-

ဟူသောဂါထာလာရှိသဖြင့် ရေစကြိုမှူ ဂဏ္ဌိ မပေါ်ခင်ကပင် သင်္ဂြိုဟ် ဂဏ္ဌိ ဟောင်းတွေ များစွာပေါ်ထွန်းခဲ့ကုန်၏။ သို့ဖြစ်၍ ဒက္ခိဏာရာမ ဆရာတော် အရှင်ဇာဂရ၏ သင်္ဂြိုဟ်ဂဏ္ဌိသစ်သည်နောက်ဆုံးပေါ် သင်္ဂြိုဟ်ဂဏ္ဌိသစ် ဖြစ်လေသည်။

## အဘိဓမ္မတ္ထသင်္ဂြိုဟ်ဂဏ္ဌိသစ်

ဆရာတော်သည် အဘိဓမ္မတ္ထ သင်္ဂြိုဟ်ဂဏ္ဌိကျမ်းကိုလည်း ရေးသားစီရင်မူခဲ့သည်။ ဆရာတော်၏ သင်္ဂြိုဟ် ဂဏ္ဌိသည် ဖော်ပြပါ သင်္ဂြိုဟ်ဂဏ္ဌိများကို ထောက်၍ အဘိဓမ္မတ္ထ သင်္ဂြိုဟ်ဂဏ္ဌိသစ်ဟု တွင်လေသည်။ ဆရာတော်သည် ယင်း သင်္ဂြိုဟ်ဂဏ္ဌိသစ်ကျမ်းကို ဒက္ခိဏာရာမဘုရားကြီးတိုက်ကြီး မတည်မီ ၄-နှစ်ခန့် အမရပူရမြို့တော်၌ သီဘင်းသုံးတော်မူစဉ် ရဟန်းသိက္ခာ ၁၃-ဝါခန့် လောက်က စီရင်တော်မူခဲ့သည့် ကျမ်းဖြစ်လေသည်။

ကျမ်းဦး၌--

ဝန္ဒိတွာ အနန္တဉာဏံ၊ ဗုဒ္ဓံ သမ္ဗုဒ္ဓပူဇိတံ၊
ဓမ္မံ အရိယသံဃဉ္စ၊ ပုညခေတ္တံ အနုတ္တရံ။

ကရိဿံ အဘိဓမ္မဿ၊ ဂဏ္ဌိဋ္ဌာနံ သမာသတော။
ဗဟူသောတူန မတ္ထာယ၊တံ နိသာမေထ သာဓဝေါ--

ဟူသောနှစ်ဂါထာဖြင့် ပဏာမနှင့် ပဋိညာဉ်ကို ဖော်ပြတော်မူခဲ့သည်။

ကျမ်းစာအဆုံး၌--

သက္ကရာဇ် ၁၂၀၅-ခု တော်သလင်းလဆန်း ၅-ရက် အင်္ဂါနေ့တွင် ဇာဂရ အမည်ရှိသော ပဋ္ဋင်းသည် စီရင်အပ်သော အဘိဓမ္မတ္ထ သင်္ဂြိုဟ်ကျမ်း၏ ဂဏ္ဌိပဗ္ဗကား ဤတွင်၍ ပြည့်စုံ၏။

သဒ္ဒါဒိဂုဏဝဏ္ဏေန၊ အသမ္ပုဏ္ဏေ စ ခတ္တိယေ။
ဇာတေန မင်းရဲကျော်ထင်တီ၊ နာမကေနာဘိဓာယိတော။

ဒက္ခိဏသ္မိံ ဒိသာဘာဂေ၊ ရာဇာဓိရာဇဋ္ဌာနိယာ။
ကပ္ပူဂါမမှိ ဇာတေန၊ နာမေန ဇာဂရဇောတိ မေ။

ဇနေသု ဒယ မာဂမ္မ၊ အဘိဓမ္မဿ ဂန္ထဿ။
ဂဏ္ဌိပဒ္ဒေ အယံ ဂန္ထော၊ ရစိတော နယသမ္ပန္နော။

ဟုတွာ အနန္တရာယော ဝ၊ ဂန္ထော’ ယံ နိဋ္ဌိတော ယထာ။
တထာ ကလျာဏသင်္ကပ္ပါ၊ သိဇ္ဈံ သိဇ္ဈန္တု ပါဏိနံ။

သဒ္ဓါဒိဂုဏဝန္တေန၊ သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာဂုဏ်နှင့် ပြည့်စုံထသော။ အသမ္ဘိန္နေ၊ မဟာသမ္မတမင်းမှ စ၍ ဝံသစဉ်ဆက်နွယ်မပျက်သော။ ခတ္တိယေ၊ မင်းမျိုး၌။ ဇာတေန၊ ပဋိသန္ဓေအားဖြင့် ထင်ရှားဖြစ်ထသော။ မင်းရဲကျော်ထင်တိနာမကေန၊ မင်းရဲကျော်ကင်အမည်ရှိသော မင်းသားသည်။ အဘိယာစိတော၊ ရိုသေလေးမြတ်တောင်းပန်အပ်သည်ဖြစ်၍။ ရာဇာဓိရာဇဋ္ဌာနိယာ၊ မင်းထက်မင်းမြတ်သမ္မုတိနတ်တို့၏ ပျော်မွေ့စံရာမဟာအမရဋ္ဌာနနန်းတည် မင်းနေပြည်၏။ ဒက္ခိဏသ္မိံ ဒိသာဘာဂေ၊ တောင်အရပ်ဖြင့် သုံးဆောင်းခြောက်ထောင်ကွာဝေးဆောင်သည့် တောင်ဟုခေါ်မှတ် လက်ျာရပ်၌။ ကပ္ပူဂါမမှိ၊ အလောင်းဘုရား မင်းတရား၏ သားတော်အလတ် ခုမင်းမြတ်ဘိုးနန်းရိုးသိုက်ဝင် ဆင်ဖြူရှင်သည် ကြည်လင်မိန့်ဟ ကတောင်ကကို ရွှေမချပ်အဖြူခဲဖြင့် အမြဲလိမ်းကျံ မွှမ်းမံခြယ်လှယ် မြင်းထက်ဝယ်၌ အလှယ်ပြီးပြေတင်စီးစေဟု မသွေမိန့်ချက် ဗျာဒိတ်စက်ကြောင့် ခုဆက်တိုင်သာ ကပ္ပူရွာဟု သညာမည်ရ ယင်းဂါမ၌။ ဇာတေန၊ ပဋိသန္ဓေအားဖြင့် ဖြစ်ထသော။ ဇာဂရဇောတိ၊ ဇာဂရဟူ၍။ နာမေန၊ အမည်သညာ ထင်ရှားစွာထသော။ မေ မယာ၊ ငါပဥ္စင်းသည်။ ဇနေသု၊ စာသင်သားတို့၌။ ဒယံ၊ သနားခြင်းကို။ အာဂမ္မ၊ စွဲ၍။ အဘိဓမ္မဿ၊ အဘိဓမ္မတ္ထသင်္ဂဟအမည်ရှိသော။ ဂန္ထဿ၊ လက်သန်းအဋ္ဌကထာကျမ်း၏။ နယသမ္ပန္နော၊ အထူးထူးသော သဒ္ဒနယ၊ အတ္ထနယတို့နှင့် ပြည့်စုံသော။ ဂဏ္ဌိပဒေ္ဒ၊ ဉာဏ်၏တည်ရာ ခက်ရာခက်ဆစ်ဖြစ်သောကြောင့် ဂဏ္ဌိပဒ္ဒ အမည်ရှိသော၊ အယံ ဂန္ထော၊ ဤကျမ်းကို။ ရစိတော၊ အတ္တုက္ကံသန ပရဝမ္ဘန ဥပါရမ္ဘ စသည်ကင်းဝေးညစ်ကြေးမဟာင် စီရင်အပ်၏။

အယံ ဂန္ထော၊ ဤဂဏ္ဌိပဒ္ဒအမည်ရှိသောကျမ်းသည်။ အနန္တရာယော ဝ၊ အနန္တရာယောဝ၊ အန္တရာယ်ဘေး ဘေးမရှိသည်သာလျှင်။ ဟုတွာ၊ ဖြစ်၍။ နိဋ္ဌိတော ယထာ၊ အပြီးအဆုံးသို့ ရောက်သကဲ့သို့။ တထာ၊ ထိုအတူ။ ပါဏိနံ၊ သတ္တဝါတို့၏။ ကလျာဏသင်္ကပ္ပါ၊ ကောင်းသောအကြံတို့သည်။ သိဇ္ဈံ၊

လျှင်မြန်စွာ။ သိဇ္ဈန္တု၊ အပြီးအဆုံးသို့ ရောက်စေကုန်သတည်း—ဟူသော မြန်မာ၊ ပါဠိ၊ ပါဠိနိဿယတို့ဖြင့် ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။ ဆရာတော်ကား ရင်သပ်ရှုမောအံ့သြလောက်အောင် စာပေကျမ်းဂန်တတ်မြောက်သည့် ပုဂ္ဂိုလ်ထူးဖြစ်တော်မူသည်။

## ကဗျာလင်္ကာလည်းနိုင်သော ဆရာတော်

ဆရာတော်ကား ကဗျာလင်္ကာအရေးအသားလည်း နိုင်နင်းတော်မူသည်။ ကာမာဝစရကုသိုလ်စိတ် ရေတွက်ပုံကို—

ဆယ်ပါးပုညာ၊ မြောက်ဖြာအာရုံ၊ လေးစုံမိပတိ၊ တိဟိကမ္မာ၊ ဟိနာဒိက၊ စသည်သုံးပါး၊ မြောက်၍ပွားက၊ တရာ့နှစ်ဆယ်၊ စွန်းကယ်ဆောင်းဆောင်း၊ သောင်းငါးထောင်မှတ်၊ ဗုဒ္ဓဒတ်မူ၊ အယူကွဲပြား၊ စွန်းငြားရှစ်ဆယ်၊ နှစ်ရာကယ်၍၊ မှတ်ဖွယ်မှတ်ကြောင်း၊ သောင်းခုနစ်ထောင်၊ မြောက်နည်း ဆောင်သည်၊ မြားမြောက်ကာမာဝစရကုသိုလ်တည်း—[၁]

ဟူသော လင်္ကာဖြင့် ကျော်စေးတော်မူသည်။

ရင်းပြင် သညာ၊ ဝိညာဉ်၊ ပညာ-တို့၏ သိပုံထူးခြားချက်ကိုလည်း—

သူငယ်အသပြာ၊ မြင်သောခါ၌၊ ညိုဝါအရွေ၊ သိလေမှန်စွာ၊ အသပြာဟု၊ ဆောချာမသိ၊ ဂါမိကာဟူ၊ ရွာသူမူကား၊ ဖြူဝါတတော့၊ ညို့ရွေ ရင်း၊ တကြောင်း အသပြာ၊ သိရုံသာ တည်း၊ တန်ဖိုးအဋ္ဌ၊ မည်မျှအဖိုး၊ သိရိုးမရှိ၊ ဟေရညိက၊ နာမအမည်၊ ပန်းထိမ်သည်ကား၊ တပါးမကြွင်း၊ ခပင်းဉဿုံ၊ အလုံးစုံကို၊ အကုန်မှန်စွာ၊ သိလေရာ၏။ သညာ- ဝိညာဉ်၊ ပညာယှဉ်လျက်၊ ကြံသုံးချက်နှင့်၊ ယထာက္ကမ၊ တူလေစွဟု၊ မိန့်ဟဋ္ဌကာဆိုသတည်း—[၂]

ဟူ၍ စီကုံးတော်မူသည်။

ဆရာတော်သည် သဂြိုဟ်ဂဏ္ဌိကျမ်းကို အနုသန္ဓေအမျိုးမျိုးဆိုပုံဆိုနည်း၊ သဒ္ဒါနည်း၊ ဆန်းနည်း၊ အလင်္ကာနည်း၊ နိယံ၊ လင်္ကာ၊ သံပေါက်စသည်တို့ဖြင့် လေ့လာရှုကြည့်၍ မငြီးအောင် ရေးသားစီရင်တော်မူခဲ့လေသည်။ ယင်းဂဏ္ဌိ

---

၁။ သဂြိုဟ်ဂဏ္ဌိသစ်၊ ၆၉။ ၂။ သဂြိုဟ်ဂဏ္ဌိသစ်။ ၁၂၆။

ကျမ်းကြီးကို ခရစ်သက္ကရာဇ် ၁၈၂၀-ခုနှစ်က မန္တလေးမြို့ ရတနသိဒ္ဓိပိဋကတ် ပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက်စာမျက်နှာ ၃၆၄-ရှိလေသည်။ ပုံနှိပ်လုပ်ဆောင်အောင်မြင်ပြီးစီးခြင်း နိဂုံးသမ္ပိုင်းဧကပိုဒ်သက်မှာ အောက်ပါအတိုင်း ဖြစ်သည်။

## ပုံနှိပ်လုပ်ဆောင်အောင်မြင်ပြီးစီးခြင်းနိဂုံးသမ္ပိုင်း ဧကပိုဒ်လင်္ကာ

ရတနာပုံ၊ မြို့ဇေယျာ၏၊ ဝသုန်ဒိသာ၊ ပစ္ဆိမာတွင်၊ ကြေငြာယှက်သန်း၊ ရပ်ဆိုင်းတန်း၌၊ ထူးဆန်းများစွာ၊ ရတနာဟု၊ သညာကိတ္တိ၊ ဘိတ်ဘိတ်ငြိလျက်၊ သိဒ္ဓိသမိုက်၊ ပုံနှိပ်တိုက်ကို၊ မကိုဋ်တန်းဆောင်၊ စန်းငွေရောင်သို့၊ တည်ထောင်လှစ်ဘွင့်၊ တို့ရှင်ပင့်၏၊ သုံးဆင့်ပြတ်စွာ၊ သာသနာဝယ်၊ ရင်းချာမူလ၊ ပဘဝတည်း၊ ဓမ္မပညတ်၊ ပိဋကတ်ကို၊ မပြတ်ခွန့်ရှည်၊ ထွန်းစိမ့်ရည်သား၊ ဤသည့်သမ္ပိုင်း၊ ပတ်လုံ့တိုင်းဖြင့်၊ ကျောင်းလှိုင်းဝှန်ဆူ၊ တံခွန်ထူလျက်၊ နယူပါဠိပိုဒ်၊ လွန်သိုက်မြိုက်၍၊ ဘိုးထိုက်မဏိ၊ရောင်စုံအိသို့၊ ပါဠိဋ္ဌကထာ၊ယောဇနာဟု၊ မြန်မာ့နိဿယ၊ အဝဝကို၊ လွလွဖြူလွင်၊ စက္ကူတင်၍၊ များဖြင်ဗိုလ်လူ၊ ကောင်းချီးကြူလျက်၊ ဆူဆူမခန်း၊ ရေးသူပန်းမျ၊ လျှဒါန်းကြစေ၊ ကောင်းမှုခြွေသည်၊ ဤစေတနာ၊ ဤတေဇာကြောင့်၊ ဤသာ ပကရဏ၊ အဘိဓမ္မတ္တ၊ နာမတင့်ဆန်း၊ ဂဏ္ဌိကျမ်းလည်း၊ လှနန်းထက်စံ၊ ယှဉ်ခိုပ်ပျံ့ကို၊ သူ့ဇံ့တိ၊ ရေးခြယ်ဘိသို့၊ အနက္ခဂုဏ်၊ ပြည့်မွမ်းသုံးသား၊ ဥဿုံသကာလ၊ ပုဒ်ဝါကျနှင့်၊ အက္ခရာပိုလ်၊ မဘောက်ပြန်အောင်၊ ကောသလ်ကာဝိ၊ ဉာဏ်ပဋိတို့၊ သတိသပ္ပဇဉ့်၊ အမြဲယှက်လျက်၊ စီစဉ်ပိုင်းဖြတ်၊ ပြဆင်လတ်သော်၊ ဇောတရသ်ပွင့်၊ ရွှေကြိုးဆင့်က၊ ဖြိုးမြင့်ဇာနည်၊ ဇရထည်သို့၊ ဤသည့်ကပ္ပ၊ ကြာသမျှ၌၊ သာသနတန်းဆာ၊ ရောင်ဝါဠွမ်းဘိတ်၊ ဖြစ်ရာဟိတ်ကြောင်း၊ ပုံနှိပ်လုပ်ဆောင်၊ ရန်မျိုးရှောင်၍၊ အောင်ဇေမင်္ဂလာ၊ ပြီးစီးပါသည်။ ရွှေဝါမျက်ရစ် သင်္ဂီတည်း။

ဤသည်လျှင် ပုံနှိပ်လုပ်ဆောင်အောင်မြင်ခြင်း နိဂုံးသမ္ပိုင်းဧကပိုဒ်လင်္ကာ ဖြစ်သည်။

## ဆရာတော်၏ အနက်ဉာဏ်

ဆရာတော်သည် စာပြောလည်း အလွန်ကောင်းသည်ဟု ယနေ့တိုင် ပရိယတ္တိသာသနလောကတွင် ကျော်စောသံ မသိတ်ပါသေးချေ။ အနက်ဉာဏ်လည်း နိုင်လှ၏၊ ဂမ္ဘီရဆန်လှချေ၏။ ဆရာတော်၏ သဂြိုဟ် ဂဏ္ဌိသစ်၌ သဂြိုဟ်ကျမ်း ဝိထိမုတ်ပိုင်းလာ ပဋိသန္ဓိယ ပနေတ မဒ္ဒုဝံ ဂါထာကို ဆရာတော် လင်္ကာနက်များဖြင့် အောက်ပါအတိုင်း ယောဇနာတော်မူခဲ့လေသည်။ စာရှုသူတို့ အတုယူရာ၏။ ကြည်ညိုရာ၏၊

> ပဋိသန္ဓိယ ပနေတမဒ္ဒုဝံ၊ အဓိဂန္တွာ ပဒမစ္စုတံ ဗုဓာ။
> သုသမုစ္ဆိန္နသိနေဟဗန္ဓနာ၊ သမ မေဿန္တိ စိရာယ သုဗ္ဗတာ။

ဗုဓာ၊ ပစ္စုပ်သံသာ ကျိုးနှစ်ဖြာနှင့် ကိုယ်မှာပြည့်စုံ ကုံလုံကြွယ်ဝရခြင်းကြောင့်သာ ပဏ္ဍိတာဟု သညာတွင်ဘိ ပညာရှိတို့သည်။ အဒ္ဓုဝံ၊ ပလေ့ကမ္မသဘာဝကြောင့် ထိုမှဤမှ တည်မရပဲ ဖောက်လွဲဖောက်ပြန် အဖန်ဖန်လျှင် မြဲမြံနိစ္စ ဓုဝသဘောမရှိသော။ ဧတံ၊ တိုချာချာမပြတ် ပတ်ပတ်လည်လျက် ရထားစက်သို့ ဆက်ကာဆက်ကာ ဖြစ်ဘာတ်စွာသား ဝဋ္ဋတရားကို။ ပဋိသင်္ခါယ၊ ယောနိသော မနသိကာရ သင့်တင့်လှစွာ ဉာဏ်ပညာဖြင့် များစွာကြိမ်ဖန် အတန်တန်လျှင် ရှုဆင်ခြင်၍။ စိရာယ၊ အစမသင် ဆုံးမမြင်ရာ ကြာတင်လှစွာ သံသရာဝယ် ရှည်စွာနေ့ည ကာလပတ်လုံး။ သုဗ္ဗတာ၊ ဒါန၊ သီလ၊ ဘာဝနာနှင့် ဆယ်ဖြာကုသလ ကမ္မဓယုတ် ကိုယ်နှုတ်နှလုံးကို စောင့်သုံးသင့်တင့် အကျင့်စာရိတ္တ ရှိကြကုန်သည်ဖြစ်၍။ အစ္စုတံ၊ မတုန့်လှုပ်နိုင် ကျောက်စာတိုင်သို့ ခန့်ခိုင်မြဲမြံ ကေန်နိစ္စ ဓုဝဖြစ်၍ ရွေ့ခြင်းမရှိသော။ ပဒံ၊ သံသရာ၌ ကြီးစွာဒုက္ခ ကျင်လည်ကြသား အများသတ္တဝါ ဝေနေယျာတို့ တည်ရာအမှန် မြတ်နိဗ္ဗာန်ကို။ အဓိဂန္တွာ၊ မဂ်လည်းလေးတန် ဖိုလ်လေးတန်ဟု ကောန်ကိတိ ဉာဏ်မျက်စိဖြင့် သိမြင်ကုန်၍။ သုသမုစ္ဆိန္နသိနေဟဗန္ဓနာ၊ ရာဂမီးဖြင့် ကြီးစွာလောင်မြဲ တရားညစ်ကြောင့် ချစ်ခြင်း တည်းဟူသော အနှောင်အဖွဲ့ကို ကြွင်းမဲ့ဆုံးဖြတ် မဂ်ဉာဏ်မြတ်ဖြင့် သတ်အပ်ကုန်သည်ဖြစ်၍။ သမံ၊ တဆဲ့တတန် မီးလျှံငြိမ်းရာ ခေမာသောင်ကမ်း နိဗ္ဗာန်နန်းသို့။ ဧဿန္တိ၊ လျင်စွာထုတ်ချောက် ရောက်ကြကုန်လိမ့်သတံ့။ [၁]

---

၁။ သဂြိုဟ်ဂဏ္ဌိသစ်။ ၂၃၄။

ဤကား ဆရာတော်၏ အနက်ဉာဏ် လျင်မြန်ထက်မြက် နက်နဲပုံချိန်ဆ သိရှိနိုင်ရန် ထုတ်ပြချက်အမြွက်တည်း။ ရှင်းပြင် ဤ "ပဋိသင်္ခါယ ပနေတ မဒ္ဒဝံ" စသောဂါထာ၏ ဆန်းကျမ်းလာ ဂိုဏ်းလက္ခဏာနှင့် မကိုက်ညီသဖြင့်-

သ ဂိုဏ်းဦးစွာ၊ ဘနှင့်ရ၊ နောက်မှ လနှင့်ဂ။
ဆန်းကျမ်းမလာ၊ ဤဂါထာ၊ သညာသိခက်လှ--

ဟူ၍ အမည်ပေးပုံ ခဲယဉ်းပုံကို မိန့်ဆိုတော်မူခဲ့လေသည်။ ဆရာတော်သည် သံပေါက်ကဗျာ ကောပိဒ်လင်္ကာ စသည်ရေးသားမှု၌လည်း ကျွမ်းကျင်တော်မူကြောင်း ဘုရားကြီးနိယံ စသည်ဖြင့်လည်း သိသာ၏။ အောက်ပါ ၅၂၈-သွယ် မေတ္တာရေတွက်ပုံ သံပေါက်လင်္ကာဖြင့် သိရာ၏။

## ၅၂၈-သွယ်မေတ္တာ ရေတွက်ပုံ သံပေါက်ကဗျာ

အနောဒိသ၊ ဩဒိသ၊ ထည့်ချပုဂ္ဂလာ။
အဝေရာမှ၊ ရှေးဦးစ၊ မြောက်ကြ တု (န္တု) လေးဖြာ။
လေးဆဲ့ရှစ်ပါး၊ ပုဂ္ဂိုလ်များ၊ မမှားရသည်သာ။
ယင်းကိုတထပ်၊ ဆယ်ပါးရပ်၊ မြှောက်လတ်ပွားပြန်ကာ။
အစွန်းရှစ်ဆယ်၊ လေးရာကယ်၊ ရဖွယ်မှန်လှစွာ။
လေးရာ့ရှစ်ဆယ်၊ သချာ၀ယ်၊ လေးဆယ်ရှစ်ဖြာ ရောလေပါ။
ငါးရာ့နှစ်ဆယ်၊ စွန်းရှစ်သွယ်၊ ပြည့်ဖွယ်မယုတ်ရာ။

## ဘုရားကြီးနိယံကျမ်း

ဆရာတော်သည် ဋီကာနိဿယ ဂဏ္ဌိရေးမှုသာ ကျွမ်းကျင်သည်မဟုတ်သေး၊ နိယံရေးမှု၌လည်း ကျွမ်းကျင်လိမ္မာတော်မူသည်။ ဆရာတော် နိယံအယင်က ခင်ကြီးပျော်၏ တောင်တွင်း နိယံတစောင်သာ ရှိဟန်တူပေသည်။ ဘုရားကြီး နိယံပေါ်လာပြီးနောက်တွင် တောင်တွင်းနိယံကို နိယံဟောင်းဟု ခေါ်ဝေါ်ကြသည်။ နောင်တွင် နိယံကျမ်းတွေ တော်တော်များများ ပေါ်ထွက်လာသဖြင့် နိယံဟောင်းသည် တောင်တွင်းကြီးနိယံဟု တွင်လေသည်။ ဆရာတော်သည် ပါဠိအဋ္ဌကထာ ဋီကာတို့၌ အနက်အဓိပ္ပာယ် အဆုံးအဖြတ်မှတ်ကြောင်း

---

၁။ သဒ္ဒိဝှတ် ဂဏ္ဌိသစ်။ ၃၃၂-၃။

ဖြစ်သောနိယံကျမ်းကို ရေးသားစီရင်တော်မူခဲ့သည်။ မူလအမည်မှာ နိယံသစ် ဖြစ်၏။ နောင်တွင် ရေးသားစီရင်တော်မူသော ဆရာတော်၏ သီတင်းသုံးရာ ဘုရားကြီးကျောင်းတိုက်၏အမည်ကို စွဲ၍ ဘုရားကြီး နိယံဟု တွင်သည်။

ဆရာတော်သည် ယင်း နိယံကျမ်းကို ငယ်စဉ် စာပေကျမ်းဂန်ချစကပင် စတင်၍ တဖြည်းဖြည်း ရေးသားဟန်ရှိပေသည်။ ဆရာတော် ရဟန်းသိက္ခာ ၁၃-ဝါခန့် ရေးသားစီရင်သော သင်္ဂြိုဟ်ဂဏ္ဌိသစ်ကျမ်း၌ ဆရာတော်၏ ဘုရားကြီး နိယံလာ နိယံတချို့ကို တွေ့ရသည်။ သင်္ဂြိုဟ်ဂဏ္ဌိသစ်လာ နိယံတချို့ ဤ၌ ထုတ်ပြဦးအံ့။

ခပ်သိမ်းဝါကျ၊ ဟူသမျှ၌၊ ပဓာနကြိယာ၊ ဖြစ်မြဲသာတည်း။

အ က္က ပစ္စယ၊ ဒုတိယဏော၊ ဤသဘော၊ အဟောပုလ္လိင်သာ။

ဘာဝသာဓနေ၊ ယှဉ်လကာ၊ ကေန္တဆဠီနေ။

အဖြေမြင်က၊ အတင်ထုတ်မြဲ၊ မလွဲဘာသာ ဓမ္မတာ။

နောက်သမုစ္စယ၊ အဖြေပြုမူ၊ ဝေအနက်၊ တဖက်လွတ်ဟန်၊
ကျန်ခဲ့နိုးနိုး၊ ကြိုး၍ဖြေ၏၊ တင်လေ ဝေတ္တ။

သဟယောဂ၊ အဖြေပြုမူ၊ ဝေနှင့်သာ၊ စုဒ်ထုတ်ရာ၏။

ဥပသာရ၊ ရှေ့ဝယ်ကျလျက်၊ နောက်မှနာမ်ပုဒ်၊ ထုတ်၍ရှိရာ၊
ဥပသာရ၊ တကွပုဒ်နှင့်၊ ရောထပ်ဆင့်၊ မသင့်ဝိဂ္ဂြိုဟ်မူ။

ကိတ်ပစ္စယ၊ ဝါစက၊ ဝစ္စလိင်လိုက်လေ။

ဏရဏာသာခ်၊ အမိကရဏာသာခ်၊ နောက်ပုဒ်မှတ်မူ၊ရှေ့ပါ၌
ဆဠီ တွဲမြဲပြီ။

ထွက်ရာမှာစပ်၊ စပ်ရာမှာထွက်၊ အနက်ကျမ်းရိုး၊ မိ၏တည်း။

များပြားစွာလှ၊ သကတ္တတွင်၊ ထင်သည့်သကာတ်၊ စွဲပညတ်မူ၊
မှတ်လော့ အထင်ရှဋ္ဌိသဘောတည်း။

သကတ်တခု၊ အစုများစွာ၊ ဆက်ဆံပါလျက်၊ ထင်ရာစွဲလည်း၊
အမြဲ ဤရှဋ္ဌိပင်တည်း။

နောက်ဝါကျ၌၊ တတ္ထချီလျက်၊ စကားတက်မူ၊ မှတ်ယူဝိတ္ထာရ။

တတ္ထအစွဲ၊ စိတ်မရဲမူ၊ နောက်လွဲအစု၊ အစိတ်ရှု၊ ရောရှုပေါင်း၍စွဲ။

ပဉ္စမံ- တာဝ၊ ရှိကာအမှန်၊ အပါဒါန်နှင့်၊ သမ္ဗန်မလွဲ ထည့်စမြဲ။

ဒြပ်ပေါ်မှာ၊ ဘောဆင့်လာ၊ ဂုဏ်သာ ထိုပုဒ်အရတည်း။

ပရိယာယ် နှစ်ချက်ဆင့်က၊ မြင့်သည့်အနက် ထွက်မြဲ။

အပေါင်းနောက်မှ၊ ပိနှင့်စ၊ ဆည်းကြအစိတ်ကိုသာတည်း။

ဝိသေသန၊ အပ္ပဓာန၊ ဖြစ်လက၊ ဘူတပုဒ်နှင့်ပြုမြဲ။

ခပ်သိမ်းဓာတ်ပင်၊ နက်မထင်က၊ သကတ္တကို၊ ရှေ့ကသွင်းကာ၊
ဘူ ကရေနှင့်၊ ဖွင့်ကာပြလေစမြဲ။

**အထဝါကား၊ အကြောင်းတူ၊ အကျိုးမူကား အပြား၊
အကျိုးတူ၊ အကြောင်းမူကား၊ အပြား။**

ဒွန်၏နောက်ရှေ့၊ ပုဒ်ခလေ့မှာ၊ ပုဒ်တိုင်းသာ၊ ယှဉ်ရာကျမ်းဂန် သဘော
တည်း။

ဟိတ်ဆိုက်လေရာ၊ ကြိယာ၏၊ ကံကတ္တားကို၊ ဟိတ်၏သမ္ဗန်လာမြဲ။

ဘာဝသမ္ဗန်၊ ပုဒ်အမှန်ကို၊ ပြန်ကတွတ္တ၊ နက်ပေးကမူ၊ ဘာဝရှေ့ဖျား၊
ပုဒ်ရှိငြား၊ ကတ္တားရုပ်ကြံလေ။

ဘာဝရှေ့ပုဒ်၊ လာသည့်ပုဒ်၊ မဟုတ်အရတူ။

တံ တွ တ္တာန၊ ပစ္စယ၊ ဏိက၊ ဏိယ၊ ဏိလသာ။

တုသဒ္ဒါဆည်း၊ ခြောက်ပစ္စည်း၊ ကစ္စည်းအရှင် မိန့်လေပါ။

ပစ္စည်းဓာတု၊ နှစ်ခုလုံးမှာ၊ စပ်ရပါ၊ နှစ်ဖြာ ကံကတ္တု။

ဝါကျဦမှာ၊ ဝုတ္တာဝုတ္တ၊ ဖြစ်ပြီးမှလျှင်၊ နိပ္ဖန္နမှာ၊ ဝုတ္တာသာ၊
မြဲစွာ ကံကတ္တား၏သဘောတည်း။

ကေန်အဝုတ္တ၊ ဝါကျဦမှာ၊ ဖြစ်ပြီးခါမှ၊ နိပ္ဖန္နမှာ၊ ဝုတ္တာသာ၊
ဖြစ်လာကရိုဏ်း စသည့်သဘောတည်း။

ဘာဝဟူက၊ ဝါကျနိပ္ဖန်၊ ညီနှစ်တန်မှာ၊ ကေန်ဝုတ္တချည်းသာတည်း။

ကတ္တားဝုတ္တ၊ ပစ္စယဓာတု၊ နှစ်ခုစပ်ရ၊ အဝုတ္တမှာ၊ ဓာတ်တွင်သာ၊
ကံမှာ ငင်းနည်းပင်ပြု။

ကာရကခြောက်ဖြာ၊ စပ်အပ်ရာသည်၊ စပ်ရာချင်းနှင့်မင်း။

ကြိယာမသတ်၊ ရှိတုံလတ်မူ၊ တုလျတ်လိဂ်တ်စပ်လေဟူ၏။

နိပ္ပရာဓ၊ ဒေါသမထင်၊ သန့်ရှင်းစင်သည့်၊ အကြင်သူအား၊
ပြစ်မှားတပြု၊ မကောင်းမှုကား၊ တန္တုပမာ၊ သေညာရှေးရှု၊
လွင့်ခသာမှုလျှင်၊ တူရူမျက်နှာ၊ လွင့်ပြန်လာသို့။

စေဝန္နင့်စ၊ ငုံကြိယမှာ၊ ရှိငလျာ၊ ရှေ့မှာစေဝ၊ နောက်မှာစ၊
ဂါထာဟူက မမြဲကြ။

တပ္ပုရိသ်မှာ၊ ပုဗ္ဗပါ၊ ရုံခါရှေ့ဒ် ပဒါနဲပေတည်း။

လက္ခဏာပုဒ်၊ ထုတ်၍အရာ၊ ရှိသည်မှာ၊ များစွာဟိတ်သည်း ဝင်သတည်း။

အညတြဲ ဝိနာ၊ နိပါတာ၏၊ ယှဉ်ရာမှန်လှ၊ ယင်းပဒတွင်၊ ဒုတ ပဥ္စမီ
သက်မြဲတည်း။

တ ဂိုဏ်းဒွယ၊ ဇ ဂိုဏ်းချ၊ ဝက်နှစ်သိဖုံး။

ဣန္ဒဝဇီရ၊ ဤဂါထာ၊ ခရာဆယ့်ဘလုံး။

ဇ ဂိုဏ်းနှင့်တ၊ စဉ်သင့်ချ၊ ဇ ဂိုဏ်းဂရုနှစ်။

ဥပေန္ဒဝဇီရ၊ ဤဂါထာ၊ ခရာတဆဲ့တစ်။

ဥ ဒု နိနောက်၊ ဒွေးဘော်ရောက်၊ မဖောက်ကျမ်းဝယ်မိန့်။

နိဝဇ္ဇေတဗ္ဗ၊ ဒြပ်ပြ၊ အနုညာတဂုဏ်ထုတ်မြဲ။

နိဝဇ္ဇေတဗ္ဗ၊ ဂုဏ်ဖြစ်က၊ ဒဗ္ဗအနုညာတထုတ်မြဲ။

တဂိုဏ်းဘဂိုဏ်း၊ ဇနှစ်ဆိုင်း၊ ပြိုင်းပြိုင်း ဂရုနှစ်။

ပါဒက္ခရာ၊ စုဒ္ဒသာ၊ သင်္ချာရေတွက်ဖြစ်။

ဝသန္တတိလကာ၊ ဤဂါထာ၊ သညာမှည့်တုံလစ်။

ဤသည်တို့ကား ဆရာတော်ရဟန်း ၁၃-ဝါခန့်က ပြုစုသည့် အဘိဓမ္မတ္ထ သင်္ဂြိုဟ်ဂဏ္ဌိသစ်လာနိယံများ ဖြစ်ကုန်၏။ ယင်းနိယံများတွင် ဘုရားကြီးနိယံ လာနိယံတချို့ ပါရှိလေရာ ဘုရားကြီးနိယံကိုသက်ကော်ယေ်စဉ် ဘုရားကြီးတိုက် (ဒက္ခိဏာရာမတိုက်) မတည်မီကပင် စတင်စီရင်ခဲ့ကြောင်း သိသာသည်။

ဆရာတော်ကား စာပေ၌ ထာဝစဉ် သတိနှင့်ယှဉ်သူ ဖြစ်လေသည်။

ဘုရားကြီး နိယံကျမ်းဦး၌—

"အစိန္တေယျာ နုဘာဝဿ ဟိ သမ္မာသမ္ဗုဒ္ဓဿ ပါဠိနယော အစိန္တေဒယျာ ဟောတိ"ဟူသော ပါဠိနှင့်အညီ ရူပအစိန္တေယျ ဝါစာအစိန္တေယျ ဉာဏအစိန္တေယျ ဣဒ္ဓိအစိန္တေယျ ဤ၄-ပါးသော အစိန္တေယျ အာနုဘော်နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား၏ ပါဠိတော်နည်းသည် ဓမ္မဂမ္ဘီရ အတ္ထဂမ္ဘီရ ဒေသနာဂမ္ဘီရ ပဋိဝေဓ ဂမ္ဘီရ ဤလေးပါးသော ဂမ္ဘီရဟု ဆိုအပ်သော အစိန္တေယျ ဂုဏ်နှင့် ပြည့်စုံ၏။

သဒ္ဒဂမ္ဘီရ အတ္ထဂမ္ဘီရ သဒ္ဒတ္ထာဂမ္ဘီရ အဓိပ္ပါယဂမ္ဘီရ ဤလေးပါးသော ဂမ္ဘီရဟု ဆိုအပ်သော အစိန္တေယျဂုဏ်နှင့်လည်း ပြည့်စုံ၏။ ဤသို့ အစိန္တေယျ အာနုဘော်နှင့် ပြည့်စုံတော်မူသော ဒေသက မြတ်စွာ ဘုရား၏ အစိန္တေယျဂုဏ်နှင့်ပြည့်စုံသော ဒေသေတဗ္ဗ ဓမ္မပါဠိတော် နည်းကို ကောင်းစွာ သိစိမ့်သောငှါ ရှေးဆရာမြတ်တို့၏ နည်းနာ နယဥပဒေသတို့ကို အမှီပြု၍ ပါဠိ အဋ္ဌကထာ ဋီကာ ကျမ်းတို့၌ အနက်အဓိပ္ပာယ်အဆုံးအဖြတ်ကို မှတ်ကြောင်းဖြစ်သော နိယံ၊ လင်္ကာ၊ သံပေါက်စာကို ကောင်းစွာ ရေးသားထားပေအံ့။ သဒ္ဒါတရားကို ရှေးသွားပဗ္ဗင်မပြု၍ သောတုဇနအပေါင်းတို့သည် ကောင်းစွာ ကြည့်ရှု လျက် နှုတ်တက်အာဂုံဆောင်စေကုန်သတည်း—ဟူသော မြန်မာစကား ပြေဖြင့် ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။

ဘုရားကြီး နိယံကျမ်း၏ အဆုံး၌လည်း—

"တောင်ဘက် ကိုးသင်းမြေ မိထိလာမြို့ နယ်ပယ်ဝိုက်ရာ အဝင်အပါ ကမ္ဘူရွာဇာတိရှိသော ဇာဂရဟူသော အမည်ဖြင့် ဘွဲ့ချည်သတ်မှတ်ခေါ်ဝေါ် အပ်သော ငါသည် များစွာသော စာသင်သားတို့အား သုံးပါးသော သာသနာတို့တွင် ပရိယတ္တိ သာသနာဟု ဆိုအပ်သော ပါဠိ အဋ္ဌကထာ ဋီကာ ကျမ်းနည်းတို့၌ လိမ်မာစေလို၍ ထိုသို့ကျမ်းတို့မှ ထုတ်နုတ်စီရင်အပ်သော နိယံသစ်ကားပြီး၏"ဟူ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

ဖော်ပြပါ နိယံသစ်(ဘုရားကြီးနိယံ)ကျမ်း၌—

"ပါဠိသော၊ ဒူရဘာတွေ၊ ဝိဓသဝိသေသ်၊ ရှေ့ဖြစ်နောက်ပြန်၊ ဤသုံးတန်ကြောင့်၊ သမ္မန္ဓာကို၊ သဘောကျမ်း၌ထားမြဲတည်း"အစ–
"ဣဒအာဣရာ၊ အာဒိဉ်ပါလတ်၊ ယင်းသည့်ခါတတ်မှာ၊ ဝိန္ဒုလာ"အဆုံး

နိယံပုဒ်ပေါင်း ၂၅၃-ပုဒ် ပါရှိလေသည်။

ယင်း ဘုရားကြီးနိပါတ် အဖြေကျမ်းကို မိတ္ထီလာမြို့နယ် ခင်လူးရွာဇာတိ အရှင်ကဝိဓဇမထေရ်၏ ပြုစီရင်ခဲ့သည်။

## မင်းတုန်းမင်းတရား ရှေးဦးစွာ ပိဋကတ်တော်ကို ပေထက်အက္ခရာ တင်စေတော်မူခြင်း

"အင်္ဂါဦးလှင် ပဌမ သံဂါယနာတင်" ဟူသည်နှင့်အညီ သက္ကရာဇ် ၁၂၁၄-ခုနှစ်တွင် မင်းအဖြစ်သို့ ရောက်တော်မူသော မင်းတုန်းမင်းတရားသည် မင်းအဖြစ်သို့ ရောက်တော်မူပြီး ၄-နှစ်အကြာ ရတနာပုံ မန္တလေးမြို့တော် မတည်မီ ၁၂၁၈-ခုနှစ် တန်းခူးလဆုတ် ၈-ရက်နေ့တွင် အမရပူရမြို့နန်းတော်အတွင်း ပိတ်ရမတီခါသာ ကတ္တီပါမော်ရော်တို့ဖြင့် မွှမ်းမံလျက် အလှန်လျှင်ရှချင်စဖွယ်ဘင့်တယ်လှစွာသော မင်္ဂလာမဟာပိဋကတ်တန်ဆောင်းတော်ကို ဆောက်လုပ်၍ တူရိယာ ၅-မျိုးတို့ကို အသီးသီး တီးမှုတ်စေ၊ ကချေသည် အသီးအသီးတို့ကို ကစေလျက် အထောင်မကသော ဗိုလ်မှူးသူရဲသူခက်အပေါင်း ခြံရံလျက် တောင်ညာနန်းနေ မဟေသီမိဖုရားခေါင်ကြီးနှင့်တကွ မင်္ဂလာပိဋကတ်တန်ဆောင်းတော်သို့ ထွက်စံတော်မူပြီးလျှင် "ဥဒယျဓမ္မာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု၊ ဥဒယျဓမ္မာဘိဝံသ သီရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်၊ "ဥဒယျဓမ္မာဘိမုနိဝရညာဏာဘိဇ္ဈသိရီဓဇဓမ္မ သေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်အားဖြင့် ဘွဲ့တံဆိပ်တော် ၃-ထပ်ရ သာသနာပြု သံဃဦးကိုင်သာသနာပိုင်ဆရာတော်ဘုရားကြီး အမှူးရှိသော အရာမကများစွာသော တံဆိပ်တော်ရဆရာတော် သံဃာတော်တို့အား သင်္ကန်းသပိတ် ပရိက္ခရာများ လှူဒါန်းပူဇော်ပြီးလျှင် သာသနာပိုင်ဆရာတော် ဘုရားကြီးနှင့်တကွ အရာမကများစွာသော တံဆိပ်တော်ရ ဆရာတော် သံဃာတော်တို့ကို ကြပ်မစေလျက် အရာမကသော စာရေး ဟတ္ထကံ လူဘို့အားလည်း ဖောင်းနားတောင်းဂတ်ရံ ဆင်ယင်စေပြီးလျှင် ကောင်းမြတ်သော မင်္ဂလာအခါတော်၌ တပြိုင်နက် အမြောက်သံပေး၍ ရေးကူးကြသည်။

## စာကြပ်ဆရာတော်များ

ဤသို့ဖြင့် ၃-ရက်မြောက်နေ့တွင် သံဃဦးကိုင် သာသနာပိုင်ဆရာတော်ဘုရားကြီးထံ "သတ္တိဗျတ္တိစွယ်စုံ၍သော ပုဂ္ဂိုလ်တို့ကို မင်္ဂလာ ပိဋကတ်တန်ဆောင်းတော်၌ အကြပ်အမထားတော်မူပါဟု" လျှောက်ထားသဖြင့်—

၁။ မဟာအဘယာရုံတိုက်နေ အင်းကန်းရွာဇာတိ "ပညာဘိဓဇ မွောလက်ာရမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ အင်းကန်းဆရာတော်၊

၂။ မဟာအဘယာရုံတိုက်နေမိတ္ထီလာ[1]မြို့ဇာတိ "ဉာဏမဥ္ဇူသာဓမ္မာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိတ္ထီလာ ဆရာတော်၊

၃။ မဟာအဘယာရုံတိုက်နေဗန့်ကျီတိုက်ဇာတိ "ဇာဂရဓမ္မပရမကိတ္တိမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဗန့်ကျီဆရာတော်၊

၄။ မဟာဝိဇိတာရုံတိုက်နေ စည်ပုတြာမြို့ဇာတိ "သိရိပရမာလင်္ကာရဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စည်ပုတြာဆရာတော်၊

၅။ မဟာဝိဇိတာရုံတိုက်နေ မင်းတဲရွာဇာတိ "ဥတ္တမာစာရ ပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မင်းတဲဆရာတော်၊

၆။ မဟာဝိဇိတာရုံတိုက်နေ မောင်းထောင်ကြီးရွာဇာတိ "ပညာသာမိသိရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မောင်းထောင်ဆရာတော်၊

၇။ မဟာဝိဇိတာရုံတိုက်နေ ပုခန်းကြီး[2] မြို့ဇာတိ "သုဒဿနဝရ ဓမ္မသာမိမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ပုခန်းကြီးဆရာတော်၊

၈။ မဟာဝိဇိတာရုံတိုက်နေ စလင်းမြို့ဇာတိ "ကလျာဏဇောတ သာသနဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စလင်းဆရာတော်၊

၉။ မဟာဝိဇိတာရုံတိုက်နေ မက္ခရာမြို့ဇာတိ "အာစာရာရမ္မ ကဝိဓဇဉာဏ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မက္ခရာဆရာတော်၊

၁၀။ မဟာဝိဇိတာရာမတိုက်နေ သစ်ဆိမ့်ကြီးရွာဇာတိ "သေဠသာရ ဓမ္မပါလကိတ္တိ မဟာဓမ္မ ရာဇာဓိရာဇ ဂုရု" ဘွဲ့တံဆိပ်တော်ရ သစ်ဆိမ့်ကြီးဆရာတော်။

သံဃာ့ဦးပိုင်သာသနာပိုင်ဆရာတော်ဘုရားကြီးသည် ဖော်ပြပါ ရာဇာဓိရာဇမင်းဆရာဟု ထင်ရှားသည့် စာပေကျမ်းဂန်တတ် ဆရာတော် ၁၀-ပါးတို့ကို မင်္ဂလာပိဋကတ်တန်ဆောင်း၌ အကြပ်အမထားတော်မူသည်။

---

[1] ထိုစဉ်က မိတ္ထီလာကို မိဗိလာဟု ရေးသည်။
[2] ပခန်းကြီးဟုလည်း ပ-၌ ဥ-မပါပဲလည်း ရေးကြသည်။

## ကြပ်မကြည့်ရှုပြင်ဆင်တော်မူခြင်း

ဖော်ပြပါ ပိဋကတ်အကြပ်အမ ဆရာတော် ၁၀-ပါးတို့သည် အသီးအသီး ဆရာတော်များသုတ်သင်၍ သွင်းလာသော စာမူတို့ကို တဖန်ယူ၍ ကစ္စည်း သဒ္ဒါကြီး၊ မောဂ္ဂလ္လာန်၊ ချာသ၊ ရူပသိဒ္ဓိ၊ သဒ္ဒနီတိ၊ အဘိဓာန်၊ ဋီကာ အစရှိသော ဂန္ထန္တရတို့နှင့် ဘဏ္ဍာ၊ တာလုဇ အစရှိသော ဌာန်၊ သိထိလ၊ ဓနိတ၊ ဒီဃ၊ ရဿ-အစရှိသော ပုဒ်တို့ကို သုတ်သင်၍ အယုတ်အားဖြင့် ပိုဒ်မပိုဒ်သေးကိုမျှ မချွတ်ယွင်းစေပဲ ကြည့်ရှုပြင်ဆင်တော်မူကြသည်။

သာသနာ့ဒါယကာ မဟာဓမ္မရာဇ်မင်းမြတ်ကလည်း မင်္ဂလာအိမ်တော်ဝယ် စံနေတော်မူစဉ်ကပင် ချီးမြှောက်ပြုစု၍ ထားသော သောင်သာမြို့စား ဒိသာ ပါမောက္ခဆရာ ကြာပင်မြို့စား ရတနာ လေ့ကားတော်မှူး သံတော်ဆင့် မင်းလှသီရိဇေယျာသူတို့ကို အထက်ဖော်ပြပါ ဆရာတော် ၁၀-ပါးနှင့် အတူ တကွ အကြပ်အမ ထားတော်မူသည်။

သာသနာ့ဒါယကာ ရေမြေ့ရှင်မင်းတရားသည် အလွန်လျှင်ပုဒ်ပါဠိအက္ခရာ တို့ကို မတိမ်းမယိမ်းစေလို၍ ဤမျှလောက်သော ဓမ္မာနုဂ္ဂဟကုသိုလ်ကို ပြု၍ ငါ၏ အနီးအပါးတွင် ထား၍ အာရုံပြုရခသော် ကုသိုလ်စိတ္တုပ္ပာဒ်ဘိုးထပ်ကာ မပြတ်တိုးပွားတုံလစ် ဖြစ်ရာ၏ဟု နှလုံးပိုက်တော်မူလျက် စာရေးဟတ္ထကံတို့ကို ရွှေနန်းတော်သို့ ဟင်၍ စံတော်မူရာ အနီးအပါးတွင်သာ ရေးကူးစေတော် မူသည်။

၎င်းပြင် အမရပူရ ရွှေမြို့တော်အတွင်း အရပ်ရပ်သော လူပညာရှိတို့ကို ခေါ်စေတော်မူ၍ လက္ခဏာရိက္ခာ ပေးသနားတော်မူပြီးလျှင် စာတည်းဆရာ တော်တို့ကို မတည်းဖြတ်မီ အထံတော်ပါတွင်လည်း အဖန်ဖန်တည်းဖြတ်စေ တော်မူသည်။

"ရှေးရှေးစာပြင်ဆရာ စာတည်းဆရာတို့ မမြင်၍ ပုဒ်ပါဠိအက္ခရာပိုဒ်သေး ပိုဒ်မ တစုံတရာကျပေါက်သည်ကို တွေ့မြင်၍ ပြင်နိုင်သော နောက်နောက် စာတည်းစာပြင်တို့အား ဆုလာဘ် ပေးသနားချီးမြှင့်တော်မူမည်။ ရှေးရှေး စာပြင်စာတည်းတို့အား ရာဇဒဏ်ထားတော်မူမည်"ဟု အမိန့်တော် ထုတ်ပြန် စေတော်မူလျက် အလွန်သေချာ ကျနစွာ သုတ်သင်ပြင်ဆင်တည်းဖြတ်စေတော် မူခဲ့လေသည်။

၎င်းပြင် စာရေးဟတ္ထက စာတည်း စာပြင်တို့အား ပုဆိုးအဝတ်အထည် အလိပ် နဝရတ်လက်စွပ် စသည်တို့ကိုလည်း လက်မှုအခမှတပါး အပိုဆုလာဘ်

ချီးမြှင့်တော်မူသည်။ စာရေးဟတ္ထကံ လူတို့အား တအင်္ဂါလျှင် တဘာပြာကျ လက်မှုအခ ပေးသနားတော်မူသည်။

## ဆရာတော်များ သုတ်သင်တင်သွင်းတော်မူကြခြင်း

တိုင်းပြည်အတွင်း ပရိယတ္တိ စာပေအရာတတ်မြောက်သည်ဟု ကျော်စော ကိတ္တိရှိတော်မူသော ဆရာတော်တို့ကိုလည်း သင့်တော်ရာ ပိဋကကျမ်းဂန်များ ကို ဆက်ကပ်ပြင်ဆင်စေ၍ ပြန်ပို့အပ် တင်သွင်းတော်မူကြရကုန်၏။

## သုတ်သင်သောကျမ်းဂန်နှင့် ဆရာတော်များ

ပိဋကတ် ၃-ပုံအနက် သုတ္တန်ပိဋကတ်တွင် မဇ္ဈိမနိကာယ် ၃-ကျမ်း ပါဠိ အဋ္ဌကထာ၊ မဟာနိဒ္ဒေသ ပါဠိအဋ္ဌကထာ၊ ပဋိသမ္ဘိဒါမဂ္ဂ ပါဠိအဋ္ဌကထာ တို့ကို "ဥေယျမွောဘိမုနိဝရဉာဏ ကိတ္တိသိရီဓဇ ဓမ္မသေနာပတိ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော် အစရှိသော ဘွဲ့တံဆိပ်တော် ၃-ထပ်ရ သာသနာပိုင် မောင်းထောင်ဆရာတော်ဘုရားကြီး အရှင်ဥေယျမဟာထေရ်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

ဒီဃနိကာယ် ၃-ကျမ်း ပါဠိအဋ္ဌကထာကို "မေဓာလင်္ကာရပရမဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု"ဟူသော ဘွဲ့တံဆိပ်တော်နှင့် "မေဓာဘိဝံသသဒ္ဓမ္မ ဓဇ မဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်တို့ကို ရရှိတော်မူသော ညောင်ကန် (ပြည်)ဆရာတော်ဘုရားကြီးက သုတ်သင် ပြင်ဆင် တင်သွင်းတော်မူသည်။

သံယုတ္တနိကာယ် ၅-ကျမ်း ပါဠိအဋ္ဌကထာကို "မဏိဇောတာလင်္ကာရ မဟာဓမ္မ ရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်၊ "မဏိဇောတာဘိသိရီသဒ္ဓမ္မ ဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု"ဟူသော ဘွဲ့တံဆိပ်တော်နှင့်"မဏိဇောတ သဒ္ဓမ္မာ လင်္ကာရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော် ၃-ထပ်ရ ခင်မကန် ဆရာတော်က သုတ်သင် ပြင်ဆင် တင်သွင်းတော်မူခဲ့လေသည်။

အင်္ဂုတ္တရနိကာယ်တဆဲ့တကျမ်း ပါဠိတော် အဋ္ဌကထာကို "ပညာဇောတာ ဘိသိရီပဝရဝိဇယာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"စသော ဘွဲ့တံဆိပ်တော် ၅-ထပ်ရ ဒုတိယ ဗားကရာဆရာတော်ဘုရားကြီး[၁]က သုတ်သင် ပြင်ဆင် တင်သွင်းတော်မူသည်။

---

၁။ ၎င်းဆရာတော်သည်"တိပိဋကာ လင်္ကာရ သိရီဓဇမဟာဓမ္မ ရာဇဂုရု"ဘွဲ့တံဆိပ် တော်ရ ပဌမ ဗားကရာဆရာတော် အရှင်ဓမ္မာဘိနန္ဒကို ထောက်၍ ဒုတိယ ဗားကရာဆရာတော်ဟု တွင်သည်။

ဝိမာနဝတ္ထု ပါဠိအဋ္ဌကထာ၊ ပေတဝတ္ထု ပါဠိအဋ္ဌကထာ၊ နေတ္တိပါဠိ အဋ္ဌကထာ၊ ပေဋကောပဒေသ ပါဠိတို့ကို "ဇာဂရရွှေသင်္ခမ္မာလက်ာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်ရ မိတ္တိလာ (မိတ္တိလာ) ဆရာတော်က သုတ်သင် ပြင်ဆင် တင်သွင်းတော်မူသည်။

ခုဒ္ဒကပါဌ ပါဠိ အဋ္ဌကထာကို "ပညာသိဟ သာသနာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

ဓမ္မပဒ ပါဠိအဋ္ဌကထာ၊ ဥဒါန ပါဠိအဋ္ဌကထာ၊ ဣတိဝုတ္တက ပါဠိအဋ္ဌကထာ၊ သုတ္တနိပါတ ပါဠိအဋ္ဌကထာတို့ကို နေမျိုးဓမ္မကျော်ထင် ဘွဲ့မည်နာမံ ရှိသော လူပညာရှိ ကဝိသုခမိန်က သုတ်သင်ပြင်ဆင် တင်သွင်းသည်။

ဗုဒ္ဓဝံသ ပါဠိအဋ္ဌကထာ၊ စရိယာပိဋက ပါဠိအဋ္ဌကထာတို့ကို နေမျိုးဓမ္မသကြီး ဘွဲ့မည်နာမံရှိသော လူပညာရှိ ကဝိသုခမိန်က သုတ်သင် ပြင်ဆင် တင်သွင်းသည်။

ထေရဂါထာ ပါဠိအဋ္ဌကထာ၊ ထေရီဂါထာ ပါဠိအဋ္ဌကထာ၊ အပဒါန ပါဠိအဋ္ဌကထာတို့ကို မဟာဓမ္မသကြီးဘွဲ့ အမည်ရှိသော မင်းတိုင်ပင် ပညာရှိ ကဝိသုခမိန်က သုတ်သင်ပြင်ဆင် တင်သွင်းသည်။

ဖော်ပြပါ သုတ္တန် ပိဋကတ် ပါဠိအဋ္ဌကထာကျမ်းများကို မင်းတရားကိုယ်တိုင် ကြီးမှူးကြပ်မတ်၍ ရေးကူးတော်မူသည်။ မင်းတရားသည် သို့စဉ်ကလောက် စာပေပိဋကတ်ကို မြတ်နိုးရိုကျိုးတော်မူသည်။

ဝေဠု မင်းတုန်းသုရာဇ-ရာဇာ ပဏ္ဍိတဇာတိကော။
သာဋ္ဌကထေ ပိဋကေပိ၊ သတတံ အာဒရော ဟိ ခေါ။

အဘိဓမ္မာပိဋကတ်တွင် ဓမ္မသင်္ဂဏီ ပါဠိအဋ္ဌကထာကို "မုနိန္ဒပရမဓမ္မသိရီ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ စကုတိုက်ဆရာတော်က သုတ်သင် ပြင်ဆင်တင်သွင်းတော်မူသည်။

ဝိဘင်္ဂ ပါဠိအဋ္ဌကထာကို "တေဇိန္ဒာဘိဉာဏသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

ပုဂ္ဂလပညတ်ပါဠိအဋ္ဌကထာကို အမရပူရမြို့တော် ပြည်တိုက်နေ ဂဏဝါစက စာချဆရာတော် အရှင်နန္ဒိယ၊ အရှင်ပညာသိရီတို့က သုတ်သင် ပြင်ဆင် တင်သွင်းတော်မူကြသည်။

ကထာဝတ္ထုပါဠိတော်ကို "ကဝိန္ဒာဘိ အရိယာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ငါးစီးတိုက်ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

ယမကပါဠိ အဋ္ဌကထာကို "ဉာဏကိတ္တိယတိသာရ ဓမ္မမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆင်တဲတိုက်ဆရာတော်နှင့် "သာဂရဓမ္မသိရိပဝရမ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆင်ပဲတိုက် ဆရာတော်တို့က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူကြသည်။

ပဋ္ဌာနပါဠိ အဋ္ဌကထာကို "ဇမ္ဗုဒီပဓဇမုနိဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မာရ်အောင်တိုက် ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

ဤဖော်ပြပါ အဘိဓမ္မာ ပိဋကတ် ပါဠိအဋ္ဌကထာတို့ကို တောင်နန်းမတော် မိဖုရားခေါင်ကြီးက ကြီးမှူးကြပ်မ ရေးကူးစေတော်မူသည်။ မိဖုရားကြီးသည်လည်း အလွန်လျှင် ရတနာသုံးတန် ကံ ကံ၏အကျိုးကို ယုံကြည်လေးမြတ် ပိဋကတ်စာပေကျမ်းဂန်တို့ကိုလည်း ကြည်ညိုသည့် အမျိုးသမီးကောင်း ဖြစ်လေသည်။

သုရာဇရာဇဒေဝီပိ၊ ပသန္နာ ရတနတ္တယေ။
ကမ္မကမ္မဖလေ ပေဋ္ဌက-ဓမ္မေသူပိ ကတာဒရာ။

ဝိနည်းပိဋကတ်တွင် ပါရာဇိကပါဠိ အဋ္ဌကထာကို "ပညာသာမိကဝိသာရဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဘုံကျော်တိုက်ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူခဲ့လေသည်။

ပါစိတ္တိယ ပါဠိအဋ္ဌကထာကို "ဝီရိယဝရ အရိယစံသ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မင်းအိုတိုက်ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

မဟာဝါ ပါဠိ အဋ္ဌကထာကို "ကေတုဓမ္မဝရာလင်္ကာရ ဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ အောင်မြေရွှေဘုံတိုက် ဆရာတော်က သုတ်သင်ပြင်ဆင် တင်သွင်းတော်မူသည်။

---

၁။ မန္တလေးသာသနာဝင်၊ ပဌမတွဲ။ ၂၄၂ လည်းကြည့်။

စူဠဝဂ္ဂပါဠိအဋ္ဌကထာကို "ပညာသီဟာဘိမုနိ သဒ္ဓမ္မ မဟာဓမ္မ ရာဇာဓိရာဇ ဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော်က သုတ်သင် ပြင်ဆင် တင်သွင်းတော် မူခဲ့လေသည်။

ပရိဝါရပါဠိ အဋ္ဌကထာကို "အရိယဝံသသဒ္ဓမ္မဓဇာသ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုးသိတိုက် ဆရာတော်က သုတ်သင် ပြင်ဆင် တင်သွင်းတော်မူသည်။

ဤဝိနည်းပိဋက ပါဠိ အဋ္ဌကထာကျမ်းဂန်များကို အိမ်ရှေ့နန်းလျာ မဟာ ဥပရာဇာက ကြီးမှူးကွပ်ကဲကြပ်မ ရေးကူးစေသည်။ အိမ်ရှေ့နန်းလျာ ဥပရာဇာ သည်လည်း ဘုရားမြတ်စွာ သာသနာကို ကြည်ညိုလေးမြတ်သည့် ပုဂ္ဂိုလ် ဖြစ်သည်။

## စာထုပ်ပေါင်း ၂၀၀-ကျော်

ယင်းသို့ ဆရာ ဒကာ တက်ညီလက်ညီဖြင့် ကြိုးပမ်းကြ၍ ပိဋကတ်သုံးပုံကို ရွှေရေး၊ မင်ရေး၊ ကညစ်ရေးဖြင့် ကူးစေခဲ့သော ပေထုပ်ပေါင်း ၂၀၀ (နှစ်ရာ)ကျော်၊ စာအင်္ဂါပေါင်း ၂၀၀၀၀ (နှစ်သောင်း)ကျော်သော ဟူ၏။

ဖော်ပြပါ စာပေထုပ်ပေါင်း ၂၀၀-ကျော်တို့ကို အောက်ဖော်ပြပါ ရွှေစာနိဂုံး၊ ကုသိုလ်တော်ပေရေး ပိဋကတ် ရွှေစာနိဂုံး စာတမ်းတို့ ပါရှိသော စာထုပ်ကြိုးတို့ကို ရက်စေ၍ ပေထုပ်ပဝါ ပေထုပ်အထည်တို့ဖြင့် ထုပ်စေတော် မူပြီး ပိဋကတ်တိုက်တော်သို့ သွင်းစေ၍ ပူဇော်တော်မူခဲ့လေသည်။ အလို ရှိသော ပုဂ္ဂိုလ်များ စနစ်တကျထုတ်ယူ၍ ကြည့်ရှုနိုင်ရန်လည်း စီမံတော် မူသည်။

## မင်းတုန်းမင်းတရား၏ ရွှေစာနိဂုံး

အထူးထူးသော တိုင်းကြီးပြည်ကြီး ထီးဆောင်းမင်းအပေါင်းတို့ကို အစိုးရ တော်မူသော ဘုန်းတော် အလွန်ကြီးမြတ်တော်မူလှသော ရေမြေ့အသျှင် ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် လက်နက်စကြာသခင် အသျှင်ဘဝရှင်မင်း တရားကြီးဘုရားသည် သက္ကရာဇ် ၁၂၁၄-ခု၊ တပေါင်းလဆန်း ၁၁-ရက် ၅-တေးနေ့ ရွှေထီးရွှေနန်းနှင့်တကွ တိုင်းပြည်အလုံးကို သိမ်းအုပ် စိုးစံတော် မူလျှင် သာသနာတော် ၂၃၉၈-ခု ဂေါဇာသက္ကရာဇ် ၁၂၁၆-ခု နယုန် လပြည့်ကျော် ၆-ရက် ၆-ကြာနေ့ "သီရိပဝရသုဓမ္မ မဟာရာဇာဓိရာဇာ

သီရိပဝရမဟာရာဇိန္ဒာရတနာဒေဝီ'' မင်းမိဖုရား ၂-ပါး တံဆိပ်နာမံ ခံတော်မူလျက် အမရပူရ ရွှေပြည်တော်ကြီး ထီးနန်းဉကင်သ ဖွင့်တော်မူသည်။

မြတ်စွာဘုရား သာသနာတော်မြတ်ကို ချီးမြှောက်ပြုစုခြင်းအရာ၌ သူမတူသော သဒ္ဓါပုဗ္ဗင်္ဂမ အတိပရက္ကမ ဉာဏာဟတို့ဖြင့် ရှေးသင်္ဂါယနာတင်သော သာသနာပြု အဇာတသတ်မင်း ဆောက်လုပ်အပ်သော ပဌမသင်္ဂါယနာတင် မဏ္ဍပ်ကြီးကဲ့သို့ ရွှေဘုန်းတော်ပြု ဥတုသမုဋ္ဌာန်ဖြစ်သော ရွှေနန်းတော်အတွင်း ကောင်းမွန်ဆန်းကြယ်စွာသော မင်္ဂလာ ရတနာတန်ဆောင်း မဏ္ဍပ်တော်ကြီး၌ သာသနာတော်နှစ် ၂၄၀၀၊ ဂေါဇာသက္ကရာဇ် ၁၂၁၈-ခုနှစ် အကူးတန်ခူးလဆန်း ၁၀-ရက်နေ့ကစ၍ ရှင်ဘော်ဘုရား မှာပေါ်တော် ဖြစ်သော ပိဋကတ်သုံးပုံကို သာသနာတော် ၅၀၀၀-တည်ထွန်းစေခြင်းငှာ ''တိပိဋက ဓရ ဓမ္မသေနာပတိ'' ဖြစ်သော သာသနာပြု ဆရာတော်ကြီး အမှူးရှိသော တံဆိပ်တော်ရ စာမဆရာတော် သင်္ဃာတော်တို့ကို ပုဒ်ပေါ်အက္ခရာ သဒ္ဒါ အနက် မပျက်မစီး မှတ်မိမယိမ်း မှန်ကန် သေချာစွာ သဝေပိုဒ်မျှ မယွင်း မကျစေရ ကြပ်မကြည့်ရှု ပြင်ဆင်တည်းဖြတ်စေပြီးလျှင် ကြီးကျယ်လှစွာသော ရွှေနန်းတော်ကြီးထက် စံတော်မူရာ မှန်နန်းတော်အတွင်း အသျှင် ၂-ပါး ကိုယ်တော်တိုင် ကြပ်မ ကြည့်ရှုတော်မူ၍ ရွှေရေး၊ မင်ရေး၊ ကညစ်ရေး ၃-ရပ်တို့ဖြင့် ရေးသား ပြုစုတော်မူသည်။

သာသနာတော် ၂၄၀၁-ခု ဂေါဇာသက္ကရာဇ်[^1] ၁၂၁၉-ခု ကဆုန်လပြည့်ကျော် ၇-ရက် ၅-တေးနေ့ မင်းသာမန်တို့ ခံ့ခံ့ခဲသော ခရုသင်း ၃-လုံးဖြင့် ဦးထိပ်နှိုက်(၌) စိုက်၍ သွန်းအပ်သော ရာဇာဘိသေက မုဒ္ဒါဘိသိက်ကို သွန်းခံတော်မူသည်။

''သီရိပဝရ ဝိဇယာနန္ဒ ယသ ပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ၊ သီရိပဝရ မဟာရာဇိန္ဒာဓိပတိ ရတနာဒေဝီ'' တံဆိပ်နာမံတော်ရှိသော အသျှင် ၂-ပါး ကောင်းမှုတော်။

## မင်းတုန်းမင်းတရားကြီး၏ ရွှေစာနီဂုံးတမျိုး

စကြာရွှေရည် သေးကျွန်းတည်သော အုန်းစည်စက္ကဝတ်မင်းကဲ့သို့ကျင့်ခြင်း ၁၂-ပါး တရားမြဲဟူမစို ကိုယ်တော်သုံးစုံ ထုံးတော်မူလျက် ကနက်ဖြန့်ပိုက်

[^1]: ၁။ မှူရင်းအတိုင်းဖော်ပြသည်၊ ယခုခေတ် ဋ္ဌကောဇာဟု ဋ္ဌေးကြသည်။

ကျွန်းကျွန်းတိုက်ကို သိမ်းပိုက် စိုးမိုးတော်မူနိုင်သော ပုဗ္ဗေကတပုညတာ စက်သမ္ဘာရှင် ဖြစ်တော်မူ၍ ဘုန်းရှိသော မင်းတို့ထက် လွန်သော ဘုန်းရှိတော်မူသော အသျှင်ဘဝရှင် မင်းတရားကြီး ဘုရားသည် သဗ္ဗညုဘုရား ဗျာဒိတ် ကြားရှိတော်မူခဲ့သည့်အတိုင်း တောင်စဉ် ခုနစ်ထပ်နှင့် တူသော ရွှေတောင် ငွေတောင် ပတ္တမြားတောင် ဆေးဒန်တောင်စသော တောင်တို့ဖြင့် ခြံရံသော မြင်းမိုရ်တောင်မင်းနှင့် တူသော မန္တလေးတောင်အနီး တာဝတိံသာ နတ်မြို့နှင့်တူသော ရတနာပုံ ရွှေမြို့တော်ကြီးနှင့်တကွ အထူးထူးသော တိုင်းကြီးပြည်ကြီး ထီးဆောင်းနန်းနေ မင်းအပေါင်းတို့ကို အစိုးရတော်မူသော ငွေတောင်အဆင်း ခရုသင်းပွတ်သစ် ပုလဲနှစ် သဏ္ဍာန်ကဲ့သို့ ကိုယ်လုံးဖွေးဖွေးဖြူသော နိဗ္ဗာနပစ္စယနာဂါ ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် ရတနာပုံမြို့တည် နန်းတည် အသျှင်ဘဝရှင်မင်းတရားကြီးဘုရား အမရပူရမြို့တော်၌ စံတော်မူစဉ် သက္ကရာဇ် ၁၂၁၄-ခု တပေါင်းလဆန်း ၁၁-ရက် ၅-ဆောင်း နေ့ ရွှေထီးရွှေနန်း သိမ်းမြန်းစိုးစံတော်မူသည်။

သာသနာတော် ၂၃၉၈-ခု၊ ဂေါဇာသက္ကရာဇ် ၁၂၁၆-ခု နယုန်လပြည့်တော် ၆-ရက်နေ့ ဂုဏ်ကျေးဇူးအပေါင်းဖြင့် လွန်ကဲထူးမြတ်သော မဟာဥကင်သဖွင့်တော်မူ၍ "သီရိပဝရသုဓမ္မ မဟာရာဇာဓိရာဇာ၊ သီရိပဝရ မဟာရာဇိန္ဒာ ရတနာဒေဝီ" အသျှင် ၂-ပါး လက်မွန်မဆွဲ ပဌမတံဆိပ် နာမံ ခံတော်မူပြီ လျှင် ရွှေးသက်ါယ ဘေး သာသနာပြုဥတုသမုဋ္ဌာန်ဖြစ်သော ရွှေနန်းတော်အတွင်း ကောင်းမှုဆန်းကြယ်စွာ ဆောက်လုပ်မွမ်းမံခြယ်လှယ်သော မင်္ဂလာရတနာ တန်းဆောင်း မဏ္ဍပ်တော်ကြီး၌ သာသနာတော် ၂၄၀၀၊ ဂေါဇာသက္ကရာဇ် ၁၂၁၈-ခုနှစ်အကူး တန်ခူးလဆန်း ၁၀-ရက်နေ့ကစ၍ ရှင်တော်ဘုရား မုက္ခပါဌ်တော်ဖြစ်သော ပိဋကသုံးပုံကို သာသနာတော် ၅၀၀၀-တည်တန့်းစေခြင်းငှာ နိကာယဏ္ဍာဝပါရဂူ လင်းယဉ်ထူတော်မူသော တိပိဋကဓရဓမ္မသေနာပတိ သာသနာတော်ပြု ဆရာတော်ကြီး အမှူးရှိသော တံဆိပ်တော်ရ စာမဆရာတော် သင်္ဃာတော်တို့ကို ပုဒ်ပါဌ် အက္ခရာ သဒ္ဒါ အနက် မပျက်မစီး မတိမ်းမယိမ်း မှန်ကန်သေချာစွာ သဝေ ပိုဒ်မျှ မယွင်းမကျစေရ ကြပ်ခကြည့်ရှု ပြင်ဆင်တည်းဖြတ်စေပြီးလျှင် နတ်နန်း ဝေယန် ဘုံဗိမာန်နှင့်တူသော မှန်နန်းတော်အတွင်း အသျှင် ၂-ပါး ကိုယ်တော်တိုင် ရိုးရင်းကြပ်မတော်မူ၍ ရွှေရေး မင်ရေး ကညစ်ရေး ၃-ရပ်တို့ဖြင့် ရေးသားပြုစုတော်မူသည်။

သာသနာတော် ၂၄၀၁-ခု၊ ဂေါဇာသက္ကရာဇ် ၁၂၁၉-ခု ကဆုန်လပြည့်ကျော် ၇-ရက် ၅-ဆောင်းနေ့ မင်းသာမန်တို့ ခံစံခဲ့သော ခရုသင်း

၃-လုံးတို့ဖြင့် ဦးထိပ်တော်၌ သွန်းအပ်သော မုဒ္ဓါဘိသိက်ကို သွန်းခံတော်မူသည်။

"သီရိပဝရ ဝိဇယာနန္တ ယသ ပဏ္ဍိတ မဟာဓမ္မ ရာဇာဓိရာဇာ၊ သီရိပဝရ မဟာရာဇိန္ဒာဓိပတိ ရတနာဒေဝီ"ဟူသော နှစ်ကြိမ်မြောက်သော ဒုတိယ တံဆိပ်နာမံတော်ကို ခံတော်မူသည်။ မန္တလေး ရတနာပုံ ရွှေမြို့တော်ကြီး၌ စံတော်မူပြီးလျှင် သာသနာတော် ၂၄၁၈-ခု၊ ဂေါဇာသက္ကရာဇ် ၁၂၃၆-ခု နယုန်လပြည့် ၅-တေးနေ့ ည ၄-ချက်တီးအချိန် ၂-ကြိမ်မြောက် မုဒ္ဓါဘိသိက်ကို သွန်းခံတော်မူသည်။ ၃-ကြိမ်မြောက်သော ဘွဲ့ဆိပ်နာမံတော်ကိုလည်း ခံတော်မူသည်။ "သီရိပဝရ ဝိဇယာနန္တ ယသ ပဏ္ဍိတ တြိဘဝနာဒိတျာဓိပတိ မဟာဓမ္မရာဇာဓိရာဇာ၊ သီရိပဝရ အတုလ တိလောက မဟာရာဇိန္ဒာဓိပတိ ရတနာဒေဝီ" တံဆိပ်နာမံ ခံတော်မူသော မင်းမိဖုရား ၂-ပါး ကောင်းမှုတော်။[၁]

## ကျောက်ထက်အက္ခရာတင်(သီလာရုဠ) သံဂါယနာတင်ရန် နန်းတော်သို့ ဆရာတော်ကြီးများ ပင့်လျှောက်ခြင်း

မန္တလေး ရတနာပုံ မြို့တည် နန်းတည် မင်းတုန်းမင်း တရားကြီးသည် မြို့တော်တည်တော်မူပြီးနောက် ရှေးရှေးသော အဇာတသတ်၊ ကာဠာသောက၊ သီရိဓမ္မာသောက စသော မင်းတို့သည် သက်တော်-၈၀၊ ဝါတော် ၄၅-ဝါ ကာလပတ်လုံး ဟောကြားထားတော်မူခဲ့သော ဘုရားရှင်ကိုယ်တော်မြတ်၏ ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင်တို့ကို တလုံး၊ တပါဒ၊ သဝေ၊ ပိုဒ်မမှ စ၍ သာသနာငါးထောင် စေ့ကုန်အောင် တည်တွန်းသမျှ ကာလပတ်လုံး ချွတ်ယွင်းတိမ်းပါး မပျက်ပြားစေခြင်းအကျိုးငှါ သင်္ဂါယနာတင်တော်မူခဲ့ကြသော ရှေးမင်းများ၏ ထုံးအစဉ်ကို နှလုံးသို့တင် ဆင်ခြင်တော်မူပြီးလျှင် ပဉ္စမ သင်္ဂါယနာ သဘင် တင်တော်မူးအံ့ဟု နှလုံးစိတ်ဝမ်း ရှင်သန်းလျက် သဒ္ဓါဟုန်ပီတိ ဂွမ်းဆီထိသကဲ့သို့ အစိမုတ္တိဆန္ဒဖြင့် တက်ကြွတော်မူသော ဘဝရှင် မင်းတရားကြီးသည် ဝရဇိန်လက်နက် မိုးကြိုးစက်သို့ ထက်မြက်ထွန်းဖေါက် မုန်သောက်မာတင် ပြောင်ဆင်ပမာ တိက္ခဂမ္ဘီရာ မေရုသေလာ့ တပဲ စူးရှနက်နဲ ဖောက်ခွဲစိတ်ဖြာ ဉာဏ်ဝဇီရာဟု ထက်အောက်မကျန် နှံ့စပ်

---

[၁] ဤစာထုပ်ကြီးမှာ မန္တလေးမြို့တည်ပြီး ပဉ္စမသံဂါယနာတင်ပြီး နောက်မှ ပြုလုပ်စေသော ပိဋကတ်တော်ပေထုပ်ကြီးဖြစ်သည်။

ထင်ရှားတော်မူလှသော ပိဋကတ္တယဆောင၊ ပိဋကတ္တယကောသလ္လ၊ ပိဋက-တ္တယပါရဂူ၊ ဝိဒူပါမောက္ခ၊ ဗဟုသုတ၊ ဂန္ထန္တရစုံသင်သဖြင့် စွယ်စုံအရှင်ဟု နေလအသွင် ဂုဏ်အင်္ဂါတို့ဖြင့် ထင်ရှားကျော်ကြားတော်မူ၍ သီလက္ခန်၊ သမာဓိက္ခန်၊ ပညာက္ခန်တို့ဖြင့် လောကလောကိုလို ပြည့်စုံခြင်းကြောင့် ဇမ္ဗူမဆန့် ဘဝက်နှံ့အောင် ပျံ့ကျယ်ထောက်ပွားကုန်ပြီးသော "ဇာဂရာဘိဝံသ မဟာဓမ္မ ရာဇာဓိရာဇဂုရု၊ ဇာဂရာဘိဝံသသိရိပဝရ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဒက္ခိဏာရာမဘုရား ကြီးတိုက်ဆရာတော်"ပညာသီဟသာသနာ လင်္ကာရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်နှင့်"ပညာသီဟာ ဘိသိရိသဒ္ဓမ္မဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်အားဖြင့် ဘွဲ့တံဆိပ်တော် ၂-ထပ်ရသစ်ဆိမ့်ဆရာတော် အရှင်ပညာသီဟ၊ "မေဓာလင်္ကာရ သိရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်၊ "မေဓာလင်္ကာရ ပရမဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်နှင့် "မေဓာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော် ၃-ထပ်ရပြည် ဆရာတော်ဘုရားကြီး၊ "သုဒဿနဝရဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံ ဆိပ်တော်ရစံကျောင်းဆရာတော်အရှင်သုဒဿန၊ "ကလျာဏဓော်တသာသနဓ ဇမဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ စလင်းဆရာတော်အရှင်ကလျာဏ၊ မကုဋာရာမဆရာတော် အစရှိကုန်သော ဆရာတော်တို့ကို မြေနန်းဥကင်သို့ ပင့်ဆောင်တော်မူပြီးလျှင် ဘုရားတပည့်တော်သည် သာသနာ့ ဒါယကာ ကေရာဇ်မင်းအဖြစ်သို့ ရောက်သည့်အတိုင်း သုံးတိုက်မှန်ကူ သယမ္ဘူဉာဏ်၌ ဝိသုဒ်နတ်၏ နှုတ်ခပါ၌အလာ ဓမ္မက္ခန္ဓာ ဒေသနာတော်တို့ကို ကျနသေချာ သေလက္ခရာဖြင့် သင်္ဂါယနာတင်လိုကြောင်း ဦးခေါင်းညွှတ်သ လျှောက်ထား တောင်းပန်ခလေရာ ဆရာတော်ဘုရားကြီးတို့၏ စိတ်နှလုံးတွင် ရွှင်ပြုံးပီတိပျံ့သိ ဖရဏာ ရေတွေ့သောကြာပမာ ဝမ်းမြောက်စွာ ဇောပွားပြီးလျှင် ဆင်ပြောင် ကြီးအလား ကြွားကြွားမြင့်မြင့် ဗျတ္တိဂုဏ်ဆင့်၍ အမှန်ရင့်စွာ အာမခံကြပြီး သောအခါတွင် သာသနာ့ဒါယကာ မဟာဓမ္မရာဇ်ဘုရားမင်းသည် ကျမ်းဂန် တတ်အကျော် ဆရာတော်များကို စိစစ်ရွေးချယ်တော်မူသည်။

## ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်ဆက်ကပ် လှူဒါန်းခြင်း

ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော် ၂-ထပ်ရပြီး ဒက္ခိဏာရာမ ဘုရားကြီး ဆရာတော် အရှင်ဇာဂရာဘိဝံသကို ပဉ္စမသင်္ဂါယနာ မဟာဓမ္မသဘင်ကြီး၏ အကြီးအကဲ မဟာနာယက အဖြစ်ဖြင့် တာဝန်ပေးအပ်တော်မူ၍ "ဇာဂရာ

ဘိဝံသ တိပိဋကဓရမဟာဓမ္မရာဇာဓိရာဇဂုရု''ဘွဲ့တံဆိပ်တော်ကိုလေးမြတ် ကြည်ဖြူဆက်ကပ်လှူဒါန်းတော်မူသည်။ ဒက္ခိဏာရာမ ဘုရာ ကြီးဆရာတော် အရှင်ဇာဂရနှင့်အတူ ပဥ္စမသင်္ဂါယနာ (သီလာရုဠှသင်္ဂါယနာ)တွင် အကူအညီနာယကအဖြစ်ဖြင့်ဆောင်ရွက်တော်မူရမည့်စည်းတော်မြင်းဝန်ကိုက် ဆရာတော်အရှင်သုမင်္ဂလကို "သုမင်္ဂလသာမိသိရိပဝရမဏိဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်း၍ ဆီးပန်းနီဆရာတော် အရှင်နရိန္ဒကို "နရိန္ဒာဘိသိရီသဒ္ဓမ္မ ဇောတိပါလဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းတော်မူသည်။[၁]

## သီလာရုဠှ (ပဥ္စမ) သင်္ဂါယနာ မဟာနာယက

ဒက္ခိဏာရာမဆရာတော်ဘုရားကြီး အရှင်ဇာဂရသည် မင်းတရား၏ လျှောက်ထားချက်နှင့် သံဃာတော်များ၏ ဆန္ဒအရ ကျောက်ထက် အက္ခရာတင် သီလာရုဠှ (ပဥ္စမ) သံဂါယနာတွင် သံဃမဟာနာယကအဖြစ်ဖြင့် ဆောင်ရွက်တော်မူခဲ့လေသည်။

သက္ကရာဇ် ၁၂၂၂-ခု တန်ဆောင်မုန်းလဆန်း ရက်စတွင် ကျောက်ထက်တွင် ပိဋကတ်ကို ရေးတင်မှုကိစ္စ လုပ်ငန်းကို စတင်၍ စကျင်တောင်ထွက် သလင်းကျောက်ချပ်တို့ကို "တမော့"လုပ်သား ကျောက်ဆစ်များအား ပေးအပ်လျက် လွန်စွာချောမွတ်စေပြီးမှ ငါးထောင်သာသနာ မြင့်ရှည်ကြာအောင် ကြံစည်ရည်ဆောင်ပြီးလျှင် ရေးတင်စေတော်မူခဲ့လေသည်။ ယင်းသို့ ကျောက်ပေါ်ထက်တွင် ရေးတင်စဉ် ဒက္ခိဏာရာမဆရာတော် အရှင်ဇာဂရ မဟာထေရ်သည် စီးတော်မြင်းဝန်ဆရာတော် အရှင်သုမင်္ဂလ၊ ဆီးပန်းနီဆရာတော် အရှင်နရိန္ဒတို့နှင့်အတူ မဟာသံဃာဟဇ္ဇလုံ့လဖြင့် ပုဒ်နေ ပုဒ်ထား ပုဒ်သွား ပုဒ်လာ မှန်ကန် မကျမပေါက်အောင် ကြပ်မကွပ်ကဲတော်မူသည်။

ယင်းသို့ လှူပဖြူလှူ၍ ပိဋကတ်တော်ကို စကျင်ကျောက်ဆက်တွင်ရေးတင်စေရာ ၈-နှစ်ကြာ၍ ၁၂၃၀-ပြည့်နှစ် ကဆုန်လဆန်း ၁၄-ရက်ခန့်တွင် အောင်လံစိုက်ဆောက်ပြီးမြောက်ခဲ့လေသည်။

ထိုကျောက်ဖျာများကို ကုသိုလ်တော် စေတီချင်း ထိလုမတတ် ကြည်ညိုဖွယ်ရာ ပူဇော်ထားခဲ့ရာ "ဝိနယစေတီတော်-၁၁၁၊ သုတ္တန္တ စေတီတော်-၂၀၈၊ အဘိဓမ္မာစေတီတော်- ၄၁၀၊ ပေါင်း ၇၂၉-ဆူရှိလေသည်။

---

၁။ ရာဇဝင်ဘချို့၌ ၁၂၁၈-ခုနှစ်က ဆက်ကပ်လှူဒါန်းသကဲ့သို့ မိန့်ဆိုထား၏။

ဠမသို့ မရမ္မရဋ္ဌေပိ၊ မင်းတုန်းနာမနရာဓိပ်။
ရဋ္ဌံ သမန္တသာသေန္တံ၊ ရတနတ္တယမာမကံ။

သန္တိဿာယ မဟာထေရာ၊ ထိရသီလာဂု ဏာကရာ။
ပဥ္စမိံ ဓမ္မသင်္ဂီတိံ၊ ကရောန္တာ သာသနဋ္ဌိတိံ။

ပတ္ထယန္တာ လိခါပေတွာ၊ သိလာပဋ္ဋေသု ပေဋကံ။
ဗျာယာမေန မဟာဓ္ဓေန၊ ပါလယုံ ဇိနသာသနံ။ ၁

## သိလာရုဋ္ဌ ပဥ္စမသင်္ဂါယနာတင်အံချင်း

သူကောင်းလေ။ ။ကုန်းဘောင်ရွှေပြည်၊ တောင်ဦးတည်သား။ ဇာနည် ဥက္ကဋ္ဌ၊ ဘေးလောင်းနတ်မှ၊ မပြတ်စဉ်ရိုး၊ ပွားပြိုးပွားပြိုး၊ မုတ္တာကုံးသို့၊ မင်းဆုံးနှင်နှင်၊ ဆဒ္ဒန်သျှင်တွင်၊ သိုက်ဝင်ဒသမ၊ ကွာပိန္ဒကား၊ စကြာ့တန္ခုန်း၊ သက္ကဘုန်းဖြင့်၊ ကုန်း အင်း ကိုင်း အမ၊ ငါးဌာနတွင်၊ မအက္ခရာ၊ မန္တလာကို၊ ပဋ္ဌမာဒိက၊ လက်မှန်စ၍၊ ရာဇနဂရေ၊ မင်းနေပြည်ကြီး၊ ဘန်ဆင်းပြီးသော်၊ စောထီးမြတ်စွာ၊နည်းလေးဖြာဖြင့်၊ မှာတော်မူခဲ့၊ ပုန်းရာမဲ့ကို၊ ပြုံ့ပြုံ့ထင်မြင်၊ ရှုဆင်ခြင်၍၊ သင်သရာဝင်၊ လွတ်ပစေသော၊ ကျွတ်စေသြဟု၊ မနောပဏိဓိ၊ ရည်သန်ရှိလျက်၊ ပကတိငွေရောင်၊ သလင်းတောင်မှ၊ ယူဆောင်ကျောက်ချပ်၊ တမော့အပ်၍၊ ပွပ်သပ်ပြီးခါ၊ သာသနာမူ၊ ဿာနာဝရ၊ ဂေါစာပုံရေး၊ ဒွေးဒွေးဒွေးက၊ သရဒသဘင်၊ ဦးရက်တွင်၍၊ ရေးတင်ဆစ်ထု၊ လက်သားစုကို၊ သုမင်္ဂလာ၊ ဇာဂရာနှင့်၊နရိန္ဒာဘိဓဇ၊ အတုလဓိပ်၊ တံဆိပ်တစ်မှတ်၊ ပိဋကတ်ကို၊ ပတ်ပတ်ရစ်လို့မ့်၊ စက်နှယ်အိမ့်သား၊ နှစ်သိမ့်လောက်စွာ၊ ထေရ်သုံးဖြာလျှင်၊ သေချာဖြတ်တည်း၊ ပြင်ဆင်လှည်းသည်၊ ဝိနည်းဘိဓမ္မာ၊ သုတ္တန္တာဟု၊ ရာ တဆဲ့တစ်၊နှစ်ရာ့ရှစ်နှင့်၊ ဇောအစ်သုည၊ ပေါင်းလကမူ၊ ခုနစ်ရာ့နှစ်ဆယ်၊ ကိုးသွယ်ချပ်မှန်၊ ဓမ္မက္ခန်ရှစ်သောင်း၊ လေးထောင်ပေါင်းကား၊ ရှင်ကောင်းသာသနာ၊ နှစ်ထောင်သာလျက်၊ လေးရာဆဲ့နှစ်၊ သက္ကရာဇ်မူ၊ တစ်နှစ်သုံးနောက်၊ သုညပေါက်၍၊ လရောက်ကဆုန်၊ ပုဏ္ဏားဖိတ်နေ့၊ ပြီးစုံခဲ့ရှင့်၊ ချမ်းမြေ့နှစ်သက်၊ အထက်လေးဖြာ၊ သင်္ဂါယနာတွင်၊ သေလာရုဋ္ဌ၊ ပဥ္စမသင်္ဂါယနာ၊ တင်ပြန်လှာသည်၊ ရတနာပုံ နန်းတွင်တည့်လေး။ ။မေတ္တာသက်ဝေ သူကောင်းတို့။ ၂

---

၁။ ဆဋ္ဌသံဂါယနာတော်မှုချား နိဒါနကထာ။
၂။ ကဝိဓဇ္ဈာန မေဒနီ။ ပဉ္စမတွဲ။ ၅၂၉။

## နှုတ်ဖြင့်ရွတ်တင် (မုခပါဌ) ပဉ္စမသံဂါယနာသဘင်

ယင်းသို့ ကျောက်ထက်တွင် ရေးတင်ပြီးနောက် သက္ကရာဇ် ၁၂၃၃-ခု တန်ခူးလပြည့်ကျော် ၁၁-ရက် နှစ်ဆန်း ၁-ရက် စနေနေ့မှစ၍ ပိဋကတ်သုံးပုံကို သုဓမ္မာဝင်ဆရာတော် ဆရာတော်ကြီး ၈-ပါး အမှူးထားလျက် တံဆိပ်တော်ရ မရ ဆရာတော်သံဃာတော် ၂၄၀၀-တို့အား လျှောက်ထားတောင်းပန်၍ ရွှေနန်းပြာသာဒ်ဦးရှိ မြေနန်းဆောင်တွင် ပိဋကတ်သုံးပုံကို ပေါင်း၍ သရဇ္ဈာယ်တော်မူစေရာ ၅-လ ၃-ရက်အကြာ တော်သလင်းလပြည့်ကျော် ၁၄-ရက်နေ့တွင် "ပဉ္စမသံဂါယနာတင်" မင်္ဂလာသဘင်ကြီး ပြီးစီးအောင်မြင်တော်မူသည်။ ယင်းသို့ ပြီးစီး အောင်မြင်လေလျှင် ရွှေနန်းတော်က အမြောက်သံကြားရလေသည်။

## ပဉ္စမသံဂါယနာတင်စဉ် ပိဋကတ်တော်များ ပြန်ဆိုပုံ အစီအစဉ်

ယင်းသို့ ကျောက်ထက် အက္ခရာတင်ပြီး နှုတ်ဖြင့် ရွတ်ဆို သံဂါယနာတင်စဉ်က အစီအစဉ်မှာလည်း စိတ်ဝင်စားစရာကောင်းလှသည်။ ပဉ္စမသံဂါယနာသဘင်ပွဲကြီးယင်ရာ ရွှေနန်းတော် ပြာသာဒ်တော်ကြီးအတွင်းမှ စာဝ ါနိမ့်မြင့် (၁) ပဌမဆင့်၊ (၂) ဒုတိယဆင့်၊ (၃) တတိယဆင့်ဟု စာဝ ါနိမ့်မြင့် ၃-ဆင့် ခွဲခြားထား၏။ ယင်း ၃-ဆင့်အနက် ပဌမတမ်းစာဝ ါမှာ မှန်ခုတင်ထီးဖြူးဆောင်း၊ ဒုတိယတမ်းစာဝ ါမှာ မှန်ခုတင် ထီးဖြူစိုက်၊ တတိယတမ်းစာဝ ါမှာ ထီးဖြူမပါ မှန်ခုတင်သက်သက်ဖြစ်၏။

ယင်း ၃-ဆင့်သော စာဝ ါအနက် ပဌမဆင့်စာဝ ါ၌ သာမဏေများ၊ ဒုတိယဆင့်စာဝ ါ၌ ဦးပဉ္ဇင်းငယ်များ၊ တတိယဆင့်စာဝ ါ၌ အရွယ်ခပ်လတ်လတ် ရဟန်းတော်များ နှုတ်လွတ်ပြန်ဆိုတော်မူကြသည်။

ထိုစဉ်က သာမဏေမျှသာဖြစ်သေးသော မေဓာဝတီ တောင်သမန်ဆရာတော်လေးငါးလျှာရှင်ကလျာဏသည် အဘိဓမ္မာ ပိဋကမဟာပဋ္ဌာန်းကျမ်းကိုပြန်ဆိုတော်မူ၏၊ လယ်တီဆရာတော်မှာ ရဟန်းသိက္ခာ ၅-ဝ ါခန့်သာ ရရှိသော ရဟန်းတော်ဖြစ်၍ ကထာဝတ္ထုကျမ်းကြီး နှုတ်လွတ်ပြန်ဆိုတော်မူခဲ့လေသည်။ ဤသို့စသည်ဖြင့် သာမဏေ၊ ရဟန်းတော် ပုဂ္ဂိုလ်မရွေး ကျမ်းစာများ နှုတ်လွတ်ရွတ်ဖတ် သရဇ္ဈာယ်တော်မူကြသည်။ ယင်းသို့ သက်ဆိုင်ရာ ဘာဏကများက နှုတ်လွတ်ပြန်ဆို၍ အခြားသံဃာတော် ၂၄၀၀-ကျော်တို့က ရွှေရောင်တဝင်း

ဝင်း လင်းလက်နေသော ပေများကြည့်ရှုရွတ်ဖတ် သရဇ္ဈာယ် အတည်ပြုတော်မူကြကုန်၏။

## နှုတ်ဖြင့်ရွတ်တင် ပဋ္ဌမသံဂါယနာ သမိုင်းချောင်း

ဂေါ်လီရွှေမင်၊ အတင်တင်တည်း၊ ပြင်ဆင်ပြီးလတ်၊ ပိဋကတ်ကို၊ ရောင်မှတ်ဝင်းလက်၊ သလင်းထက်ဝယ်၊ ပြက်ပြက်ထင်ထင်၊ တင်၍ပြီးလတ်၊ မြတ်သင်္ဂီတိ၊ ညီညီသရဇ္ဈာယ်၊ ရင်ပိမ့်ရွယ်လျက်၊ ခုဆယ်တရိ၊ ရာဇ္ဇိထောင်ဇော်၊ နှစ်သာယုဇ္ဇ၊ စိတြရာသီ၊ တိထိပွားဘက်၊ ဇုဏှပက်ဝယ်၊ ဆဲ့တရက်မှာ၊ လက်မှန်စွာလျှင်၊ နိကာယဏ္ဏဝ၊ နယပါရဂူ၊ ဇမ္ဗူတို့ဘိတ်၊ ပန္နိတ်စိန်သွား၊ မခြားထက်သန်၊ ပဋိဘာန်စွယ်စုံ၊ ကုံလုံလှစွာ၊ လေးဘာနှစ်ထောင်၊ အခေါင်သီလဝန်၊ များထေရ်မှန်အား၊ နိမာန်ချိုသာ၊ ပန်ပန်ထွားလျက်၊ သီဟာဘုံပြန့်၊ မြေနန့်ချက်ဗွေ၊ ညီမူစေ၍၊ မြေရေဝှန့်ခြောင်း၊ ရိုက်ညောင်းပုံ့တင်၊ လျှင်တော်သံ၊ သိုးညီးညံ့တည်း၊ မိုးယံဘဝဂ်၊ ပျံတက်ဆူဝေ၊ မှန်ကြားစေလျက်၊ မန်းမြေလက်ယာ၊ ရတနာပုံ၊ ပြည်ရန်လုံဝယ်၊ သုံးဘုံသူ့နတ်၊ မုက္ခပါဠ်ကို၊ ညီညွတ်မြွက်ကြား၊ ပိုင်းခြားနားလျက်၊ ငါးလအတွင်း၊ သန့်ရှင်းဝါဒ၊ ပြီးကုံအောင်၊ ပဉ္စမသင်္ဂါယနာ၊ မင်္ဂလာသဘင်၊ ပွဲကြီးယင်သည်၊ ဖြူစင်တည့်နောင်ရေး မှတ်ကြောင်းဆေး။[၁]

စာဆိုတော် ဦးဘိုးလင်း ရေးသားစီရင်သည့် အောက်ပါပဉ္စမသင်္ဂါယနာတင် ရတုပိုဒ်စုံကိုလည်း လေ့လာကြည့်ရှုရာ၏။

## ပဉ္စမသင်္ဂါယနာတင် ရတုပိုဒ်စုံ

(၁) တည်ဦးကမ္ဘာ။ ။လက်မှန်စွာဖြင့်၊ ကြာနှင့်ဘုရား၊ ထင်ရှားရောင်ရွှန်း၊ ဇမ္ဗူကျွန်းဝယ်၊ တည်ထွန်းဗောဓိ၊ သီရိပလ္လင်၊ မာရ်နှင်အောင်ရှာ၊ မဇ္ဈိမာနှင့်၊ စဉ်လာမဝေး၊ ညီတပြေးတည်း၊ မန္တလေးဘုမ္မိ၊ ပြည်သီရိဝယ်၊ ရာဇိန္ဒြမျိုး၊ ဆင့်တိုးမပြတ်၊ ဘုန်းမန္ဒာတ်မူ၊ ဥဂ္ဂင်္ဒ္ဓတညူ၊ ပွားထူမြင့်ဉာဏ်၊ ရည်ဆုသန့်၍၊ ကျမ်းဂန်မြင့်မြတ်၊ ပိဋကတ်ကို၊ ကဲထွတ်ချီးမြှင့်၊ တိုးထပ်ဆင့်၏၊ ရှင်ပင့်သာသနာ၊ ရှည်ကြာငါးထောင်၊ တိုင်အောင်တင်ရွှန်း၊ ထွန်းကြီးထွန်းစိမ့်၊ ကျွန်းလုံးဇမ္ဗူ၊ သိမ့်ဆူကြေငြာ၊ လင်းအာဏာနှင့်၊ ဘိခမ္မာတန့်ခိုး၊ တရားမိုးသည်။ ။ရိုက်ကြိုးရွာတော့သည်ဘုရား။

---

၁။ မင်္ဂလာချောင်း၊ ၁၆–ပိုဒ်။ ရတနာသိခမဟာရာဇဝင်။ ၄၀၃-လည်းကြည့်။

(၂) ဧည်ထူးပြဟ္မာ။ ။ဃဋိကာလည်း၊ ရွှေကြာသက်န်း၊ အမြိုက်ပန်းကို၊ လှူတန်းပြီးနောက်၊ ခြောက်နှစ်မြောက်ဝယ်၊ ထွန်းတောက်ဝိဇ္ဇာ၊ ဝေနေယျာကို၊ ခေမာပြည်ကြီး၊ တင်ခဲ့ပြီးလျှင်၊ ထုံးမှီးမပျက်၊ မိန့်တော်မြွက်သား၊ ရွှေစကားမပြန်၊ သုံးနိဗ္ဗာန်တွင်၊ နှစ်တန်ကူးရောက်၊ လေးလ မြောက်သော်၊ ရွှေမှောက်တမ္ဘတ်၊ ဇာတသတ်လျှင်၊ ကဲမြတ်ရှေးဖျား၊ တင်ထားပြီးခါ၊ နှစ်တရာငယ်၊ ကာဠာသောက၊ ဒုတိယဝိင်္ဂတီ၊ ထွန်းလုံညီသား၊ သိရိဓမ္မာ၊ မင်းမြတ်စွာလျှင်၊ ရဟန္တာမြတ်၊ မိန့်ရွတ်တတိယ၊ သီဟဠဝယ်၊ ဝဋ္ဋဂါမဏိ၊[၁] ဖြန့်ချီဓမ္မ၊ စတုတ္ထဟု၊ နိစ္စမပျက်၊ ပေထက်သချာ၊ ထင်ရှားစွာရှင့်၊ ရောင်ဝါကဲမိုး၊ စဥ်မညှိုးသည်။ ။ တိုက်ဖြိုးဖြာတော့သည်ဘုရား။

(၃) ရှည်ကြူးကမ္ဘာ။ ။ရင့်မုံမှာဖြင့်၊ ပွင့်လျာဗောဓိ၊ မှန်မောဘိ၍၊ ဘူမိပတ်ကုံး၊ ကျွန်းအလုံးကို၊ ပိတ်ဖုံးဉာဏ်ရောင်၊ အလင်းဆောင်လျက်၊ တောင်ဇမ္ဗူဒိပ်၊ မန်းဂိရိပ်ငယ်၊ ကူးဆိပ်နိဗ္ဗာန်၊ ဖြောင့်မှန်သည့်ပြင်၊ ရန်နှည်ကြငှန်း၊ သိကြားနန်းထက်၊ ညွန့်လမ်းဖိုလ်မဂ်၊ ပွားတက်ထွန်းပ၊ အရိယတံခွန်၊ ထေရ်မြတ်မွန်ကို၊ ကဲလွန်ပရိယတ်၊ မုဘ္ခပါဠိကို၊ မိန့်ရွတ်မြွက်ဟ၊ ပဉ္စမသံဂါယနာ၊ မင်္ဂလာသဘင်၊ ပွဲကြီးယင်၍၊ ထိုရှင်၏ဘုန်း၊ ရိုက်ချုန်းလိုက်ဆူ၊ မရှူဘုံပေါင်း၊ သွန်းဆုလောင်းရှင့်၊ လမ်းကြောင်းဖြောင့်ရာ၊ ကျင့်စိမ့်ငှာဟု၊ ဗိုလ်ပါတို့အား၊ တရားဥပဒေ၊ မေတ္တာရေဖြင့်၊ ဖြန့်ဝေဖြိုးဖြိုး၊ ဘန်ဆော်နိုးသည်။ ။ ဖြိုက်တိုးသာတော့သည်ဘုရား။

အောက်ပါ သံတော်ဆင့်မင်း ဦးပေါင်ရေး ပဉ္စမသင်္ဂါယနာတင် ဒွေးချိုးလင်္ကာကိုလည်း လေ့လာကြည့်ရှုရာ၏။

### ပဉ္စမသံဂါယနာတင် ဒွေးချိုးလင်္ကာ

ကုဋ္ဌေသိန်းမှာလ၊ ရေကိန်းငယ်အာကာကို၊ တေဇာတော်ခြုံမှူးလို့၊ ဂုဏ်ထူးလိုင်ပျံပါဘိ၊ ကြိုင်နံ့ငယ်ဖွေထုတ်တဲ့ ရွှေမုဋ္ဌာန်။

ဘာဂ်ကယ် မိုးစွန်၊ တန့်ခိုးငယ်လွန်သည်၊ သိမ်ရွှေမှောက်၊ ခံပြီးနောက်ဝယ်၊ မာရ်ပျောက်ကယ်မိစ္ဆာ၊ ဒေသနာကို၊ ရွှေနားဇဂ္ဂိုဟ်၊ သာနုပျိမှာ၊ ဗိုလ်ဉာဏ်ကိုပ်စီ၊ အာနန်ညီနှင့်၊ ဂုမ္ဘီနက်ကူယ်၊ ကျမ်းပင်လယ်ကို၊ နှုတ်ဝယ်မြွားမြောင်၊

---

၁။ စတုတ္ထသင်္ဂါယနာတင်၍ဥက ဝဋ္ဋဂါမဏိမင်း လက်ထက်သာ ဖြစ်သည်။ ဝဋ္ဋဂါမဏိမင်း၏ အကူအညီမရကြ၊ မာတုလဇနပဒ်ိမိုင်တိ၏ အကူအညီကို ရတော်မူကြသည်။

ငါးရာထေရ် ဆောင်သည့်နှယ်၊ ပြည်ထောင်ပြူ ရာဇိန်မူ၊ ပြတ်ရွှေအိမ်၊ တုံမြင့် ကွန်းမှာလ၊ စုံမွန်းထေရိန္ဒငယ်တို့၊ ကျင်းပရွှင်ဟန်။ ။

စုလ္လာသီငယ်၊ ရှင်ဒွိမကွက်၊ ရွှေဘေထက်ဝယ်၊ အဘ္ဘရာကုန်၊ မုန်စွာငယ်ငို သည်၊ ဝသုံနေရ၊ ရေမြေဘုလဲ၊ အောင်ဆုငယ်မြွေဟီ မျိုးကြီးသီသို့၊ ဝဇီရစိန်၊ ကျောဲသန်းရှိန်လို့၊ ရိန္ဒမာမြောက်၊ ပဲ့တင်ဖောက်က၊ ဆဲ့ခြောက်ကယ်ပြဟွာ၊ နတ်တကာနှင့်၊ သတ္တဝါဟို၊ ရှင်လူဗိုလ်ကို၊ ကြည်ညိုချချွတ်၊ ရွှေအာဘော် လှဘ်လေသို့၊ စက္ကဝတ်စင်၊ မင်းလေ့ယှဉ်ဘဲ့၊ မြေ့ညွှန်၊ ရာဇင်လဲ၊ ပဥ္စမသင်၊ မြိုက်ပွဲသာယင်တော့တယ်၊ သဘင်ဝယ် ဘန်သည်၊ ငါးတန်အောင်ကိန်းရ မြတ်ခေါင်ထိ။

နှစ်ထောင်ငယ်ကျော်မြောက်၊ နောင်သော်နောက်ဝယ်၊ မဘောစက်ကယ် ရှည်ကြာ၊ တည်စေရာဟု၊ မည်ကာနန်းပိုင်၊ မစွမ်းနိုင်တဲ့၊ ဘက်ပြိုင်မမြော်၊ သမ္မာတော်မို့၊ ရာကျော်နိုသင်၊ ဆဒ္ဒန်ရှင်လဲ၊ ဥကင်ရိပ်ဝှဲ၊ ထွက်စံမြဲမို့၊ စာပွဲငယ်ဆင်ရာ၊ သည်ကမ္ဘာမှာ၊ သည်သာတပါး၊ မင်းခေါင်ဖျားဟု၊ တရားငယ်ရာဇိန်၊ ပွင့်လင်းသာ ထိန်တော့တယ်၊ ဟိန္ဒဂူကျွတ်ရန်ကို၊ တမွတ် ညဏ်ဘန်တဲ့ ဘုန်းဟာမို့၊ နှုန်းတုမရှိ။ ။

မကိုဋ္ဌသာ ကဲတော့တယ်၊ မြိုက်ပွဲငယ်စည်ရာမှာ၊ ရှည်သာသနာ တည်ထွန်း ပေအံ့၊ ရည်ညွှန်းရွှေဗျာနှင့် ဒေသစာရီ ဆန်ကြွလို့၊ ဘန်သရာ။

မင်းမင့်ဥသျှောင်၊ ဇမ္ဗူငယ်အောင်သည်၊ ကျူတောင်မြေးသင့်၊ ကိုယ် သွေးငယ်တင့်တဲ့၊ ဆင်မင်းသခင်၊ ဆဒ္ဒန်ရှင်လဲ၊ ဥကင်သိုက်ပြည်၊ ထောင်စိုက် တည်က၊ ရောင်ခြည်ခြယ်လျှပ်၊ အံ့ဖွယ်မြတ်တဲ့၊ စွယ်ခေတ်ကယ် လှုံထိန်၊ အသမ္ဘိန်လဲ၊ ဆန်ချိန်ကွန့်လို၊ ကျွန်းသီဟိုဠ်မှ၊ ရွှေကိုယ်ပွားတော်၊ မြန်းချက် ကယ် လျော်လှတယ်၊ မန်းမော်မြေထက်ယံမှာ၊ ဘဂဝါလှုံထိန်ထိန် တင့်ပါဘိ၊ ကိုးဆင့်ဂုဏ်ဝါ။ ။

ဟိန္ဒဂူငယ်၊ နတ်လူရှိအုပ်၊ ဒွိပဒုတ်ဟု၊ ဝိသုဒ္ဓိမှန်၊ သိဝံစံလဲ၊ နောင်ဘန် ကာလ၊ မန်းဌာနဝယ်၊ သတ္တငယ်ရဇ္ဇင်၊ ခုနစ်အင်နှင့်၊ ရွှေခြသေ့မည်၊ မင်းစော တည်က၊ စည်ရှည်ငါးထောင်၊ စိုးပြည်အောင်ကို၊ ရှည်ဆောင်နှစ်သိမ့်၊ ဗျာဒိတ်မှန်မိန့်ရင်းမို့၊ ဝှန်ထိန့်ငယ်ကြည်း ရေ၊ ဗိုလ်သချေ လဲ၊ တင်ဖွေသဦး၊ ခညွှတ်ကယ်ဖူးလို့၊ ဆုထူးမြွက်ဆို၊ စက်ရင်းသာ ခိုရတယ်၊ လိုလိုချမ္ဘ၊ ပန်ထွာ ဆင်တိုင်း ခု ပြီးစေဘိ။

လေးမည်ယယ်သမွတ်၊ သည်စက်ပြဒ်ဝယ်၊ တိသတ္တဝါ၊ ဝေနေယျာတို့၊ ခေမာကမ်းရောက်၊ မဂ်လမ်းတောင် ဖောက်စေဖို့၊ နေ့င်တောက်ယယ်ဝေယံ၊ ပြာသာဒ်ပျံနှင့်၊ စံဝိမာန၊ နန်းရွှေကာလဲ၊ လောကသုံးခွင်၊ ဘက်မမြင်ပဲ၊ စက် အင်္ဂရ၊ ပြိုးပြက်ကယ်ပလို့၊ နေလာယ် ဟောင်းထောင်၊ ဂုဏ်ပေါင်းသာ ဆောင်တော့တယ်၊ ခြောက်ရောင်ခြည့်အခြေမှာ၊ မီးစုံးရတော့ ကွန့်ပါဘိ၊ ဇဝံ စိန္တိ။ ။

ဤကား သံတော်ဆင့်မင်း ဦးမောင်ရေးသည့် ပဌမသင်္ဂါယနာတင် ဖွဲ့ချီး လင်္ကာတည်း။ အောက်ပါ ပိုဒ်စုံရတုမှာ မနာက် စိန္တကျော်သူ ရေးသားသည့် ပဌမသင်္ဂါယနာတင် ပိုဒ်စုံရတု ဖြစ်၏။

## ပဌမသင်္ဂါယနာတင် ပိုဒ်စုံရတု

(၁) **တေဇဝန်ရောင်။** ။ရောက်တိုင်းပြောင်၍၊ ပြည်ထောင်ရပ်ခြား၊ မင်းအများတို့၊ ဘဝါးတော်ကျွန်၊ ယုတ်မလွန်ဟု၊ တုတ်ခွန်ဆက်သ၊ ညွှတ်လှာ ရသား၊ ရာဇာဓိပတိ၊ လောကိကျက်သရေ၊ နေမင်းဆွေလျှင်၊ ကိုးထွေအင်္ဂါ၊ စုလ္လာသီတိ၊ သဟာယိဟု၊ မြတ်ပါဠိတော်၊ တသောင်းကျော်ကို၊ ပေပေါ် မင်ဆေး၊ ရွှေရေးအက္ခရာ၊ ကိုးကွယ်ပါလည်း၊ အာသာအင်ရှဲ၊ မရောင်ရဲလျက်၊ ဆင့်ကဲဖွိုးဖွိုး၊ ကပ်ဦးမိုးသို့၊ မြတ်နိုးကြည်လင်၊ သလင်းပြင်ဝယ်၊ ရေးတင် စေရ၊ ပြီးကာလ၌၊ ရွှင်ပျသောအား၊ မြေလှုပ်ရှား၍၊ မြသားကဲ့သို့၊ မှိုင်းမှိုင်း ညို့မျှ၊ အချိုကားစွတ်၊ အချိုလွတ်သား၊ ဝဿပေါက္ခရာ၊ ပဒုမ္မာပွင့်ဆန်း၊ မိုးရည်ဖျန်းသည်။ ။**ယှက်သန်းထွေလာ လေသာ သွေးတော့သည် ဘုရား။**

(၂) **ဟေမဝန်ချောင်။** ။ဆီးနှင်းတောင်နှင့်၊ လေးဆောင်နေရ၊ သိန္ဓု စက္ကဝါ၊ ပထဗျာလည်း၊ ခြင်းဟုခြောက်ပါး၊ ချောက်ချားပတ်လိုမ့်၊ ဗြိမ့်ရ ရိမ့်လျှင်၊ အိုးထိန်းစက်နှယ်၊ ရွေးဝယ်လောင်းမြတ်၊ ဝေဿန်ဇာတ်သို့၊ လောကဓာတ်ဘောင်၊ နှံ့အောင်ရှစ်ရပ်၊ မဲ့တင်ခတ်မျှ၊ ကျောက်ချပ်တွက်ဖွဲ့၊ နှစ်ဆဲ့ခုနစ်ရာ၊ သာသည်ကိုးခု၊ ရေးထုရွှေစာ၊ ပြီးသောခါဝယ်၊ မဟာ လောကမာရဇိန်၊ ရံသိန္ဓရ၊ လွတ်စွာကက်ကင်း၊ စေတီရင်း၌၊ အုတ်အင်္ဂတေ၊ ချက်ထွတ်ရွှေနှင့်၊ ငွေကြော့အဆင်း၊ ဂူအတွင်းသို့၊ သွင်းထားပူဇော်၊ ထို သရော်တွင်၊ မမြော်စဘူး၊ မိုးလုံးမြူးလျက်၊ အံ့မူးကြွရာ၊ ပင်တကာလည်း၊ အခါမဝင့်၊ တပြိုင်တင့်၍၊ ခိုင်သင့်ညွှန့်လန်း၊ ထွေတဆန်းသည်။ ။**ခက်ပန်း ဝေဆာ ကြေညာချွေးတော့သည် ဘုရား။**

(၃) မေဃဝန်မှောင်။ ။မိုးတိမ်တောင်လျှင်၊ ရွှာယောင်ခြိမ်းမဲ၊ လျှပ်ပန်းကြဲလျက်၊ ပွဲဟောင်ညောင်ရေ၊ ဝါခွေစကား၊ ပဒုံးချယ်သားနှင့်၊ မြတ်ဖျားဘုန်းဟော့၊ ပွင့်သည့်နေ့ဝယ်၊ ချော့မမွှလုံခြုံ၊ သုံးပုံနွှင်းနက်၊ ဓမ္မစက်သင်၊ သေလက္ခရာ၊ ပြီးတိုင်ပါရှင့်၊ နရာသေဋ္ဌ၊ ဤပုညကြောင့်၊ တောင့်တတိုင်းသာ၊ လိုတော်ပါလျက်၊ ခုနစ်ရာချင့်နှိုင်း၊ သက်တော်လှိုင်းလိမ့်တိုင်ဝိဒေဟ၊ သာဓိနေလျှင်၊ ကရာ့တမ်းမှာ၊ မျှာလှူဒါကြောင့်၊ ခုနစ်ရာနှစ်၊ နန်းသက်ဖြိုးရှင့်၊ ခုခေတ်ဝယ်ကား၊ မင်းခေါင်ဖျားမူ၊ ဘုရားမြတ်စွာ၊ သာသနာလျှင်၊ ရောင်ဝါပွင့်ခိုက်၊ ကြိုက်သဖြင့်အား၊ တရားကည်းဟူ၊ မြတ်အလှူကို၊ ကြည်ဖြူစိတ်သန်၊ နိဗ္ဗာန်ရည်မှန်း၊ ပေးလှူဒါန်းသည်။ ။ထက်နန်းဒေဝါ ရွှေစားရေးတော့သည် ဘုရား။

ဤသည်လျှင် နောက်စိန္တကျော်သူရေး ပဋ္ဌမသင်္ဂါယနာတင် ပိုဒ်စုံရတုဖြစ်သည်။ တဖန် လယ်ကိုင်းမြို့စား ကင်းဝန် သေနတ်ဝန်မင်းကြီးဆို ပဋ္ဌမသင်္ဂါယနာအကြောင်းလည်း ပါဝင်သည့် မင်္ဂလာချောင်း ၉-ပုဒ်(သံပေါက်) ကိုလည်း အောက်ပါအတိုင်း ကြည့်ရှုလေ့လာရာ၏။

## မင်္ဂလာချောင်း ၉-ပုဒ်

(၁) ရေပန်းမီးလျှံ၊ ယမကံစုံ၊ ဘဂဝါချုံသည်။ ။သုံးဘုံလူ့ထိပ် ပန်းတည့်လေး။ ။သုံးဘုံလူ့ထိပ် ပန်းတည့်လေး။

(၂) သုံးလူ့ထိပ်ပန်း၊ စောကြွင့်နန်းလျှင်၊ ရေပန်းမီးပွိုင်၊ ခြောက်ရောင်ဆိုင်လျက်၊ မဏ္ဍိုင်မန်းမြေ၊ ကြွရောက်လေသည်။ ။ဆူဝေရိုက်ရိုက် မွှန်းတည့်လေး။ ။ဆူဝေရိုက်ရိုက် မွှန်းတည့်လေး။

(၃) ဆူဝေရိုက်မွှန်း၊ တင်ပြဋ္ဌာန်းလျက်၊ တောင်မန်းသေလာ၊ မြေချက်ချာထက်၊ မျက်နှာလရေး၊ စိတ်ပြေးသည်။ ။ငြိမ့်လေး နတ်မယွန်းတည့်လေး။ ။ငြိမ့်လေးနတ်မယွန်းတည့်လေး။

(၄) ဆင်းကြံရူပ၊ လေးငြိမ့်လှသား၊ စန္ဒမုခီ၊ နတ်ပြည်နိကာယ်၊ ဤအဘယ်ကား၊ ဤဝယ်အမှန်၊ မြို့နန်းဖန်လိမ့်၊ အာနန်ထေရ်အား၊ တိုင်တည်ကြာသည်။ ။မြတ်ဖျား ရွှေခွန်းတော်တည့်လေး။ ။မြတ်ဖျား ရွှေခွန်းတော်တည့်လေး။

(၅) ရွှေခွန်းတော်လျှောက်၊ လျှိုတောက်ဝင်းဝါ၊ သာသနာလည်း၊ လေးရာအခေါင်၊ ဝင်းဝင်းပြောင်သည်။ ။နှစ်ထောင်စည်ပွင့် လန်းတည့်လေး။ ။နှစ်ထောင်စည်ပွင့် လန်းတည့်လေး။

(၆) နှစ်ထောင်လေးရာ၊ သာသနာလျှင်၊ ရောက်လာတုံလစ်၊ ကေသရာဇ်သည်။ ။ပြည်သစ်ဘည်ဘန် ဆန်းသည့်လေး။ ။ပြည်သစ် တည်ဘန် ဆန်းသည့်လေး။

(၇) ပြည်သစ်ဘည်ထောင်၊ ဘုန်းတော်ရောင်ဖြင့်၊ ကုန်းဘောင်နွယ်ယှက်၊ နန်းဆက်ဆက်တွင်၊ မင်းထက်မင်းမြား သားကေသရာဇ်၊မှန်စင်စစ်သည်၊ ။မြန်ခေတ်တိုက်ကုန် ထွန်းတည့်လေး။ ။မြန်ခေတ်တိုက်ကုန် ထွန်းတည့်လေး။

(၈) မြန်ကျွန်းချက်ကုံ၊ ဘုန်းတော်ခြုံ၍၊ လုံးစုံကြေငြာ၊ ကေသရာလျှင်၊ နေဝါဆယ်ဆင့်၊ ဆယ်ကြိမ်ပွင့်တွင်၊ မန်းမြင့်လကျာ၊ ဖြူရိပ်ကာသည်။ ။ရတနာပုံ ရွှေနန်းတည့်လေး။ ။ရတနာပုံ ရွှေနန်းတည့်လေ။

(၉) ရတနာပုံ၊ ပြည်ရန်လုံကို၊ တည်တုံပြီးခါ၊ သာသနာကို၊ပစ္စယာဓမ္မ၊ နုဂ္ဂဟာဖြင့်၊ ပဥ္စမသင်္ဂါယနာ၊ မင်္ဂလာသဘင်၊ ပွဲကြီးယင်သည်၊ ။မြေပြင်ပြတ် ဘနန်းတည့်လေး။ ။မြေပြင်ပြတ် ဘနန်းတည့်လေး။

### ပဥ္စမသင်္ဂါယနာ တင်တော်မူသည့် အကြောင်းအရာများကိုလည်း နာခံတော်တို့က မင်္ဂလာစကား မင်္ဂလာရတုကို အောက်ပါအတိုင်း ဖတ်လျှောက်လေသည်

**ကပ်ဦးကမ္ဘာ**။ ။လက်မှန်စွာဖြင့်၊ကြာနှင့်ဘုရား၊ ထင်ရှားရောင်မှန်း၊ ဇမ္ဗူကျွန်းဝယ်၊ တည်ထွန်းဗောဓိ၊ သီရိပလ္လင်၊မာရ်နှင့်အောင်ရာ၊ မဇ္ဈိမာနှင့်၊ စည်သာမဝေး၊ ညီတပြေးတည့်၊ မန္တလေးဘုမ္မိ၊ ပြည်သီရိဝယ်၊ ရာဇ်ဒိဋ္ဌိမျိုး၊ ဆင့်တိုးမပြတ်၊ ဘုန်းမန္ဓာတ်မူ၊ ဥဂ္ဂဋ္ဌိတညျ၊ ပွားတူမြင်ဉာဏ်၊ ရည်ဆုသန်၍၊ ကျမ်းဂန်မြင့်မြတ်၊ ပိဋကတ်ကို၊ ကဲ့ထွတ်ချီးမြှင့်၊ တိုးထပ်ဆင့်၍၊ ရှင်ပင့်သာသနာ၊ ရှည်ကြာပါးထောင်၊ တိုင်အောင်တင့်ရွှန်း၊ ထွန်းကြီးထွန်းစိမ့်၊ ကျွန်းလုံးဇမ္ဗူ၊ ထိန်ဆူကြေငြာ၊ လင်းအာဘာနှင့်၊ ဘိမမ္မာတန်ခိုး၊ တရားမိုးသည်။ ။ရိုက်ကြိုးရွာတော့သည်ဘုရား။

မည်ယူးပြဟ္မာ။ ။သဒ္ဒိကာလည်း၊ ရွှေကြာသက်န်း၊ အမြိုက်ပန်းကို၊ လှူဒါန်းပြီးနောက်၊ ခြောက်နှစ်မြောက်ဝယ်၊ ထွန်းတောက်ဝိဇ္ဇာ၊ ဝေနေယျာကို၊ ခေမ ပြည်ကြီး၊ တင်ခဲ့ပြီးလျှင်၊ ထုံမှိုးမပျက်၊ မိန့်တော်မြွက်သား၊ ရွှေစက်မပြန်၊ သုံးနိဗ္ဗာန်တွင်၊ နှစ်တန်ကူးရောက်၊ လေးလမြောက်ဝယ်၊ ရွှေးမှာက်တမွက်၊ ဇာတသတ်လျှင်၊ ကဲမြတ်ရွှေဖျား၊ တင်ထားပြီးခါ၊ နှစ်တာရာဝယ်၊ ကာလာသောကာ၊ ဒုတိယမိတ္တိ၊ ထွန်းလျှံပြသား၊ သိရိဓမ္မာ၊ မင်းမြတ်စွာလျှင်၊ ရဟန္တာမြတ်၊ မိန့်ရွတ်တတိယ၊ သီဟဠဝယ်၊ ဝဋ္ဋဂါမဏီ၊ ဖြန့်ချိဓမ္မ၊ စတုတ္ထဟု၊ နိစ္စမပျက်၊ ရေထက်သောချာ၊ ထင်ရှားစွာရှင့်၊ ရောပ်ဝါကဲမိုး၊ စဉ်မည်ျူးသည်။ ။ကိုင်ဖြိုးဖြာတော့မည်ဘုရား။

ရှည်ကြူးကမ္ဘာ၊ ရင့်မှီမာဖြင့်၊ ပွင့်လျှာမဟာဓိ၊ မှန်မောဘိ၍၊ ဘူမိပတ်ကုံး၊ ကျွန်းအလုံးကို၊ ပိတ်ဖုံးဉာဏ်ရောင်၊ အလင်းဆောင်လျက်၊ တောင်ဇမ္ဗူဒိပ်၊ မန်းဂီရိပ်ဝယ်၊ ကူးဆိပ်နိဗ္ဗာန်၊ ဖြောင့်မှန်သည့်ပြည်၊ ရန်နည်ကြငှန်း၊ ဘိကြားနန်းထက်၊ ညွှန့်လမ်းဖိုလ်မဂ်၊ ပွားတက်ယွန်းပ၊ အရိယာခွန်၊ တေရိမြတ်မွန်တို့၊ ကဲလွန်ပရိယတ်၊ မုက္ခပဋိကို၊ မိန့်ရွက်မြတ်ဟာ၊ ပဉ္စမသံဂါယနာ၊ မင်းယောသတင်၊ ပွဲကြီးယင်၍၊ တို့ရှင်၏ဘုန်း၊ ရိုက်ချုန်းထိန်ဆူ၊ မရူဘုံပေါင်း၊ ဘွန်းဆုလောင်းရှင့်၊ လမ်းကြောင်းဖြောင့်ရာ၊ ကျင့်စိမ့်ငှာဟု၊ ဗိုလ်ပါတို့အား၊ တရားဥပဒေ၊ မေတ္တာရေဖြင့်၊ ဖြန့်ဝေဖြိုးဖြိုး၊ ဖန်ဆောင်နိုးသည်။ ။ပြိုက်တိုးသာတော့မည်ဘုရား

---

ဒက္ခိဏာရာမတိုက်တည် အရှင်ဇာဂရဆရာတော်ဘုရားကြီး၏ ပမာပမေဆောင်၍ မိန့်ကြားချက်စကားများ

ဒက္ခိဏာရာမတိုက်တည် အရှင်ဇာဂရ ဆရာတော်ဘုရားကြီးသည် အရာအားလျော်စွာ ဥပမာဥပမေယျတို့ဖြင့် တန်ဆာဆင်၍ ဝမ်းမြောက်ဖွယ် အောက်မေ့ဖွယ် စကားများကို မိန့်တော်မူလေ့ရှိရာ ဤဒက္ခိဏာရာမ သာသနာဝင်အခန်း၌ အကျဉ်းချုပ်၍ ဖော်ပြပေအံ့။

**တောထွက်တရားကျင့်သော ရဟန်းတပါး ဥပမာဖြင့် မိန့်ကြားတော်မူခြင်း**

ပဉ္စမသံဂါယနာတင် မင်းတရားကြီးသည် တနေ့တွင် ဆရာတော် အရှင်ဇာဂရကို နန်းတော်ပင့်၍ ဆွမ်းကပ်ပြီးနောက် "ဆရာတော်ဘုရား မဂ်ဖိုလ်

နိဗ္ဗာန် ကောက်မဖောက် ယာဉ်တဝန်နှင့်ရောက်အောင် ဒကာတော်ရေမြေ့ရှင်အား သနားငဲ့ညှာသဖြင့် မိန့်ကြားတော်မူပါ''ဟု လျှောက်ထားလေ၏။

ထိုအခါ ဒက္ခိဏာရာမဆရာတော် အရှင်ဇာဂရက—

ဒကာတော်ရေမြေ့ရှင်မင်းတရား....ဆရာတော် ဥပမာတခု ပြောပါမယ်။ ရှေးကရွာတရွာမှာ ဥစ္စာဓနနှင့် ပြည့်စုံကြွယ်ဝသော ကုန်သည်ဇနီးမောင်နှံဝယ် အပျိုအရွယ်သမီးငယ်တယောက်ရှိသယ်။ ဖခင်ကုန်သည်ဇနီးမောင်နှံတို့ ၏ မိမိတို့သမီးပျိုအား မိမိတို့ကျောင်းဆောက်ကိုးကွယ်သည့် ဆရာတော်ထံ ထွပ်အုပ်နေ့စဉ် ပို့စေမြဲဖြစ်ရာ တနေ့တွင် ဆွမ်းပို့သွားယင်း သတို့သမီးပျိုက ''အရှင်ဘုရား.... သည်ကျောင်း ဘယ်သူ့ကျောင်းပါတုံးဘုရား'' ထိုအခါ ဘုန်းကြီးက ''ဟယ်....ကြံကြံစည်စည် မေးမှ မေးတတ်ပလေ၊သည်ကျောင်း ငါ့ကျောင်းပေါ့''ဟု ဖြေဆိုလေ၏။

တဖန် ကျောင်းဒကာ့ သမီးက-''အရှင်ဘုရား ရှိစေတော့၊ဒီသက်န်းကော ဘယ်သူ့သက်န်းလဲဘုရား၊ဟယ်....ဒါလဲ ငါ့သက်န်း''ဟု ဖြေပြန်၏။ ထိုအခါ ကျောင်းဒကာ့သမီးက ''အရှင်ဘုရားဘယ်ကိုအလိုရှိသဖြင့် ဘုရားရှင်သာသနာ့ဝန်ထမ်း ရဟန်းပြုပါသနည်း''ဟု လျှောက်ထားပြန်ရာ ဘုန်းကြီးက''ဟယ် ကလေးမ ငါမဂ်ဖိုလ်နိဗ္ဗာန်လိုချင်လို့ ရဟန်းပြုတာပေါ့''ဟု မိန့်ကြားလေရာ ''အရှင်ဘုရား....မဂ်ဖိုလ်နိဗ္ဗာန် လိုချင်လျှင် ငါ့ကို မကြိုက်နဲ့ဘုရား''ဟု လျှောက်ထားပြီး ဦးသုံးကြိမ်ချ၍ ပြန်သွားလေ၏။

ယင်းသို့ ကျောင်းဒကာ့သမီး၏ လျှောက်ထားသောစကားကြောင့် ဘုန်းကြီးမှာ စားမဝင်၊ စက်မရ၊ နေ့ရက်များစွာ စိတ်ဒုက္ခရောက်နေ၏။ ထိုအကြောင်းကို ရိပ်မိသော ကျောင်းရှိ ကပ္ပိယဒါယကာကြီးက''အရှင်ဘုရား.... အဘယ့်ကြောင့် စားမဝင်၊ စက်မရ၊ စိတ်ဒုက္ခရောက်၍ နေဘိသနည်း''ဟု လျှောက်ထားရာ ဘုန်းကြီးက ''ကျောင်းဒကာ့သမီးက လျှောက်ထားပုံနှင့် မိမိက ပြောဆိုဖြေကြားပုံတို့ကို အပြည့်အစုံ ပြန်ကြားပြောဆိုပြီး နောက်ဆုံး မဂ်ဖိုလ်နိဗ္ဗာန်လိုချင်လျှင် ငါ့မကြိုက်ပါနှင့်-ဟူသော စကားမှာ မတွေးတတ်အောင် ဖြစ်နေကယ်။ အဲဒါကြောင့် ငါ့မှာ အိပ်မပျော်၊ စားမရ စိတ်ဒုက္ခရောက်နေကြောင်း''ပြောကြားလေ၏။

ထိုအခါ ကပ္ပိယဒကာကြီးသည် သမီးပြောစကားကို မိဘတို့ထံ စုံစမ်းက မှချသိရမည်ဟု သဘောထားလျက် ကျောင်းအမကြီးအား အလုံးစုံသော စကားကို ပြန်ကြားပြောဆိုသဖြင့် ကျောင်းအမကြီးက သမီးအား ''ချစ်သမီး....

သင် ကျောင်းသွားစဉ်က မင်္ဂဖိုလ်နိဗ္ဗာန်လိုချင်သောကြောင့် ရဟန်းပြုသည် မှန်က ငါ့ကိုမကြိုက်ပါနှင့်-ဟု ဘုန်းကြီးအား လျှောက်ထားခဲ့သော ချစ် သမီး၏ ပြဿနာကို ကောင်းစွာ ဖြေဆိုပါလော့” ဆိုလေ၏။

ထိုအခါ သမီးငယ်က အမေ....ကျွန်မကျောင်းသို့ အလှူအတန်းသွားလေရာ “ဤကျောင်း ဤသင်္ကန်း ဤပစ္စည်းငွေတို့ ဘယ်သူ့ဟာပါလဲဘုရား”ဟု မေးလျှောက်ရာ ဘုန်းကြီးက “ငါ့ဟာ”ဟု ဆိုသောကြောင့် “အရှင်ဘုရား.... အဘယ်ကိုလို၍ ရဟန်းပြုပါသနည်း”ဟု မေးပြန်သောအခါ “မင်္ဂဖိုလ်နိဗ္ဗာန် ကို ရလို၍ ရဟန်းပြုသည်”ဟု ပြေ ပြန်ပါတယ်။ “အရှင်ဘုရား....မင်္ဂဖိုလ် နိဗ္ဗာန်လို၍ ရဟန်းပြုသည်မှန်လျှင် ငါ့ကို မကြိုက်ပါနှင့်”ဟု လျှောက်ခဲ့ပါတယ် အမေ။ ငါ့ဟာ ငါ့ဥစ္စာဟု စွဲလမ်းခြင်းကို သက္ကာယဒိဋ္ဌိခေါ်ပါတယ်။ ထို သက္ကာယ ပျောက်ပါမှ မင်္ဂဖိုလ်နိဗ္ဗာန်ကို ရနိုင်ပါတယ်။ သည်ကို ရည်ရွယ်ပြီး “မင်္ဂဖိုလ်နိဗ္ဗာန်လိုချင်လျှင် ငါ့ကို မကြိုက်ပါနှင့်”ဟု လျှောက်ခဲ့ခြင်း ဖြစ်ပါ တယ်အမေဟု ပြောသံကို ကြားသိရသော ကပ္ပိယဒါယကာသည် ကျောင်းသို့ ပြန်သွားပြီး ဘုန်းကြီးအား အကြောင်းစုံ လျှောက်ထားလေရာ ဘုန်းကြီး များစွာ သတိသံဝေဂတရားရသဖြင့် တောထွက်ပြီး ,အရညကင်ဓုတင် ဆောက် တည်ကျင့်ကြံသတဲ့ ဒကာတော်ရေမြေ့ရှင် မင်းတရား....ဟု မိန့်ကြားတော်မူ လေ၏။

ယင်းသို့ မိန့်ကြားလေလျှင် ပဥ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီးက “ဆရာတော်ဘုရား သိသာလှပါပြီဘုရား”ဟုလျှောက်ထား၍ အားရနှစ်သက် တော်မူလေ၏။

အာရညိကယတိနောပိ၊ ဩပမ္မေန ယတိဿရော။
ဩဝါဒံ သုဘူပါလဿ၊ အဒါသိ ဒါနကောဝိဒေါ။

### ပေါက်ပွင့်သုပ်ဥပမာဖြင့် မိန့်ကြားတော်မူခြင်း

တနေ့သောအခါ ဒကာတဦးက ဆရာတော်အား ဆွမ်းကပ်တော်မူပြီး “ဆရာတော်ဘုရား....တပည့်တော်၏ ချဉ်ပေါင်ရွက်နှင့် ဝက်သားနှစ်ပါး ရော စွက်ချက်ပြုတ်စီမံထားသော ဟင်းအရသာ ရှိပါ၍လားဘုရား”ဟု လျှောက် ထားလေရာ ဆရာတော်က အိုဒါယကာ....ရှေးက ရွာတရွာမှာ ဇနီးမောင်နှံ နှစ်ဦးတို့ ဘုန်းကြီးတပါး ကျောင်းဆောက်ကိုးကွယ်ပြီး နေ့စဉ်ပေါက်ပွင့်သုပ် နှင့်ချည်း ဆွမ်းပို့၏။

ထိုအခါ ကျောင်းထိုင်ဘုန်းကြီးက "ငါ့မှာ နေ့စဉ်ပေါက်ပွင့်သုပ်နှင့်ချည်း နေ့ပဉ် ဆွမ်းစားနေရသည်။ သည်လိုသာဆိုလျှင် အသီးအသားမပြင်ပဲ တနေ့ သေဖို့သာ ရှိတော့သည်။ သည်ကျောင်းမှာ ငါနေရန်မသင့်တော့ချေ" ဟု စဉ်းစားပြီး အောက်ရပ်ဌာနီ ကြွရောက်ပြီး သင့်တော်သော ရွာတရွာမှာ ကျောင်းထိုင်လေ၏။ ထိုအခါ အောက်ရပ်ဌာနီက ကျောင်းဒကာ၊ ကျောင်းအမတို့ကလဲ ပေါက်ပွင့်သုပ်နှင့်ပင် နေ့စဉ်ဆွမ်းပို့ကြပြန်သည်။

တနေ့သောအခါ ကျောင်းအမက ကျောင်းသို့လာပြီး "အရှင်ဘုရား.... တပည့်တော်မ၏ထာဝရလက်စွဲ အမြဲကပ်လှူသော ပေါက်ပွင့်သုပ် ဘုဉ်းပေး၍ ကောင်းပါသသား"ဟု လျှောက်ထားလေရာ ဘုန်းကြီးက—

"အို ကျောင်းအမ....ဘုန်းကြီးမှာ အညာနေတုန်းက ပေါက်ပွင့်သုပ် နှင့်ချည်း ဆွမ်းစားရသဖြင့် ပေါက်ပွင့်သုပ်ကြောက်လို့ ကျောင်းအမတို့ အောက်ရပ်ဌာနီလာခဲ့တာ၊ သည်မှာလဲ ပေါက်ပွင့်သုပ်နှင့် တွေ့ရပြန်သည်"ဟု မိန့်ကြားလေရာ စကားများသော ကျောင်းအမက—

"သည်လိုဆို အရှင်ဘုရား အထက်ပေါက်နှင့် အောက်ပေါက် ဘယ် အပေါက်ကသာလွန်၍ ကောင်းပါသနည်း"ဟု မေးလျှောက်လေ့ရာဘုန်းကြီး က—

"အို ကျောင်းအမ.... အောက်ပေါက်က အထက်ပေါက်ထက်သာလွန်၍ လေးလေးပင်ပင် ရှိပေဘယ်"ဟု ပြောဆိုသတဲ့ ဒကာရဲ့။

ယခုလဲ ဒကာချက်တဲ့ ဝက်နှင့် ချဉ်ပေါင်သည် လွန်အောင်ပင် ကောင်း ပေသည်ဟု မိန့်တော်မူလျှင် အနီးအနားတွင်ရှိသော ဒကာအပေါင်းတို့ နှစ် ထောင်းအားရဝမ်းသာကြကုန်၏။

ကိံသုကုတ္တရိဘဂ်ေန၊ ဩပမ္မေနာပိ တောသယိ။
မဟာထေရော ကဝိ ဗျတ္တော၊ ကေဒါ ဒါယကဿ ဒါသော။

ဖိုးသူတော် ပုတီးစိပ်သလို မလုပ်နှင့်ဟူသောဥပမာဖြင့်
မိန့်ကြားတော်မူခြင်း

တနေ့တွင် ပဉ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီးသည် ဒက္ခိဏာ ရာမဘုရားကြီး တိုက်တည် ဆရာတော်အရှင်ဇာဂရထေရ် မြတ်ကြီးအား နန်းတော်သို့ ပင့်၍ ဆွမ်းဆက်ကပ်လှူဒါန်းတော်မူသည်၊ ဆရာတော်က ဆွမ်းဘုဉ်းပေးပြီး အနုမောဒနာတရားတို့ကို ဟောအပြီး "ဒကာတော်

ရေမြေ့ရှင်မင်းတရား....ငါးပါးသီလခါးဝတ်ပုဆိုးကဲ့သို့ ဖြူပါ၏လော၊ ရှစ်ရက်သီတင်းလပြည့်လကွယ်နေ့များ၌ ရှစ်ပါးသီလ ဆောက်တည် စောင့်သုံးပါ၏လော''ဟု မေးတော်မူ၏။

ထိုအခါ မင်းတရားက ''ဆရာတော်ဘုရား... တပည့်တော်သည် ငါးပါးသီလကို ခါးဝတ်ပုဆိုးကဲ့သို့ မကျိုးမပေါက် မပြောက်မကြားရအောင်သတိပြု၍ စောင့်ပါသည်။ ရှစ်ရက်သီတင်းလပြည့်လကွယ်နေ့များမှာလဲ ရှစ်ပါးသီလကို အားထုတ် စောင့်ရှောက်ပါသည်ဘုရား''ဟု လျှောက်ထားလေရာ—

ဆရာတော်က ''အို ဒကာတော် ရေမြေ့ရှင်....ငါးပါးသီလ၊ ရှစ်ပါးသီလ စောင့်ရှောက်သည်ကား အလွန်ကောင်းပေသည်။ သို့ရာတွင် ဖိုးသူတော် ပုတီးစိပ်သလို မဖြစ်စေနှင့်''ဟု မိန့်ကြားတော်မူ၏။ ထိုအခါမင်းတရားက ''ဆရာတော် ဖိုးသူတော် ပုတီးစိပ်ပုံကို ဆက်လက်၍ မိန့်ကြားတော်မူပါ''ဟု လျှောက်ထားလေလျှင်—

ဆရာတော်က သာသနာ့ဒါယကာဧကရာဇ်မင်းမြတ်.... ရှေးက ရွာတရွာ ဘုန်းကြီးကျောင်း တကျောင်းမှာ ဖိုးသူတော်တယောက်ရှိတယ်။ အဲသည် ဖိုးသူတော်ရဲ့ ပုတီးက ပုတီးလုံး သုံးလုံးသာ ရှိသတဲ့။ အဲသည် ပုတီး သုံးလုံးဖြင့် ''အနိစ္စ=အမြဲမရှိ၊ ဒုက္ခ=ဆင်းရဲ၏။ အနတ္တ=ကိုယ်မဟုတ်၊ အစိုးမရ၊ အလိုသို့ မလိုက်''ဟူ၍ တခေါက်မျှသာ နေရာတကျ စိပ်ပြီးလျှင် နောက်တွင် ယခင်ကဲ့သို့ ကောင်းမွန်စွာ မစိပ်မူ၍ ''ငင်းနည်း၊ ငင်းနည်း''ဟု ဆို၍ စိပ်သတဲ့။ ထိုသို့ ''ငင်းနည်း၊ ငင်းနည်း'' ဟုဖိုးသူတော် ပုတီးစိပ်သည်ကို အခြားဉပုသ်သည်တို့ ကြားလေလျှင်အနီးအနားသို့ကပ်ပြီး ''အို ကိုသူတော်....အဘယ်ကြောင့်'ငင်းနည်း ငင်းနည်း'ဟု ဆို၍ ပုတီးစိပ်သနည်း''ဟု မေးကြလေရာ ဖိုးသူတော်က ''အင်း ဒကာများကဖြင့် သူတပါး ပုတီးစိပ်သည်ကို ပြောချင်ဆိုချင်လွန်းကြသည်။ အစက လာပြီး နားမထောင်ကြပဲနှင့်''ဟု ဆိုသတဲ့ ဒကာတော် ရေမြေ့ရှင်မင်းတရား။

''အို ဒကာတော်....ဒကာတော်မှာလဲ တခါတည်း စောင့်ရှောက်၍ နောက်ကိုဖြင့် ဖိုးသူတော်လို ငင်းနည်း ငင်းနည်းများမလုပ်ပါနှင့်''ဟူ ထပ်မံမိန့်ကြားတော်မူလေရာ များစွာသော အနီးရှိ မိဖုရားမောင်းမမိဿံ ခြွေရံမှူးမတ်ပရိသတ်အားလုံးတို့ တအုံးအုံး ရယ်မောကြကုန်၏။

ဆရာတော်ကား စာပေကျမ်းဂန်အရပ်ရပ်၌လည်းကောင်း၊ စကားပြောဆိုမှု၌လည်းကောင်း လိမ္မာကျွမ်းကျင်တော်မူလှပါပေသည်။

ဘဒန္တဇာဂရတ္ထေရော၊ သဗ္ဗဒါ ဇာဂရော သုခီ။
သဗ္ဗေသု ဂန္ထေသု ဆေကော၊ နာနာဝိကေထာကာသုပိ။

## စာမှားဖြင့် တရားနိဂုံးအုပ်သော ရဟန်းဥပမာဖြင့် မိန့်ကြားတော်မူခြင်း

တနေ့သောအခါ နိကာယက္ကဝပါရဂူ လင်းယဉ်ထူသော ဆရာတော်အရှင် ဇာဂရမဟာထေရ်သည် တစုံတရာ ပြောဆိုဆွေးနွေးရန် ရှိသဖြင့် သုဓမ္မာသို့ ကြွတော်မူသည်။

ထိုအခါ သုဓမ္မာဆရာတော်ရှစ်ပါးတွင် အပါအဝင်ဖြစ်သော ဆရာတော်နှစ်ပါးတို့သည် စကား အရှုံး အနိုင် ပြိုင်ဆိုငြင်းခုံသူဘဖုံ ငါဘဝ မိမိတို့တွေ့ရှိသည့် ကျမ်းဂန် ပါဠိများကို ကိုးကားပြောဆိုဆဲ အခါအခိုက် ဘုရားကြီး ဆရာတော်ဘုရားကြီး ကြွလာသည်ဟု ဆိုပြီး သုဓမ္မာဆရာတော်နှစ်ပါးတို့သည် စကားတန့်ရပ်၍ နေလေရာ ဘုရားကြီး ဆရာတော်အရှင် ဇာဂရမဟာထေရ်က—

အို သုဓမ္မာဆရာတော်နှစ်ပါးတို့.... ဆရာတော်တို့ အထောက်အထားသာကေအာဂမဒဋ္ဌီများနှင့် အကိုးအကားပြုလုပ်၍ မိန့်ဆိုငြင်းခုံကြသည်မှာ အဆုံးသတ်နိုင်အောင် ရှိချေ၏။

ရှေးက တရားဟောဘုန်းကြီးနှင့် တရားနာ ဒါယကာတို့ကဲ့သို့ "ကသလာဓမ္မာ"များ ဖြစ်နေကြသည်ဟု မိန့်တော်မူလေရာ သုဓမ္မာဆရာတော်များက "ဆရာတော်....ဆရာတော် မိန့်ကြားတော်မူတဲ့ တရားဟောဘုန်းကြီးနှင့် ဒါယကာအကြောင်း ဆက်သက်၍ မိန့်ကြားတော်မူပါ"ဟု လျှောက်ထားသဖြင့်-

ရှေးက ရွာတရွာမှာ ကိုးကွယ်၍ထားသော ဘုန်းတော်ကြီးတပါးသည် များစွာသော ကျမ်းဂန်ကိုလည်း မသင်ကြားဖူးရကား အမှားအမှန်ကို မသိ။ မိမိမှာရှိသော စာကို အာပူတိုက် ကျက်မှတ်၍ ဒါယကာ ဒါယိကာမတို့အား တရားမွေ့ဟောပြလေ့ရှိသတဲ့။ တနေ့တွင် အသျှူဒါယကာ တဦးက ပင့်သဖြင့် လိုက်ကြွသွား၍ အချိန်ကျသဖြင့် တရားဟောသောအခါ သုတ္တန်ဒေသနာ၏ အဆုံး၌ အဘိဓမ္မာသတ်ငါ၍ "ဤသို့ ဟောတော်မူအပ်သော ဒေသနာသည်ကား လူနတ်နိဗ္ဗာန် သုံးတန်ချမ်းသာ ပေးတတ်စွာသော သုတ္တန်ဒေသနာတော် ဖြစ်၏။ အလွန်အကြူး အထူးအားဖြင့် မြတ်လှစွာသော အဘိဓမ္မာဒေသနာတော်မြတ်သည်ကား ကျမ်းအရေအတွက်အားဖြင့် ဓမ္မသင်္ဂဏီ ဝိဘင်း ဓာတုကထာ ပုဂ္ဂလပညတ် ကထာဝတ္ထု ယမိုက် ပဋ္ဌာန်းဟူ၍ ၇-ကျမ်းအပြားရှိ၏၊ ထို ၇-ကျမ်းတွင် ဓမ္မသင်္ဂဏီကျမ်းကို ရှေးဦးစွာ ဟောတော်မူ၏၊ အဘယ်သို့ ဟောတော်မူသနည်း ဟူမူကား—

"ကာသလာ ဓမ္မာ၊ အကာသလာ ဓမ္မာ၊ အဗာကတာ ဓမ္မာ-ဟူ၍ ဟောတော်မူသတည်း"ဟု ဆိုလေရာ အဘိဓမ္မာညဝါမာတိကာ အရကောက်များကို အနည်းငယ် ဆိုဖူးသင်ဖူးသော ဒါယကာတယောက်က ထ၍ လျှောက်ထား သည်မှာ—

အရှင်ဘုရား....ခေတ္တဆိုင်းတော်မူပါ၊ ယခု အရှင်ဘုရားဟောတော်မူသော အဘိဓမ္မာဒေသနာတော်သည် တပည့်တော်များ သင်ဖူးသော အဘိဓမ္မာနှင့် မတူပါ၊ တပည့်တော်များ သင်ဖူးသော အဘိဓမ္မာ ဒေသနာတော်မှာ ကကြီး တွင် တချောင်းငင်နှင့် "ကုသလာဓမ္မာ၊အကုသလာ ဓမ္မာ"ဟူ၍လည်းကောင်း၊ ဗထက်ခြိုက်တွင် ယပင့်နှင့် "အဗျာကတာ ဓမ္မာ" ဟူ၍လည်းကောင်း သင်ဖူး တွေ့ဖူးပါသည်။ ယခု အရှင်ဘုရားဒေသနာမှာ"ကသလာ ဓမ္မာ၊ အကသလာ ဓမ္မာ၊ အဗာကတာဓမ္မာ"ဟု ဖြစ်နေပါသည်။

ဤကဲ့သို့ ဘယ်တုန်းကမှ တသက်နဲ့တကိုယ် မကြားဖူးပါဟု လျှောက် ထားလေရာ ဘုန်းကြီးက "ဒါယကာ....စာနှင့် မတူလျှင်သာ ရှိရမည်။ ကျုန်ုပ် ကျောင်းမှာရှိတဲ့ ဆယ်ကြောင်း ပေစာနိကလေးထဲမှာဖြင့် သည် လို ပါတာပဲ ဒကာကြီးရဲ့၊ ဒကာကြီး ဘယ်လိုပဲပြောဟောသော်လဲ သည် တချောင်းငင် မပါသည့်တရားနှင့် ချည်း ဟောခဲ့သည်မှာ အရွာရွာ များလှ ချေပြီ၊ ဒကာကြီးမယုံလျှင် ကျောင်းကစာကို လိုက်ကြည့်ပါ"ဟုဆိုသဖြင့် ဒကာက လိုက်ကြည့်လေရာ ရှေးက စာဟောင်းကို မျဉ်းထပ်၍ ပစ်ထားသဖြင့် အစနားက စာကြောင်းတွင် ရှိသော "ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ"၌ ကကြီးတချောင်းငင်နှင့် "အဗျာကတာ ဓမ္မာ"၌ ယပင့်များသည် မျဉ်းထိုးရာ သို့ ပါသွားသည်ကို သိရ"အရှင်ဘုရားစာမှာ မျဉ်းထိုးရာသို့ တချောင်းငင် များနှင့် ယပင့်များ ပါသွားတာဖြစ်ပါသည်။ ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ၊ အဗျာကတာဓမ္မာ-သာ မှန်ပါသည်ဘုရား"ဟု လျှောက်ထားလေလျှင် ဘုန်းကြီးက "အို ဒကာကြီး....ဘယ်လိုပင် ကြံဖန်ပြောသော်လဲ ကျုန်ုပ် သဘောမကျပါ၊ ကျုန်ုပ်စာမှာရှိတဲ့ ပါဠိအတိုင်းသာလျှင်မှန်သည်"ဟု တရား ဟောချတ်ယွင်းလျက်နှင့် ဇွတ်ငြင်းပြီး ခံနေသတဲ့ ဆရာတော်တို့ရဲ့။

ဤအတူ ဆရာတော်တို့များမှာလဲ ဘယ်သူ့ဟာကလဲ၍ ဘယ်သူ့ဟာမှန် သည်ဟု မပြောသာဘူး၊ ကိုယ့်စာကိုသာ ကိုယ်သဘောကျလေတော့ဟု အမိန့် ရှိလေရာ သူဓမ္မာဆရာတော်များ ရယ်မောကြကုန်၏။

ဆရာတော်ကား လောကီ လောကုတ္တရာ ဗဟုသုတ အတွေ့အကြုံ အလွန် များသည့် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် စင်စစ်ဖြစ်တော်မူပါပေသည်။

ဘဒန္တဇာဂရော ထေရော၊ ဇာဂရော ဇိနသာသနေ။
ဗဟုဿုတော စ သော အာသိ၊ သတ္တေသု ကုသလော သုစိ။

## အပျိုကြီးနှင့် လူပျိုကြီး စကားထာဝှက်သလို ဟူသော ဥပမာဖြင့် သုဓမ္မာဆရာတော်တို့အား မိန့်ကြားတော်မူခြင်း

တနေ့သောအခါ ဒက္ခိဏာရာမဘုရားကြီးတိုက် ဆရာတော် အရှင်ဇာဂရ မဟာ ထေရ်သည် အကြောင်းကိစ္စတခုဖြင့် သုဓမ္မာသို့ ကြွတော်မူသောအခါ သုဓမ္မာတွင် နိုင်ငံတော်အတွင်းမှ မရှင်းမလင်းသော အမှုအခင်းအရှုပ်ရှပ်ကို ဆုံးဖြတ် စီရင်တော်မူနေကြဆဲ ဖြစ်သဖြင့် ဆွေးနွေးတိုင်ပင်သောအားဖြင့် ဒက္ခိဏာရာမဘုရားကြီးဆရာတော်အား—

ဆရာတော်....တပည့်တော်များ တရားအရှုပ်ရှပ်ကို ဆုံးဖြတ်စီရင်ရသည်မှာ အမှုသည် နှစ်ဦးတို့အတွက် ဉာဏ်မျက်စိဖြင့် ဆင်ခြင်တိုင်းထွာ၍ ယထာဓမ္မ လမ်းမှန်ကျ၍ သံဃသုဋ္ဌုသံဃဖာသုဖြစ်အောင်သာ သဘောထားရပါသည်။ ဘုရားရှင်ဟာသ္တာမဟုတ်သည့်အတွက် မုချသိရန်ခဲယဉ်းလှကြောင်းနှင့် လောက်ထား လေလျှင်—

ဒက္ခိဏာရာမဘုရားကြီး ဆရာတော်က "အိုဆရာတော်တို့....အပျိုကြီးနဲ့ လူပျိုကြီး စကားထာဝှက်သလိုပလေ၊ နှစ်ဦး နှစ်ဘက် ကျေအေးအောင် ကြံစည်၍ ဖြေဖျန်ပြီး လွှတ်သင့်သည်အရာမှာ ဖျန်ဖြေ၍ လွှတ်ရမည်ပင်"ဟု မိန့်တော်မူသည်။

ထိုအခါ သုဓမ္မာဆရာတော်များက "ဆရာတော်....ဆရာတော်မိန့်တော်မူ သော အပျိုကြီးနဲ့လူပျိုကြီး စကားထာဝှက်သည် ဆိုသောပုံကို အပြည့်အစုံမိန့် တော်မူပါ"ဟု တောင်းပန်သဖြင့် ဒက္ခိဏာရာမဘုရားကြီးဆရာတော်က—

အိုသုဓမ္မာဆရာတော်တို့....ရှေးကရွာတရွာမှာ ပညာဉာဏ်နှင့် ပြည့်စုံသော အပျိုကြီးတယောက်ရှိသတဲ့။ ထိုအပျိုကြီးရဲ့ စကားထာကို ကောင်းမွန်စွာ မဖြေနိုင်ဆိုနိုင်ကြသည့်အတွက် ရှက်သဖြင့် ယောကျာ်းသားမန်တို့ သွားရောက် စကားမပြောဝံ့ကြကုန်။

တနေ့တွင် ရင်းရွာလူပျိုကြီးတဦးသည် အထူးသဖြင့် ခင်မင်နှစ်သက် သဘောကျသောကြောင့် ဖော်ပြပါအပျိုကြီးထံသို့ ညဉ့်ဦးယာမ်သွားရောက် လေရာ အပျိုကြီးက–"ဇကြီးကိုပယ်မှ နငယ်နဲ့ နီးပါ့မယ်မောင်ကြီးရယ်"ဟု စကားထာဝှက်လေ၏။

ထိုအခါ လူပျိုကြီးက "ဏကြီးဆိုတာ အခြားမဟုတ်၊ နီနီရဲရဲအထက်ဆင့်ကို ရည်မှန်း၍ ဆိုဟန်ရှိသည်။ နငယ်နဲ့ နီးမယ်ဆိုသည်ကား အခြားမဟုတ်။ အသားမြတ်ကို ရည်မှန်း၍ ဆိုဟန်တူသည်"ဟု အကြိုက်ခတ္တပြီး ရှတ်တရက်ထတဲ့ကာ အပျိုကြီးအား ထနာမသာနအမှုကို ပြုလေသည်။

ထိုအခါ အပျိုကြီးမှာ ယမ်းပုံမီးကျစိတ်တိုလှဖြင့် ရှာသူကြီးထံ သွား၍ အလုံးစုံကို အကုန်မကျန် ပြန်လှန်တိုင်ကြားလျှင် ယခင်လူပျိုကြီးကို ခေါ်၍ "မောင်မင်း...မောင်မင်းသည် မသင့်မတော် အဘယ်ကြောင့် ထနာမသာနအမှုကို ပြုဘိသနည်း"ဟု မေးမြန်းလေရာ—"အိုသူကြီ မင်း....ကျွန်တော်မျိုးသည် အခွင့်ရသောကြောင့်သာ ပြုပါသည်။ ပဌမ သူကစ၍ ဏကြီးကိုပယ်မှ နငယ်နဲ့ နီးပါ့မယ်မောင်ကြီးရယ်'ဟု စကားပေး၍ သုံးသပ်ကိုင်တွယ်မိပါသည်"ဟု ပြောလေရာ ရှာသူကြီးက "ဏကြီးကိုပယ်မှ နငယ်နဲ့ နီးပါ့မယ်မောင်ကြီးရယ်-ဟု ဆိုရုံမျှဖြင့် အဘယ်သို့သော အဓိပ္ပာယ်သဘောသဘာဝတ္တကို စဉ်းစား၍ ကိုင်တွယ်ရသနည်း"ဟု မေးမြန်းပြန်လေလျှင်—

အိုသူကြီးမင်း....ကျွန်တော်တွေးကြံနည်းမှာ "ဏကြီးကိုပယ်မှဆိုသည်ကား အခြားမဟုတ် နီနီရဲရဲအထက်ဆင့်ပဲ"ဟု တွေးကြံပါသည်။ "နငယ်နှင့် နီးပါ့မယ်ဆိုသည်ကား အခြားမဟုတ် အသားမြတ်ဖြစ်မည်"ဟု တွေးတောပြီး သူပေးလို၍ စတင်၍ ပြောသည်ဟု သဘောရပါသဖြင့် ကိုင်တွယ်သုံးသပ်မိပါသည်ဟု အစစ်ခံလေသည်။

ထိုအခါ ရှာသူကြီးက အပျိုကြီးအား—အိုရှင်မ....ရှင်မကကော ဘယ်အဓိပ္ပာယ် ရည်ရွယ်ချက်ဖြင့် "ဏကြီးကိုပယ်မှ နငယ်နှင့် နီးပါ့မယ်မောင်ကြီးရယ်"ဟု စကားထာဝှက်သနည်းဟု မေးမြန်းလေလျှင်—

အိုရှာသူကြီး....ကျွန်တော်မ၏ ရည်ရွယ်ချက် အဓိပ္ပာယ်ကား ဏကြီးကိုပယ်မှဆိုသည်မှာ တဏှာကိုပယ်မှ ဆိုလိုပါသည်။ န-ငယ်နဲ့နီးပါ့မယ်ဆိုသည်မှာ နိဗ္ဗာန်နဲ့ နီးပါ့မယ်ဟု ဖြစ်ပါတယ်။

ထိုအခါ ရှာသူကြီးက "ယင်းသို့ဖြစ်ခဲ့လျှင် ကိုယ့်စိတ်ကူးနှင့် ကိုယ့်အကြံနှစ်ယောက်လုံးမှန်သည်ချည်း ဖြစ်ပေသည်။ တော်ကြတော့ မပြောကြနှင့်"ဟု ဖျန်ဖြေ၍ လွှတ်လိုက်သတဲ့ ဆရာတော်တို့ရဲ့။ ဤအတူယခုလဲ အမှုအေး ပြီးရော့ပ၊ သည်းခံကြလို့ဖျန်ဖြေပြီး လွှတ်တန်သော နေရာမှာ ဖျန်ဖြေလွှတ်

လိုက်ရတာပ ဆရာတော်ဟု မိန့်ကြားတော်မူ၍လျှာ သုမေ့ဓာဆရာတော်တို့ ဝမ်းမြောက်နှစ်သက် ရွှင်လန်းအားတက်တော်မူကြလေကုန်၏။

ဘဒ္ဒန္တဇာဂရော ထေရော၊ ဇာဂရော ဗုဒ္ဓသာသနေ။
ဝေဒတုဋ္ဌိဗဟုလော၀၊ သဗ္ဗဒါ ဘာသတိ သုဓီ။

## ကွမ်းထမ်းသမား ဥပမာဖြင့် ဒကာတော် ရေမြေ့ရှင်အား မိန့်ကြားတော်မူခြင်း

တနေ့တွင် ပဉ္စမသံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီးသည် ပိဋကတ္တယကောဝိဒ၊ ပိဋကတ္တယဆေက၊ နာနာနယကောဝိဒ၊ ဂန္ထန္တရ ပါရဂူ ဖြစ်တော်မူသော "ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော် သုံးထပ်ရ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော်ဘုရားကြီး အရှင်ဇာဂရကို ရွှေနန်းတော်သို့ ပင့်၍ သင့်တင့်လျောက်ပတ် မှန်မြတ်သော ဆွမ်းဘောဇဉ် ချိုချဉ် အရသာ ဇာဖြာဖြာ တို့ကို ဆက်ကပ်လှူဒါန်းတော်မူပြီးနောက်—

ဆရာတော်ဘုရား.... ဒကာတော်မှာ ရှေးရှေးသော ဘုရားအလောင်း သူတော်ကောင်းများ ဖြစ်ကြသော နေမိ၊ မေ့ဓသုန္ဒရ၊ သာမိန်-စသော မင်းတို့ ကဲ့သို့ အဖော်မမှီး တကိုယ်ထီးတည်း တောထွက်၍ မဂ်ဖိုလ်နိဗ္ဗာန် ရောက်ရန် ရောက်ကြောင်း ကောင်းသောအကျင့်များကို ကျင့်ကြံ အားထုတ် လိုသော ဆန္ဒပင်ရှိသော်လည်း ဘုရားမြတ်စွာ သာသနာတော်အတွက် မိဖုရားမောင်းမ မိဿံ၊ ခြွေရံ မှူးမတ်၊ ဆွေတော်၊ မျိုးတော်၊သားတော်၊ သမီးတော်တို့အတွက် တိုင်းပြည်ခရိုင် နိုင်ငံတော်အတွင်း ဆင်းရဲသားများစွာ သတ္တဝါအပေါင်းတို့ အတွက် ငဲ့ကွက် ညှာတာခြင်း သံယောဇဉ်ဘုရား ဆီးတား ကန့်ကွက်သော အရာ များသေးသောကြောင့် တရားကိုအားမထုတ်နိုင်ပဲ ရှိပါသေးသည်။ အသက်အရွယ် ကြီးရင့်၍ အခွင့်အခါသင့်သော ကာလ တရားမေ့ အားထုတ် ကျင့်ကြံရန် ဆန္ဒရှိပါသည် ဘုရားဟု လျှောက်ထားလေသည်။

ထိုအခါ ဆရာတော်က—အို သာသနာ့ ဒါယကာ ဒကာတော် ရေမြေ့ရှင် မင်းတရား... ဆရာတော် ဥပမာတခု ပြောပြမယ် သဘောကျအောင် နား ထောင်ပါ။

ရှေးအခါ သမယက ရွာတရွာမှာ လယ်သမားတယောက် လယ်လုပ်၍ ပျိုးနုတ်ရန် ကိစ္စရှိလျက် သစ်ပင်ရိပ်တွင် ခိုဝင်နားနေစဉ် "နေက အလွန် ပူသေးသည်၊ နေအေးမှ အသာဆင်း၍ ပျိုးခင်းနုတ်ပါမူ ခဏမကြာ ပျိုးတရာ

အသာကလေးရပေမည်။ ခဏလောက် နေခိုဦးအံ့''ဟု ပြောဆိုသည်ကို ထိုသစ်ပင်ရိပ်သို့ ''ချွေးသိပ်အံ့၊ အပင်ပန်းဖြေ နားနေဦးအံ့''ဟု လာသော ကွမ်းထမ်းသမားတယောက်က သစ်ပင်ရိပ်သို့ မရောက်မီ လယ်သမားပြောဆိုသော စကားကို ကြား၍ ''ဤလယ်သမားသည် လုပ်အား ကိုင်အားဖြင့် စွန့်စားမည့်သူနှင့် တူ၏၊ ထိုသူ၏ ပျိုးနုတ်ဟန် အယောင်ယောင် ဖေတ္တဓား ကြည့်ရှုပြီးမှ မိမိကွမ်းများကို သွား၍ ရောင်းမပေအံ့''ဟု နှလုံးပြုလျက် သစ်ပင်ရင်း၌ ထိုင်၍ စောင့်နေသတဲ့။

ထိုအခါ လယ်သမားက ''နေအေးမှ ပျိုးနုတ်မည်ဟု ကြံစည်၍ နားနေပါသည်။ နေများကလဲ မြန်သောကြောင့် ကြံဆဲရှိသေး နေဝင်ပြီ၊ ငါကား ယနေ့မနုတ်သာ၊ နက်ဖြန်ခါမှပင် နုတ်တော့မည်''ဟု ဆို၍ အိမ်သို့ ပြန်သွားလေ၏။ သို့နှင့် ကြည့်ရှုအံ့ဟု စောင့်ဆိုင်းနေသော ကွမ်းထမ်းသမားမှာ စောင့်စား ထိုင်နေမိသောကြောင့် ကွမ်းများ မရောင်းရပဲ ကွမ်းတွေ ပုပ်ကုန်ရော့ သာသနာ့ဒါယကာ ဒကာတော် ရေမြေ့ရှင် မင်းတရား။

ဤအတူ ယခု ဒကာတော်မှာလဲ တိုင်းသူပြည်သား၊ မိဖုရား၊ မောင်းမမိသံ၊ ခြွေရံမှူးမတ် အရပ်ရပ်တို့အတွက် ငဲ့ကွက် စောင့်စားနေလျှင် ကွမ်းထမ်းသမား ကွမ်းတွေပုပ်သကဲ့သို့ အားမထုတ်ရပဲ ရှိတတ်သည် ဒကာတော် ရေမြေ့ရှင် မင်းတရား-ဟူ၍ မိန့်ကြားတော်မူလေရာ ပဋ္ဌမသံဂါယနာတင် မင်းတရားကြီး ပီတိသောမနဿများစွာ ဖြစ်လေ၏။

ဘဒန္တဇာဂရော ထေရော၊ ဇာဂရော ဗုဒ္ဓသာသနေ။
သင်္ဂီတိဒါယကံ ဘူပံ၊ တောသာပယိ အနေကဓာ။

ငယ်ပါကိုပါ တွေ့မြင်လိမ့်မည်ဟု မှတ်သားလောက်အောင်
မိန့်ကြားတော်မူခြင်း

ပဋ္ဌမသံဂါယနာတင် အဝရှင် မင်းတရား လက်ထက်က သံဃဦးကိုင် သာသနာပိုင် ဆရာတော်ဘုရားကြီးနှင့် တကွ တံဆိပ်တော်ရ ဆရာတော်တို့အား လျှောက်ထား တိုင်ပင်၍ သံဃာတော်မြတ်များ နေလှဲ့လျှင် ကွမ်းစားဆေးသောက်ခြင်း အစရှိသော အမှုများကို မပြုမလုပ်တော်မူကြရန် မဟာဒါန်ဝန်၊ မဟာဒါန် စာရေးတို့နှင့် စောင့်ရှောက် ကြည့်ရှု သာသနာ ပြုတော်မူသည်။

တနေ့သောအခါ မဟာဒါနဲ့ စာရေးတို့သည် ဒက္ခိဏာရာမ တိုက်တွင်းရှိ ကျောင်းများသို့ လှည့်လည်ကြည့်ရှု စုံစမ်းရာ ကျောင်းတကျောင်း၌ ရဟန်းတော်တပါး ဆေးလိပ်သောက်နေသည်ကို တွေ့မြင်သဖြင့် "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ် နာမံတော် အလှူခံ ရရှိတော်မူသော ဘုရားကြီး ဆရာတော်ထံ လာရောက်ကြကုန်၍—

ဆရာတော်ဘုရား....တပည့်တော်များသည် မင်းတရားကြီး ၏ အမိန့်တော်မြတ်အတိုင်း သံဃာတော်များ နေလှဲလျှောင်ကွမ်းစား၊ ဆေးသောက်၊ အရပ်ထဲ အကြောင်းမဲ့ ဖိနပ်စီး၊ ထီးဆောင်းခြင်း-စသော အမှုများကို မပြုလုပ်ကြရန် မဟာဒါန်ဝန်စာရေးများအဖြစ်ဖြင့် ကြည့်ရှုရသည် ဖြစ်ပါ၍ ယခုဆရာတော်ဘုရားကြီး၏ တိုက်တွင်းရှိ ကျောင်းများသို့ လှည့်လည်ကြည့်ရှုရာ ရဟန်းတော်တပါး ဆေးလိပ်သောက်နေသည်ကို တွေ့ရပါသည်။ ဆရာတော် ခေါ်တော်မူ၍ ဆုံးမတော်မူပါမည့် အကြောင်း ခွင့်တောင်းလျှောက်ထားကြကုန်၏။

ထိုအခါ ဆရာတော်ဘုရားကြီးက "အိုဒါကကာ မဟာဒါန်စာရေးတို့.... ဆေးလိပ်သောက်နေသော ရဟန်းကို ဘယ်မှာ တွေ့ခဲ့သနည်း"ဟု မေးလေလျှင် မဟာဒါန်စာရေးတို့က "ဆရာတော်ဘုရား....ကျောင်းခန်းထဲမှာ တွေ့ခဲ့ပါသည်ဘုရား"ဟု လျှောက်ထားလေရာ ဆရာတော်က—

"အိုမဟာဒါန်စာရေးတို့....သင်တို့ အရေးပြုလောက်သော အရာမှာသာ အရေးပြုရမည်။ ယခု ဤဦးပဥ္စင်း ဆေးလိပ်သောက်သည်မှာ ရပ်ရွာအတွင်းလဲ မဟုတ်၊ မလျှော်မလျောက်ပတ်သော လမ်းပေါ်မှာလဲ သောက်သည်မဟုတ်၊ ဖုံးအုပ်ကွယ်ထောင့်သော ကျောင်းခန်းအတွင်း၌ မလွတ်မကင်းနိုင်အောင် မရှောင်မကြဉ်နိုင်သော အခိုက် သူ့ကြိုက်တက်၍မသိလိုက် မသိဘာသာသောက်ရှာသည်ကို သေသေချာချာအခန်းအတွင်း ဝင်ပြီးကမှ ကြည့်သည်မှာ မတွေ့ပဲ ရှိနိုင်မည်လော၊ အခန်းအတွင်းဝင်ရှာလျှင် ငယ်ပါကိုပင်မြင်လိမ့်မည်"ဟုအမိန့်တော်ရှိလျှင် ကြည့်ရှုသူ မဟာဒါန်စာရေးတို့သည် ပြန်ပြေးကြလေကုန်၏။

ဆရာတော်ကား အရာဌာန အခိုက်အတန့်အား လျော်စွာ စကားအရာလိမ္မာတော်မူလှပါပေသည်။

ဝစနေသု စ ဆေကော ဟိ၊ ကာလာကာလံ အပေက္ခိယ။
ထေရော ဟိ ဇာဂရဝှယော၊ သန္တဒါ ဇာဂရော သုဓီ၊

## မီးအိမ်ပုံနန်းတော်သို့ ကြွသောအကြောင်းနှင့် စပ်လျဉ်း၍ စာသွင်းတော်မူခြင်း

တနေ့တွင် ဒက္ခိဏာရာမတိုက်ကြီးအတွင်း မင်းမာကျောင်း၌ သီတင်းသုံးနေသည့် မိုးကုတ်သား ရဟန်းတပါးက သီတင်းကျွတ်အခါဖြစ်၍ စာဝါချထား အားလပ်သည့်အခါ ဝါသနာထုံ၍ မီးအိမ်ပုံတလုံးချိုးလုပ်စီမံ၍ ရေနံမီးစာနှင့်တကွ ဒက္ခိဏာရာမတိုက်က လုပ်သော "မီးရုပ်မီးအိမ်ပုံ"ဟူ၍ စာတတန်အထူး ထန်းဖူးတွင် ရေဆွဲလျက် တိုက်ထဲမှ လွှတ်လိုက်လေသတည်း။ ထိုအခါ ကောင်းကင်သို့ တက်သွားသော မီးအိမ်ပုံသည် ရေနံအဟုန်အား ကုန်သည့်အတွက် အောက်သို့ သက်ပြီးသော် နန်းတော်၌ ကျလေ၏။

ထိုအခါ နန်းသား နန်းသူ ကျွက်ဆူအောင်ညံ ပြောဆိုကြသောအသံကို အရှင်သင့် မင်းတရားကြီး ကြားသိတော်မူ၍ တက်ယူစေပြီးလျှင် မီးအိမ်ပုံတွင် ပါသော စာကို သေချာစွာဖတ်စေဟု အမိန့်တော်ရှိရာ မဆိုင်းမတွဖတ်ပြရသည်နှင့် "မိုးရုပ်မီးအိမ်ပုံ"ဟု ရေးသောစာတွင် ကကြီးနှင့် မရေးပဲ ဂငယ်တချောင်းငင်၍ ရေးသားခြင်းရှိသဖြင့် ထိုဂငယ်အက္ခရာတချောင်းငင်ကို အထင်မှောက်သဖြင့် ရကောက်ဟု မှတ်၍ "မိုးရုပ်မီး အိမ်ပုံ"ဟု မမှန်သည်ကို ဖတ်ကြားလျက် လျှောက်ထား သံတော်ဦးတင်လျှင် ဘုရင်မင်းတရားကြီးသည်လည်း များစွာ မျက်တော်မူသဖြင့် ဒက္ခိဏာရာမတိုက် အမည်တပ်၍ မိုးရုပ်မီးအိမ်ပုံဟု ပါခဲ့လျှင် "ဒက္ခိဏာရာမတိုက်သို့သွားပြီး ဘုရားကြီး ဆရာတော်ထံ မီးအိမ်ပုံလွှတ်သော မိုးရုပ်ကျောင်း ဦးပဉ္ဇင်းကို ချက်ချင်းလျှောက်၍ တောင်းစေ"ဟု အမိန့်တော်မှတ်လေရာ အမတ်ငယ်တို့ သွား၍ ဆရာတော်ဘုရားကြီးအား — အရှင်ဘုရား ယခု မီးအိမ်ပုံတလုံး နန်းပေါ်သို့ ကျသဖြင့် စာနှင့်တကွ ရရှိရပါသည်။ စာအရမှာ ဒက္ခိဏာရာမတိုက်က လုပ်သော မိုးရုပ်မီးအိမ်ပုံဟု ပါသောကြောင့် သာသနာ့ဒါယကာ မဟာကေရာဇ်မင်းမြတ်က မိုးရုပ်ဦးပဉ္ဇင်းကို ယခုချက်ချင်း အပ်ရမည်အမိန့်တော် ရှိပါသည်ဘုရား၊ အရှင်ဘုရား၏ တပည့် ရဟန်းကို နန်းတော်သို့ အပ်ထည့်တော်မူပါဘုရားဟု လျှောက်ထားကြကုန်၏။

ထိုအခါ ဆရာတော်ဘုရားက စာမှား၍ ဖတ်သောကြောင့် မိုးရုပ်ဟု အထင်ရှိသည်။ ဘုရင်၏ အလိုတော်ကျအောင် ကြံဆောင်စာသွင်းမှ ဦးပဉ္ဇင်း ရဟန်းငယ်မှာ ရာဇအန္တရာယ်မှ လွတ်ကင်းလျက် ချမ်းသာခြင်းရမည်ကို အတည် ထောက်ဆလျက် အောက်ပါအတိုင်း နန်းတော်သို့ စာသွင်းတော်မူသည်။

ဒက္ခိဏာရာမတိုက် ဆရာတော် စာသွင်းအပ်သည်။ သာသနာ့ ဒါယကာ မဟာကေရာဇ်မင်းမြတ်....မိုးရုပ်မီးအိမ်ပုံဟူ၍ စာ၌ပါရှိသည် မှာ ဆရာတော်၏တိုက်အတွင်း၌ မိုးရုပ်ကျောင်းဟူ၍မရှိပေ၊ တကာခတော်

မင်းတရား၏ ကျေးလက်ခရိုင် နိုင်ငံတော်အတွင်းမှာလည်း မိုးညှင်း၊ မိုးမိတ်၊ မိုးကုတ်၊ မိုးနဲ၊ မိုးဗြဲဟူ၍သော ရှိသည်။ မိုးရပ်ဟူ၍ အဘယ် အရပ်ဒေသ အဘယ်ဌာနမှာမှ မရှိ ဖြစ်ပေသည်။ သို့ဖြစ်၍ မိုးရပ်၏ အကြောင်းကို ထောက်ထားဆင်ခြင်လျှင် လူ့ပြည်တွင် လူမင်းဘုန်းကြီးက နတ်မင်းတို့ မနေနိုင်ဟု ဆိုရိုးရှိသည်အလျောက် လူ့ပြည်က တကာတော် ကေရာဇ်မင်း၏ ဘုန်းတန်ခိုးကြီးပေသောကြောင့် စတုမဟာရာဇ်၊ တာဝတိံသာ၊ ယာမာ–စသော နတ်ပြည်များမှ သိကြားမင်းနတ်မင်းတို့က မီးဆက်သခဲ့သောလက္ခဏာ ဖြစ်ဟန်ရှိကြောင်းကို စာသွင်းအပ်သည် သာသနာ့ဒါယကာ မဟာ ကေရာဇ်မင်းမြတ်။

ဤကဲ့သို့ ရေးသား၍ လျှောက်ထားလာသူအမတ်တို့အား ပေးအပ်တော်မူသည်။ ထိုအခါ လျှောက်ထားသူ အမတ်တို့သည်လည်း ပေးအပ်သော စာကို ယူသွား၍ မင်းတရားကြီးအား ဆက်သလျှင် အားရနှစ်သက်၍ အမျက်ကျေအေးတော်မူလေ၏။

ဆရာတော်ကား ရုတ်တရက် ချက်တဖြုတ်သိမြင်တတ်သော ဉာဏ်ပညာလည်း ပြည့်စုံတော်မူသည့် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူပါပေသည်။

ဌာနုပ္ပတ္တိကဉာဏေန၊ သမ္ပန္နော ဇာဂရော သုဓီ။
သာသနေ ဇိနစက္ကမှိ၊ ဝိသိဋ္ဌော ပုဂ္ဂလော ဟိ ခေါ။

**ကျွမ်းဂန်ကို အသေအချာမထောက် ခြေရာပျောက် စကားပြောသည်ဟု မိန့်တော်မူခြင်း**

“ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မ ရာဇာဓိရာဇဂုရု” တံဆိပ်နာမံတော်ရှိသော မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် ဆရာတော်ဘုရားကြီး အရှင်ဇာဂရသည် အသီးသီးသော စာသင်သားအပေါင်းတို့ကို နည်းကောင်းပြသ စာပေပို့ချ သင်ကြားအားထုတ်တော်မူသောအခါ ဒါယကာ တယောက်သည် လက်ဖြောက်ရိုကျိုး ရှိခိုးလျှောက်ထားသည်မှာ–

အရှင်ဘုရား....ယခုကာလ အချို့သောသူတို့သည် သူ့အသက်ကို သတ်ခြင်းစသော မကောင်းမှုဒုစရိုက် ဒုရာဇီဝပါပကမ္မကိုပြု၍ ပစ္စည်းရှာဖွေရာ များစွာအကျိုးပေးပါသည်။ ထိုသို့ ရသော ပစ္စည်းဥစ္စာ ရတနာ ရွှေငွေ ဆန်ရေစပါးစသောအားဖြင့် များစွာသော ဝတ္ထုတို့သည် ကုသိုလ်ကြောင့် ရပါသလော၊ သို့မဟုတ် အကုသိုလ်ကြောင့် ရပါသလောဟု လျှောက်ထားလေ၏။

ထိုအခါ ဆရာတော်က "အိုဒါယကာ ပစ္စည်းဥစ္စာ အဖြာဖြာကို ရှာကြံ၍ ရသည်မှာ ကုသိုလ်ကြောင့် ရသည်ဟူ၍ မှတ်ရမည်။ သူ၏အသက်ကို သတ်သော ပါဏာတိပါတကံမှာ နောင်အခါ အပါယ်သို့ကျရန် တလမ်းဖြစ်သည်ဟူ၍ မှတ်ရမည်"ဟု အမိန့်ရှိရာ ဒါယကာက- "သူ့အသက်သတ်ခြင်း အစရှိသော နည်းလမ်းကြောင့် ရသောပစ္စည်းဆိုလျှင် အကုသိုလ်ကြောင့် ရသည်ဟူ၍ မှတ်ရမည်ဟု ဆရာသမား ပြောပါသည်"ဟု လျှောက်သော် ဆရာတော်ဘုရားက "မင်းဆရာသမားက ကျမ်းဂန်ကို အသေအချာမသိသူ အမှတ်မှား အောင်ဝါကြွား၍ မောင်မြတ်တင် ပြောသလို နေသည်" ဟု ဝါကြွား၍ မိန့်တော်မူ၏။

ထိုအခါ ဒါယကာက "ဥပမာစကားကို မိန့်ကြားတော်မူပါ"ဟု တောင်းပန်၍ ရှင်လင်းမိန့်ကြားတော်မူသည်မှာ—

ဒါယကာ....ရွာတရွာတွင် မောင်မြတ်ထင်ဆိုသော သူသည် အယုတ်သဖြင့် ဆင်ကိုမျှ မမြင်ဘူးပဲ ဗဟုသုတအလွန်နည်းပါး၏။ ထိုသို့ နည်းပါးသူဖြစ်သော်လည်း အနှစ်မရှိသော တောတောင်တွင် ကြက်ဆူပင် မင်းမူသည်ဟူသကဲ့သို့ ရွာသူရွာသား တောတွင်းသားတို့အပေါ်တွင် မောင်မြတ်တင် ဝါကြွား၍ ဆရာသမားကြီးတဦး ပြုလုပ်ပြီး နေသဖြင့် ရိုသေကြရ၏၊ ကိုင်းရှိုင်းကြရ၏။

တနေ့သ၌ ရင်းရွာမှာ လူတယောက်လုပ်ကိုင်ထားသော စပါးခင်းတွင် ဆင်ဝင်၍ ညဉ့်ကစားသွားရာ ခြေရာများကိုမြင်သဖြင့် လယ်ရှင်ယောကျ်ားမိုက်သားကလည်း ဆင်စားသည်ကိုမျှမသိ၊ ခြေရာကိုကြည့်ပြီးလျှင် မောင်မြတ်ထင်အား "ဆရာကြီးခင်ဗျား....ကျွန်တော်၏ လယ်ကွင်း၌ ကွင်းကွင်းဝိုင်းဝိုင်း တွေ့ထင်လျက် စပါးများစွာ ပျက်စီးပါသည်။ ဘယ်နည်းကြောင့်ဟူ၍ မသိ၊ ပညာရှိပင် ဖြစ်သည့်အလျောက် ကဆိတ်လောက် လိုက်ကြည့်စေချင်ပါသည်"ဟု ဆိုရာ မောင်မြတ်ထင်သည် အလျင်လိုက်သွား၍ လယ်များကို ကြည့်သောအခါ ဆင်ခြေရာကို မြင်သော်လည်း ဆင်ဟူ၍ သူမသိသောကြောင့် "စကောကို ဖိနပ်လုပ်၍ စီးပြီးလျှင် ခြေရာမထင်အောင် ကြံခိုးတာကွဲ့၊ ဒါမျိုးကို တွေ့ရှိက သည်လိုချည်းမှတ်ထား"လို့ ယုတ္တိဆင် ဝါကြွား၍ ပြောသတဲ့-တကာရဲ့။

ဤအတူ မင်းဆရာသမား ကောင်းစွာ အဓိပ္ပာယ် မကောက်တတ်သဖြင့် ခြေရာပျောက်စကားပြောသည်ဟု မိန့်တော်မူသောအခါ လျှောက်လာသူ ဒါယကာသည် များစွာသဘောကျနှစ်သက်လေသတည်း။

ဘဒ္ဒန္တဇာဂရော ထေရော၊ ဇဝနညာဏိကော သုဓီ။
သော ဟိ ဇဝနညာဏေန၊ ဒါယကံ အဘိတောသယီ။

## မုတ်ဆိတ်မိ မြိုက်မှ ကိုယ့်အမိုက်ကိုယ်သိပုံ ဥပမာဖြင့် မိန့်ကြားတော်မူခြင်း

"ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" တံဆိပ်နာမံတော်ရှိတော်မူသော မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော်ဘုရားကြီးသည် အသီးသီးသော စာသင်သား တပည့်အများတို့ကို သင်ကြားပြသပို့ချ သီတင်းသုံးတော်မူသောအခါ ဆရာတော်ဘုရား၏ တပည့်ရှင်ကဝိဆိုသော သာမဏေသည် စာပေကျမ်းဂန်များကို သင်ကြားနည်းခံ၍ အတော်အတန် သိကျွမ်းလျက် ပညာဉာဏ်စွမ်းနှင့် ပြည့်စုံသတဲ့။

ထိုသာမဏေ အခါတပါး မိဘများကို သနားသည့်အတွက် ညာ၍ လူထွက်မည် စိတ်ထားနှင့် ဆရာတော်ဘုရားထံ ခစားလျက် "အရှင်ဘုရား … တပည့်တော်အား မိဘ နှစ်ပါးတို့ အတိဒုက္ခ အလွန်ရောက်ကြ ဆင်းရဲကြသောကြောင့် တပ်အားသမျှ ကူထောက်၍ စောင့်ရှောက်လုပ်ကျွေးရအောင် လူ့ဘောင်သို့ ထွက်ရန်အရေးကို ခွင့်ပေးတော်မူပါဘုရား" ဟု လျှောက်လေသော်—

"ဟဲ့ကဝိ နင့်မိဘတို့ အတိဒုက္ခရောက်ရခြင်းသည် နောက်နောက်က ကုသိုလ်ကံနည်း၍ ဖြစ်သည်။ ယခု မင်းထွက်၍ လုပ်ကိုင်ကျွေးမွေးမည်ဆိုသော်လည်း ကုသိုလ်မရှိက မင်းမိဘတို့ ချမ်းသာလာကြမည်မဟုတ်၊ ငါ့ရှင်မှာ စာပေကျမ်းဂန်ကို သင်၍ သိမြင်တတ်စွမ်း ရဟန်းပြုစေမည်ဟု ငါ အောက်မေ့သည်။ အကယ်၍ ဆရာတော်ပြောသည်ကို နားမထောင် လူ့ဘောင်သို့ ထွက်သွားပြန်က စားရန် ဝတ်ရန် အတန်တန်သောကိစ္စ ကြောင့်ကြဖွယ်အသီးသီးတို့နှင့် ကြီးစွာသော ဒုက္ခကိုသင်တွေ့ရမှာ ငါမြင်သည်၊ ငါ့ရှင် စဉ်းစားဦးလော့"

ဟု မိန့်တော်မူ၏။ ထိုသို့ မိန့်တော်မူသည်ကို မနာယူပဲ လူဝတ်လဲ၍ မိဘများ အိမ်၌နေရာ လနှစ်ကြာသော် မမ္မတာသဘောဖြင့် သားမယားရလျှင် အာဟာရ ပရိယေသနဒုက္ခ တာဝန်သည် အလွန်ကျဉ်းကျပ်လျက် အပြတ်ပြတ်အလပ်လပ် ရှိလေ၏။ ထိုသာမဏေလူထွက်သည် ခက်ခဲဆင်းရဲသော အကြောင်းကြောင့် ယခင်ဆရာတော်ဘုရား မိန့်ကြားဆုံးမသြဝါဒပေးသည်ကို အရေးမပြု ဂရုမစိုက် စိတ်လိုလိုက်မိသည်မှာ ငါမိုက်လှပါတကား၊ အလွန်ကြီးမှားချေသည်ဟု ကြံစည်စဉ်းစား နောင်တတရား ကြီးစွာဖြစ်ပွား၍ ဆရာတော်ဘုရားကို သတိရသည်နှင့် ငါ့အားပို့ချသင်ပြဖူးသော ကျေးဇူးရှင် ဆရာတော်ဘုရား၏ တရား

ကို မနာရသည်မှာ အတော်ကြာပြီ၊ ငါသွားအံ့ဟု နှလုံးပိုက်၍ ဘုရားကြီးတိုက် ဆရာတော်ဘုရားကြီးအပါးသို့ အခစားဝင်လေ၏။

ဆရာတော်ဘုရား အထံသို့ ရောက်လျှင် "နင် အဘယ်သူနည်း"ဟု မေးတော်မူသော် "တပည့်တော် ကဝိပါဘုရား"ဟု လျှောက်၏။ ထိုအခါ ဆရာတော်ဘုရားကြီးက "ဩော်...ကဝိလား လူထွက်သွားကတည်းက ငါ့ထံမျှား မရောက်လာကြာပြီ၊ နင် ဘာလုပ်စားသနည်း"ဟု မေးလျှင်"အရှင်ဘုရား.... တပည့်တော်မှာ မည်သည့်အလုပ်ဟူ၍ လက်ဆုပ်လက်ကိုင်မရှိပါ။ အရှင်ဘုရား ရှေးအခါက မျှားစွာ ဆုံးမ ဩဝါဒပေးသည်ကို အလေးမပြု ဂရုမစိုက် အလွန် မိုက်မိပါသည်။ လူ၏ဘောင်တွင် အိမ်ရာထောင်ခြင်း ကိစ္စအတွက် အတိသမ္မာခ ကျဉ်းကျပ်သော ဒုက္ခကို ယခုမှ သေသေချာချာ သိပါသည်။ တပည့်တော်မှာ အလွန်မွဲ၍ ဆင်းရဲလှပါသည် ဘုရား"ဟု လျှောက်၏။

ထိုအခါ ဆရာတော်ဘုရားက "အင်း ငါ့တပည့်မှာ ယောက္ခမက သမက်ကို မချစ်၍ စာပစ်တာနှင့် တူနေပြီ"ဟု မိန့်ကြားတော်မူ၏။ ထိုအခါ တပည့်ရင်း အတွင်းနေ အန္တေဝါသိက ဖြစ်သူ မောင်ကဝိက "ယောက္ခမက စာပစ်ဟန် ကို လင်းပြတော်မူပါ ဘုရား"ဟု လျှောက်ထားသဖြင့်—

ရွာတရွာတွင် ဒါယကာကြီးတဦးမှာ အထူး အရုပ်ဆိုးသော သမက် တယောက်ရှိ၏။ ကိုယ်ကြီး ခေါင်းသေး၍ မုတ်ဆိတ်မွေးလည်း ထူလှသတဲ့။ ထိုအခါ ယောက္ခမဖြစ်သူက ဤသူအားသမက်ပြုရချက် ရိုင်းလှလေသည်။နေ့ရှိ တိုင်း အမြင်ကပ် အနေရကျပ်တော့သည်ဟု အောက်မေ့၍ မလျှောက်ပတ် အောင် စာရေးလျက် အိမ်နံဘေးတွင် ကပ်ထားသည်မှာ "ကိုယ်ကြီးခေါင်း သေး၊ မုတ်ဆိတ်မွေးထူ၊ လူမိုက်ဟူသတည်း" ဤကဲ့သို့ ရေးထားသော အချက်ကို သမက်မြင်ရာ ဤစာသည် တပါးသူကို ရေးသည်မဟုတ်၊ ငါ့ကို ရေးသော စာဖြစ်သည်။ သို့ရာတွင် ဤနေ့ကစ၍ ကေန္တမထားဟု မေးဖျား ကို မီးနှင့် မြိုက်ရာ ခေါင်း၌ရှိသော ဆံပင်ပါ အကုန်လောင်၍ တက်တက် ပြောင် ဖြစ်လေသတည်း။

ထိုအခါ သမက်သည် စိတ်ပျက်သောအားရေးနှင့် ကြံတွေးသည်မှာ "ရေးပစ် သော စာသည် လွန်စွာ မှန်ပါပေ၏။ အကြည့်တန်ရုံတွင် မနေသေး မုတ်ဆိတ် မီးမြိုက်၍ လူမိုက်ဖြစ်ပြန်ပါပြီတကား"ဟု စဉ်းစားမှ သတိရသတဲ့-တပည့်ရဲ့။

ဤအတူ ယခုလဲ ကိုယ့်အမိုက်ကို မီးမြိုက်မှ သတိရမည့် အကောင်ပဲဟု မိန့်တော်မူသောအခါ အပါးတော်မှာ ရှိနေသော ရဟန်းအပေါင်းတို့သည် သေပေါင်းအုတ်အော မျှားစွာ ရယ်ရမောကြလေကုန်သတည်း။

ဘဒ္ဒန္တဇာဂရော ထေရော၊ ပါမောဇ္ဇဗဟုလော သုစိ။
ပါမောဇ္ဇဗဟုလော ဟုတွာ၊ သသီသော အဘိနန္ဒိ တာသယိ။

## ရေကြီးမှ ရေလေးကို နိုင်သည်ဆိုသောစကားကို ဖြေကြားတော်မူခြင်း

တနေ့တွင် မန္တလေး ရတနာပုံမြို့တည် နန်းတည် ပဥ္စမသံဂါယနာတင် ဘ၀ရှင် မင်းတရားကြီးသည် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော်ဘုရားကြီးကို နန်းတော်သို့ပင့်၍ သင့်တင့်လျောက်ပတ် ကောင်းမြတ်ဖွယ်ရာသော ဘောဇဉ်တို့ဖြင့် လှူဒါန်းဆက်ကပ်ပြီးလျှင်—

အရှင်ဘုရား....ယခု လောက၌ တယောက်သောသူက ပါဏာတိပါတ စသော မကောင်းမှု ပြုသည်ကို တယောက်သောသူမြင်ရာ "သင့်အား ရေကြီးတတ်သည်၊ ဤအမှုကို မပြုလင့်"ဟု ဆုံးမသောအခါ ပါဏာတိပါတ စသော မကောင်းမှုပြုသူက "ရေကြီးမှ ရေလေးကိုနိုင်သည်"ဟု ပြောဆိုပါသည်။ ထိုသူ ပြောဆိုသော စကားသည် ဘုရားဟော ကျမ်းဂန်နှင့် ညီမညီကို သိလိုပါသည် ဘုရား ဟု လျှောက်ထားလေ၏။

ထိုအခါ ဆရာတော်ဘုရားက—

တကာတော် ရေမြေ့ရှင် မင်းတရားကြီး....ရေကြီးမှ ရေလေးကိုနိုင်သည် ဆိုသော စကားသည် ကျမ်းဂန်များနှင့်အညီပင် ဖြစ်သည်။ အဘယ်ကဲ့သို့ ဖြစ်သနည်း ဟူမူကား–အလွန် အင်အားကြီးမားသည့် ဂရုက ဖြစ်သော အာနန္တရိယကံကို ပြုမိက သေးငယ်သော လဟုကပါပကံသည် အမှန်ပပျောက်၍ ဂရုက အတွင်းသို့ သက်ဆင်း ပါ၀င်လေတော့၏။ ၀တ္ထုအားဖြင့် မှတ်သားရန် အဘယ်ကဲ့သို့ ရှိသနည်းဟူမူ–ဒေ၀ဒတ်သည် မြတ်စွာဘုရားအား ကျောက်ယန္တရားကိုဆင်၍ ခြေတော်တွင် သွေးစိမ်းတည်စေခြင်း၊ နာဠာဂီရိ ဆင်ကြမ်းကို နန်းတော်က လွှတ်စေခြင်း၊ ဤမှတပါး လေးသမားတို့ကို အပစ်ခိုင်းခြင်း၊ ရုန့်ရင်းသော မကောင်းမှုကံ အတန်တန် ရှိငြားသော်လည်း သံဃာအား သင်းခွဲခြင်းဟူသော အာနန္တရိယ ဂရုကံက အကျိုးပေးဆဖြင့် သေးငယ်သော

ကံပါပတ်သည့် အခွင့်မရပဲ ရှိလေသည်။ ဤကဲ့သို့သောနည်းဖြင့် ရေကြီးမှရေ လေးကိုနိုင်သည်ဟု ဆိုရကား ဘုရားဟောကျမ်းဂန်နှင့် ဖြောင့်မှန် ညီညွတ် သည်ဟု မှတ်ယူရသည် တကာတော် ရေမြေ့ရှင် မင်းတရား။

ဤကဲ့သို့ ဆရာတော်ဘုရား ဖြေကြားတော်မူသောအခါ သာသနာ့ဒါယကာ မဟာကရောဇ် မင်းမြတ်နှင့်တကွ များစွာသော မှူးမတ် ပရိသတ်တို့ သည် ပီတိသောမနဿ ဖြစ်ပွား၍ များစွာ ဝမ်းမြောက်ကြလေကုန်၏။

ဆရာတော်ကား အလွန်လျှင် နက်နဲသော ဉာဏ်၊ ထိုင်းထွင်းသိခြင်းဉာဏ် နှင့် ပြည့်စုံတော်မူပါပေသည်။

တိက္ခပညော စ သော အာသိနိဗ္ဗေဓိကပညော သုမိ။
သုမိနော ဇိနစက္ကမှိ၊ လက္ခညော ဟိ သိရိန္ဒဓေ။

**အသက်ရှည်စေလို ထန်းရည်ခါးနှင့် ကြက်သားကိုမျို**
**သေစေလိုစိန်မစားနှင့် ဥပုသ်စောင့်သွား**
**ဟူသော စကားကို ဖြေတော်မူခြင်း**

"ဇာဂရဃဘိဝံသ တိပိဋကဓရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်နာမံ တော်ရှိသော မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် ဆရာ တော်ဘုရားကြီးသည် အသီးသီးသော တပည့်တပန်း ရဟန်းပရိသတ်အပေါင်း တို့ကို နည်းကောင်းဥပဒေသ ပြသလမ်းညွှန်သွန်သင်ပို့ချလျက် ယာပထလေး လီ မျှညီသိတင်းသုံးတော်မူသောအခါ ဒါယကာတဦးသည် အထူးအားဖြင့် ဆရာတော်ဘုရား၏ ကျေးဇူးသတင်း ကျော်စောခြင်းကြောင့် လွန်မင်းစွာ ကြည်ညိုဖူးမြော်လိုသော ဆန္ဒနှင့် ညွတ်ပျခစား လျှောက်ထားသည်မှာ-

"အရှင်ဘုရား....ယခုကာလ—

အသက်ရှည်စေလို၊ ထန်းရည်ခါးနှင့် ကြက်သားကိုမျို၊
သေစေလို စိန်မစားနှင့်၊ ဥပုသ်စောင့်သွား—

ဟု ဆိုကြပါသည်။ ထိုသို့သောစကားသည် ရှေးပညာရှိတို့ သာမညအားဖြင့် အကျိုးမဲ့သော စကားကို ရေးသားကြမည် မဟုတ်ပါ။ ယခုကာလ လူမိုက်

ဒုစရိုက်သမားတို့သည် ဤစကားကို အမှာခံပြု၍ ယူခဲ့လျှင် များစွာ အကျိုး ယုတ်ဖို့ရန် ရှိပါသည်။ သိမှတ်ရန် အမိန့်ပွာယ်အားဖြင့် မိန့်ကြားဖြေဆိုတော် မူပါဘုရား"ဟု လျှောက်ထားတောင်းပန်၏။

ထိုအခါ ဆရာတော်ဘုရားက—အို ဒါယကာ....ယခုသင်လျှောက်သော စကားသည် အမှန်အတိုင်းဆိုသော စကားဖြစ်သည်။ အဘယ့်ကြောင့်နည်း ဆိုသော်—

"အသက်ရှည်စေလို၊ ထန်းရည်ခါးနှင့် ကြက်သားကိုမျို" ဟူသော စကားအရ ထန်းရည်ခါးသည် ဘုရားမြစ်ပယ်တော်မူအပ်သော ယစ်မျိုးဖြစ်၍ စစ်စင်မသောက်ထိုက် မသောက်အပ်၊ ယင်းသို့ မသောက်ထိုက် မသောက် အပ်သည်ကို သောက်ကြူးက အထူးထူးသောဘဝတို့၌ ဇနကသတ္တိဖြင့် ဆက်ကာ ဆက်ကာ ဘဝများစွာ ဘဝအရာ ဘဝအထောင် ဘဝအသောင်း မရေတွက်ကောင်းအောင် အကျိုးပေးသည့်အတွက် သံသရာစက်၌ အသက်ရှည် သဖြင့် ကျင်လည်စုန်ဆန် နိဗ္ဗာန်မနီး ပျက်စီးမျောပါးရသည်ကို ရည်၍ "အသက်ရှည်စေလို၊ ထန်းရည်ခါးနှင့် ကြက်သားကိုမျို" ဟု ဆိုသည် ယူရန် ရှိသည်။

"သေစေလိုစိန်မစားနှင့်၊ ဥပုသ်စောင့်သွား" ဆိုသည်ကား ဥပုသ်စောင့် က အသက်သေရလိမ့်မည်မဟုတ်၊ ဥပုသ်စောင့်ခြင်းဖြင့် သီလပြည့်ဝဖြူစင် သော သူသည် ခန္ဓာ၊ အာယတန၊ ဓာတ်-တို့၏ ပြောင်းဖြစ်ခြင်းဟု ဆိုအပ် သော သံသရာမှ ဝဋ်မြစ်ပြတ်၍ နောက်ထပ် ပဋိသန္ဓေမစွဲနေပဲ အမြဲသေသည် ကို ရည်၍ "သေစေလိုစိန်မစားနှင့်၊ ဥပုသ်စောင့်သွား"ဟု ဆိုသည်ယူရန်ရှိ သည်။

ထို့ကြောင့် မကောင်းသော ပါပကမ္မဒုစရိုက်ကို ပယ်ရှား၍ ငါးပါးသီလ၊ ရှစ်ပါးသီလ၊ ဆယ်ပါးသီလ၊ အာဇီဝဋ္ဌမကတို့ကို လုံ့လအားထား၍ ကြိုးစား ကျင့်သုံးရသည်ဟူသော ဥပဒေသဩဝါဒ အမြိုက်ဆေးကို တိုက်ကျွေးတော် မူလျှင် ယခင်လျှောက်ထားလာသော ဒါယကာသည် များစွာနှစ်သက်၍ အသက်ထက်ဆုံး ကြည်ညိုဆည်းကပ်လေသတည်း။

ဆရာတော်ကား ရင်သပ်ရှုမော အံ့ဩလောက်အောင်ကြီးမား၊ ကျယ်ဝန်း သော ပညာ၊ လျင်မြန်သော ပညာနှင့် ပြည့်စုံသည့် ပုဂ္ဂိုလ်ထူးကြီး စစ်မှန် တော်မူလှပါပေသည်။

ပုထုပညော စ သော ဘဝိ၊ ဇဝနညာဏိကောပိ စ။
သာသနေ ဇိနစက္ကမှိ၊ တေပိဋ္ဌကော ဗဟုဿုတော။

## ငိုက်မျဉ်း၍ အကျိုးမရှိသည်ကို သူခိုးဥပမာဖြင့် ထုံးပြု၍ ဆုံးမတော်မူခြင်း

''ဇာဂရာဘိဝံသ တိပိဋကဓရေ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု'' တံဆိပ် နာမံတော်ရှိသော မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမတိုက် ဆရာတော် ဘုရားကြီးသည် ကစ္စည်းသဒ္ဒါကြီးကျမ်းကို အနည်းနည်းသော ဥပဒေသ ဝစနတ္ထဝိဂ္ဂဟ် ဆိုကျင်း၍ ထင်လင်းစွာ ပို့ချတော်မူရာ စာသင်သားများစွာ စာလိုက်သော ရဟန်းတို့သည် လေးရာကျော်ခန့် ရှိသော ဟူ၏။

တနေ့သ၌ သဒ္ဒါအဆုံးအဖြတ်ကို မှတ်သားကြရန် သံဝဏ္ဏနာအခန်း၊ ညည်ကျမ်း၊ သံပျင်တို့နှင့် နှိုးနှော၍လျက် ပြောကြား သင်ပြတော်မူ၏။ ထိုအခါ အချို့သော စာသင်သား ရဟန်းတို့သည် ဆရာတော်ဘုရားကြီး ပြောဟောသည်ကို သတောမစိုက်ခေါင်းငိုက်စိုက်နှင့် ငိုက်မျဉ်း၍ နေကြလေ ကုန်၏။

ထိုအခါ ဆရာတော်ဘုရားကြီးသည် ငိုက်မျဉ်းသော ရဟန်းတို့ကို မြင်၍ ရွှင်ပျသော မျက်နှာတော်ဖြင့်—

အို စာလိုက်စားယင်း ငိုက်မျဉ်းသော ဦးပဉ္ဇင်းတို့....ရှင်းလင်းပြဆိုအပ် သော အဓိပ္ပာယ်ကို နားလည်ကြ၏လော၊ပြောပြရသူကဖြင့်မေးလို့၊ ဘယ်နှစ် ရေး ရကြပြီနည်း ''အမယ်ကြီးတယောက်အိမ် သူခိုးလာသကဲ့သို့ ရှိသည်''ဟု မိန့်ကြားတော်မူ၏။

ထိုအခါ အချို့သော စာသင်သား ရဟန်းများက မိန့်ကြားတော်မူပါ မည့်အကြောင်းနှင့် ခွင့်တောင်းလျှောက်ထားသဖြင့် ဆရာတော်က—

ရှေးအခါက ရွာတရွာတွင် မုဆိုးမဖြစ်သူ အမယ်ကြီးတယောက်ရှိသည်၊ တညသောအခါ ထိုအမယ်ကြီးအိမ်သို့ အချိန်မရောက်ခင် နေဝင်ခါသာသာ ခိုးသူတယောက်လာပြီးလျှင် ဗျာကရာ ရုတ်တရက် အိမ်ပေါ်သို့တက်၍ ကွယ် ဝှက်ပုန်းလျှိုးနေလေ၏။

အမယ်ကြီးသည် သူခိုးတက်၍ အတန်ငယ်ကြာသော် အိမ်ပေါ်၌ သူခိုး ကပ်၍ နေသည်ကို သိလေ၏။ ထိုသို့ သိသော်လည်း မိမိက မိန်းမဖြစ်၍လည်း ကောင်း၊ အဖော်အပေါင်းမရှိသည်ဖြစ်၍လည်းကောင်း ရိုက်မောင်းပစ်ခတ် ခြင်းငှာမဝံ့၊ကြောက်ရွံ့တုန်လှုပ်လျက် ဘယ်အချက်နည်းမျိုးနှင့် သူးခိုဆင်းသွား

အောင် ပြုရပါအံ့နည်းဟု နှလုံးသွင်း၍ "အိမ်နီးချင်းတို့ အိမ်နီးချင်းတို့"ဟု ခေါ်ရာ "တော်၊ ရှင်"ဟူသော စကားဖြင့် နီးနားသော အိမ်က ထူး၏။ ထိုအခါ အမယ်ကြီးက "သူခိုးများလာလျှင် ဘယ်အချိန်လာတတ်ပါသနည်း" ဟု မေးသော် "သန်းခေါင်ကျော် လင်းအားကြီးမှ လာတတ်ပါသည်"ဟု ပြော သောအခါ အမယ်ကြီးက "အိမ်နီးချင်းတို့ရယ်၊ ယင်းသို့ဖြစ်လျှင် တို့အိမ်က မောင်သူခိုးပဲ စောလွန်းထင်ပါကလား"ဟု အဆိုတွင် ပုန်းခိုးသော သူခိုးသည် ဖမ်းမိအံ့ထင်သောကြောင့် အလျင် ဆင်းသွားသတဲ့။

ဤဥပမာ၌ အိမ်ရှင်အမယ်ကြီးပြောသော စကားကဲ့သို့ အလားတူ ယခုငိုက် မျဉ်းသော ရဟန်းတို့မှာလည်း "စောလွန်းလှပါကလားကွယ်ရို့"ဟု မိန့်တော်မူ သောအခါ စာလိုက်လာသူ ပရိသတ်တို့သည် အထပ်ထပ်နယ်မော၍ တသော သော နေလေကုန်သတည်း။

ထိုနောက်မှ ဆရာတော်ဘုရားက မိန့်ကြားတော်မူပြန်သည်မှာ— ငါ့ရှင် တို့...စာတတ်လိုသော ဆန္ဒရှိက "သု-စိ-ပု-ဘာ"ဟူသော အင်္ဂါလေးတန်နှင့် အမှန်ညီညွတ်က မချွတ်တတ်မြောက်မည်ပင် ဖြစ်သည်။

"သု"ဟူသော အက္ခရာ၏အရ သုဏေယျ=သင်ရနာရမည်ဆိုလို သည်။

"စိ"ဟူသော အက္ခရာ၏အရ စိန္တေယျ=ကြံဆစဉ်းစားနှလုံးထား ရမည်ဆိုလိုသည်။

"ပု"ဟူသော အက္ခရာ၏ အရ ပုစ္ဆေယျ=မသိသောအရေးကို ဆွေး နွေးမေးမြန်းစုံစမ်းရမည်ဆိုလိုသည်။

"ဘာ"ဟူသော အက္ခရာ၏ အရ ဘာသေယျ=ပြောပြရွတ်အံ အဖန်ဖန်သရဇ္ဈာယ်ရမည်ဆိုလိုသည်။

ဤယခု ပြဆိုအပ်သော အက္ခရာလေးလုံးကို အသက်ထက်ဆုံး မှတ်သား ကြကုန်ရာသည်။ အက္ခရာလေးလုံးကို အသုံးမကျဟူသော အနေနှင့် မထိမဲ့ မြင် မပြုကြကုန်လင့်။ နည်းများမဟူ မှတ်ယူသုံးစွဲအမြဲမှတ်သားက စကား သုံးခွန်းနှင့် ပညာရှင်ဖြစ်ကြောင်းကို ထုံးဟောင်းကြားဖူးသည်မှာ—

ဗာရာဏသီပြည်တွင် အိမ်ရှင်ယောက်ျား မယားပြေးလူတယောက်သည် စားဝလောက်သော အတတ်ပညာ မိမိမှာမရှိသဖြင့် သတိသမ္ပဇဉ်အမြဲယှဉ်လျက်

အိမ်တွင်ရှိသော မယားအား ခွင့်ပန်ပြီးကာ အသပြာသုံးပိဿာကို ယူ၍ ပညာသင်ရန် တက္ကသိုလ်ဆရာကြီးထံသို့ အမြန်ထွက်သွားလေ၏။

တက္ကသိုလ်ပြည်သို့ ရောက်သောအခါ ဒိသာပါမောက္ခဆရာကြီးအထံသို့ ဝင်၍ ပညာသင်လိုကြောင်းကို ခွင့်တောင်းပြောဆို၏။ ထိုအခါဒိသာ ပါမောက္ခဆရာကြီးက "အသင်သည် အသက်အရွယ် အဘယ်မျှရှိပြီနည်း"ဟု မေးသော် "ကျွန်တော့်အသက် နှစ်ဆယ့်ငါးနှစ်ရှိပါပြီ"ဟု ပြောလျှင် ဆရာကြီးက တဖန်မေးပြန်သည်မှာ "သင်အား သားမယားရှိပြီလော"ဟု ဆိုရာ "ရှိပါပြီ"ဟု ပြောကြားက "ငါ့အား ပူဇော်ခြင်းငှာ အသပြာ အဘယ်မျှပါပါသနည်း"ဟု မေးပြန်သော် "ကျွန်တော်မျိုးမှာ ဆင်းရဲစွာ၍ သုံးပိဿာမျှသာပါနိုင်ကြောင်း"နှင့် ပြောသောအခါ ဒိသာပါမောက္ခဆရာ ကြီးက "ယင်းသို့ဖြစ်ခဲ့လျှင် အသင်အား မယားရှိသည် တချက်၊ အသက်ကြီးသည် တဖြာ၊ အသပြာနည်းသည် တကြောင်းဖြစ်၍ စင်စစ် နှစ်ရှည်လများ သင်ကြားခြင်းငှာ မတတ်စွမ်း၊ သုံးခွန်းသောစကားကို သင်ကြား၍ ပေးလိုက်မည်။ နှလုံးသွင်းလျက် အချင်းလုလင် သင်သည်အရိုးစွဲ အောင် အမြဲမှတ်ထားလေ။

"ကုလားသေ ကုလားမြော မအိပ်ရာ ပေးကွဲ့တပိဿာ"
"ရေဆိပ်မှာ ရေမချိုးရာ ပေးကွဲ့တပိဿာ"
"မစူးစမ်းမဆင်ခြင်ပဲ မပြုရာ ပေးကွဲ့တပိဿာ"

ဤသုံးချက်သော ပညာကိုသင်၍ လုလင်၏ အသပြာ သုံးပိဿာကို ယူပြီး လျှင် "အသင်ပညာတတ်ပြီ၊ နေရပ်သို့ ပြန်တော့"ဟု ဆိုရာ ထိုလုလင် ယောကျာ်းသည် ဆရာအား ရှိခိုးပြန်သွားရာ လမ်းမှာ ဇရပ်တခုကိုတက် အိပ်စက်ပန်းဖြေ နားနေမည်အရှိတွင် ငါ၏ဆရာသင်လိုက်ပေးသည် "ကုလား သေ ကုလားမြော မအိပ်ရာ ပေးကွဲ့တပိဿာ" မှာလိုက်သည့်စကား သတိ ထားမှတော်မည် ဟု ဇရပ်ပေါ်တွင် သတိထားလျက်စဉ်းစား၍အိပ်လေ သည်။

ထိုအခါ အမှတ်မဲ့ အိပ်သော ဥဩသည် ခရီးသွားတို့ကို စားနေကျ ဖြစ်သော ဘီလူးမသည် ရှေးက ကဲ့သို့ စားမည်ဟု လူကိုကိုင်လျှင် သတိသမ္ပ ဇဉ်နှင့် အိပ်သည့်အတွက် ရုတ်တရက်ထ၍ ဘီလူးမကို ဖမ်းပြီးလျှင် ဆွဲရမ်း ထောင်းထုသတ်မည်ပြုသော် "ဤအမှုဖြစ်ဒဏ်ကို သည်းခံခွင့်လွှတ်၍ အသက်ကို ချမ်းသာပေးတော်မူပါ"ဟု သုံးပိဿာသော ရွှေကို ပေးသောကြောင့် ချမ်းအေးစွာ လွှတ်လိုက်၏။

ရွှေ သုံးပိဿာကို ယူငင်၍ လုသင်ပြန်သွား မြစ်ကမ်းနားဒရဆိပ်သို့ အရောက်တွင် ရေချိုးချင်သော ဆန္ဒရှိ၍ မိမိရွှေထုပ်ကို ချမည်အလုပ်တွင် မဟုတ်သေးပါတကား ငါ့ဆရာသင်ကြားလိုက်သည် "ရေအိပ်မှာ ရေမချိုးရာ ပေးကွဲ့တပိဿာ"တဲ့၊ ဤနေရာမှာ မြစ်ကမ်းလူပြွမ်းသော အရပ်၌ရေချိုး၍မသင့် ဟု နှလုံးသွင်းလျက် အခြားသော အရပ်သို့ သွား၍ ရေချိုး၏။

ရေချိုးပြီးသောအခါ သုံးပိဿာသောရွှေကို ထား၍ ထသွားမေ့ရစ်လေသော် အတော်ခရီးဝေးမှ သတိရ၍ ပြန်ကြည့်လျှင် ချထားသည့်အတိုင်း တွေ့ရှိသဖြင့် "မမေ့အပ်စွာ ငါ့ဆရာ၏ကျေးဇူးသည် အထူးကြီးကျယ်လှပေသည်" ဟုကြံစည်ပြန်သွားရာ မယားအိမ်သို့ ရောက်လျှင် အိမ်တွင် ထားခဲ့သော အခါက မယားမှာ ပဋိသန္ဓေရှိသဖြင့် မိမိနှင့် သင့်မြတ်၍ ရသောသားသည် တဆယ့်ငါးနှစ်အရွယ်ရှိလျက် အမိနှင့်လည်ဖက်၍ အိပ်စက်သည်ကို မြင်သော် "သြော် ဤမိန်းမကား ငါသွားသည့်နေ့ကစ၍ အတိစာရိကအမှု ပြုကျင့်သောအား မျှောက်မထားသည်ကား ထင်ရှားအမှန် ဖြစ်တော့သည်။ စင်စစ်မိုက်မှား ဤမယားကို ဓားနှင့်ရတ်လုတ် အသေသတ်မည်" ဟု ဓားကို ကိုင်ပြီးလျှင် အနီးသို့သွားရာ မဟုတ်ပါပေသေး၊ ဆရာအရှင်က သွန်သင်၍ ပေးလိုက်သည်မှာ "မစူးစမ်း မဆင်ခြင်ပဲ မပြုရာ ပေးကွဲ့တပိဿာ"တဲ့၊ ငါသတိထား၍ စဉ်းစားဦးမည်ဟု စိတ်ကိုချုပ်၍ ထိန်းအုပ်သောအခါ မကြာခင် မယားနိုး၍ အကြောင်းမျိုး အလုံးစုံကို အကုန်ပြန်ကြားမှ မိမိသားမယားမှန်သည်ကို ကောင်းသိသဖြင့် မိမိဆရာကို များစွာ ကျေးဇူးတင်သတဲ့ ငါအရှင်တို့။

ထို့ကြောင့် ယခုဆရာတော်ပြောသော "သု-စိ-ပု-ဘာ" ဟူသော အက္ခရာ၏ အကြောင်း ကောင်းစွာဖြစ်လတ္တံ့ ဟု ဆုံးမတော်မူသောအခါ များစွာနှစ်သက် ကြကုန်သတည်း။

ဆရာတော်ကား လေးစားထိုက်သည့် ထိပ်တန်း ဗဟုဿုတပညာရှိပုဂ္ဂိုလ် ကြီး စစ်မှန်လှပါပေသည်။

ဘဒ္ဒန္တဇာဂရော လောဧရာ၊ ဝိစက္ခဏော ဝိသာရဒေါ။
ဗဟုဿုတော စ သော အာသိ၊ အတိဝ ပါကဋော သုဓီ။

ဘွဲ့တံဆိပ်တော် ၃-ထပ်အလှူခံရရှိတော်မူခြင်း

ဆရာတော်သည် ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ် ပါဠိ အဋ္ဌကထာ ဋီကာကျမ်းဂန်တို့၌ တဘက်ကမ်းပေါက်ရောက် တတ်မြောက်ကျွမ်းကျင်ခြင်း၊ အခြားဂန္ထန္တရအဝဝတို့၌လည်း ပါရဂူပေါက် တတ်မြောက်ခြင်း၊ စာပေ

ကျမ်းဂန် အတန်တန်ကို နိုင်နင်းစွာ ချပို့တော်မူနိုင်ခြင်း၊ ဂန္ထန္တရအာဝဝကို ပြုစုရေးသားတော်မူခြင်း အစရှိသောဂုဏ်တို့ကြောင့် မဟာလောက ရံသီ စေတီတော် ဒါယကာ ပုဂံမင်းတရား ဆက်ကပ်လှူဒါန်းအပ်သော "ဇာဂရာဘိဓဇ မဟာဓမ္မရာဇာဒိရာဇ"ဟူသော ဘွဲ့တံဆိပ်တော်၊ "ဇာဂရာဘိဓဇသိရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်[၁]၊ မဟာလောကမာရဇိန် စေတီတော် ဒါယကာ ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရား လှူဒါန်းသည့် "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ် သုံးထပ်ကို အလှူခံရရှိတော်မူခဲ့လေသည်။ ယင်းသို့ ဘွဲ့တံဆိပ်တော် သုံးထပ်ရ ဆရာတော်ဖြစ်ကြောင်း—

"ဇာဂရော"တိ ဂရုဟိ ဂဟိတ နာမဓေယျေန တိက္ခတ္တုံ ရာဇူဟိ ရာဇမုဒ္ဒိနာ လဒ္ဓိတေန မေ ကတာယံ ပါစိတျာဒိဝဏ္ဏနာယ ယောဇနာ[၂] စသည်ဖြင့် လာရှိလေသည်။

## တပါးတည်း ရရှိသောဘွဲ့တံဆိပ်တော်

"ရာဇဂုရု၊ ရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ရဟန်းတော်များမှာ အင်းဝခေတ်၊ ကုန်းဘောင်ခေတ်တလျှောက်တွင် ရာပေါင်းများစွာ အရေအတွက်ရှိသည်[၃]။ "တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရပုဂ္ဂိုလ်မှာ အင်းဝခေတ်၊ ကုန်းဘောင်ခေတ်တလျှောက်လုံးတွင် သာမက ပုဂံခေတ်၊ ပင်းယခေတ်၊ စစ်ကိုင်းခေတ်တို့၌လည်း မတွေ့ရပါချေ။ ဒက္ခိဏာရာမဘုရားကြီး ဆရာတော် အရှင်ဇာဂရကား ထူးကဲသည့် ပုဂ္ဂလဝိသေသ ဖြစ်တော်မူသည်။

## ရာဇဂုရု၊ ရာဇာဓိရာဇဂုရု တံဆိပ်တော်ရအင်္ဂါ

ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီးလက်ထက်တွင် ပဋ္ဌမစာတော်ချအင်္ဂါနှင့် နေတ္တိဟာရ ၁၆-ပါးလုံးကိုလည်းကောင်း၊ သံဝဏ္ဏနာ ၆-ပါး၊ နည်း-၄၀၊ ဥပစာ ၁၀-ပါး၊ ပုဒ်စစ်နည်း၊ သဒ္ဒါစစ်နည်းတို့ကိုလည်းကောင်း နိုင်နင်းတတ်မြောက်ခြင်း၊ ပါဠိ အဋ္ဌကထာ ဋီကာကျမ်း

---

၁။ သံပျင်ဋီကာ နိဿယနိဂုံးသာ စကားများကြည့်။
၂။ ပါစိတ်၊ ယော။ ၆၅၄။
၃။ သာသနာဝင်ဘွဲ့တံဆိပ်တော်များ သမိုင်းကြည့်။

ဂန်တို့ကို နှံ့စပ် ကျွမ်းကျင်တတ်မြောက်ချပ်ပြိုခြင်း ဂုဏ်နှင့် ပြည့်စုံသော ရဟန်းသံဃာတော်များကို မင်းကေရာဇ်က "ရာဇဂုရု၊ ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်များ ဆက်ကပ်လှူဒါန်း၍ မင်းဆရာအဖြစ် ကိုးကွယ်တော်မူသည်။ လစဉ်ဆွမ်းဆန်တော် ငွေအသပြာ ကျပ်-၃၀လှူဒါန်းတော်မူသည်။

ကျမ်းဂန်တတ်ဟိတ်၊ ဘွဲ့တံဆိပ်၊ ခပ်နှိပ်မင်းဆရာ။
သုံးဆယ်ဒင်္ဂါ၊ လစဉ်စား၊ ရခြားမင်းဆရာ။
ဆရာတော်ရှင်၊ လူတိုင်းပင်၊ ခေါ်တွင် ဖြစ်ဖို့ရာ။

ဘုရားကြီး ဆရာတော်အရှင်ဇာဂရကား ဖော်ပြပါအင်္ဂါထက် ပိုလွန်တတ်မြောက်ခြင်း၊ ပဥ္စမသံဂါယနာ မဟာဓမ္မသဘင်တွင် ထူးခြားပြောင်မြောက်စွာ မဟာနာယကတာဝန်ကို ဆောင်ရွက်တော်မူခြင်း အစရှိသော ဂုဏ်တို့ကြောင့် "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်ကို အခြားသော ရဟန်းသံဃာတို့ထက် ထူးခြားစွာ အလှူခံရရှိတော်မူခြင်းဖြစ်လေသည်။

## ရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီးများကို ကြောက်ကြရ၊ ရိုသေကြရခြင်း

ထိုစဉ်က "ရာဇဂုရု၊ ရာဇာဓိရာဇဂုရု၊ ဓမ္မသေနာပတိ" ဘွဲ့ရဆရာတော်ကြီးများကို ရှင်၊ လူ၊ ရဟန်းတို့ ပြားပြားဝပ်ကြောက်ကြရသည်။ ရိုသေကိုင်းရှိုင်းကြရသည်၊ ကေရာဇ်မင်းမြတ် ဆောက်လုပ် လှူဒါန်းတော်မူခဲ့သည့် ကျောင်းတိုက်တော်ကြီးများ၊ အဂ္ဂမဟေသီမိဖုရားခေါင်ကြီး ဆောက်လုပ် လှူဒါန်းတော်မူသည့် ကျောင်းတိုက်ကြီးများ၏ တံခါးအတွင်းရှိသည့် ကင်းတဲ၌ အရံစောင့်တို့က အလှည့်ကျစောင့်ကြရသည်။ ကြိုးကြိမ်ထိတ်ဘုံးများလည်း အပြည့်အစုံထားရှိသည်။ တိုက်အုပ်တိုက်ကြပ်တို့က အမိန့်ပေးလျှင် ၎င်းကျောင်းတိုက်အတွင်းရှိ လူဝတ်ကြောင်ကို ဖြစ်စေ၊ ရဟန်းသာမဏေများကို ဖြစ်စေ ထိတ်ခတ်ခြင်း ချုပ်နှောင်ခြင်း ရိုက်နှက်ခြင်းတို့ကို ပြုလုပ်နိုင်သည်။ ထို့ကြောင့် ထိုစဉ်က "ရာဇဂုရု၊ ရာဇာဓိရာဇဂုရု၊ ဓမ္မသေနာပတိ" ဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီးများကို ပိုမို၍ ကြောက်ကြ ရိုသေကြခြင်း ဖြစ်သည်။

## မင်းသားတို့၏ ဆရာလည်းဖြစ်

ပဋ္ဌမသံဂါယနာဘင် မင်းတုန်းမင်းတရားကြီး၏ လျှောက်ထားချက် အရ သားတော် စကုမင်းသား၊ မက္ခရာမင်းသား၊ ညောင်ရမ်းမင်းသား၊ မိုးညှင်း မင်းသား၊ မြင်းခုံတိုင်မင်းသား၊ ရေမင်းသားတို့ကို ရှင်ပြုစဉ်က သက်န်းတောင်း ရှင်ကျင့်ဝတ် စသည်တို့ကို သင်ကြားပေးတော်မူရလေသည်။ သို့ဖြစ်၍ ဆရာ တော် အရှင်ဇာဂရာဘိဝံသသည် မင်းသားတို့၏ သွန်သင်ညွှန်ကြား ဆရာ သမားလည်း ဖြစ်တော်မူသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဤသို့ စသည်ဖြင့် ပိဋကတ်သုံးပုံကို အကုန်အစဉ် ပါရင်ပေါက်ရောက် တတ် မြောက်တော်မူသော စာချအကျော် ကျမ်းပြုအကျော် ပဋ္ဌမသံဂါယနာ မဟာ နာယကအကျော် ရာဇာဓိရာဇဂုရု တိပိဋကဓရ-ဘွဲ့တံဆိပ်တော် သုံးထပ်ရ အကျော် ဒက္ခိဏာရာမ ဘုရားကြီး တိုက်ကြီးကို အစလက်မွန် တည်ထောင် ဖန်ဆင်းတော်မူခဲ့သော ဆရာတော်ဘုရားကြီး အရှင်ဇာဂရသည် သက်တော် ၆၄-နှစ်ရှိရာ သက္ကရာဇ် ၁၂၃၆-ခုနှစ်တွင် သီတင်းသုံးတော်မူရာ ဒက္ခိဏာရာမ တိုက်၌ ရေချိုးမွှား အဖျားဝင်ရောဂါဖြင့် ဘဝနတ်ထံ စံတော်မူခဲ့လေသည်။

## သံဝေဂ ယူရန်

ဝိဇ္ဇာဓရော ဃောရ မဓီယမာနာ၊
အဒဿနံ ဩသဓေဟိ ဝဇန္တိ။
န မစ္စုရာဇဿ ဝဇန္တိ ဒဿနံ။

ဝိဇ္ဇာဓရာ၊ ဝိဇ္ဇာဓရ မည်ရခေါ်ဆို ပုဂ္ဂိုလ်တို့သည်။ ဃောရံ၊ ဃောရ လည်းမည် ဂန္ဓာရီအတတ် ဝိဇ္ဇာကို။ အဓီယမာနာ၊ ရွတ်ဖတ်နေစဉ် သင်ယူ စုတ်မန်းကြကုန်ခြင်းကြောင့်။မောစေန္တိ၊ရန်သူ့လက်မှ လွတ်ထွက်နိုင်ကြကုန်၏။ ဩသဓေဟိ၊ ဆေးဝါး မန္တရားတို့ဖြင့်။ အဒဿနံ၊ ရန်သူ ယုတ်မာ မမြင်ရာ အရပ်သို့။ ဝဇန္တိ၊ ကေန် မဖောက် သွားရောက်နိုင်ကြကုန်၏။ မစ္စုရာဇဿ၊ မစ္စုမည်လျှင်း ရှင်သေမင်း၏။ အဒဿနံ၊ မမြင်ရာအရပ်သို့။ နဝဇန္တိ၊ ကေန် မုချ မသွားရောက်နိုင်ကြကုန်သည်သာ။

---

၁။ ဇာ၊ ၁။ ၃၅၆ (အယောဃရဇာတ်)။



ပဏ္ဍိတသီလာလင်္ကာရ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုနှင့် ပဏ္ဍိတဓဇာဓိပတိ
သီရိပဝရ မဟာဓမ္မရာဇာဓိ ရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး ၂
အရှင်ပဏ္ဍိတ၏ အရိုးအိုး စေတီတော်

## စေတီတည်ထား ကိုးကွယ်ခြင်း

ဒက္ခိဏာရာမ ဆရာတော်ဘုရားကြီး အရှင်ဇာဂရ မဟာထေရ်၏ ဘဝနတ်ထံ ပျံလွန်တော်မူကြောင်း သတင်း နန်းမြို့တွင်းနှင့် မန္တလေး တမြို့လုံး ပြန့်နှံ့သွားလေရာ ရဟန်း ရှင်လူအားလုံး ယူကျုံးမရ ဖြစ်ကြကုန်၏။

ဆရာတော်၏ ဝိညာဉ်ကင်းပြတ် ဥတုဇရုပ်ကလာပ်တော်ကို အတုလဒေဝီ တောင်ဆောင်တော် မိဖုရား အမှူးရှိသော နန်းတော်သူ နန်းတော်သားများ၊ မှူးတော် မတ်တော်များနှင့်တကွ ရှင် ရဟန်း တပည့်အပေါင်းတို့က လောင်တိုက်၊ တလား၊ ရထား ယာဉ်ပျံတို့ဖြင့် တင့်တယ် သိုက်မြိုက်စွာ အဂ္ဂိဈာပန ပွဲ ကျင်းပ ပူဇော်ကြပြီးလျှင် အတုလဒေဝီ တောင်ဆောင်တော်မိဖုရားကြီးက အရိုးဓာတ်တို့ကို ဒက္ခိဏာရာမ ဘုရားကြီးတိုက် မြောက်ဘက်၌ စေတီတည်ထား ဌာပနာတော်မူ၍ ကိုးကွယ်တော်မူခဲ့လေသည်။

မဟာတာ ဥဿဝေနေဝ၊ ထေရဒေဟံ သုပူဇယိ။
အန္တော ကတွာန အဋ္ဌိနိ၊ မဟေသီ ထူပကာရယိ။

---

ဒက္ခိဏာရာမတိုက် ဒုတိယမြောက် သံဃမဟာနာယက ဆရာတော်
ပဏ္ဍိတသီလာလင်္ကာရကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုနှင့်
ပဏ္ဍိတဓဇာ ဓိပတိသိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု
ဘွဲ့တံဆိပ်တော်ရ အရှင်ပဏ္ဍိတ

ဆရာတော်အရှင်ပဏ္ဍိတာဘိဝံသသည် ဒက္ခိဏာရာမဘုရားကြီးတိုက်၏ ဒုတိယမြောက် သံဃမဟာနာယက ဖြစ်တော်မူသည်။ ပဌမ ဆရာတော်ဘုရားကြီး အရှင်ဇာဂရ မဟာထေရ်၏ အရိုက်အရာကို ဆက်ခံတော်မူ၍ ဘုရားမြတ်စွာ သာသနာ ကြီးပွားစည်ပင်ရေးကို အားပေးစောင့်ရှောက် ထမ်းဆောင်တော်မူသည့် သာသနာ့ဝန်ဆောင် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်း ပြုခြင်း

မိတ္ထီလာခရိုင် ကဖြူရွာ၌ အဖ ဦးမြတ်သွန်း-အမိ ဒေါ်နှင်းတိုက် တို့မှ သက္ကရာဇ် ၁၁၈၈-ခုနှစ်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ပန်ဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

## ပညာသင်ကြား တတ်မြောက်ခြင်း

သက်တော်အရွယ် ငယ်စဉ်ကပင် အမရပူရမြို့တော် အသောကာရာမတိုက် "ပညာဇောတာဘိဝံသ သိရီပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"အစရှိသော ဘွဲ့တံဆိပ်တော် ငါးထပ်ရ သာသနာပိုင် ဒုတိယဗားကရာ သာသနာပိုင် ဆရာတော်ဘုရားထံ ရောက်ရှိ၍ ပိဋကတ် အခြေခံ ကျမ်းဂန်များနှင့်တကွ ပိဋကတ်ကျမ်းဂန်များကို သင်ယူတော်မူခဲ့လေသည်။ ၎င်းနောက် "ဇာဂရာဘိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" အစရှိသော ဘွဲ့တံဆိပ်တော် သုံးထပ်ရ ဒက္ခိဏာရာမဆရာတော် အရှင်ဇာဂရာဘိဝံသထံ ရောက်ရှိ၍ စာပြောပုံ စာပြောနည်း၊ ဝိနိစ္ဆယချနည်း အစရှိသည်တို့ကို ကျနပိုင်နိုင်စွာ သင်ယူတော်မူခဲ့လေသည်။ ယင်းသို့ ထိပ်တန်းပညာရှင် ဆရာတော်ကြီး နှစ်ပါးထံ နိယံမပြတ် လေးမြတ်ကြည်ဖြူ သင်ယူတော်မူခဲ့ရာ စာပေကျမ်းဂန် အရပ်ရပ်ကို ထူးချွန်စွာ တတ်မြောက်တော်မူခဲ့လေသည်။

ဒိန္နမ္ပိ ထေရသေဋ္ဌာနံ၊ သန္တိကေ ပဏ္ဍိတော ဝိဒူ။
သိက္ခိတဗ္ဗေ သုသိက္ခိတွာ၊ ပိဋကေသု ဝိသာရဒေါ။

## ပဉ္စမကျော် အောင်မြင်တော်မူခဲ့ခြင်း

ဆရာတော်သည် ထိုခေတ်က သုဓမ္မာတွင် ကျင်းပရိုးရှိသည့် သုဓမ္မာ စာပြန်ပွဲကြီးတွင် ပဉ္စပကျော်အောင်ပန်းကိုလည်း ဆွတ်လှမ်းတော်မူခဲ့သည်။ သို့ဖြစ်၍ မိုးညှင်းမင်းသမီး၏ ပစ္စယာနုဂ္ဂဟဖြင့် ချီးမြှောက်ပူဇော်ခြင်းကိုလည်း ခံယူတော်မူခဲ့ရလေသည်။

## စာလေချိုပို သာသနာပြုတော်မူခြင်း

ဆရာတော်သည် ကျေးဇူးရှင် "ရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်သုံးထပ်ရ ဆရာတော်ဘုရားကြီး အရှင်ဇာဂရ မဟာ့ထေရ်၏ အမိန့်အရ ပိဋကတ်အခြေခံ

ကျမ်းစာများနှင့် စာ၀ါကြီးများကို မဟာထာဟ ဇွဲလုံ့လဖြင့် ချပို့တော်မူခဲ့လေသည်။ ဆရာတော် အရှင်ဇာဂရ မရှိသည့်နောက်တွင် တိုက်တာ၏ မဟာနာယက အရိုက်အရာကို ဆက်ခံနိုင်လောက်အောင် တိုက်တာ၏ အလုပ်ကိစ္စ တာ၀န် အ၀၀ကိုလည်း ထမ်းဆောင်တော်မူခဲ့လေသည်။

## ဆရာတော် အရှင်ဇာဂရမဟာထေရ်ပျံလွန်၍ မျှားစွာသံဝေဂဖြစ်

သက္ကရာဇ် ၁၂၃၆–ခုနှစ်တွင် အရှင်ဇာဂရ မဟာထေရ် ရုတ်တရက် မမျှော်သင့်ပဲ ဘ၀နတ်ထံ ပျံလွန်တော်မူသဖြင့် မျှားစွာ သံဝေဂဖြစ်တော်မူခဲ့သည်။ အလောင်းတော်ကို ဦးဆောင်၍ ကြီးကျယ်ခမ်းနားစွာ နောက်ဆုံးပိတ် သင်္ဂြိုဟ်ပူဇော်တော်မူခဲ့လေသည်။

## ဒက္ခိဏာရာမတိုက် အဓိပတိဖြစ်တော်မူခြင်း

ယင်းသို့ ဒက္ခိဏာရာမတိုက်ကြီး၏ အာဒိကမ္မိက မဟာနာယကဆရာတော် တော်ဘုရားကြီး အရှင်ဇာဂရာဘိဝံသ ပျံလွန်တော်မူသဖြင့် အရှင်ကျိကာ ဘိဓဇသည် သံဃာတော် ၁၀၀၀(တထောင်) ကျော်တို့ စံပျော်သီတင်းသုံးရာ ဒက္ခိဏာရာမတိုက်ကြီး၏ မဟာနာယကတာ၀န်ကို ''ပည်းခံ နိုကြား၊ သနား ထကြွ၊ နိစ္စမသွေ၊ ခွဲဝေရှုတတ်၊ သူမြတ်တို့ဂုဏ်'' ဟူသည်နှင့်အညီ နာယက ဂုဏ်ခြောက်ပါးနှင့်အညီ ထမ်းဆောင်တော်မူခဲ့လေသည်။

## ကျမ်းဂန်များ ပြုစုရေးသားစီရင်တော်မူခြင်း

ဆရာတော်သည် ကျမ်းဂန်များကို ပြုစုရေးသား စီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ အက္ခရဝိသောဓနီကျမ်း၊

၂။ ဒါနဂ္ဂဟဒီပနီကျမ်း၊

၃။ သဒ္ဒါကြီးနိဿယ-စသည်တို့ ဖြစ်ကုန်၏။

ဆရာတော်သည် စစ်ကိုင်းတောင်ရိုး အသောကချောင်၌လည်း နှစ်အနည်းငယ် သီတင်းသုံးတော်မူဘူးသည်။

ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်နှစ်ထပ်
အလှူခံရရှိတော်မူခြင်း

ဆရာတော်သည်—

"ကျမ်းဂန်တတ်ဟိတ်၊ ဘွဲ့တံဆိပ်၊ ခတ်နှိပ်မင်းဆရာ။
သုံးဆယ်ဒင်္ဂါး၊ လစဉ်စား၊ ရခြားမင်းဆရာ။
ဆရာတော်အရှင်၊ လူတိုင်းပင်၊ ခေါ်တွင်ဖြစ်ဖို့ရာ"

ဟူသည်နှင့်အညီ ကျမ်းဂန်အရပ်ရပ်၌ တတ်မြောက်ကျွမ်းကျင်တော်မူပါသဖြင့် ရတနာပုံမြို့တည် နန်းတည်မဟာလောကမာရဇိန် စေတီတော် ဒါယကာ ပဌမ သင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ ဆက်ကပ်လှူဒါန်းသည့် "ပဏ္ဍိတာ ဘိသီလာလင်္ကာရ ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်နှင့် မာရ်အောင်ရတနာ စေတီဒါယကာ မန္တလေး ရတနာပုံ ဒုတိယနန်းတည် သီပေါမင်း ဆက်ကပ်လှူဒါန်းသည့် "ပဏ္ဍိတဓဇာ ဓိပတိသိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်တို့ကို[၁] အလှူခံရရှိတော်မူခဲ့လေသည်။

ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ဖြင့် စာပေကျမ်းဂန် အရပ်ရပ်တို့၌ ပါရဂူပေါက် တတ်မြောက်ကျွမ်းကျင်တော်မူသော ဒက္ခိဏာရာမဘုရားကြီးတိုက်၏ သံဃာ့ထွဋ်ထိုး ဆရာတော် အရှင်ပဏ္ဍိတာ ဘိဓဇ မဟာထေရ်မြတ်ကြီးသည် သက်တော် ၅၈ နှစ် ဝါတော် ၃၈-ဝါရရှိရာ သက္ကရာဇ် ၁၂၄၆-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

---

၁။ သာသနာဝင် ဘွဲ့တံဆိပ်တော်များသမိုင်း ၅၆-ကြည့်။

သံဝေဂယူရန်

စတုရင်္ဂိနိံ သေနံ သုဘိံသရုပ်၊
ဇယန္တိ ရဋ္ဌာဓိပတီ ပသယှ။
န မစ္စုနော ဇယိတု မုဿဟန္တိ။

ကေစ္စေ ရဋ္ဌာဓိပတိ၊ အချို့ကုန်သော နိုင်ငံသနင်း ပြည့်ရှင်မင်းတို့သည်။ စတုရင်္ဂိနိံ၊ ဆင် - မြင်း - ရထား ခြေသည်အားဖြင့် စစ်အင်္ဂါလေးပါးရှိသော။ သုဘိံသရုပ်၊ အလွန်တရာ ကြောက်မက်ရကောင်းသော သဘောရှိသော။ သေနံ၊ စစ်သည်တော် တပ်မတော်အပေါင်းကို။ ပသယှ၊ လွန်စွာကြိုးပမ်း လွှမ်းမိုးနှိပ်စက်ကြကုန်၍။ ဇယန္တိ၊ အောင်နိုင်ကြကုန်၏။ ဝါ၊ နိုင်အောင် တိုက်ခိုက်နိုင်ကြကုန်၏။ မစ္စုနော၊ ကြီးကြီးငယ်ငယ် ရွယ်ရွယ်လတ်လတ် မြတ်မြတ်ယုတ်ယုတ် အဟုတ် မခြွင်း အကုန်ခွင်းတတ်သည့် သေမင်း၏။ သေနံ၊ ကိုးဆယ့်ခြောက်ဖြာ ဘေးရောဂါစစ်သည်ကို။ ဝါ၊ ဇရာဗျာဓိ ရန်သူစစ်သည်ကို။ ဇယိတုံ၊ အောင်နိုင်ခြင်းငှာ။ ဝါ၊ နိုင်အောင်တိုက်ခိုက်ခြင်းငှာ။ န ဥဿဟန္တိ၊ မုချပုံသေ မစွမ်းနိုင်ကြလေကုန်။

စေတီတည်ထား ကိုးကွယ်ခြင်း

ဆရာတော် ပျံလွန်တော်မူသောအခါ ဆရာတော်၏ ဝိညာဉ်ကင်းပြတ် ဥတုဇရုပ်ကလာပ်တော်ကို လူ- ရှင်- ရဟန်းတို့ ခမ်းနားစွာ ပူဇော်ကြပြီးလျှင် မီးသင်္ဂြိုဟ်၍ ကျွင်းကျန်သော အရိုးဓာတ်တို့ကို မိုးညှင်းမြို့စား သမီးတော်က စေတီတည်ထားကိုးကွယ်ခဲ့လေသည်။ ယင်းစေတီတော်သည် ဒက္ခိဏာရာမ ဘုရားကြီးတိုက်အတွင်းထပ်နှင့် အပြင်ထပ်အကြား ကွက်လပ်တွင် တည်ရှိလေသည်။

အဝိဇ္ဇာဏကဒေဟံ စ၊ ဥဿဝေန သုပူဇယိ။
နိဒဟိတွာန အဋ္ဌီနိ၊ ကာရေသိ စေတိယမ္ပိ စ။

## ဒက္ခိဏာရာမတိုက် တတိယနေမြောက် သံဃမဟာနာယက ဆရာတော် အရှင်သုန္ဒရာဘိဝံသ

ဆရာတော်အရှင်သုန္ဒရာဘိဝံသသည် မဇ္ဈိမဒေသ မာဂဓတိုင်း ပါဋလိပုတ် နန်းမြို့တော်၌ ရှိခဲ့ဘူးသော အသောကာရုံကျောင်းတိုက်ကြီးတမျှ ခမ်းနားလှသည့် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမကျောင်းတိုက်ကြီး၏ တတိယမြောက် သံဃမဟာနာယက ဆရာတော်ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြု

မိတ္ထီလာခရိုင် ကန္နီရွာ၌ အဖ ဦးရွှေဝိုင်း-အမိ ဒေါ်ဦးတို့မှ သက္ကရာဇ် ၁၁၉၇-ခုနှစ်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ညွန့်ဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ ဘုန်းမြတ်စွာ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူသည်။ ဘွဲ့တော် အရှင်သုန္ဒရ ဖြစ်၏။

### ဒက္ခိဏာရာမတိုက်ရောက်ရှိပညာသင်

ငယ်စဉ်ကပင် ဘုမိနက်သန် သာသနာ့ အောင်မြေမှန်သည့် မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့ ရောက်တော်မူ၍ ပိဋကတ်အခြေခံ ကျမ်းစာများနှင့် ပိဋကတ်ကျမ်းဂန်ကြီးများကို "ညီညာထကြွ၊ ဆုံးမနာယူ၊ လာမူကြိုဆည်း၊ ထံနီးလုပ်ကျွေး၊ သင်ထွေးအံ့ရွတ်၊ တပည့်ဝတ်၊ မချွတ်ငါးခုသာ" ဟူသည့် တပည့်ဝတ်နှင့်အညီ သင်ယူတော်မူခဲ့လေသည်။

### ကန္နီဆရာတော် ဦးကန္နီ ဟု တွင်ခြင်း

ဆရာတော်၏ ဖွားမြင်ရာ ကန္နီရွာကို စွဲ၍ ကန္နီဆရာတော် ဟူ၍လည်းကောင်း၊ ဦးကန္နီဟူ၍လည်းကောင်း ခေါ်ဝေါ်ကြသည်။ ဆရာတော် ဦးသုန္ဒရဟူ၍ ခေါ်ဝေါ်သူကား နည်းပါးလေသည်။

ဒက္ခိဏာရာမတိုက်ကြီး၏ သံဃမဟာနာယကဖြစ်သောအခါ တိုက်တာသံဃာတော် အရှင်မြတ်တို့က "အရှင်သုန္ဒရာဘိဝံသ" ဟူ၍ ဂုဏ်ပြုခေါ်ဝေါ်တော်မူကြသည်။

## ဒက္ခိဏာရာမတိုက်သံဃနာယကဖြစ်ခြင်း

ဒုတိယမြောက် သံဃနာယကဖြစ်တော်မူသော "ပဏ္ဍိတသီလာလင်္ကာရ ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" နှင့် "ပဏ္ဍိတဇေဗိပဏ္ဍိတသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော် နှစ်ထပ်ရ ဆရာတော် အဂ္ဂမဟာပဏ္ဍိတဘဒ္ဒန္တ ဆရာတော်ဘုရားကြီး ၁၂၄၆ ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူသဖြင့် ခမ်းနားကြီးကျယ်လှသော ဒက္ခိဏာရာမသံဃာ့အရံ ဗိမာန်တော်ကြီး၏ သံဃမဟာနာယက ဖြစ်တော်မူသဖြင့် တိုက်တာ၌ သံဃကိစ္စ သာသနာကိစ္စ အဖြာဖြာကို ဆန္ဒ မဒေါသ ဘယ မောဟ အဂတိလေးဖြာ ကင်းစင်ကွာလျက် ဆောင်ရွက်တော်မူခဲ့လေသည်။

## ဘဝနတ်ထံပျံလွန်တော်မူခြင်း

ယင်းသို့ တိုက်တာသံဃနာယကတာဝန်ကို ဆောင်ရွက်ဆဲဖြစ်စဉ်လေးပါး ဓာတ်ခို ခန္ဓာကိုယ်တွင် အနာဓပါက်ရောဂါစွဲကပ်လာရာ ကုမရ၍ မရတော့ပဲ သက်တော် ၅၃-နှစ် ဝါတော် ၃၃-ဝါခန့်ရရှိရာ သက္ကရာဇ် ၁၂၅၀-ပြည့်နှစ်တွင် မိမိဇာတိချက်ကြွေမွေးရပ်မြေဖြစ်သော ကန္နီရွာတွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

အနန္တာဒီနဝေါ ကာယော၊ ဝိသရုက္ခသမူပမော။
အာဝါသော သဗ္ဗရောဂါနံ၊ ပုဉ္ဇော ဒုက္ခဿ ကေဝလော။[၁]

ကာယော၊ရေမြေလေမီး ဘုတ်ကြီးလေးခု တိုင်ခြေပြု၍ မွေးစုသားစု ရိုးစုတပ်ဆင် ဒိုင်းမြှားတင်လျက် ကိုယ်တွင်ဖြစ်လာ ဒွတ္တိံသာတို့ညီညာစပ်နှော ဤခန္ဓာကိုယ်အတ္တဘောသည်။အနန္တာဒီနဝေါ၊ကိုးကွယ့်ခြောက်ဖြာ ရောဂါထူလစ် အပြစ်တွေများလှချေ၏။ ဝါ၊ ဆုံးဆမရှိ အပြစ်တွေများလှချေ၏။ ဝိသရုက္ခသမူပမော၊ အဆိပ်ပင်တမူ တထပ်တည်းတူလှချေ၏။ သဗ္ဗရောဂါနံ၊ တွက်ရေများပြား ရောဂါအားလုံးတို့၏။ အာဝါသော၊တည်ရာနေရာ စစ်မှန်လှစွာ၏တကား။ ဒုက္ခဿ၊ ချမ်းသာတယ်လို့ဆိုကြသော်လဲနဲနဲမှ မချမ်းသာ များလှစွာသော ဆင်းရဲဒုက္ခ၏။ ကေဝလော ပုဉ္ဇော၊ အစုအပုံ သက်သက်သာတည်း။

---

၁။ အပ၊ ၂။ ၁၁၇။

## ဆရာတော် အရှင်သုန္ဒရာဘိဝံသ၏ တပည့်များ

ဆရာတော် အရှင်သုန္ဒရာဘိဝံသသည် သိမ်ဆွဲတော် ၂၈-ဝါမှစ၍ ဒက္ခိဏာရာမတိုက်ကြီး၏ အဓိပတိ ဖြစ်တော်မူ၍ စာပေကျမ်းဂန် ချို့ပို၍ သာသနာပြု တပည့်တပန်း များစွာတို့ ပေါ်ထွန်းကုန်၏။ ယင်းတပည့်များအနက် ရင်းချာသော တပည့်တို့မှာ—

၁။ အရှင်ဉာဏမဟာထေရ်၊

၂။ အရှင်ဝိမလဗုဒ္ဓိမဟာထေရ်၊

၃။ အရှင်သံဝရမဟာထေရ်—

စသည်တို့ဖြစ်ကုန်၏။ ယင်းတပည့်များအနက် အရှင်ဉာဏ မဟာထေရ်မှာ မိတ္ထီလာခရိုင် လွန်ငယ်ရွာ၌ အဖ ဦးရွှေဆိုင်-အမိ ဒေါ်ခါတို့မှ သက္ကရာဇ် ၁၂၁၀-ပြည့်ဖွားဖြစ်သည်။ အရှင်ဝိမလဗုဒ္ဓိမှာ ဒက္ခိဏာရာမတိုက်၏ သုံးဆက်မြောက် သံဃနာယက ဖြစ်တော်မူသည်[၁]။ အရှင်သံဝရမဟာထေရ်သည် မိတ္ထီလာခရိုင် မန်းကျည်းချောက်ရွာဇာတိ ဖြစ်သည်၊ ၁၂၂၁-ခုဖွားတည်း။ သက္ကရာဇ် ၁၂၅၀-ပြည့်နှစ်တွင် မုဂ္ဂစိုအနာရောဂါဖြင့် မိမိ ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော မန်းကျည်းချောက်ရွာတွင် ပျံလွန်တော်မူခဲ့လေသည်။

### သံဝေဂယူရန်

သေမင်းနိုင်ငံ၊ အဖန်ဖန်၊ လိုက်ရပြန်လေပြီ။
ဝေဘူတောင်မျှ၊ ပမာပြု၊ အရိုးမကပြီ။
နှစ်တုံပေါ်တုံ၊ သုံးပါးဘုံ၊ ကြုံရလှလေပြီ။
ချမ်းသာမငွေ့၊ ဆင်းရဲတွေ့၊ ငြီးငွေ့သင့်လှပြီ။[၂]

---

၁။ ဒက္ခိဏာရာမတိုက် ဆရာတော် အရှင်ဝိမလဗုဒ္ဓိ ကြည့်။

၂။ ထွန့်ခေါင်ကမ္မဋ္ဌာန်း သံပေါက်။ စစ်ကိုင်းသာသနာဝင်။ ၁၃၂-၁၃၃ ကြည့်။



အဂ္ဂိဏာရမတိုက် သံဃနာယက ဆရာတော် အရှင်အာစာရာဘိဝံသ

## ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် သံဃနာယက
## ဆရာတော်အရှင်အာစာရာဘိဝံသ

ဆရာတော် အရှင်အာစာရာဘိဝံသသည် အရှင်သုန္ဒရာဘိဝံသာ ဆရာတော် ဘဝနတ်ထံ ဝင်ဝံတော်ပြီးနောက် သာဝတ္ထိပြည့် ဇေတဝန်ကျောင်းတိုက်ကြီး ဘမ္ဘ ခမ်းနားကြီးကျယ်လှသော ဒက္ခိဏာရာမကျောင်းတိုက်ကြီး၏ လေးဆက် မြောက် ပဓာန သံဃမဟာနာယက ဖြစ်တော်မူလေသည်။

### ဇာတိချက်ကြွေ မွေးရပ်မြေ

မိတ္ထီလာမြို့နယ် ကဖြူရွာ အဖ ဦးပို-အမိ ဒေါ်မင်းရန်တို့မှ သက္ကရာဇ် ၁၂၀၅-ခုနှစ် တပို့တွဲလဆုတ် ၈-ရက် တနင်္ဂနွေနေ့ တချက်တီးကျော် အချိန်၌ ဖွားမြင်တော်မူသည်၊ ဆရာတော်လောင်းလျာ ဖွားမြင်တော်မူပြီး ခုနစ်ရက် မြောက်တွင် မိခင် ဒေါ်မင်းရန် ကွယ်လွန်သဖြင့် မိထွေး ဒေါ်ဗုတ်က နို့ချို ကိုက်ကျွေး မွေးမြူ စောင့်ရှောက်ခဲ့လေသည်။ ဖွားမြင်ပြီး မယ်တော်တုသိတာ နတ်ပြည်သို့ ကြွသွားသဖြင့် မိထွေးတော် ဂေါတမီ မွေးမြူရသော အလောင်း တော် ဗောဓိသတ်နှင့် တူလှပေသည်။

### ပညာသင် သာမဏေဝတ်

သက်တော် ခုနစ်နှစ်သားအရွယ်တွင် လူမည်ဦးမှုန်ဟုတွင်သော ဘုန်းကြီးမှုန် ထံ ဖခင်က အပ်နှံသဖြင့် ပညာသင်ကြားရသည်။ ၎င်းနောက် ဝိနယာဂရုက သိက္ခာ ဘာမဂုဏ်တို့နှင့် ပြည့်စုံသည့် ရွှေလုံ ဆရာတော်ထံ ပညာသင်ကြားရပြန်သည်။ ၁၃-နှစ်သားအရွယ်တွင် ရွှေလုံဆရာတော်ထံ ရှင်သာမဏေ ဝတ်ခဲ့သည်။ သာမဏေဘွဲ့တော်မှာ ရှင်အာစာရ ဖြစ်လေသည်။ ဥပဇ္ဈာယ် ရွှေလုံဆရာတော် ဘုရားကြီးထံ၌ပင် ကစ္စည်း သဒ္ဒါကြီး၊ သင်္ဂြိုဟ်၊ ပုဒ်စစ်၊ သုတ်စစ်၊ သဒ္ဒါ စစ်၊ သံဝဏ္ဏနာ၊ နည်းလေးဆယ်၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်း-အစရှိသော ငှကတ်အခြေပြု ကျမ်းများကို သင်ယူတော်မူသည်။

### မန္တလေး အသောကာရာမတိုက်သို့

သက္ကရာဇ် ၁၂၂၁-ခုနှစ် သက်တော် ၁၆-နှစ်အရွယ်တွင် မန္တလေးမြို့ တောင်ပြင် အသောကာရာမတိုက်သို့ ရောက်၍ ဦးလေးအရင်းဖြစ်သော

"ပဏ္ဍိတာဘိသီလာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသထံ၌ ပညာသင်ကြားခဲ့သည်။ မန္တလေးရောက်၍ လောနှစ်ပြီးလေသော် အရှင်ပဏ္ဍိတာဘိဝံသ၏ အပ်နှံချက်အရ ဒက္ခိဏာရာမတိုက် "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်ဇာဂရာဘိဝံသထံ ပညာသင်ကြားတော်မူရလေသည်။

## ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူခြင်း

သက္ကရာဇ် ၁၂၂၈-ခုနှစ် နယုန်လဆန်း ၃-ရက်နေ့တွင် သစ်တောဝန်၊ မြို့ဝန်၊ ငွေတော်ဝန် ဖြစ်သော မင်းကြီး မဟာမင်းကျော်ရာဇသူ၏ ပစ္စယာနုဂ္ဂဟဖြင့် ဒက္ခိဏာရာမတိုက် ဆရာတော် "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး အရှင်ဇာဂရာဘိဝံသကို ဥပဇ္ဈာယ်ပြု၍ အသောကာရာမ သိမ်တော်၌ ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူခဲ့လေသည်။ စာပေကျမ်းဂန် အတန်တန်ကို အာစရိယာမှု၌ ရရှိအောင် ဆက်လက် သင်ကြားလေ့လာရာ သက်တော်အရွယ်ငယ်စဉ်ကပင် ပိဋကတ်ကျမ်းဂန် အရပ်ရပ်၌ ကျွမ်းကျင်တတ်မြောက်တော်မူလေသည်။

## အဆင့်အတန်းလေးမျိုးဖြင့် ပရိယတ္တိသာသနာတော်ကို ချီးမြှောက်ခြင်း

ထိုစဉ်က မင်းတုန်းမင်းတရားကြီးသည်—

၁။ ရာဇာဓိရာဇဂုရု ဘွဲ့၊

၂။ ပဌမစာတော်ချ ဂုဏ်ထူး၊

၃။ ဒုတိယစာတော်ချ ဂုဏ်ထူး၊

၄။ တတိယစာတော်ချ ဂုဏ်ထူး—

အားဖြင့် အဆင့်လေးမျိုးခွဲ၍ ဆရာတော် သံဃာတော်တို့အား ချီးမြှောက်လှူဒါန်း ထောက်ပံ့တော်မူလေ့ရှိသည်။

## ရာဇာဓိရာဇ်ဂုရုရထိုက်သောဆရာတော်၏အင်္ဂါ

ပဉ္စမသံဂါယနာတင်မင်းတရားကြီးသည် သီလဂုဏ် သမာဓိဂုဏ် ပညာဂုဏ်တို့နှင့် ပြည့်စုံတော်မူသော၊ ပရိယတ္တိဝိသာရဒ ပဋိပတ္တိမာမက ဖြစ်တော်မူသော ဆရာတော်များကို ရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်ဖြင့် လှူဒါန်းဆက်ကပ်တော်မူ၍ ပစ္စည်းလေးပါးဖြင့် မငြိုမငြင်ရအောင် ထောက်ပံ့တော်မူသည်။

### ပဌမစာတော်ချအင်္ဂါ

၁။ ဝါကျသွား ဝါကျလာတို့ကို အကျယ်ချဲ့၍ ဝေဖန်နိုင်၍ ဓာတ်ပစ္စည်း ပုဒ်ဝိဂ္ဂိုဟ် စေနတ်များကို မှန်ကန်စွာ ပြုလုပ်ချပိုနိုင်ခြင်း၊
၂။ ဂါထာပါဠိရေးဖွဲ့ စီကုံးတတ်ခြင်းနှင့်တကွ ပဒဒေါသ အစရှိသော အလင်္ကာနည်းကို သိခြင်း၊
၃။ နေတ္တိနည်းကို အကျယ်သိခြင်း၊
၄။ ပဋ္ဌိစ္စသမုပ္ပါဒ်နည်းကို အကျယ်သိခြင်း၊
၅။ ပဋ္ဌာန်းနည်းကို အကျယ်သိခြင်း—

ဤအင်္ဂါငါးပါးနှင့် ပြည့်စုံသောရဟန်းတော်များကို ''ပဌမစာတော်ချ'' အဖြစ် သတ်မှတ်ဂုဏ်ပြုတော်မူပြီး လစဉ်ဆန်ငါးတင်း လှူဒါန်းတော်မူလေသည်။

ငါးဖြာမချို၊ ရှိသူတို့၊ စာပို့ပဌမာ။
ကေရာဇ်မင်း၊ ထောက်လှူသွင်း၊ ငါးတင်းဆန့်တော်မှာ [၁]။

### ဒုတိယစာတော်ချအင်္ဂါ

၁။ ကျမ်းရိုးငါးချက် အထွက်အထက်၌ နှုတ်တက်ပိုင်ပိုင် နိုင်နင်းခြင်း၊
၂။ ဗျဥ္ဇနဗုဒ္ဓိဆယ်ပါး၊ ဗျဥ္ဇနယကိုးပါး၊ သကတ်ဒြပ်-စသော ငါးပါးတို့ကို ကောင်းစွာပိုင်ပိုင် သိရှိနားလည်ခြင်း၊
၃။ ညာသ်နည်းအရကောက်ကို နားလည်ခြင်း၊
၄။ ဂါထာပါဠိမဖွဲ့နိုင်သော်လည်း ဆန်းကျမ်း ဥပဒေလက္ခဏာများကို သိရှိနားသည်ခြင်း—

---

၁။ ရှေ့ဟောင်းကျော်ခွဲသဘာဝဘဲ။

ဤအင်္ဂါလေးချက်နှင့် ပြည့်စုံသည့် စာချရဟန်းတော်အား "ဒုတိယစာတော်ချ" ဂုဏ်ထူးဖြင့် ချီးကျူး၍ ဆန်တော်လေးတင်း၊ သို့မဟုတ် ငွေ ၈-ကျပ်လာဘ်လာဘပစ္စည်းကို လှူဒါန်းတော်မူသည်။

လေးဖြာမချို၊ ရှိသူတို့၊ စသို့ဒုတိယာ။
လေးတင်းစာအပ်၊ လူတို့လာဘ်၊ ရှစ်ကျပ်ရသင့်ပါ ၁။

တတိယစာတော်ချအင်္ဂါ

၁။ သဒ္ဒါ၊ ပညတ်၊ ပရမတ်အစရှိသော အထွက်အတက်အမျိုးမျိုးတို့၌ သမရိုးကျကျ စွမ်းနိုင်ခြင်း၊
၂။ ကာရက၊ အကာရက ကြိယာ အစရှိသော စာစပ်အမျိုးမျိုးတို့ကို သဒ္ဒါနည်း၊ အဘိဓမ္မာနည်းတို့နှင့် တကွ ပိုင်နိုင်စွာ တတ်သိခြင်း။
၃။ သံဝဏ္ဏနာခြောက်ရပ်တို့ကို ပုဒ်ပါဌ်တွေ့တိုင်း လှည့်လည်ပြနိုင်ခြင်း၊

ဤအင်္ဂါသုံးပါးနှင့်ပြည့်စုံသောစာချရဟန်းတော်ကို "တတိယစာတော်ချ" ဘွဲ့ထူးဖြင့် ချီးမြှောက်၍ လစဉ်ဆန်သုံးတင်း၊ သို့မဟုတ် ဆန်သုံးတင်းနှင့် တန်ဖိုးညီမျှသော ခြောက်ကျပ်တန်လာဘ်လာဘပစ္စည်းကို လှူဒါန်းတော်မူသည်။

ထွက်တက်စာစပ်၊ ဖွင့်ခြောက်ရပ်၊ စုံအပ်တတိယာ။
ဆန်သုံးတင်းတန်၊ ပစ္စည်းမှန်၊ ကေန်ရသင့်ပါ ၁။

ရာဇဂုရုဘွဲ့ မလိုချင်သဖြင့် ဦးရန်နှင့်အတွေ့မခံ

သက္ကရာဇ် ၁၂၃၅-ခုနှစ်တွင် ပိဋကတ်တော်အုပ် ဦးရန်သည် ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ထိုစဉ်က ဆရာတော် အရှင်အာစာရဘိဝံသနှင့် ဆရာတော်ဦးသုတဗုဒ္ဓိတို့အား ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းရန် မင်းမြတ်၏ အမိန့်ဖြင့် စုံစမ်းပေးမြန်းစစ်ဆေးရန် ရောက်ရှိလာ၏။ ဆရာတော် အရှင်အာစာရဘိဝံသသည် ဦးရန်၏ အစစ်အဆေး အမေးအမြန်းကို မခံလို၊ မင်းပေးဂုဏ်ဟိတ်ရ ရာဇဂုရုဘွဲ့ စာချဘွဲ့ကိုလည်း မဟူလိုဟု ပြောဆိုကာ မြောက်ပြင်မိုးထိတိုက်သို့ ပြောင်းရွှေ့သွားလေသည်။

---

၁။ မွေဝါဒကူလဒေသာစာတင်း။
၂။ စံကျောင်းတိုက်ဟုလည်း အဆိုရှိသည်။

## စစ်ကိုင်း အသောကချောင်သို့

မိုးထိတိုက်မှ[၁] ဘုရားကြီးတိုက်သို့ တဖန် ပြောင်းရွှေ့သီတင်းသုံးလေရာ ကျေးဇူးရှင် ဆရာတော်ရင်း "ပဏ္ဍိတာဘိသီလာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု" ဆရာတော်ဘုရားကြီး စစ်ကိုင်းတောင်ရိုး အသောကချောင်၌ ကြွရောက်သီတင်းသုံးတော်မူသဖြင့် ၎င်းဆရာတော်နှင့် အတူတကွ လိုက်ပါသီတင်းသုံးရာ သုံးဝါမျှကြာမြင့်လေသည်။ ၎င်းနောက် မန္တလေးမြို့ လေးပြင်လေးရပ် ပညာရှင်တို့ထံ နည်းခံပြီး ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ပရိယတ္တိစာပွဲသဘင် မစဲနေ့ညဆင်ယင်တော်မူ၍ သီတင်းသုံးတော်မူလေသည်။

၁၂၆၀-ပြည့်နှစ် တပို့တွဲလဆန်း ၁၅-ရက်နေ့တွင် ပရိယတ္တိသာသနဟိတာအသင်းကြီး၏ ပရိယတ္တိသာသနဟိတမူလဓမ္မာစရိယအဖြစ်ဖြင့် ကိုးကွယ်ခြင်းကိုလည်း ခံယူတော်မူရသည်။

## ဒက္ခိဏာရာမတိုက်မဟာနာယက

၁၂၅၀-ပြည့်နှစ်တွင် ဆရာတော်အရှင်သုန္ဒရာဘိဝံသ ပျံလွန်တော်မူသဖြင့် အရှင်အာစာရာဘိဝံသသည် ဒက္ခိဏာရာမတိုက်ကြီး၏ အာရာမာဓိပတိသံဃမဟာနာယကဖြစ်တော်မူလေသည်။

၁၂၆၅-ခုနှစ်တွင် မန္တလေးမြို့ အနောက်ပြင်ပွဲကုန်းရပ်လက်ဖက်ပွဲစားကြီး ဦးသက်ရှည် တတိယအကြိမ်မြောက် ဆောက်လုပ်လှူဒါန်းအပ်သော အလယ်အုဋ္ဌကျောင်းတော်ကြီးကိုလည်း အာဂတာနာဂတစာတုဒ္ဒိသသံဃိက အဖြစ်ဖြင့် အလှူခံရရှိတော်မူသည်။ ၎င်းပြင် စစ်ကိုင်းမြို့အုပ်မင်း ဆောက်လုပ်လှူဒါန်းအပ်သော ကျောင်းကြီးကိုလည်း ၁၂၆၆-ခုနှစ်တွင် သံဃိကကျောင်းကြီးအဖြစ် အလှူခံတော်မူရသည်။

## စာပေကျမ်းဂန် ချပို့တော်မူခြင်း

ဆရာတော်သည် ထိုစဉ်က သံဃာတော် ၁၃၀၀-မျှရှိသော ဒက္ခိဏာရာမကျောင်းတိုက်ကြီးကို ဦးစီးဦးကိုင် ပြုလုပ်တော်မူ၍ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊

---

၁။ စံရှကျောင်းတိုက်မှ (အချို့အဆို)

အနု၊ မဓု၊ ဂဏ္ဌိ၊ နေတ္တိ၊ အလင်္ကာ၊ သဒ္ဒါ၊ မောဂ္ဂလ္လာန်၊ အဘိဓာန်၊ ဗျာကရုဏ်းအစရှိသော ကျမ်းဂန်အရပ်ရပ်တို့ကို ပို့ချလျှ သာသနာပြုတော်မူခဲ့လေသည်။

## ဘုရားကြီးဂိုဏ်း သံဃမဟာနာယကဖြစ်ခြင်း

ဆရာတော် အရှင်အာစာရာဘိဝံသသည် ဒက္ခိဏာရာမဘုရားကြီးတိုက်၏ သံဃနာယကသာမဟုတ်သေး ဘုရားကြီးဂိုဏ်း၏ သံဃမဟာနာယကလည်း ဖြစ်တော်မူသည်။

သက္ကရာဇ် ၁၂၆၀-ပြည့်နှစ်တွင်"နန္ဒသာရသိရီသဒ္ဓမ္မဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံတော်နှင့် "နန္ဒာဘိဓဇဓိပတိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ဟူသော ဘွဲ့တံဆိပ်တော် နှစ်ထပ်ရ ပခန်းသမ္မုတိသာသနာပိုင်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသည်။ သို့ဖြစ်၍ လစ်လပ်လျက်ရှိသော သာသနာပိုင်ဌာနန္တရအတွက် ရွှေမြန်မာမင်းတို့လက်ထက် "ရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်များ ဆက်ကပ်လှူဒါန်းခြင်းခံရသော ဆရာတော်ဘုရားကြီး ၃၃-ပါးကို အရွေးခံ ဆရာတော်များ လျာထား၍ လေးပြင် လေးရပ်မှ တိုက်အုပ်တိုက်ကြပ်ကျောင်းထိုင် ဆရာတော်တို့ကို မဲဆန္ဒပေး ပုဂ္ဂိုလ်များအဖြစ် သဘောတူ သတ်မှတ်ထားပြီးလျှင် မန္တလေးတောင်ခြေ သုဓမ္မာဇရပ်အနီးတွင် မဏ္ဍပ်ကန္နားကြီးစွာ ဆောက်လုပ်၍ ၁၂၆၃-ခုနှစ် သီတင်းကျွတ်လဆန်း ၈-ရက်နေ့နံနက် ၉-နာရီအချိန်တွင် သာသနာပိုင်ဆရာတော်ကို မဲဆန္ဒဖြင့် ရွေးချယ်ကြရာ"သုဇာတာဘိသိရီဇ မဟာဓမ္မရာဇဂုရု"နှင့်"သုဇာတာဘိသိရီဓဇဓိပတိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော်ဟူသော တံဆိပ်တော် နှစ်ထပ်ရမိုးထားဆရာတော် အရှင်သုဇာတမဟာထေရ်က ၃၉၆-မဲဖြင့် ပဌမ ရရှိ၍" ဝိသုဒ္ဓသီလာစာရကာဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"နှင့် "ဝိသုဒ္ဓသီလာစာရသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဟူသော ဘွဲ့တံဆိပ်တော် နှစ်ထပ်ရ တောင်ခွင်ဆရာတော် အရှင်ဝိသုဒ္ဓမဟာထေရ်က ၁၉၅-မဲဖြင့် ဒုတိယရရှိလေသည်။ "မဥ္ဇူသာရာဘိ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"နှင့် "မဥ္ဇူလင်္ကာရ မဟာ ဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ဟူသော တံဆိပ်တော် နှစ်ထပ်ရ တုက်လှမ်းဆရာတော် အရှင်မဥ္ဇူမဟာထေရ်က ၈၆-မဲဖြင့် တတိယရရှိလေသည်။

ဖော်ပြပါ သာသနာပိုင် ရွေးပွဲတွင် ပဌမရရှိတော်မူခဲ့သော မိုးထားဆရာတော်ဘုရားကြီးအရှင်သုဇာတမဟာထေရ်မှာ သာသနာပိုင်အဖြစ် အသိ

အမှတ်ပြုရန် စီစဉ်ဆဲတွင် ပျံလွန်တော်မူသဖြင့် ဒုတိယမဲအများဆုံးရရှိတော်မူသော တောင်ခွင်ဆရာတော် အရှင်ဝိသုဒ္ဓမဟာထေရ်ကို လောကရေး ဓမ္မရေး ကျွမ်းကျင်လိမ္မာသည်ဆို၍ သက္ကရာဇ် ၁၂၆၅-ခုနှစ်တွင် အင်္ဂလိပ်အစိုးရတို့က သာသနာပိုင်အဖြစ် အသိအမှတ်ပြုလေသည်။

## ဘုရားကြီးဂိုဏ်း

ထို့နောက် သက္ကရာဇ် ၁၂၈၃-ခုနှစ် ကဆုန်လဆန်း ၁ ရက်နေ့တွင် သာသနာပိုင်တောင်ခွင်ဆရာတော်က "မဟာဒါန်ဝန်မဟာဒါန်စာရေးခန့်ထား၍ ရဟန်းတော်များကို အုပ်ချုပ်မည်၊ မန္တလေးမြို့ လေးပြင် လေးရပ်ရှိ ထင်ရှားကျော်စောတော်မူသော ဆရာတော်ကြီးများလည်း "သုဓမ္မာအဖွဲ့အစည်း" သို့ ပါဝင်တော်မူကြပါ" ဟု ထုတ်ပြန်ကြေငြာရာ ဒက္ခိဏာရာမဘုရားကြီးတိုက် ဆရာတော် သံဃာတော်များက "မဟာဒါန်ဝန် ရှေးမြန်မာမင်းများကဲ့သို့ နိုင်ငံတော်အစိုးရက ဘုရားမြတ်စွာ သာသနာတော်ကြီးကို ချီးမြှောက်လိုသော ဆန္ဒနှင့် ခန့်ထားသော် မဟားမြစ်သာ။ ရဟန်းတော်များက ခန့်ထားရှိ ထုံးစံမရှိ၊ ဝိနည်းတော်နှင့် ငြိစွန်းဖွယ်ရှိသောကြောင့် မဟာဒါန်ဝန်ခန့်ထားခြင်းကို သဘောမတူ၊ ကန့်ကွက်သည်။ သုဓမ္မာအဖွဲ့အစည်းတွင်လည်း မပါဝင်လို၊ သာသနာပိုင်က မဟာဒါန်ဝန် ခန့်ခဲ့သော် ဘုရားကြီးဂိုဏ်းနှင့် မသက်ဆိုင်" ဟု မြစ်တားစာနှင့်တကွ သံဃာ့ကိုယ်စားလှယ်များလွှတ်၍ ခရိုင်ဝန်ထံ မိန့်ကြားခဲ့လေသည်။

ဘုရားကြီးဂိုဏ်းဝင် မူလဆရာတော်များမှာ—

၁။ ဒက္ခိဏာရာမဘုရားကြီးတိုက် အရှင်အာစာရာဘိဝံသ ဂဏပါမောက္ခဆရာတော်၊
၂။ ရွှေရေးဆောင်တိုက် နာယကဆရာတော် [၁]အရှင်အာဒိစ္စရံသီ၊
၃။ မဟာဓမ္မိကာရာမတိုက်နာယကဆရာတော် အရှင်အာစိဏ္ဏ၊
၄။ ညောင်ကန်တိုက်နာယကဆရာတော် အရှင်ဇလန္ဒ၊
၅။ ထီလင်းတိုက်နာယကဆရာတော် အရှင်ကောဏ္ဍည၊
၆။ မင်းတင်တိုက်နာယကဆရာတော် အရှင်ရေဝတ၊
၇။ မိုးထာတိုက်နာယကဆရာတော် အရှင်ပညာသီရိ၊
၈။ အသောကာရာမတိုက်နာယကဆရာတော် အရှင်တေဇဝန္တ၊
၉။ ဆီးဖန်းနီတိုက် နာယကဆရာတော် အရှင်သုန္ဒရ၊
၁၀။ မစိုးရိမ်တိုက် နာယကဆရာတော် အရှင်သောမာဘိဇ၊

---

၁။ အကျယ်ခွေတောင်ခွင်တိုက် သာသနာဝင်ကြည့်။

စုစုပေါင်း ဆရာတော်ကြီး ၁၀-ပါးတို့ ဖြစ်ကြကုန်၏။ ၎င်းနောက် ဘုရားကြီး ဂိုဏ်းဆရာတော်တို့၏ ရည်သန်နှလုံးသွင်းချက်ကို နှစ်သက်သဘောကျတော်မူကြသော—

၁။ ပေါင်းလဲတိုက်၊
၂။ ပေါက်မြိုင်တိုက်၊
၃။ မြင်ဝန်တိုက်၊
၄။ ဘုံကျော်တိုက်၊
၅။ အောင်မြေရွှေဘုံတိုက်၊
၆။ ဆင်တဲတိုက်၊
၇။ ကတိုးတိုက်၊
၈။ မှန်ကင်းတိုက်၊
၉။ စလေတိုက်၊
၁၀။ ငါးစိုတိုက်၊
၁၁။ မဟာနန္ဒိသေနာရာမတိုက်—

များလည်းဘုရားကြီးဂိုဏ်းသို့ ဝင်လာကြကုန်၏။

ဆရာတော်အရှင်အာစာရာဘိဝံသသည် ဖော်ပြပါ ဘုရားကြီးဂိုဏ်း၏ သံဃမဟာနာယက သံဃပါမောက္ခလည်း ဖြစ်တော်မူသည်။

## သာသနာပိုင်တမျှ ဩဇာညောင်း

ဆရာတော် အရှင်အာစာရာဘိဝံသသည် ခမာ၊ ဇာဂရိယ စသည်ခြောက်ဖုံ နာယကဂုဏ်နှင့် ပြည့်စုံကုံလုံပြည့်ဝစွာ တိုက်တာ ဂိုဏ်းဂဏကို အုပ်ချုပ်ကွပ်ကဲ တော်မူ၍ သာသနာပြုတော်မူရာ သံဃဦးကိုင် သာသနာပိုင်တမျှ ဩဇာညောင်း အရှိန်အဝါကောင်းခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေကျမ်းဂန် ချပို့တော်မူ၍ ၁၃၀၀-ခန့်ရှိသော ဒက္ခိဏာရာမ ဘုရားကြီးတိုက်နှင့့် သံဃာတော် ထောင်ပေါင်းများစွာရှိ ဘုရားကြီးဂိုဏ်း ဂဏသံဃာတော်တို့ကို အုပ်ချုပ်ကွပ်ကဲ သာသနာပြုတော်မူစဉ် သက်တော် ၈၂-နှစ်၊ သီက္ခာတော် ၆၂-ဝါ ရရှိရာ သက္ကရာဇ် ၁၂၈၇-ခုနှစ် တန်ဆောင်မုန်း လဆန်း ၁၄-ရက်နေ့ ည ၁၁-နာရီအချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသတည်း။

## သံဝေဂယူရန်

ယတ္ထိဟိ အဿေဟိ ရထေဟိ ပတ္တိဘိ၊
ပရိဝါရိတာ မုစ္စရေ ကေစ္စေယျာ။
န မစ္စုနော မုစ္စိတု မုဿဟန္တိ ၁။

ဟတ္ထိဟိ၊ အားခွန်ဗလ လွန်ကြီးလှအင် ဆင်တို့ဖြင့်လည်းကောင်း။ ၀ါ၊ အားအင်ကြီးမား ဆင်တပ်များဖြင့်လည်းကောင်း။ အဿေဟိ၊ အားအင်ကြီးလျှင်း မြင်းတို့ဖြင့်လည်းကောင်း။ ၀ါ၊ အားအင်ကြီးမား မြင်းတပ်များဖြင့်လည်းကောင်း။ ရထေဟိ၊ လွန်စွာများပြား ရထားတို့ဖြင့်လည်းကောင်း။ ပတ္တိဘိ၊ အားအင်ဗလ စွမ်းထာမနှင့် ပြည့်စုံကြသည့် ခြေသည်သူရဲတို့ဖြင့်လည်းကောင်း။ ပရိဝါရိတာ၊ ခြံရံအင်ကုန်သော။ ကေစ္စေယျာ၊ အချို့သောတိုင်းပြည်သနင်း ပြည်ပိုင်မင်းတို့သည်။ ပစ္စာမိတ္တာနံ ဟတ္ထတော၊ ရန်သူတို့၏လက်မှ။ မုစ္စရေ၊ လွတ်မြောက်နိုင်ကြကုန်၏။ မစ္စုနော၊ သေမင်း၏။ ဟတ္ထတော၊ လက်မှ။ မုစ္စိတုံ၊ လွတ်မြောက်ခြင်းငှာ။ န ဉဿဟန္တိ၊ ပုံသေမုချ မစွမ်းနိုင်ကြကုန်။

## ကြီးကျယ်ခမ်းနားလှသော ဈာပနသဘင်

ဆရာတော်၏ ရဟန်းတပည့် လူတပည့်အပေါင်းတို့က ဥတုဇရုပ်အလောင်းတော်ကို လေးလေးကျော်ကျော် အပူဇော်ခံစေကြကုန်၏။ ထိုသည့် ၁၂၈၇-ခုနှစ် တပို့တွဲလဆန်း ၁၁-ရက်နေ့ နေ့လယ် ၁၂-နာရီအချိန်တွင် ထီးဖြူတော်ဖွင့် အခမ်းအနား ကျင်းပ၍ တပေါင်းလဆန်း ၁၁-ရက်နေ့မှစ၍ တပေါင်းလဆုတ် ၃-ရက်နေ့အထိ ၈-ရက်တိုင် ပြာသာဒ်ကြီး၊ ပြာသာဒ်ငယ်၊ လောင်တိုက်ကြီး၊ လောင်တိုက်ငယ်၊ စံကျောင်းကြီး၊ စံကျောင်းငယ် အသွယ်သွယ် အလဲအလှယ် အလောင်းတော်ကို ကျိန်းစက်စေကြပြီး ဇာတ်ပွဲသဘင်များစွာတို့ဖြင့် ဖြေဖျော် ပူဇော်ကြပြီး အသီးသီး လူရှင်လွန်လျှင် ထူးဆန်းအံ့ဘနန်းမျှ ကျင်းကြကုန်၏။ ထီးဖြူတော်ဖွင့် အခမ်းအနားတွင် ကဗျာပဏ္ဍိတ ဆီးဗန်းနီ ဆရာတော် ဦးနိဂြောဓက အောက်ပါ သြဘာစာတမ်းကို တင်သွင်း၍ ဆိုင်ရာပုဂ္ဂိုလ်တို့က ဖတ်ရွတ်ပူဇော်ကြကုန်၏။

---

၁။ ဇာ၁၊ ၁။ ၃၅၄။ (အဃောသဇာတ်)

## ဒက္ခိဏာရာမတိုက် တောင်သာ မြောက် နာယကဆရာတော်ဘုရားကြီး
## အရှင်အာစာရမဟာထေရ် ပျံလွန်တော်မူစဉ်
## အခမ်းအနားဖွင့် ဩဘာစာတမ်း

အောင်သူတကာတို့၏ သေတစ္ဆတ္တိန္ဒာဘိဓေယျ ဝိသိဋ္ဌမင်္ဂလာ အမတိန္ဒာ မိပတိ တြိဘဝဿဂူ အဘိဘူပါမောက္ခ ဝိဇယုဿဝ ထွဋ်ဖူး အောင်ပွဲမူး ဖြစ်တော်မူသော ဂေါတမနွယ်ဘွား ဘုရားရှင်ဗျာ ဆယ်လီငါးရာ သာသနာ သည် နဘန္တရာ တိမ်လွှာပယ်ထွန်း စည့်စည့်ထွန်းသော မွန်းချက်နေကဲ့သို့ ရှိန်းဝေတောက်ထွန်း ပေါ်ကွန်းတန်ဆောင် သံပိုင်းထောင်တော်မူရာ မိတ္ထိလာမြို့ အောင်မြို့ခွန်ယူ မြင်းမြေပူသည် ကမြူရွာသန့် ပုညိဋ္ဌိဖြင့် ဇာတိ ဖွားရာ ထေရ်မဟာလျှင် ဘဒ္ဒန္တာစာရာဘိ ကဝိဓဇ ဒက္ခိဏာရာမ နာယက ဘိသိက် တံဆိပ်နာမံ ခံယူတော်မူ၍ သမန္တပါသာဒိက သဒ္ဓာတော်ဘြ အနောပမ တူမမှုသား သာကီယဂိုဏ်း ကွန့်လှိုင်းစဉ်ဖြာ ဂုဏာတိရေက ဂုဏဝိသိဋ္ဌ မဆိတ်ဩဘာ မင်္ဂလာဖြင့် ပညာပုည စုံလှကျက်သရေ ရှိန်း ဝေတောက်ထိန် ဂဇိန္ဒရာဇ် ဦးကင်းနှစ်ကို ဒစ်သစ်ဖောက်ထုတ် သောက် မျိုကျုတ်လော ဝသုတ္တာမော် သားရဲကျော်တို့ အာဘော်ကျကျ ပဒအက္ခရာ သဒ္ဒါဂမ္ဘီ သားဆီနိရှုဘ်ကို သောက်ထုတ်တော်မူနိုင်သော ကျေးဇူးတော် ရှင် ထိပ်ခေါင်ဘင် ဆရာတော်ဘုရားကြီး၏ မိဘနှစ်ပါးသည် တရားပြဟ္မ စိုရ် ဝမ်းထည်းသိုသော "ဦးပို-မယ်ရီ" နာမံထင်ပေါ် ခမည်းတော်နတ် မယ်တော်မြတ်တို့မှ အမွတ်တွက်စစ် ကောဇာသက္ကရာဇ် ၁၂၀၅-ခုနှစ် တပို့တွဲလပြည့်ကျော် ၈-ရက် တနင်္ဂနွေနေ့အခါ အောင်ဇေယျမင်္ဂလာဝယ် မျက်နှာသန့်စင် မီးရှူ မြင်တော်မူသတည်း။

ထိုမှနောက်နောက် တထောက်ဘထောက် ကြီးမြောက်စဉ်သင့် အရွယ် တင့်၍ ရင်ကော်မူသကာလ "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မ ရာဇာဓိရာဇဂုရု" လွှတ်တုခတ်နိုပ် တံဆိပ်ချီးမြှင့် ဘုရင့်ဆရာ ဒက္ခိဏာရာမ "ပဌမ" ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ၁၂၂၈-ခု၊ နယုန် လဆန်း ၃-ရက်နေ့တွင် ဥပသမ္ပဒ ဥတ္တိစတုတ္ထ သာကီယဘိသိက် တံဆိပ် နာမံ ခံယူတော်မူပြီးလျှင် "ပဏ္ဍိတာဘိ သီလာလင်္ကာရ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု" လွှတ်တုအကျော် ဆရာတော်ဦးမင်း ထံတော်ရင်းတွင် ဝပ်စင်း အံသင် ငါးအင်္ဂနိကာယ် မိပ္ပာယ်ရှေ့ဝတ် ချေဆွင်ပန်းရက် သောက်မက် မူးမူး ဆည်းပူးလေ့လာတော်မူပြီးလျှင် ဝေနီထုတ်ချောက် နည်းသောက် ခံယူ ရှင်ဖြူ ရှင်ညို ရဟန်းပျိုတို့ အလိုရှိတိုင်း ရက်မတိုင်းတိ ဂိုဏ်းဆဲ တထွေ ထွက်ရေသီတိ ယှက်လေရှိသည် ပုရိသအပြား ဗျည်းကိုးပါးနှင့်

သုံးပါးလေးပါး ငါးပါးရှစ်ဖြာ အစဉ်လာသည် လိင်ဝါစကာ ဒဗ္ဗဟူတုံ ဝိဘတ်စုံမှ ဝိဇ္ဇုမြဲလာ လျှပ်ပါတကြွမ် နှစ်ကြိမ်တွက်မှတ် သုံးကြိမ်ပတ် သား ရသာဒိသာ ဗျူဒါဗျူပွတ် သတ်နှုန်းဖြာ ရကား သုံးစပ်း အပ် တစင်းနှင့် ခြင်းတလုံးနှောင် ကြောင်နှင့်ပဏာတ် တကောင်မှတ်၍ ဆတ်ဆတ် သိစေ လုံးထွေးလျက် ကြံလေသတတ် ဘန်ဝေ တတ်သည် ပရမယ်ပစ္စည်း ခေတ်ပစ္စည်းမှ စသည်ပုံယင် ကျမ်းစုံလင်ကို စာသင်အများ တပည့်သား တို့အား သင်ကြားပို့ချတော်မူသတည်း။

ယင်းသို့ ဒက္ခိဏာရာမ ပဌမ ဆရာတော်ဘုရားကြီး၊ ဒုတိယ ဆရာတော် ဘုရားကြီး နှစ်ပါး၏ထံတော်မှောက်မှ နယဂ္ဂါဟက လဒ္ဓေါဒေသ အာဂမ မူဋ္ဌ လက်ဆုပ်မိမိ ရကြီးရရှိ မိကြီးမိ ဖြစ်၍ ထုတိသောသ သဒ္ဒကိတ္တိ ကျော်စောခြင်းရှိလတ်သော် ကောကနဒ ပဒုမဟု ဥပ္ပလန္ဒန်း ဘုန်းတန်ခိုး ကံဟုန် သမ္ဘာဂုဏ်တို့သည် အမ္ဗုန္တရ ရှာသွန် ချသို့ တစတစ တက်ထလမ်း ပွင့် စွင့်စွင့်စည်ဖြိုး တိုးဟော်မူရကား ရဘနာပုဏ္ဏ ပတ္တိမမျက်နှာ သာယာ ခြိမ့်အုံး ရပ်ပွဲကုန်းနိုက် ကျင့်သုံးသီလ ဓမ္မဥဿာ မဟာဗောဂီ စုံညီပေါ်များ ဂုဏ်မြောက်မြားသော ပွဲစားကြီး “ဦးသက်ရှည်” သား ပွဲစားကြီး “ဦးကျော်” တို့သည် သုံးမည်ဝဋ္ဋ သံသာရကို ဘယဒဿီ ကမောဒီနဝ ဥဒယဗ္ဗယဉာဏ် အမြင်သန်၍ နိဗ္ဗာန်ရပ်ခွင် နန်းဦးကင်သို့ မဂ္ဂပဲထိုးဖြူ အောင်လံထူမည် ရှယ်ချူသဘော မနောပုဗ္ဗင်မ အာသီသဖြင့် “ဝိဟာရဒါန် သံဃာ၊ အဂ္ဂံ ဗုဒ္ဓေန ဝဏ္ဏိတံ” ကျမ်းဂန်နှင့်အညီ မှတ်သားထေရ်ကျော် သံဃာတော်တို့ မွေ့လျော်သာမြိုက် ယာပိုထိလေးလီ မျှညီသီတင်းသုံးတော် မူရန် ဣဋ္ဌကာမယ မဟာဝိဟာရ အုတ်ကျောင်းတော်ကြီးကို မိုးနီးနီးနဘံ ဝေယံအဇ္ဇာ အာကာသစွင့်စွင့် ရှုဘွယ်တင့်အောင် ကြီးမြင့်မောက်မောက် ရွှေတောင်ကြီး ပေါက်သကဲ့သို့ ဆောက်လုပ်လှူဒါန်းသည်ကို ၁၂၆၅-ခု ရတုဂိမှန္တ ဖဂ္ဂုဏပုဏ္ဏမီ သရဖီရွှေဝတ် ညှာလေဆွတ်၍ ခွေညွတ်ညှာညွှာင်း မြေဝယ်လျောင်းသော တပေါင်းလဆန်း ( )ရက်နေ့တွင် ချမ်းမြေ့ ပူဇော် အလှူခံတော်မူသတည်း။

ဤသို့နှင်နှင် များဖြင့်ဝေဝုစ် ဂုဏ်အစုတ်တို့ဖြင့် ဖွဲ့ထုတ်ချီးမြှောက်အပ် သော ဘဒ္ဒန္တာစာရ ဒက္ခိဏာရာမ နာယက ဆရာတော်ဘုရားကြီးသည် ရာဇာဓိရာဇာ မင်းဆရာဟု ကြေငြာထင်ပေါ် နိုင်ငံလုံးကျော်သော ဒက္ခိ ဏာရာမ ပဌမဆရာတော်ဘုရားကြီး ဒုတိယဆရာတော်ဘုရားကြီးတို့၏ ရင်း နှီးအနွယ် ဆက်သွယ်လျဉ်းလစ် အရင်းအမြစ် တူရင်းအစစ် ဖြစ်လှပေသော မဟာဂေါတ္တ အဘိဇစ္စဂုဏ် သိမ်မကျွလင် သိမ်အပြင်ဝယ် ပဉ္စရဟန်း ဖြစ်ထွန်း

သည်မှ ထိုကာစ၍ မြို့မျှအပြစ် ကင်းလစ်စင်ပ တိမ်ဦးလသို့ ဖြူလွှဲတင့်တယ် အလှန်စင်ကြယ်သော သီလာဝန္တဂုဏ်။ သဒ္ဒါအဘိဓာန် နိဿယ်လျှာလုံး ဗျာက ရဏ်းအဝဝ ဘက္ကက ဝေဒ စချီအစုတ် သုတ်အဘိဓမ္မာ ပါဠိ အဋ္ဌကထာ ဋီကာအနု မခုလက်သန်း ဂဏ္ဍိဂန္ထန္တရ အဝဝတို့၌ မမ္မညက်စင် လည်လေ ယင်သို့ စုံလင်ပြည့်ဝ လုံးထွန်းပသော မဟာပညာဝန္တဂုဏ်။

သေလော ယထာ ဧကဃနော၊ ဝါတေန န သမီရတိ။
ဧဝံ နိန္ဒာပသံသာသု၊ န သမိဉ္ဇန္တိ ပဏ္ဍိတာ[၁]—

ဂါထာတော်အရ ဣန္ဒခိလ သိကြားကိုယ်တိုင် ကိုင်ခါဆောင်စိုက် မြဲဆိုက်စိန်ခဲကြီးကို လင်းကဲကဖြာ ရှစ်မျက်နှာမှ လာသည်သုဟ်သုတ် မုန်တိုင်းကြီးရိုက်ထုတ်သော်လည်း လှုပ်ချောက်မဟဲ့ ယိမ်းယိုင်မဲ့သို့ အကဲ့ သမာဓိ တည်ကြည်ခြင်းရှိပေသော ပရမံတပေါ် ခန္တီကျော်သား သူတော် အကျင့် ရှစ်သင့်မြောက်သောအားနှင့် များစွာပြည့်စုံသော ခံတိမန္တ ခန္တီသောရစ္စဂုဏ်။ သုခုမာကျ သကျပါစက သစ္စဝါစက ပေါရိဝါစက သိမ်မွေ့နူးညံ့ မှန်ခန့်ယဉ်ကျေး နက်လေးအေးမြသော စကားနှင့် ပြည့်စုံသော သုဘာသိတဂုဏ်။ ယထာလာဘသန္တောသ သန္တုဋ္ဌိသလ္လေခ မဟာတပ အကျင့်နှင့်ပြည့်စုံသော ပရမံမာနဂုဏ်။ ယင်းသို့ပြည့်စုံသော ဂုဏ်အပြည့်နှက် အမျက်သာရ ဘာလရက္ခထင်ထင် သားအပေါင်း ငှက် အပေါင်းတို့၏ ခိုအောင်းရာအစဉ် အင်ကြင်းပင်ကြီးကဲ့သို့ စာသင်သား အပေါင်းတို့၏ ခိုညောင်းဝပ်ကျိုး ပညာရည်နို့ သောက်စို့တော်မူရာ ဆရာ တော်ဘုရားကြီး အသက် ၈၂-နှစ် သိက္ခာတော် ၆၂-ဝါ ရတနာအစု လူ့အမြုတေ ကျက်သရေပုံယင် ဂုဏ်အင်ပွားစီး တရားမှီးသော ဘုရားကြီး ဆရာတော်သခင် ထိပ်ခေါင်ကာင်သည် ပဘက်ရာ နေ့စကြာလျှင် သတ္တဝါ ခပင်းတို့အား အလင်းထင်ပြ စိုးစဉ်းပလျက် အတ္တဘောင်ခွင် သွားငင် ဝင်၏သို့ အကြင်အကြင် မွမ်းဖြင်ကပ်ဆည်း ရှင်အရည်းတို့အား နယ ဆောင်းဆောင်း နည်းအပေါင်းတည်းဟုသော ပညာဘာသ အရောင် အလင်းကို လင်းလင်းထင်ထင် ပြဘင်သိမ်းအုပ်လျက် ပစ္စုပ္ပန္န ဘဝဆုံးဘိ သမ္မုတိမရဏ တည်းဟူသော အတ္တဂ်မတောင်ခွင်သို့ ၁၂၈၇-ခု၊ တန် ဆောင်မုန်းလဆန်း ၁၄-ရက်နေ့ည ၁၁-နာရီအချိန်တွင် ဇီဝိတိန္ဒြိယ ပစ္ဆေဒဘဝန္တရ ဘဝခြားလတ် ဥပပတ်သန္ဓေ ယောနိနေသည် ဒေဝါယ တန ဝေဟာသသို့ ပြောင်းကြွသဖြင့် နတ်ကွန်းဘွင့်တော်မူသတည်း။

---

၁။ ဓမ္မပဒ။ ၂၅။ လကုဏ္ဍလဘဒ္ဒိယဝတ္ထု။

ယင်းသို့ ခရီးကန္တာရ အဒ္ဓါနပဋိပ္ပန် ရပ်နာမ်ကို စွန့်ပစ်၍ သမုဒ္ဒါန် သစ်မိုးရန် စိုးစံမွယ်တော်မူရှာ ပူဇာရဟာဖြစ်သော အဲလောင်းတော်မြတ် ရုပ်ကလာပ်ကို မန္တလေးတောင်စကြာ မဟာဗြဟ္မာဘုံကျောက်မင်းတို့၏ ဘုံကျောက်ခြင်းအနှုန်းကဲ့သို့ ဘုန်းကံသခင် အရှင်တို့သာ ကျင်းပရာဖြစ်သော ရတနာရွှေညောင်စောင်း ပန်းစုံရုပ်စုံ ဥဿုံမှုသစ် မြှုမည်စ်သော ဇမ္ဗူရာဇ်လျော်ရွှေခေါင်း၊ ကြုအနှစ်တော်ငွေခေါင်းနှင့်၊ ကောင်းတော်စောင် နဂါးရုံ မျက်စုံထိန် လျှပ် အရှိန်ခင်လှသော စိန်နဝရတ်မဟာလူတာတန်းဆာ ရတနာရွှေချည် ငွေချည်တို့ဖြင့် ထည်တကျန်းဖြစ် ရှန်းရှန်းသစ်ဝယ် ဂန်းရစ်ခါချုပ်လုပ် စီမံအပ်သော ရွှေသံလျှဉ်း ငွေသံလျှဉ်း ကန့်ကြက်ထီး ရွှေထီးပန်းထီး ပန်းမကျွပ်တော်ကြီး ညီးညီးရောင်လျှပ် မုတ်ပတ္တမြားစိန်ရှက် ဥဿဖယား ထိန်လက်သော့စိန်ပုခက် ယောဉ်တော်ကြာကလာပ် ဟုပ်ပြာသာဒ်တော်ကြီး မှစ၍ ဒဗ္ဗသမ္ဘာရအပေါင်း ရပ်းအဆောက်အဦ ထီးဖြူအထပ်ထပ် အရပ်ရပ် အသီးသီး အချီးအအုံ ကမ္ပည်းမဆံ့နိုင်အောင် ကြီးခန့်ဆုံးကြယ် အသွယ်သွယ်ဆောင်ရွက်ရန် ပရိက်ဥဿုံ ပြည့်စုံပြီးပြေရကား ဘုရားရွှေလက်တော်၌ အမောင်ဂုဏ်ဝါ အနန္တပိဏ် ဂုဏ်သိမ်ပြန့်မွှေး ရှင်ဘုရွှေနှင့်နှိုင်းသွေးတမျှ သဒ္ဓမ္မခိုင်ဖြိုး ပျိုလွှံတော်မူသော ဆရာတော်ဘုရားကြီး၏ အုတ်ကျောင်းတော် တကာကြီး "ဦးကျော်"က အရှင်သဃ်ာတော် ၇၀၀-ကျော်တို့အား ပဏ်ီတဘတ် မွန်မြတ်သော ဆွမ်းဘောဇဉ်တို့ဖြင့် လှူဒါန်းဆက်ကပ်ပြီးသည့်ကာလ သဒ္ဒမလှူလ် ထံဟျာလိုမ့် စည်ကြီးထိန် လျက် အငြိမ့်အသီးသီး ယင်နွဲချီ၍ တီးမျိုးမှုတ်မျိုး ဖြိုးဖြိုးလျှံဝါ တူရိယာတွဲ ဒရံ့ဖွဲ့သည်နှင့်တကွ ဒက္ခိဏာရာမတိုက်၌ ယာပိုထ်မွေလျော် နေထိုင်တော်မူသော စစ်ကိုင်းကျောင်းဘုန်းကြီး ဦးရေဝတ-က နိဗ္ဗာန်ရည်ရော်၍ ပြည်ကျော်အောင် ပူဇော်အပ်ပါသော မဟာမြတ်တပူ ဘူ ၀ သုဒ္ဓရိ တုန်ဟ်အက်ချ အဇဋ္ဌာကာသ ဘဝဂ္ဂရောက် ချုန်းပေါက်ရိုက်နှက် တုန့်လျက်ခုန်လျက် သုန်စက်ဝိဗ္ဘမာ အဏ္ဏဝါမင်း ချုတ်ချုတ်တွင်းလျက် ထန်ပြင်းချိန်စက် အမြောက်ငါးချက် မြေအက်စဲလောက် ပစ်ဖောက်ပူဇော် သည်နှင့်တပြိုင်နက် ထီးဖြူတော်ရှစ်လက် ကျမ်းထွက်ရာဇဝင်အလာ "သက္ကတဘာသာ ရာဇာ ဘိသေကကျမ်း"၌--

သောဏ္ဏကုမ္ဘံ နဝဒဏ္ဍံ၊

မနောဟရအာတပတ္တံ။

သဗ္ဗယတြာ ဝိဇယတြံ--

ဟူသောဂါထာအရ နဝဒဏ္ဍထီးဖြူတော်၊ မနောဟရထီးဖြူတော်၊ အာတပတ္တ ထီးဖြူတော်၊ ဝိဇယထီးဖြူတော်ဟူ၍ ထီးဖြူတော် လေးစင်း။ ပုဂံပြည် ဖြူစော ထီးမင်းက စ၍ မြန်မာထီးဘုရင်တို့ အဆက်ဆက် ကိုးချက်ရောင်ရှင် ရာဇ ပလ္လင် ဦးထက်တော်၌ စိုက်အပ်သော သီဟာသန၏ လက်ဝဲဘက်၌ ကနက္က ဒဏ် ထီးဖြူတော်၊ သူရိယ ထီးဖြူတော်၊ ပဒုမထီးဖြူတော်၊ သမုတိ ထီးဖြူတော်ဟူ၍ လေးစင်း။ လက်ယာဘက်၌ ကမ္ဘူထီးဖြူတော်၊ စန္ဒထီး ဖြူတော်၊ ကုမုဒ ထီးဖြူတော်၊ ဝိသကြုံ ထီးဖြူတော်ဟူ၍ လေးစင်း၊ ဤသို့ ပြချက် ထီးဖြူရှစ်လက်တို့တွင် အပါအဝင်ဖြစ်သော တပည့်ကြီး “ဦးသဒ္ဓမ္မ” လှူဒါန်းပူဇော်အပ်သော ကနက္ကဒဏ် ထီးဖြူတော်ကြီး လေးစင်း။ ရွာဟိုင်းဈေးရပ်နေ သစ်တောဝန်မင်းမြေး ဒေါ်ဖူး၊ တူမ “မမသိန်း”တို့က လှူဒါန်းပူဇော်အပ်သော ကနက္ကဒဏ် ထီးဖြူတော်ကြီး လေးစင်း။ ပရိယတ္တိအာဘင်း စာရင်းကိုင် “ဦးဟန်”က လှူဒါန်းပူဇော်အပ် သော ကနက္ကဒဏ် ထီးဖြူတော်ကြီး လေးစင်း။ ယင်းသို့ လှူဒါန်းပူဇော် အပ်သော ကျိုင်း သိုင်းလေးချက် ကနက်ရှစ်ဆူ ထီးဖြူတော်တို့ဖြင့် ရင့်ယူ ထွန်းပွင့် ဖြူဝန်းဘွင့်၍ ထွန်းတင့်သောင် စီစဉ်ကျင်းပရာ သြဘာစာ တမ်းကို ဖတ်ဆိုချီးကျူးပါသည်။ မရှုနရာ ဖြဟ္မာသိကြား နဂါးသူရာ၊ ဂရုဍ္ဍာတို့၊ သံမြသာလေး၊ ရင့်ကြေးသံလွင်၊ ဆော်ပဉ္စင်နှင့်၊ အိမ့်ရှင်ကြေး ခါ၊ တြင်းသာလျက် ဇေယျာအောင်ဆု၊ ငွေခရုနှင့် ဇေတုသံပြီ၊ သာမု ဂီဖြင့်၊ သျှန္တီမြင့်သား၊ ကာတင့်မင်္ဂလာ၊ သြဘာရိုက်ညောင်း၊ သောင်း သောင်းအောင်စေ၊ ညောင်ရေသွင်းကာ၊ ပတ္တနာဆု၊ သာမုဋ္ဌိမ့်လေး၊ ကောင်းချီးပေးကြ စေကုန်သတည်း။

ရင်းပြင် စျာပနပွဲသဘင်တွင် ဒက္ခိဏာရာမတိုက် ဂဏဝါစက စာချ ဆရာတော် အရှင်သာသန ဟင်းသွင်းသည့် ထေရုပ္ပတ္တိ သြဘာစာတမ်းကို လည်း အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်။

## ဒက္ခိဏာရာမတိုက် သံဃမဟာနာယက ဂဏပါမောက္ခ ဖြစ်တော်မူသော အရှင်အာစာရ ဆရာတော်ဘုရားကြီး၏ အာခုကီဠွန သဘင်တွင် ဆရာတော် အရှင်သာသန တင်သွင်းသည့် ထေရုပ္ပတ္တိ ဩဘာစာတမ်း

ဇေယျတု။ ။လောကာဓိပတိ၊ မုနိပုင်္ဂဝ၊ သေဋ္ဌဇေဋ္ဌ၊ အတုလမကိုဋ်၊ အောင်မြိုက်မြဲတော၊ ကိုးတွေ့ဂုဏ၊ စတုဝေရဇ္ဇ၊ ဆ အသာဓာရဏ၊ ဣန္ဒြိယ ပရောပရိယတ္တိ စသော ဉာဏ်တော်လုံးစုံ၊ ဂုဏ်တော်အနန္တ၊ ဝိသိဋ္ဌ ကျေးဇူး၊ ချီးကျူးသန့်စင်၊ ကျော်ထင်ဝန်တောက်၊ ထက်အောက်ဘီလာ၊ စကြဝဠာမြေပြင်၊ ကောင်းကင်အထက်၊ ဘဝဂ်မလွတ်၊ ဘုန်းကြီးလွှတ်သော၊ ခည္ဓဘ်ထွေရာ၊ အနာဝရဏ၊ သမန္တဘဒြ၊ ဂေါတမ ရှင်တော်ဘုရားသည် ခပ်သိမ်းဉာဏ်သို့၊ အပုံအယင် ဘုရားရှင်တို့ တံထွာ၊ ပြုသင့်ရာရာ၊ ဓမ္မတာသဘာဝ၊ ဗုဒ္ဓကိစ္စ ငါးဦးကို၊ ကိုယ်မှူးထက်ကြပ်၊ အားထုတ်တော်မူလတ်၍၊ ပြီးစေအပ်သောအခါ၊ မလ္လာမင်းတို့၏၊ ဇာတိရိုက်ချုံ၊ ကုသိနာရုံပြည်ဝယ်၊ ချမ်းကြည်စွာတိ၊ ဘူမိနက်သန်၊ မြေကြန်မင်္ဂလာ၊ ကောင်းမြတ်စွာသော၊ မဟာသာလ၊ ဥယျာဉ်မဥ္ဇ၊ အနုပါဒိသေသဓာတ်၊ ပြည်မြတ်ဗိမာန်၊ နေရဗာန်ဘုံ၊ ခိုလှုံကိန်းစံတော်မူသတည်း။

ဤသို့ ကပ်ဦးကမ္ဘာ၊ မဟာသမ္မတ၊ မင်းမှစ၍၊ မျှားလှ သောင်းသောင်း၊ သာကီယမင်းအပေါင်းတို့၏၊ ညွှတ်ပြောင်းညွှန့်ဖူး၊ လူသုံးဦးတို့၏ထွဋ်ဖျား၊ ရှင်တော်ဘုရားသည်၊ နိဗ္ဗာန်လားတော်မူပြီးမှ၊ အာဒိစ္စဝံသ၊ အသမ္ဘိန္န၊ မဟာသမ္မတ၊ ပရံပရ-ရာဇဝင်၊ စာတမ်းတင်လျက်၊ ဆင်းသက်အပေါင်း၊ တကောင်းနန်းရိုး၊ သတိုးနွယ်လာ၊ သရေခေတ္တရာ၊ အရိမဒ္ဒနာပြည်တော်၊ ဒွတ္တာပေါင်မင်းကြီး၊ ပြုစောထိးအနော်ရထာ၊ စဉ်အလာဖြင့်၊ ဇေယျာပူရ၊ ရတနာပူရ၊ ရတနာသိဃ်၊ အမရပူရ၊ မဟာ ရာဇဓာနီ၊ ကောလီဓာတ်သိုက်၊ ကိန်းအကြိုက်ဖြင့်၊ အကိုက်ညွှန့်ဖူး၊ ပွားမြန့်လူးသော၊ မန်းဦးဇေယျခုံ၊ မြေနှုန်လုံဝယ်၊ ရတနာပုံ ပြည်ကြီးကို၊ မြို့ပြထီးနန်း၊ ဘန်ဆန်းလက်မှန်၊ တည်ညွှန် သစ်လင်တော်မူပြီးမှ၊ သီလာမယ၊ ပေါတ္တကာရှဋ္ဌ သင်္ဂါယနာ၊ အက္ခရာသန့်စင်၊ သိဒ္ဓိယင်သော၊ ပဉ္စမသင်္ဂါယနာတင်၊ ဘဝရှင်မင်းတရားကြီးလက်ထက်၊ အောက်ယက်ဝန်းရံ၊ သုနာပရန် တမ္ဗဒီပ ရာမညဟူသော၊ တိုင်းကြီးပြည်ကြီး၊ သုံးသီးသုံးဌာန၊ လက်ဒီပ၊ စသည်အလုံး၊ အုပ်ဖုံးဘက်လျှံ၊ ကျော်သံကိတ္တိ၊ ထုတိ ဃောသဝန္တ၊ ပျတ္တပဋိဗလ၊ တိက္ခဟာသ၊ ဇဝနဂမ္ဘီရဉာဏ်၊ ထက်သန်

ရဲရင့်၊ ပွဲတိုင်းတင့်သောရှင်ဖြစ်၍၊ ပါဠိမမွ၊ အဋ္ဌကထာနယ တို့၌၊ ဂုဠှဂမ္ဘီရ၊ နိပုဏ၊ ဒုရောဂဠှ အရာများဝယ်၊ လွှားလွှားဖြတ်စဉ်၊ တော်ကောင် ယုန်သို့၊ ရှား ခြည်းသိစွမ်းနိုင်သော၊ ပညာရေ ပျော့ပျော၊ ထိတိုင်းယူသော၊ စွမ်းအကား ဘတ္တုမာန်၊ လေးတန်သုဒ္ဓိ၊ မြူတ ငွေမျှ ညစ်ကျိမတင်၊ သန့်ရှင်းစင်ကြယ် သော ပုဂ္ဂိုလ်ဖြစ်ရကား၊ လိုအင်ပြည့်ဖြိုး၊ သီးမျိုးစုံစွာ၊ ဒုမရာဇာ၊ ပဒေ သာမည်တွင်၊ နတ်သစ်ပင်ကဲ့သို့၊ ဝိသာခလေးချပ်၊ ထုတ်ခပ်ဝန်းကျင်၊ ထွက် ဝင်မစဲ၊ ပန်းရောင်ယူပျားမလွဲ၊ အမြဲနှိုက်ယံ၊ နည်းခံတပည့်၊ ရိုလှည့်ခိုမှီ၍၊ သံသိဂဏ၊ သံဃနာထ၊ ကောသစ္စိယ၊ ဂေဟပါဠိမအကျ၊ ကောနာဒယက၊ လာဘဂ္ဂနှင့်၊ ယသဂ္ဂပတ္တပုဂ္ဂိုလ်တို့တွင်၊ ထွက်ကျုံးဝင်သော အရှင်အာစရ၊ သာသနဓလာပကာရ၊ ပရိယတ္တိဝိသာရဒ ပုဂ္ဂိုလ်ကျော်ဟု၊ ထင်ရှားဖြစ် ပေါ်လာသတည်း။

ယင်းသို့ဖြစ်ပေါ် ပုဂ္ဂိုလ်ကျော်၏ ထုတ်ဖော်မြွက်ဟောင်း ဖြစ်ကြောင်း သရုပ် အတ္ထုပ္ပတ္တိမှာ ရေဝတီ နဒီယဉ်ပြောင် မြရောင်ကွန့်လှစ် မြစ်၏ အရှေ့ဘက် ထွေးယှက်ထူးလီ ဂုဏ်ဆီမချို့ မိတ္ထီလာမြို့မြင်းမြေ အခြေမ ပျက် ထွက်ဖြစ်ရာ ကဖြူရွာ၌ ဒါနမွေ့လျော် သူတော်သီလ သဒ္ဓစင်ဖြူ ထောက်ကူရှင်းနှီး ဆွေကြီးမျိုးပုံ ကျူးနှယ်ရုံလျက် ပေါင်းဆုံအုပ်သိုက် နေကြကြိုက်ဝယ် တသွယ်နာမ ခေါ်ကြပြောဆို အဘ-ဘိုးပိုနှင့် ရွှန်းစို ဂုဏ်အင် ပြည့်စုံလင်၍ ပုံဆင်သွယ်လျှ ဒေါ်မင်းရုံတို့သည် ရှေးကံစီခြယ် မောင်မယ်နှစ်စုံ ရေစက်ဆုံ၍ ကြည်ယုံမကွာ နေကြသည်ခါ သားသည်းချာ ၏ မမွတာမဲ့ သန္ဓေစွဲရန် ချိန်ကာလ၌ တရံတဆစ် မဖြစ်ဘူးတောင်း မျိုးကောင်းဖိုလ်ဟိတ် ဝိသိဋ္ဌကျေးဇူးထူးသည်တမင့် ဖြစ်ခွင့်ကြောင်းရာ မင်္ဂလာအိပ်မက်ကို နံနက်လင်းစင် မယ်တော်မိခင် မြင်လေသည်မှာ ကောင်းကင်အဇ္ဈာ အာကာသခေတ် မိုးလယ်လတ်မှ ထူးမြတ်ကြည်သာ နာဂါဆင်ပြောင် မြီးထောင်ကွန့်မြူး နှာမောင်းဖူးကို ဦးကင်ဆင်ထား ရွေ့ခါ တွား၍ မယ်တော်ရှေ့ဖျား၌ ရပ်နားခိုဝင် လာသည်ဟု မြင်မက် သတည်း။

ဤသို့ ကောင်းဟိတ် ကြောင်းနိမိတ်ဖြင့် ဝှန်ထိပ်ဆူဝေ လူ့၌ဖြစ်ချေ သန္ဓေကိန်းအောင်း ဆယ်လညောင်းသော် ကောဇ သက္ကရ အတွက်ပြမူ ၁၂၀၅-ခုနှစ် ထူးလာဇ်မလွဲ တပို့တွဲလ ကဏှ ကွ ရှစ်ရက်အစေ့ တနင်္ဂနွေ နေ့၌ ချမ်းမြေ့သာယာ ဒိဝါကရ ထွန်းပရှုမျှော် တချက်တီးကျော်အချိန် ၌ ပရိနိဗ္ဗာနမူသည် ဉာဏ်ရည်ရဲညီ ပမ်းထဲ၍သော မြဲသည့်တည်ကြည် ဤ မထေရ်ကို မသိဘယာ တွေ့ခလာပဲ မဘာမိခင် ဖွားသန့်စင်၏။

ဖွားရျမကြာ မာယာမယ်တော် သားတော်သိဒ္ဓတ်မင်းသား ဖွားမြင်သည်နောက် ခုနစ်ရက်မြောက် လူ့သက်တိုင်-မဒန မမ္ဗာဘာအခြေဖြင့် စုတေအမြန် နတ်ရွာစံ၍ တဖန်မခြား လောင်းဗုဒ္ဓမင်းသားကို ရင်ဝယ်ဖြစ်ပြီး သားတော်ချင်း နန္ဒမင်းသားနှင့် မခြားသေညီ မိထွေးတော် ဂေါတမီသည် ကြည်လင်ဖြောင့်မတ် မွေးမြူအပ်သည့်အလား မခြားပမာ ဖွားရျ မကြာ မိမားကာသည် သတ္တာဟရောက် ခုနစ်ရက်မြောက်၌ နောက်ပန္နသီ လူ့ရပ်ဌာနကို စွန့်ပယ်မသေ့ စုတေအမြန် နတ်ရွာစံ၍ တသျှ်မှုတ် မသ်ဗုတ်ထွေးက ကောက်ယူမွေ၍ ပေါ်သွေးနုပျို အဟိုကမ္ဘာ သံဃာ များစွာရှည်ကျူး ကုသိုလ်ထူးကို ဆည်းပူးအပ်သော ပါရမီစိမ် ကိုက်တွန်း အပ်သည်ဖြစ်ရကား ခုနစ်နှစ်မြောက် အရွယ်ရောက်ညီ လာဗီပေသလာ သိက္ခာကာမ ဂန္ထန္တရပါရဂူ ဖြစ်တော်မူ၍ ဇမ္ဗူပျံ့ခြုံ ဘုန်းကြီးမှုံ့ထံ အပ်နှံမသေ့ နေထိုင်ချေ၏ တသေ့ကိုနေ့ခင် မြားမြောင်သောင်းသောင်း စာသင်သား အပေါင်းတို့အား နည်းကောင်းဥပဒေ ပေးတတ်ချေသော ဝိနယောဂရုက ပါမေးကွဂုဏ် ပြည့်ဖြိုးစုံ၍ ဘုံမဏ္ဍလင် ကျော်စောထင်လျက် များဖြင့် ဘုန်းကံ တန်ခိုးလျှံသော ရွှေလုံဆရာတော်ထံဝယ် မန္ဒာခိဋ္ဌဒေသကအရွယ် မြူးရယ်ရွှင်ပျ ပံသုကိဋ္ဌနှ ကုမာရ အဖြစ်ဖြင့် ဒွါဒသနှစ် လွန်ကျူးလစ်၍ သုံးနှစ်စွန်းကယ် အရွယ်ကောက်က ယင်းကာလ၌ သာမဏေရ ပဗ္ဗဇ္ဇာအဖြစ်၌ ဘွဲ့သစ်သာစွာ ရှင်အာစာရဟု နာမပြောင်လစ် ကောင်းနှစ်များထွေ ဘုရားအမွေကို ခံယူသတည်း။

ယင်းသို့မသေ့ ဘုရားအမွေကို ခံယူလေသည့် ထိုရှင်အာစာရ သာမဏေသည် စိတ်နေဖြောင့်သွယ် မိမိ၏ ဥပဇ္ဈာယ်မှန် ရွှေလုံဆရာတော်ဘုရားကြီး၏ အထံ၌ သမ္ဘန်ခြောက်ပါးနှင့်တကွ ကစ္စာယန ဗျာကရဏခေါ်ဆို သဂြိုဟ်ကိုးပိုင်း ဆုံးဆိုးခဲ့ ပုဒ်စစ်သုတ်စစ် သဒ္ဒါစစ်တဖြာ သံဝဏ္ဏနာတသွယ် နည်းလေးဆယ်နှင့် ရွှေချယ်သိရန် အဘိဓာန်စာကိုယ် ထုတ်ဆိုတခန်း ဆန်းအလင်္ကာ ကျမ်းများစွာကို နှုတ်မှာရပ် ပုဒ်ပါဌ်ညီလျက် ပါဠိအဋ္ဌကထာ ဋီကာချင်းနှင်း ဝမ်းတွင်းပညာ ပါသည့်အတိုင်း ရပ်ဆိုင်းမနား သင်ကြားလေ့လာပြီးလျှင် မန္တလာပြည် စံဌာနီသို့ ကောဇာသက္ကရာဇ် ၁၂၂၁-ခုနှစ်၌ ကျစ်လျစ်သာကြည် မအိမသာ မရှိပါပဲ ဖြောင့်စွာမသေ့ ရောက်ရလေသတည်း။

ထိုပြည်ဌာန ရောက်ကာလ၌ အဘိုးပို ယွင်းယိုမပြား ဘာချစ်သားကိုဖြစ်ပွားပညာ ကာတ်စိမ့်ငှာ၍ မန္တလာပြည် စံရာနီ၏ လေးလီရပ်ခွင် မြို့တောင်ပြင်တွင် ကြည်လင်များစွာ သောတုဇနာတို ခိုလာစုပေါင်း သိမ့်

သိမ့်ညှောင်းအောင် ကိန်းအောင်းမွေ့စွာ ပျော်စံရာဖြစ်သော မဟာမုနိ ဘုရားကျောင်းထင် ရုပ်တော်ရှင်၏ ပျော်ရွှင်တည်ရာ ဒက္ခိဏာတွင် တေဇာဂုဏ် ပေါ် ခါမရွေ့ ပဲချမ်းမြေ့ပြီး အသောကာရာမ တိုက်တော်ကြီးအတွင်း၌ မယွင်းမှန်စွာ "ပဏ္ဍိတာဘိသိလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု" လွှတ်ထုနာမံ တံဆိပ်တော်ခံရသော ဦးပင်းဆရာတော်အထံ၌ အပ်နှံပို့ထား လေသတည်း။

ယင်းသို့အပ်နှံ ဆရာထံ၌ နည်းခံနာယူ သူတော်မူဖြင့် ကြည်ဖြူမကွာ လေးဝါတည့်ပ ညွှံ ရှိတုံဘိသော် ရတနာပုံမည် ဂုဏ်ရည်ကောက်ထင် မြို့တော်ပြင်တွင် သံဃာအများ တပည့်သားတို့၏ မှီငြားပျော်မွေ့ ထိုး ဓလေ့ဖြင့် ဘုန်းဟော့မြတ်စွာ သာသနာပျောင် ထွန်းပြောင်တောက်ပရာ ဖြစ်သော ဒက္ခိဏာရာမ တိုက်တော်အတွင်း၌ သတင်းကြေငြာ ဂုဏ်ရောင် ဖြာ၍ "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု" လွှတ်ထု နာမံ တံဆိပ်တော်ခံရသော ဒက္ခိဏာရာမ ဆရာတော်ဘုရားကြီး အထံ၌ အပ်နှံထားလေသတည်း။

ယင်းသို့အပ်နှံ ဆရာ့ထံ၌ နိယံမခြား ခဝတ်တွားလျက် ပျားတရတည် ဝတ်ရည်ပိဋကတ် သင်ယူလတ်၍ ကိန်းဝပ်နေရာ ဒါယကာသစ်တော၀န်၊ မြို့ဝန်တသွယ် ငွေခွန်တ၀ သုံးမည်ရဂုဏ်သီး မင်းကြီး မဟာမင်းကျော် စည်သူ ကြည်ဖြူမဖောက် သဒ္ဓါပေါက်၍ အံ့လောက်တဖြာ ရဟန်းဒါယကာ ခံ၍ ဒက္ခိဏာရာမ ပါကမ္မဖြစ်ပြီး ယင်းတိုက်ကြီး၌ ပျော်မှီးမကွာ နေထိုင် ပါသော "ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု" ရေးထု နာမံ တံဆိပ်တော်ခံရသော ဒက္ခိဏာရာမ ဆရာတော်ဘုရားကြီးကို ခြားသီး တသွယ် ဥပဇ္ဈာယ်တ၀ ပြုလုပ်ကြ၍ ငါးဝအင်္ဂါ ပြည့်စုံစွာနှင့် ၁၂၂၈- ခုနှစ် သက္ကရာဇ်အရ နယုန်လတွင် ဇုဏှပက္ခ ဆန်းထဝလေ့ သုံးရက်နေ့၌ ယုတ်လေ့သာမဏေ ဖြစ်အနေမှ မြင့်လေအစစ် ရဟန်း၏အဖြစ်သို့ တက်သစ် ကောင်းစွာ ရောက်လေသတည်း။

အရှည်များစွာ သံသရာဘေး လာမည့်ရေးကို အဝေးကပင် မြော်ရှု မြင်၍ ဘိက္ခုအစစ် ရဟန်းအဖြစ်သို့ မလစ်ရောက်ပြီး အားကြီးအန်ထောင် သင်ဆောင်မွေ့ရှာ နာယူကြံတွေး ဆိုမေးလေးပါး တမျဉ်းသားလျက် မရပ် မနား သင်ကြားလေ့လာလျှင် မကြာမြင့်မီ ပါဠိအဋ္ဌကထာ ဋီကာဂန္ထန္တရ ဓမ္မနိဝိဋ္ဌယဉာဏ် ထက်သန်စူးရှသည်ဟု သဗ္ဗမိရာ ပညာရှိခပင်းတို့ဆိုခြင်း ယူကောက် ချီးမြှောက်ပြောစား ထင်ရှားဖြစ်လာ သာသနာ၌ ဂုဏ်ဝါ

လွန်မင်း နန်းတွင်းကြေငြာ တန်ခိုးဖြာ၍ ၁၂၃၅-ခုနှစ် သက္ကရာဇ်အကျ ပဉ္စမသင်္ဂါယနာတင်ဘဝ ရှင်မင်းမြတ်က တံဆိပ်တော်ဆက်ကပ်ရန် လှူဒါန်းမည်အကြံ၌ တဖန်ထိုမှ ရာဇဝလ္လဘဖြစ်နာ မင်းကျွမ်းဝင်စိတ်တွင် ဇေဂုစ္ဆိရှိတုံဘိ၍ မိုထိအနေကျော် တိုက်မတော်သို့ ယွန်းချော်မမှား ပြောင်းရွှေ့သွားသတည်း။

ပြောင်းရွှေ့သွားရာ ထိုမှတတန် တန်ခိုးလျှံ၍ တဖန်ထိုမှ အညတရ အသွင် ကြည်လင်မကွာ စေတနာသက်သံ ခွါခဲ့ကြန်ရာ "ပဏ္ဍိတာဘိသီလာ လင်္ကာရ မဟာဓမ္မ ရာဇဂုရု" လွှတ်ထုနာမံ တံဆိပ်တော်ခံရသော ဦးမင်း ဆရာတော်မထေရ် နေတည်မွေ့ရှိုင်း စစ်ကိုင်းတောရ အသောကခေါ် ချောင်မဟော်၌ မွေ့ကျော်မကွာ သုံးဝါမသွေ စားပေသင်ပြ ပို့ယူချလျက် ဓမ္မာစရိယဝတ် မချွတ်ကုံ ယာပိုထ်မျှ၍ ထိုမှပြတင် လေးပြင်လေးရပ် နှံ့စပ်ကြေငြာ အသရေဖြာ၍ မာတင်မိုသောက် ပေါက်အာဇာနည် မဟာထေရ်တို့အထံ၌ နည်းခံနာယူသမ္ဘုပင်္ဂတ ဥဿာဟအထူး ပွားလူးပညာ အာစရိယမုဋ္ဌိ လက်ဆုပ်မိအောင် ကြံဆောင်မလစ် စက်မှန်ပစ်သကဲ့သို့ အားသစ်ကြိုးစား သင်ကြားနာယူပြီးလျှင် ယခင်ဦးစွာ ဥပဇ္ဈာစရိယ ဇာဂရမထေရ် နေတည်မွေ့ရာ ပျော်စံရာဖြစ်သော ဒက္ခိဏာရာမ သာသနာမံတိုက်အာရာမ်သို့ တဖန်ခိုဝင် မှီတင်နေရာ ဝါနှစ်ဆယ်ကျော် ထင်ပေါ်အသိ အကြီးဇေဋ္ဌ နာယကမြောက်တင် နေထိုင်စဉ်အခါ ဘုရားမြတ်စွာ သာသနာတော် ထွန်းပေါ်တောက်ပရာ မန္တလာပြည် စံရာနီ၏ လေးလီရပ်ခွင် နောင်ပြင်သတ်မှတ် ပွဲကုန်းရပ်၌ ဒြပ်ဂုဏ်သီး ပွဲစားကြီးဦးသက်ရှည် ဂုဏ်ရည်မောက်ဖြာ ထင်ပေါ်လာ၍ တဖြာထို့ပြင် ဂုဏ်အင်တမျှ ဒါနပါရမီ တလီသီလ နှေ့ညမွေ့လျော် သားဦးကျော်တို့သည် မြင်ခမြော်စာ္ခု ကြည့်ရှုအာရုံတအုံလဲလဲ သံဝေခွဲ၍ အမြဲမုချ ဒုက္ခသမုဒည်း ချုပ်တည်းနှောင့်ယှက် သံသာစက်မှ ထိုမှာဘက်ကမ်း နိဗ္ဗာန်ငြိမ်းသို့ လှမ်းယူလိုငှာ ပတ္တနာအာသီ အင်ညီကြည်သန် ဆုပန်မြွက်ခြွေ ဒက္ခိဏာရာမတိုက်ရံမြေဝယ် ပွေလီဆန်းကြယ် ရှုဖွယ်မငြီး အုတ်ကျောင်းကြီးကို အပြီးဆောက်လုပ် အားထုတ်လှူဒါန်းရာ ၁၂၆၅-ခုနှစ် သက္ကရာဇ်အကျ ဝါသုံးဆယ်ကျော်အရ၌ အာဂတာ နာဂတာ စတုဒ္ဒိသ သံဃိကအဖြစ်ဖြင့် ကျစ်လျစ်သေခွေ ခံယူတော်မူသတည်း။

ထိုနောက်တဝ ဒါနပါရမီ စာဂီမွေ့လျော် ဟိုးဟိုးကျော်၍ ထင်ပေါ်ဂုဏ်မြူး ရေထူးစိုးပိုင် စဥ့်ကိုင်မြို့အုပ် ဆောက်လုပ်ဆန်းကြယ် ရှုဖွယ်မငြီး ထိုကျောင်းကြီးကို အပြီးသချာ လှူဒါန်းရာ၌ ၁၂၆၆-ခုနှစ် သက္ကရာဇ်

အကျ အာဂတာ နာဂတ စတုဒ္ဒိသ သံဃိကအဖြစ်ဖြင့် ကုဋ်လျစ်သေခွေ ခံယူတော်မူသတည်း။

ဤသို့အစ မျှားလှသောင်းသောင်း ကျောင်းအပေါင်းကို ညွတ်ပြောင်းမသွေ ခံယူလေပြီး အသီးသီး၌ မငြီးပျော်ပိုက် နှမ်းခိုက်မွေ့စံ ကျောင်းရံအပေါင်းကို ကျောင်းထိုင်တပည့် မျှားလှ၍ တူးပေါ် ငါးဆယ်ကျော်နှင့်ရှင်းချော်မကွာ သေချာကျနစ ဇာချထင်ပေါ် တကျိပ်ကျော်ပြင် ခန်းပျော်ခန်းနေ တိုက်နေသိဘာ မျှားစွာထင်ပေါ် တထောင်ကျော်ပြင် လေးပြင်လေးရပ် နှံ့စပ်မသွေ ပုံသေလာဆိုက် စာလိုက်တပည့် မျှားရှိသောင်းသောင်း သောတုပေါင်းတို့အား လမ်းကောင်းညွှန်ပြ ကျနဉ္ဇသံ သုံးပုံပိဋကတ်ပရိယတ်မွှေခန် ဖန်ဖန်မွေ့နှော က် ခွင်းခါဖောက်သည့် စိန်ကျောက်အရှိန် ဝိရဇိန်အဟန် လျင်သောဉာဏ်ဖြင့် ကြွင်းကျန်မရှိ ပါဠိအဋ္ဌကထာ ဋီကာ၊ အနု၊ မဓု၊ ဂဏ္ဌိ၊ နေတ္တိ၊ အလင်္ကာ၊ သဒ္ဒါ၊ မောဂ္ဂလ္လာန်၊ အဘိဓာန်၊ ဗျာကရုဏ်းကျမ်းအားလုံးကို သိမ်းကျုံးဝေ ကျက် ထွားထွားညက်အောင် ပြက်ပြက်ကွင်းကွင်း ဉာဏ်ဟုန်ယင်း၍ ဖြောင့်စင်းစေတနာ သေချာပြသ နည်းနာကျအောင် ပို့ချသင်ကြားတော်မူသောကြောင့်လည်းကောင်း။

မမှားတဝ သက္ကရာဇ် ၁၂၈၄-ခုနှစ်ဒ်ကြို ရတနာပုံမည် ဂုဏ်ရည်တောက်ထင် မြို့တောင်ပြင်၌ ကြည်လင်မကွာ သုံးဖြာပိဋကတ် အရပ်ရပ်ကို အထပ်ထပ်အလီလီ နှုတ်ဝစီတို့ဖြင့် သာကြည်မြွက်ဟ ပို့ချသင်ယူ သမ္မုပစ်တ ဉသဘာဟအထူး ပွားပျံ့လူ၍ မင်းဦးတဖြာ နဂရာတခွင် ပထဗျာအပြင်တို့၌ ထာဝစဉ်မငြိုး မကျောင်းတိုက်ကြီး ဆယ်တိုက်ပျော် သံဃာတော်အများကို မမှားအပြီး ဘုရားကြီးဂိုဏ်း သမိုင်းခတ်နိုပ် တံဆိပ်နာမံ တဖန်ဘွဲ့လုပ် အုပ်ချုပ်စီမံ ညီရန်တောက်ရှု သမ္မုတိတဖန် ထပ်မံတဝ နာယကကြီးကဲ မလွဲမဖောက် တင်မြှောက်တော်မူကြသောကြောင့် လည်းကောင်း။

ဇမ္ဗူပိုင်စံ နိုင်ငံပတ်ကုံး ရပ်အလုံးတို့၌ လွှမ်းဘုန်းပျံ့ကျယ် တင့်တယ်ပေါ်များ ကျော်ကြား ထင်ရှားခြင်းတည်းဟူသော ''ကိတ္တိဂုဏ်''။

''ရေတိဝိဇာ-ဂိဂမာယ သောဗျုတော၊ ပဏ္ဍိတော သုဗ္ဗတြ ပူဇိတော''
စသော ကာမန္ဒကီယနီတိ မည်ရှိသက္ကတ စာလာကျဋီကာ လာသည်နှင့်အညီ အာဂမသမုတ်ဆိုသော ထိုထိုပါဠိတော် အဋ္ဌကထာ ဋီကာ အနု မဓု ဂဏ္ဌိနေတ္တိ အလင်္ကာစသော ဂန္ထန္တရတို့၌ ကျနကုန်စင် သိမြင်အပ်သော

စိန္တာမယဉာဏ်တို့ဖြင့် အဖန်ဖန်လေ့လာတော်မူအပ်သည်ဖြစ်၍ ဇမ္ဗူလကျာ နဂရာတခွင် ပထဗျာအပြင်တို့၌ ထာဝစဉ်မှီအပ်သော စာသင်သား အပေါင်းတို့၏ ကောင်းမြတ်စိတ်ရှိ သေဝိတဗ္ဗ မှီဝဲအပ်သော "အဒြိတဂုဏ်"

"သိဒ္ဓံ သိဒ္ဓေဟိ ပမာဏန္တု ဟိတံ အတြ ပဋ္ဌတရစ အာဂမော"

စသောသက္ကတနိဗန္ဓသင်္ဂဟ သုသုဘဋ္ဌီကာ လာသည်နှင့်အညီ ပါရမီ ဂုဏ်သိဒ်ပြည့်ရွံ့သသာနာ ါဒိ မဟာဂေဇော်ကိုသည် မနသိကာရအလေ့ပြု သဖြင့် ကြည့်ရှုမြဲမြံ ပစ္စုပ္ပန့်သံသရာ ကျိုးနှစ်ဖြာကို မကြာခဏ ပြီးစေခြင်း သဘာဝကြောင့် အာဂမခေါ်ဆိုသော ထိုထိုပိဋကတ်သုံးပုံ အလုံးစုံ၌ ဉာဏ်ဟုန်သတ္တိ ရဲရဲညီသော "ပရိယတ္တိဝိသာရဒဂုဏ်"။

"နာဘိဒေဒသဉဒ္ဓံ အက္ကမျ မုဒ္ဓဒျာ ဘိဃာတာဝ ဝဏ္ဏာဘိဗျတ္တိ"

ဟူသော သက္ကတဘာသာရသုတိ ပသာဒဋီကာ လာသည်နှင့်အညီ ဇိတ် ကြောင့်ဖြစ်သော ပရမတ်အသံသည် စိတ္တာပစ္စယဥတုဇအဆက်ဆက်အားဖြင့် တက်သတ်၍ သတ္တဝါတို့၏ ကိုယ်သန္တာန်တွင် သင်္ကေတ ပညတ်အပ်သော ချက်အရပ်မှ အထက်သို့ တက်လတ်သဖြင့် လျှာထိပ်စသော မုဒ္ဓဋ္ဌာန်တို့နှင့် ထိခိုက်ခြင်းကြောင့် အက္ခရာဝဏ္ဏသဒ္ဒါ ထင်ထင်ရှားရှား ဖြစ်ပေါ်လာ သည် မှိုသော်။

"သန္တိ သတ္တာ အဗျာသယံ ပကာသေန္တိ တောဟိတိ ဘာသာ"

ဟူသော သီဟဠအက္ခရ နိဒါနဝိဘာဝနီလာသည်နှင့်အညီမဟီ မြေပြင် ဝေဟာင်မှာ သတ္တဝါ လူနတ်တို့၏ အဇ္ဈတ္တသမုဋ္ဌာန်ကို ကောင်းတင်ထင် သိမြင်ပြတတ်သော သဘောကြောင့် ဘာသာမည်၏၊ ထိုဘာသာသည် လည်း မဂဓဘာသာ သက္ကတဘာသာအစဖြာသော အားဖြင့် များပြား စွာသော ဘာသာတို့တွင် သာသနာတော်ကျွမ်းအလိုအားဖြင့်။

"မဂဓာနံ မဂဓေသု နိပ္ဖန္နာ"

အစဖြာသော သီဟဠအက္ခရ နိဒါနဝိဘာဝနီအရ လောကသုံးပါး တို့၏ နှုတ်ထွက်အထိပ် မြို့သရ ဖြစ်တော်မူသော ဂေါတမမြတ်စွာဘုရား ပွင့်တော်မူရာ မဂဓရေဇ်တိုင်း၌ဖြစ်သော ပါဠိဘာသာ ၎င်းမဂဓရေဇ်တိုင်းသူ တို့၏ အမူပြုတော့ သိမ်မွေ့ချိုသာ သာယာနာဖွယ် တင့်တယ်လိုက် လျော ပြောဆိုအပ်သော ဒေသိယဘာသာသည် "မဂဓဘာသာ"မည်၏။

"အတြေတ္တာ မာဂဓိဘာသာ ရာဇန္တေ ပုရစာရိန်"

ဟူသော သာဟိတျဒပ္ပဏ အလင်္ကာ ကာဗျာဒသ ဋီကာ သက္ကတကျမ်း အလိုအားဖြင့် နန်းတွင်းသူ လူအပေါင်းတို့၏ ကောင်းမြတ်ချီးသာ သာယာနာဖွယ် တင့်တယ်လိုက်လျော ပြောဆိုအပ်သော ဘာသာသည် "မဂဓဘာသာ" မည်၏။

"သက္ကတ နာမဒေဝီ ဝါစာ အန်္ချာတာ မဟာဣသိတိ"

ဟူသော သက္ကတ ကာဗျာဒသအလင်္ကာနှင့်အညီ ဝစီအင်္ဂါစဉ်အလာဖြင့် ဘာသာအမြတ် နတ်အပေါင်း ပြောဆိုကြောင်းဖြစ်သော ကောင်းမြတ်ချီးသာ သာယာနာဖွယ် တင့်တယ်ထူးဆန်းသော စကားသည် "သက္ကတဘာသာ" မည်၏။

"တံ အဒဝါဘံသဓမာဒေသိတျ၊ နေကော်ပကတိကမော"

ဟူသော ကာဗျာဒသအလင်္ကာနှင့်အညီ သက္ကတဘာသာနှင့် တစိတ်တဒေသတူသော ယခုလူတို့ဝေါဟာ ပြောဆိုရာဖြစ်သော မြန်မာဘာသာသည် "ပကတိဘာသာ" မည်၏။

ယင်းသို့ ထုတ်ပြ မဂဓဘာသာအစဖြာသော ဘာသာအထူးတို့၌ လွန်ကျူးသေချာ လိမ္မာကျွမ်းကျင် သိမြင်တော်မူခြင်း တည်းဟူသော "ဘာသန္တရကောဝိဒဂုဏ်"။

ပစ္စည်းပရိက္ခရာ များစွာလောက်လုံ စုပုံ၍ ရသော်လည်း ထိုပစ္စည်းပရိက္ခရာတို့၌ တွယ်တာကပ်ငြိခြင်းမရှိ ဖြန့်ချီဝေဖန်ခြင်းတည်းဟူသော "သံဝိဘာဂဂုဏ်"။

တသည့်ရင်းများ မှတ်သားမလိုက် အထိုက်အလျောက် ချီးမြှောက်ထောက်ပံ့ခြင်းတည်းဟူသော "အနုဂ္ဂဟဂုဏ်"။

အာသာတဝတ္ထု တွေ့ကြုံမူ၍ မခုအမျက် မထွက်သိုသား ကောဓအားကို ပယ်ရှားမသုံး နှလုံးမငြိ ခံချိခြင်းတည်းဟူသော "ခန္တိဗလဂုဏ်"။

ဤသို့အစ သဒ္ဓဂုဏ်ဟိတ် အစုံဖိတ်သဖြင့် ယုန်တံဆိပ်ပမာ မဟာပဘာဝီ မေဒနီတို့၌ အမည်သင်းပျံ့ သတင်းနှံ့သဖြင့် အံ့ဩဖွယ်ရာ ပညာပါရမီ

မဟာထေရ်တို့၏ တန္တိအနွယ်ကို တင့်တယ်စွာ တန်းဆာဆင်တော်မူတတ်သော ဘဒ္ဒန္တာစာရ နာမထင်ပေါ် ဒက္ခိဏာရာမဆရာတော်ဘုရားကြီးသည် သက်တော် ၈၂နှစ်သိက္ခာတော် ၆၂-၀ ပါတ်လုံး စုရုံးများလှ အတ္တဟိတ ပရဟိတအကျိုး သယ်ပိုးရွက်ဆောင်တော်မူပြီးလျှင် ဘုံသုံးဆယ့်ဘစ် ဖြစ်ဖြစ်သမျှ အနန္တဝေနေ များဗိုလ်ချေကို သခြင်တရား မလွတ်ငြားရှ်—

"မရဏဓမ္မာနံ ဘိက္ခဝေ သတ္တာနံ ဧပံ က္လစ္စာ ဥပ္ပဇ္ဇတိ"

အစရှိသည်ဖြင့် မူလပဏ္ဏာသပါဠိတော်လာ တရားဒေသနာတော်ကို မလွန်နိုင်ရာသောကြောင့် ကောဇာသက္ကရာဇ် ၁၂၈၇-ခုနှစ် ဥတုဝသန္တ တန်ဆောင်းမုန်းလ၏ ဇုဏှပက္ခ ဆန်းထမပြေ့ ၁၄-ရက်အစေ့ ကြွက်မင်း နေ့-ညဏာလိန် ၁၁-နာရီအချိန်၌ ဘုန်းရှိန်ထွန်းလျံ အရံငါးဆယ်ကျော် ကျောင်းထိုင်ပျော်နှင့် ယွင်းချော်မကွာ သချာထောင်ကျော် ရဟန်းတော်ပေါင်း တပည့်ကောင်းများစွာ ငါမရှိနောက် ယွင်းဖောက်မပြား တပည့်သားသို့မခြားတူဘိ သမ္မုတိရောက် ဝမ်းမြောက်ဝမ်းသာ တင်မြှောက်ကာ ပြုလုပ် အုပ်ချုပ်စီမံ ညီညွတ်ရန်ကို အမှန်မသွေ သိလေမုချ ပြောပြဆိုခွင့် မပြောလင့်ပဲ ဝမ်းထဲသို့မူ လျစ်လျူရှု၍ တစုများစွာ ကျောင်းဒါယကာနှင့် ဉာတိရင်းချာ တဖြာသတ်မှတ် အာရုံတပ်၍ ဆည်းကပ်မှီအောင်း သူတော်ကောင်းတို့ကို ငဲ့စောင်းလှည့်ကာ မကြည်သာပဲ တည့်စွာမဖောက် စိန်းရာရောက်သို့ ငဲ့ထောက်မတွယ် လူ့ရပ်နယ်ကို စွန့်ပယ်ခွာရှောင် နတ်ပြည်ဘောင်သို့ ရောက်အောင်ရည်မှန်း ခြေစုံလှမ်း၍ မြန်းကြွတော်မူလေသတည်း။

ယင်းသို့အရှည် အတည်မနေ ဘိသွေမနား နတ်ပြည်လားသော် တင်ရှားကြေငြာ ဒက္ခိဏာရာမ နာမမည်သီး ဆရာတော်ဘုရားကြီး၏ ပိုင်းခြားကြွင်းကျန် သေသံဥတုဇ အင်္ဂုဏလာပ် လောင်းတော်ဖြတ်ကို ပညာဝါဟာ ကောဇာသက္ကရာဇ် ၁၂၈၇-ခုနှစ် ဥတုဟေမန္တ တပို့တွဲလ၏ ဆန်းထလေ့ ၁၁ ရက်နေ့ကာလိန် နေမွန်းတည့်အချိန်၌ ဝတိန့်ပမာ ရှုရာပုံသွင် ရွှေခတင်နှင့် ပွေ့အင်များပေါင်း ရွှေသားခေါင်းတဝ ကျနသောင်းပြောင်း ငွေသားခေါင်းခေါ် ရှုမြှော်ထွေခြား ငွေသားစုပေါင်း နဂါးခေါင်းမလွဲ ပုလဲခေါင်းတသွယ် ရှုဖွယ်တဖြာ ဝေဇယန္တာနီး ပြာသာဒ်ကြီးသို့ ဝေးနီးကြေငြာ ရှုလာမစဲ ပျံ့ဝဲအရောင် ထွန်းပြောင်ကွန့်မြူး တထောင်လေးရာ သေချာပိုင်းခြား ငွေသားကြာကလပ် မှတ်အပ်မပျက် ဆယ့်နှစ်လက်မှန် ကနက္ကဒဏ်ခေါ် ထီးဖြူတော်နှင့် ခုပေါ်ပြောင်သီး

ဆောင်းထီးခေါမော် ထီးဖြူတော်ဘက် ဆယ့်နှစ်လက်ပြင် ပြက်ပြက်ဝင်းထိန် ဂုဏ်သိရ်ရှိပြီး ရွှေထီး တွဲဘက် ဆယ့်နှစ်လက်မြောက် ထက်အောက်ဘောက်ဖြာ မလ္လိကာတရပ် ရှုအပ်မငြီး ပန်းသီးဘော်စွက် လေးလက်ဝေါဟာ တဖြာဆန်းကြွယ် ရှုဖွယ်မငြီး နဘ်ဖန်တီးသို့ အံ့ချီးမကုန် လုံးစုံရှုအပ် ပန်းမဏ္ဍပ်ပြင် ဂုဏ်အင်ပျံ့လှိုင် ရွှေကျိုင်းနှစ်ဖြာ သိုင်းမှာနှစ်ရပ် မလစ်မယွင်း ရွှေခက်ငှင်းနှင့် ငွေခက်ငှင်းပေါ် ရွှေဖြူတာတာ ငွေမြူတာတသွယ် ခြယ်လှယ်စေသုံး ရွှေပိတုန်းနှင့် ငွေပိတုန်းဘဖြာ ဝဲယာဆိုင်းတီး စည်ကြီးတူရိယာ တဖြာသတ်မှတ် သေနတ်အမြောက် ပစ်ဖောက်ပြီးလျှင် ခမ်းဖွင့်မင်္ဂလာ ကြီးစွာစီချင် ပွဲသဘင်တို့ဖြင့် ကြည်လင်စွာ ပူဇော်ကြလေသတည်း။

ယင်းသို့စီချင် ကြည်လင်မငြီး ပူဇော်ပြီး၍ တသီးမှတ်ကြ သက္ကရာဇ်ကောဇာ ၁၂၈၇-ခုနှစ် ရတုဟေမန္တ တပေါင်းလ၏ ဇုဏှပက္ခ ဆန်းထမပြေ့ ၁၁ ရက်နေ့ကစ၍ ငုင်းလဆုတ် ၃ ရက်နေ့တိုင် ဇမ္ဗူပိုင်မှာ ပျံ့လှိုင်ဆူညောင်း စံကျောင်းစဉ်ရှဉ် ကြည့်မြင်မငြီး လောင်းတိုက်ကြီးနှင့် တလားကြီး တလားငယ် ခြယ်လှယ်ကောင်းမြတ် ပြာသာဒ်အမျိုးမျိုး အာဒိပျိုး၍ နည်းခိုယူသွင်း ငွေသံလျှင်းပေါ် များစွာမဏ္ဍပ် လှူအပ်ဘတ္တု အစုစုဖြင့် ကြည့်ရှုပျော်ရေး ဇာတ်ရုပ်သေးတဖြာ အငြိမ့်ပေါင်းများစွာ တီးမှုတ်မျိုးအဖြာဖြာတို့ဖြင့် ကောင်းစွာမပျက် ရှစ်ရက်ကိုင်တိုင် ဘူမဏ္ဍိုင်မှာ ပျံ့လှိုင်ဆူကြွ သာဓုကီဠနသဘင် စီချင်ပြီးနောက် အခမြောက်မင်္ဂလာ ဖောက်ကာကော်ရော် ပူဇော်ပသ ဈာပနအဂ္ဂိ ပစ္စိမဆောက် မှတ်ရစ်လောက်အောင် ချီးမြှောက်သင်္ဂြိုဟ် ရှက်ဆောင်လိုကြ အာဝဝကို ကျူးမသွေ များတတွေတို့ သိကြလေဟု စေ့ရေမှု၍ မှတ်သားရအောင် ဖော်ပြစာတမ်း ထားပါသတည်း။

ရွှေတောင်ဗဟိုရ် ကာလုံးပြိုသား နဂိုဘင့်ရှန်း မြို့မိုရ်ကျွန်းသို့ ပေါ်ထွန်းငါးရာ ရဟန်းသာသည် ဗိပါသပြေ ဒေသငင်းတိုက်မြေဘွဲ့ တောင်ရေသ်ဘာ ရစ်ဆိုင်းဖြာသား ဗြဟ္မာသံအေး မန္တလေး၏ ပျံ့ မွှ လှန်စင် တောင်ပြင်ဝေါဟာ ဒက္ခိဏာရာမ ပေါက်ပြုကျော်ဟီး ထိုတိုက်ကြီး၌ နေမှီးကောင်းစွာ ပညာရင့်နို့ သောက်ယူစို့သား ငါတို့ဆရာ မဟာထေရ အာစာရဟု နာမပျံ့ကျော် ဆရာတော်၏ ယွင်းချော်မရှိ အာဒိသန္ဓိ စုတိဆုံးပေါင်း ဖြစ်ကြောင်းသာရပ် အတ္တုပ္ပတ္တိ များဘိတွေရာ ကြောင်းခြင်းရာကို နောင်လောကဝိ ပညာရှိတို့ မှတ်သိပဓေ ကြိုးနှစ်ခွေပြု ပဗန္ဓဖြင့် ဟန္ဒယခု ရေးသားပြုဟု ဗဟုထေရ မိန့်ရှိကြ၍ ဂမ္ဘီဝါစက သာသနဟု နာမည်ရှိ



ဒက္ခိဏာရာမတိုက် သံသံနှာယး ဆရာတော် အရှင်ဝိမလဗုဒ္ဓိ

ကဝိမြောက်ဆို ထေရ်ပုဂ္ဂိုလ်လျှင် မြင့်မိုရ်ပတ်လှည့် ရောင်စည့်စည့်လျှင် လင်္ကာတရထည် တွန်းကြည်ကြေငြာ ဒက္ခိဏာရုံ ရွှေဘုံစံပျော် ဆရာတော်၏ ယွင်းချော်မသိ ဂုဏ်ရည်ကျေးဇူး အထူးထူးကို ရည်ကျူးနော်လာ ပြောရာအဟုတ် ဦးမြိမ်ုပ်အောင် တွဲချုပ်ဆောင်သည် မြန်ဘောင်ဇမ္ဗူ ဆိမီးတည်း။

ရတနာပုဏ္ဏနာ မေဿ၊ နဂရဿစ ဒက္ခိဏာ။
ပါကဋေ ဒက္ခိဏာရာမေ၊ နိဿိတေ ဗဟုဿာတုနံ။
ဝသတာ သုဒ္ဓစိတ္တေန၊ ဉာဏဝိစာဘိက္ခုနာ။
သာသနနာမမေယျေန၊ ဝိစိတြာ ရစိတာ အယံ။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် ပဥ္စမမြောက် သံဃမဟာနာယက ဆရာတော်အရှင်ဝိမလဗုဒ္ဓိ

ဆရာတော် အရှင်ဝိမလဗုဒ္ဓိသည် ဆရာတော်အရှင်အာစရ ပျံလွန်တော်မူပြီးနောက် ဒက္ခိဏာရာမ သံဃာ့အရံ ဗိမာန်တော်ကြီး၏ ပဥ္စမမြောက် အဓိပတိ သံဃမဟာနာယက ဖြစ်တော်မူ၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်၊

မိတ္ထီလာမြို့နယ် ကန်ရှာ၌ အဖဦးဟန် - အမိဒေါ်ရှင်တို့မှ သက္ကရာဇ် ၁၂၂၀-ပြည့်နှစ်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ချစ်မှန်ဖြစ်သည်၊

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူသည်။ သက်တော်အရွယ် ငယ်စဉ်ကမှစ၍ မန္တလေးမြို့ ဒက္ခိဏာရာမတိုက် တတိယမြောက် သံဃနာယက ဖြစ်တော်မူသော ဂန္ဓြီ ဆရာတော် အရှင်သုဒ္ဓရာဘိဝံသ အထံသို့ရောက်၍ ပညာသင်ကြား တတ်မြောက်တော်မူခဲ့လေသည်။ အထူးသဖြင့် ဗေဒင်ကျမ်းများ၌ ပိုမိုထူးချွန်တတ်မြောက်တော်မူသည်။ ဆရာတော်သည် အများနှင့် လိုက်လျောညီထွေ ဆက်ဆံ

ပေါင်းသင်းနိုင်သည့် အဝိရောဓနဂုဏ်၊ သည်းခံခြင်း ခမာဂုဏ် စသည့်တို့နှင့် ပြည့်စုံတော်မူသည်။

## ဒက္ခိဏာရာမ သံဃနာယက

သို့ဖြစ်၍ ၁၂၈၇-ခုနှစ်တွင် အရှင်အာစာရာဘိဝံသထေရ် နတ်တို့ဌာနီ ကြွချီတော်မူပြီးနောက် ဒက္ခိဏာရာမ သံဃာ့အရံ ဗိမာန်တော်ကြီး၏ အဓိပတိ မဟာနာယက ဖြစ်တော်မူသည်။

## သာသနာတော်ကို သုတ်သင်ခြင်း

ဆရာတော် ဦးဝိမလဗုဒ္ဓိလက်ထက်တွင် အောက်မြို့ကျေးရွာတွင် နိုင်ငံရေး ဟောပြောမှုအတွက် ရှင်ဥက္ကမ၊ ရှင်ဝိစာရတို့ကို ထောင်တန်းကျရာ ထောင်တွင်း ဥပုသ်ပြုလိုခြင်း၊ သိမ်သမုတ်ပေးစေလိုခြင်း အကြောင်းကို သက်ဆိုင်ရာ အစိုးရသို့ တောင်းဆိုသာ ပြည်ထဲရေးဝန်ကြီး ဆာဂျေအေ·မောင်ကြီးက ဥပုသ်ပြုခွင့် ပေးသင့် မပေးသင့်၊ သိမ်သမုတ်သင့် မသမုတ်သင့် စသည်နှင့် စပ်လျဉ်း၍ ပုစ္ဆာ ၉-ချက် ထုတ်ပြီးလျှင် နိုင်ငံတော်အတွင်း ပညာရှင် ရဟန်း သံဃာတော်များက ဖြေဆိုကြရန် ကြေငြာလေသည်။

သုဓမ္မာအဖွဲ့နှင့် တောင်ခွင် သာသနာပိုင် ဆရာတော်တို့သည် ရာဇန္တရာယ် သင့်ရာ ဥပုသ်ပြုသော်လည်းကောင်း၊ သိမ်မရှိသော်လည်းကောင်း အပြစ်မရှိဟု ဖြေဆိုကြသည်။ အချို့အချို့ ဆရာတော်တို့သည် မိမိတို့သဘော ပိုင်နိုင်သမျှ ဖြေဆိုကြရာ အပြည့်အစုံလည်း မဟုတ် မခိုင်လုံသည်က များချေသည်။ သို့ အတွက်ကြောင့် ရှေးအစဉ်အလာ ပဒေသာကြီး ထုံးတမ်းနှင့်တကွ ပါဠိ အဋ္ဌကထာ ဋီကာ အကိုးအကား သာဓကများ ပြဆိုပြီ လျှင် ဘုရားကြီးဂိုဏ်း ဆရာတော် တို့၏ အဖြေလွှာကို ပုံနှိပ်ရိုက်၍ နိုင်ငံတော်အစိုးရထံသို့လည်းကောင်း၊ ဥပဒေပြု အဖွဲ့ အစည်းအဝေး သို့လည်းကောင်း ပေးပို့ကြလေသည်။ အစည်းအဝေးတွင် အစိုးရဘက်နှင့် အတိုက်အခံ ပြောဆို ချေပသူကား မန္တလေး အမတ် ဦးဘဦး ဖြစ်လေသည်။ နောက်မကြာမီ ထောင်အတွင်း သိမ်သမုတ်ပေးစေခြင်း၊ ဥပုသ် ပြုခွင့်ရခြင်း အစရှိသော အကျိုးတရားများ ခံစားရလေသည်။

ဖော်ပြပါ ပုစ္ဆာ ၉-ချက်အဖြေကို သုတေသီတို့အတွက် ဤ၌ ထည့်သွင်း ဖော်ပြအပ်ပါသည်။

မန္တလေးမြို့ တောင်ပြင်ဘုရားကြီးကိုဏ်း ဆရာတော်တို့၏
ပုစ္ဆာ ၉-ချက် ရှင်းလင်းချက်အဖြေ

၁၂၉၁-ခု ပြာသိုလ
(၁၉၃၀-ခု ဇန်နဝါရီလ)

(၁) ဝိနည်းတရားတော်အရ ထောင်အတွင်း အကျဉ်းခံရသော ရဟန်းသည် သမုတ်ထားသော သိမ်တွင် ဥပုသ် ပဝါရဏာ ပြုရန် အထူးလိုပါသလော။

(၁) ပုစ္ဆာရှင်းလင်းချက်အဖြေ။ ။"ထောင်အတွင်း အကျဉ်းခံရသော ရဟန်းသည်" ဆိုသောစကား၌ (က)ဝမကစေတနာနှင့် လူကို သတ်မှုကြောင့်လည်းကောင်း၊ (လူသေမှုမလို) ထေယျစိတ်ဖြင့် ဒမြတိုက်မှု ခိုးမှု လုယက်မှု လိမ်လည်မှုတို့ကြောင့်လည်းကောင်း၊ မေထုန်ဟု ဆိုအပ်သော ကာမကျူးလွန်မှုတို့ကြောင့်လည်းကောင်း ထောင်အတွင်း အကျဉ်းခံရသော ရဟန်း၊ (ခ) ထွက်ပြေးတိမ်းရှောင်နေသော မင်းညီမင်းသား သူခိုးဒမြတို့ကို အမှတ်မဲ့ လက်ခံမိခြင်းကြောင့်လည်းကောင်း၊ တိုက်ရာပါပစ္စည်း ခိုးရာပါပစ္စည်း မမှန်သော စက္ကူ ဒင်္ဂါး စသည်တို့ကို အမှတ်မဲ့ လက်ခံသိမ်းဆည်းမိခြင်းကြောင့်လည်းကောင်း၊ သေွးထွက်သံယို ဖြစ်လောက်သော မားခုတ်မှု တုတ်ရိုက်မှု စသည်တို့ကြောင့်လည်းကောင်း၊ ဝိနည်းတော်ကို နားမလည်သည့်အလျောက် ဥပဒေအရ တားမြစ်သော လက်နက်ဆွဲကိုင်မှု သေအရက်သောက်စား၍ ရမ်းကားမှု စသည်တို့ကြောင့်လည်းကောင်း၊ ပြည်ပိုင် အစိုးရမင်းတို့ကို အကြည်ညိုပျက်လောက်အောင် ပြောဟောမှု တိုက်တွန်းလှုံ့ဆော်မှု ဝိနည်းပညတ်တော်အရမှ တပါးသော သပိတ်မှောက်မှု စသည်တို့ကြောင့်လည်းကောင်း ထောင်အတွင်း အကျဉ်းခံရသော ရဟန်းဟု နှစ်မျိုးနှစ်စား ရှိသည်ကို ပိုင်းခြားနားလည်စေရမည်။

ယင်းနှစ်မျိုးတို့တွင် (က)အရ ရဟန်းများတို့သည် "ရဟန်း"ဟူသော အမည်မျှသာ ရှိတော့သည်၊ ရဟန်းတို့၏ သိက္ခာ သာဇီဝ သဘော ကိုယ်တွင် ထင်ရှား မရှိလေသောကြောင့် ဝိနည်းတရားတော်အရ သမုတ်ထားသော သိမ်တွင် ဥပုသ် ပဝါရဏာပြုရန် အထူးမလို။

(ခ)အရ ရဟန်းများမှာ ရဟန်းတို့၏ သိက္ခာ သာဇီဝ သဘော ကိုယ်တွင် ထင်ရှားရှိလေသောကြောင့် ဝိနည်းတရားတော်အရ သမုတ်ထားသော သိမ်တွင် ဥပုသ် ပဝါရဏာပြုရန် အထူးလိုအပ်သည်။ ယင်းလိုအပ်သော ဥပုသ် ပဝါရဏာ ပြုပုံကို ဖော်ပြဦးအံ့။

"ကေသိမာယ စတူသုဘိက္ခူသု ဝိဇ္ဇမာနေသု ပါတိမောက္ခုဒ္ဒေသော ဝ အနုညာတော တီသုဒ္ဓိသု စတူသု ပါရိသုဒ္ဓိဥပေါသထော ဝါ"

ဟူသော ဝိမတိ ဋီကာနှင့်အညီ ထောင်အတွင်းရှိ တခုသောသိမ်၌လည်းကောင်း၊ အပဖြစ်သော တခုသောသိမ်၌သော်လည်းကောင်း အကျဉ်းသား ဖြစ်သော ရဟန်းဖြစ်စေ၊ အကျဉ်းသားမဟုတ်သော ရဟန်းဖြစ်စေ လေးပါး လေးပါး ထက် လွန်သော ရဟန်းတို့ ထင်ရှားရှိကုန်သော် ပါတိမောက်ပြ၍ ဝိနည်း တော်လာတိုင်း သံဃဥပုသ် ပြုအပ်သည်။ သုံးပါးသော ရဟန်းတို့ ထင်ရှား ရှိကုန်သော် ဂဏဉာတ်ထား၍ ပါရိသုဒ္ဓိ ဥပုသ်ပြုအပ်သည်။ နှစ်ပါးသော ရဟန်း တို့ ထင်ရှားရှိကုန်သော် ဝိနည်းတော်လာတိုင်း ပါရိသုဒ္ဓိ ဥပုသ် ပြုအပ်သည်။

သာဓက ဗုဒ္ဓပညတ်တော်ကား—

"အနုဇာနာမိ ဘိက္ခဝေ စတုန္နံ ပါတိမောက္ခံ ဥဒ္ဒိသိတုံ၊ အနုဇာနာမိ ဘိက္ခဝေ တိဏ္ဏံ ပါရိသုဒ္ဓိဥပေါသထံ ကာတုံ၊ အနုဇာနာမိ ဘိက္ခဝေ ဒွိန္နံ ပါရိသုဒ္ဓိဥပေါသထံ ကာတုံ"။(မဟာဝါပါဠိတော်)

ယင်းပါဠိတော်အဋ္ဌုပ္ပတ္တိတို့၌ အကျဉ်းခံရသော ရဟန်း အကျဉ်းမခံရသော ရဟန်းဟု ထုတ်ဖော်ညွှန်ပြချက် ပါဠိအဋ္ဌကထာ ဋီကာတို့မှာ မရှိသောကြောင့် ဘိက္ခူ အာဗီဇ သဘောရှိသော ရဟန်းမှန်သမျှ ဥပုသ်ပြုရန် အထူးလိုအပ် သည်ဟု ဆရာတော်တို့ ယူဆကြသည်။

အဓိပ္ပာယ်မှတ်ချက်—အကျဉ်းသားရဟန်းတို့သည် ရာဇန္တရာယ် ကြတွယ်ကာ ရောက်သည် မဟုတ်ပါလောဟု စောဒက ဝင်ပြန်လျှင် ပြည်ပိုင်မင်း အစိုးရတို့ သည် ဗုဒ္ဓပညတ်တော်ကြည်းဟူသော သာသနာဘာသာကို ဂရုမထား မကိုး စားပဲ မိမိတို့၏ သဘောဆန္ဒ အလိုအတိုင်း တန်ခိုးအာဏာဖြင့်သော်သည်း ကောင်း၊ ဥပဒေ ပုဒ်မဖြင့်သော်လည်းကောင်း ဥပုသ်မပြုရဟု အတင်းအကြပ် ချုပ်ချယ်တားမြစ်သော်မှသာ ဥပုသ်မပြုပဲ နေရမည်။ သို့မတားမြစ်ပါမူ ဥပုသ် ပြုရမည်သာ။

သာဓကဗုဒ္ဓပညတ်တော်ကား—

"တတြိမေ အန္တရာယာ ရာဇန္တရာယော (ပ) ဗြဟ္မစရိယန္တရာယောတိ အနုဇာနာမိ ဘိက္ခဝေ ဧဝရူပေသု အန္တရာယေသု သံခိတ္တေန ပါတိ မောက္ခံ ဥဒ္ဒိသိတုံ၊ အသတိ အန္တရာယေ ဝိတ္ထာရေန" (မဟာဝါ ပါဠိတော်။)

ယင်းပါဠိတော်တွင် ရာဇန္တရာယပုဒ်အရ အတင်းအကြပ် ချုပ်ချယ် တားမြစ်ခြင်းမရှိသော မင်းအစိုးရကို ကောက်ယူရခဲ့သည်ဟု—

"သစေ ဘိက္ခူသု ဥပေါသထံ ကရိဿာမာတိ နိသိန္နေသု ရာဇာ အာဂစ္ဆတိ အယံ ရာဇန္တရာယော"

စသည်ဖြင့် အဋ္ဌကထာဆရာ ညွှန်ပြတော်မူသည်၊ ချုပ်ချယ်တားမြစ်ခြင်း သော မင်းအစိုးရကိုလည်း ရာဇန္တရာယ်ဟု ခေါ်၍ အဆုံးအဖြတ်ခံရသောမှ မှတ်ယူအပ် သေးသည်ကို ဆိုလတ္တံ့သော ပါဠိတော်ဖြင့် သိအပ်သည်။

"ဣဓ ပန ဘိက္ခဝေ ဘိက္ခုံ တဒဟုပေါသထေ ရာဇာနော ဂဏှန္တိ"
(မဟာဝါပါဠိတော်)

(၂) တရားဥပဒေ ကျူးလွန်သည့်အတွက် ထောင်အတွင်း အကျဉ်းခံနေရသောကြောင့် ကာလအဖို့၌ နှစ်ကြိမ်မျှ ဥပုသ် မပြုနိုင်လျှင် ဝင်ရဟန်းတော်မှာ အာပတ်သင့်ပါသလား။

(၂) ပုစ္ဆာရှင်းလင်းချက်အဖြေ။ ။တရားဥပဒေ ကျူးလွန်သောသူကို (မသိနားမလည်သူဟု ဆိုထိုက်သည်) မသိနားမလည်ခြင်းကြောင့် ထောင် အတွင်း တစ်နှစ်၊ နှစ်နှစ်၊ သုံးနှစ် စသော နှစ်အပိုင်းအခြားဖြင့် အကျဉ်းခံနေရ ခြင်းသည် သူ၏မိုက်ပြစ်ဒဏ် ပြည့်စုံလုံလောက်သည်ဟု ဆိုရမည်၊ ထို့ပြင် လွန်၍ ထောင်တွင်းမှာ နေစဉ် ဘာသာသာသနာ့ စီမံရေးတို့ကို မပြုမလုပ်ရ စွန့်လွှတ် ရမည်ဟု ကမ္ဘာတဝန်းလုံးရှိ တိုင်းပြည်အသီးသီး အကြီးအငယ်တို့၌ အုပ်ချုပ် သော ပြည်ပိုင်မင်းအစိုးရတို့က အတင်းအကြပ် ချုပ်ချယ်တားမြစ်ခြင်း ပြုလုပ် ကြပေလိမ့်မည်ဟု ဆရာတော်တို့က မထင်မြင်၊ သို့စဉ်ဖြစ်ပါလျက်

"အနုဇာနာမိ ဘိက္ခဝေ သကိံ ပက္ခဿ စာတုဒ္ဒသိံ ဝါ ပန္နရသိံ ဝါ ပါတိမောက္ခံ ဥဒ္ဒိသိတုံ"

ဟူသော ပညတ်တော်နှင့်အညီ တလနှစ်ကြိမ်ကျ ဥပုသ်ပြုရမည်၊ ဗုဒ္ဓသာသ နာ ထုံးစံဓလေ့ရှိသည်ကို ပြည်ပိုင်မင်းအစိုးရတို့က တန်ခိုးအာဏာဖြင့်သော် လည်းကောင်း၊ ဥပဒေပုဒ်မဖြင့်သော်လည်းကောင်း၊ အတင်းအကြပ် ချုပ်ချယ် တားမြစ်ခြင်းကြောင့် တလအဖို့၌ နှစ်ကြိမ်မျှ ဥပုသ်မပြုနိုင်လျှင်သော် လည်း ကောင်း ရဟန်းတော်မှာ အာပတ်မသင့်။

သာဓကဗုဒ္ဓပည်တ်တော်ကား—"ဣဓ ပန ဘိက္ခဝေ ဘိက္ခုံ တဒဟုပေါသထေ ရာဇာနော ဂစ္ဆန္တိ (ပ) နုဝတ္တိတုံ တေနေ သံဃေန ဥပေါသထော ကာတဗ္ဗော"

ဟူသော နီတတ္ထ ဒေသနာအရ နေယျကျွဆောင်၍ အဖမ်းခံရသော ရဟန်းတော်မှာ အာပတ်မသင့်သည်ကို တွေ့ရှောက် လေ။ သို့သော် အတင်းအကြပ် ချုပ်ချယ်ထားမြစ်သော ပြည်ပိုင်မင်းအစိုးရကို ဗုဒ္ဓပညတ်တော် တည်းဟူသော သာသနာ တရားတော်ကို စောင့်သိ ရိုသေခြင်းမရှိသော မင်းအစိုးရဟု ဆရာတော်တို့ ယူဆကြရပေလိမ့်မည်။

("အနုဇာနာမိ (ပ) ဥဒ္ဒိသိတုံ"ဟူသော ဒေသနာတော်သည် နိဒေသနပြ ဖြစ်သောကြောင့်- "အနုဇာနာမိ (ပ) ပန္နရသော ပါရိသုဒ္ဓိဥပေါသထံ ကာတုံ"ဟူ၍လည်း ညွှန်ပြတော်မူသည်ကို သတိချပ်အပ်သည်။)

(၃) ခေတ္တသိမ် (သို့မဟုတ်) ဝိသုံဂါမသိမ်ဟု ရှိပါသလား။
(၄) ခေတ္တသိမ် (သို့မဟုတ်) ဝိသုံဂါမသိမ်ကို မည်သည့်နည်းနှင့် တည်ထောင်ရပါသနည်း။
(၅) ရပ်သိမ်ကို မလိုမရှိသောအခါ မည်ကဲ့သို့ ဖျက်ရပါသနည်း။

၃-၄-၅-ပုစ္ဆာရှင်းလင်းချက်အဖြေ။ ။ခေတ္တသိမ်ဟု ပါဠိတော် အဋ္ဌကထာ ဋီကာကျမ်းစာတို့၌ မရှိ၊ ဗုဒ္ဓမြတ်စွာဘုရားနှင့် ဗုဒ္ဓမတညှု အဋ္ဌကထာ ဆရာများ၏ အဓိပ္ပာယ်ဖြစ်သောကြောင့် ယော်ရမ်းမှုဆ၍ ခေတ္တသိမ်ခေါ် ဆိုရမည်ဟု ဆရာတော်တို့ မညွှန်ပြလို၊ ဝိသုံဂါမသိမ်ကား ကျမ်းစာတို့၌ ရှိ၏။ ယင်းဝိသုံဂါမသိမ်ဖြစ်ပုံ တည်ထောင်ရပုံမှာ တဦးတယောက်သော ပိုင်စား (သို့မဟုတ်) ခိုင်ကြီးစားရွာသူကြီး၏ ကျေးရွာနယ်မြေသည်လည်းကောင်း၊ မြို့သူကြီး၏ မြို့ရွာနယ်မြေသည်လည်းကောင်း၊ ပကတိဂါမသိမ် (သို့မဟုတ်) အဗဒ္ဓသိမ်ဟု ခေါ်သည်။ ထိုပကတိဂါမ သိမ်၏ အတွင်း၌ နှစ်ကိုပ် တယောက်သောရဟန်းတို့ စည်းဝေးလောက် ထိုင်လောက်သော မြေနာထက် မငယ်မကျဉ်းစေပဲ နယ်လေးရပ်ပိုင်းခြားသတ်မှတ်အပ်သော တစိတ်တဒေသမြေ ရာကို (ဝိသုံဂါမ) ပိုင်စားပေးသနားပါမည့်အကြောင်း လျှောက်ထားတောင်းခံ သော လူဒါယကာ ဒါယိကာမ တယောက်ယောက်အားသော်လည်းကောင်း၊ မင်းအစိုးရတို့ ကြည်ညိုလေးမြတ် ယုံမှတ်ခြင်းခံရသော လူဒါယကာ ဒါယိကာမ တယောက်ယောက်အားသော်လည်းကောင်း ပထဝီသြရမင်းထိုမင်း၏ အခွင့် အာဏာအရပြည်ပိုင်အစိုးရက (ဝိသုံဂါမ) ပိုင်စား အသနားခံယူစေဟု ပိုင်းခြား

သတ်မှတ်၍ ပေးအပ်လိုက်လျှင် (ဝိသုံဂါမသိမ်)ဖြစ်၏—အဗဒ္ဓသိမ်ဟူ၍လည်း ခေါ်ရသည်။ ရဟန်းတော်တို့ ဥပုသ်ပဝါရဏာ ကံကြီး ကံငယ် ပြုရာဌာနဖြစ်ပေပြီ၊ (ဤကား တည်ထောင်ပုံတည်း။)

အထောက်သာဓကကား—

"ယမ္ပိ ကေသ္မိံ ယေဝ ဂါမခေတ္တေကံ ပဒေသံ အယံ ဝိသုံဂါမော ဟောတူတိ ပရိစ္ဆိန္ဒိတွာ ရာဇာ ကဿစိ ဒေတိ၊ သောပိ ဝိသုံဂါမသီမာ ဟောတိယေဝ" (မဟာဝါအဋ္ဌကထာ)

ပထဝီဿရမင်း၊ ထိုမင်း၏ အခွင့်အာဏာအရ ပြည်ပိုင်မင်းအစိုးရတို့က ပေးပြီးသောအမိန့်ကို နုတ်သိမ်းလျှင်သော်လည်းကောင်း၊ တပါးသောရွာနယ်မြေမြို့နယ်ထဲသို့ ထည့်သွင်း၍ မှတ်ပုံစာရင်းတင်သွင်း ပြောင်းလဲလျှင်သော်လည်းကောင်း ဝိသုံဂါမသိမ်ပျက်တော့ပြီ၊ ပကတိဂါမသိမ် အဖြစ်သို့ ဝင်ရောက်သည်သာ။ (ဤကား ဖျက်ဆီးပုံတည်း)

အထောက်သာဓကကား—

"သစေ ပနေတ္ထ ရာဇာ ကိဉ္စိပဒေသံဂါမန္တရေန ယောဇေတိ သော ပဝိဋ္ဌဂါမော သီမတံဝေ ဘဇတိ" (ဝိမတိဋီကာ)

ဝိသုံဂါမသိမ်ပျက်၍ ပကတိဂါမသိမ်အဖြစ် ရောက်သွားလျှင် ရဟန်းတော်တို့ ဥပုသ်ပဝါရဏာစသော ဝိနည်းကံပြုလိုက သံဃာကို သိမ်းဆည်းနိုင်မှဖြစ်သည်။ (မှတ်ချက်)

(၆) ရာဇဝတ်မှုကို ကျူးလွန်၍ ထောင်ကျနေသော ရဟန်းသည် ထောင်တွင်း သင်္ကန်းဝတ်ခွင့်မရလျှင် အာပတ်သင့်ပါသလား။

(၆) ပုစ္ဆာရှင်းလင်းချက်အဖြေ။ ။ပြည်ပိုင်မင်းအစိုးရတို့က ထောင်တွင်း သင်္ကန်းဝတ်ခွင့် ပြုပါလျက် လူတို့၏ အဝတ်ကို ဝတ်ဆင်နေသော ရဟန်းအား အာပတ်သင့်သည်။ ယင်းသို့မဟုတ်ဘဲ ရဟန်းတော်တို့မှာ ဖန်ရည်စွန်းသောသင်္ကန်းမှတပါး အခြားသောလူတို့၏ အဝတ်ကိုဝတ်ဆင်ရန် ခွင့်ပြုတော်မမူသော ဗုဒ္ဓပညတ်တော်ကို ဂရုမထား မလေးစားသော ပြည်ပိုင်မင်းအစိုးရတို့သည် မိမိတို့၏ တန်ခိုးအာဏာဖြင့်သော်လည်းကောင်း၊ ဥပဒေပုဒ်မဖြင့်သော်လည်းကောင်း အတင်းအဓမ္မဗလက္ကာရ နိုင့်ထက်စီးနင်း သင်္ကန်းကိုချွတ်ခြင်းကြောင့် သင်္ကန်းဝတ်ခွင့်မရလျှင် အစ္ဆိန္နစီဝရအရာ၌ တည်သည့်အတွက် လူဝတ်ကို ဝတ်ဆင်ရသော ရဟန်းအား အာပတ်မသင့်။

ဗုဒ္ဓပညတ်တော်သာဓကကား—

အစ္ဆိန္နစီဝရေနာမ ဘိက္ခုနာ စီဝရံ အစ္ဆိန္နံ ဟောတိ ရာဇူဟိပိ စောရေဟိပိ ဓုတ္တေဟိပိ ယေဟိ ကေဟိစိပိ အစ္ဆိန္နံ ဟောတိ။ (ပါရာဇိကဏ်ပါဠိတော်)

အစ္ဆိန္နိတိစ ဗလက္ကာရေန အဂ္ဂဟေသိ။ (ဝိနယာလင်္ကာရဋီကာ)

အကာပ္ပကတံ နုဝိရဇနာယ ရတ္တံ၊
တေန နိဂ္ဂေတ္တာ ယေန ကာမံ ဝဇေယျ၊
န စဿ ဟောတိ အာပတ္တိ၊
သောစ ဓမ္မော သုဂတေန ဒေသိတော၊
ပဥှာ မေသာ ကုသလေဟိ စိန္တိတာ။ (ပရိဝါပါဠိတော်)

အကာပ္ပကတန္တိဂါထာ အစ္ဆိန္နစီဝရတံ ဘိက္ခုံသန္ဓာယ ဝုတ္တာ။
(ပရိဝါအဋ္ဌကထာ)

ယာနိစ နေသံ တေဝါ ဝိညတ္တိမနုဿာ အညေဝါ သာခါ ပလာသ နိဝါသနေ ဒိသွာဥဿာဟဇာတာ ဝတ္ထာနိ ဒေန္တိ၊တာနိ သဒသာနိပါ ဟောန္တု၊ အသဒသာနိပါ နီလာဒိနာနာဝဏ္ဏာနိပါ ကပ္ပိယာနိပိ အကပ္ပိယာနိပိ သဗ္ဗာနိ အစ္ဆိနစီဝရဋ္ဌာနေဌိတတ္တာ တေသံ နိဝါသေတုဥ္စ ပါရုပိတုဥ္စ ဝဋ္ဋန္တိ (ပါရာဇိကဏ်အဋ္ဌကထာ ဝိညာတကဝိညတ္တိသိက္ခာပုဒ်၊)

(၇) ရဟန်းတော်သည် သင်္ကန်းမရှိပဲ အချည်းနှီး နေနိုင်ပါ သလား။

(၇) ပုစ္ဆာရှင်းလင်းချက်အဖြေ။ ။ "အစ္ဆိန္နစီဝရေနာမ ဘိက္ခုနာ စီဝရံ အစ္ဆိန္နံ ဟောတိ"

ဟူသော ပါဠိတော်နှင့်အညီ ပြည်ပိုင်မင်း အစိုးရတို့ကသော်လည်းကောင်း၊ သူခိုးဓမြတို့က သော်လည်းကောင်း၊ သေသောက်ကြူး အရက်သမားတို့က သော်လည်းကောင်း အတင်းအဓမ္မ ဗလက္ကာရ နိုင့်ထက်စီးနင်း သင်္ကန်းကိုချွတ် ယူခြင်းကြောင့် သင်္ကန်းမရှိသော ရဟန်းတော်မှာ တခုခုသော အဝတ်ဖြင့် သော်လည်းကောင်း၊ မြက်သစ်ရွက်ဖြင့် သော်လည်းကောင်း ဖုံးအုပ်ဝတ်ဆင် ရမည်။ မဝတ်မသုံး ကိုယ်ဗုံးလုံးမနေရ၊ မနေသင့်။

သာမဏေပုစ္ဆပြည်တော်ကား-

"နတ္တေဝ နဋ္ဌော အာဂန္တုဗ္ဗာယော အာဂစ္ဆေယျ အာပတ္တိ ဒုက္ကဋဿ" (ပါရာဇိကဏ်ပါဠိတော်)

(၈) ရာဇဝတ်မှုကို ကျူးလွန်၍ ထောင်တွင်း အကျဉ်းခံနေရသော ရဟန်းတော်သည် ဝိနည်းတရားတော်အရ တပါးတည်း ဥပုသ်ပြုနိုင်ပါသလား။

(၈) ပုစ္ဆာရှင်းလင်းချက်အဖြေ။ ။ထောင်တွင်း အကျဉ်းခံနေရသော ရဟန်းတော်သည် ဝိနည်းတရားတော်အရ အကြောင်းအင်္ဂါ စုံလင်ပါက တပါးတည်း ဥပုသ်ပြုနိုင်သည်၊ ပြုရပုံ အစုံအလင် ပေါ်လွင်အောင် ညွှန်ကြဦးအံ့။

အကျဉ်းခံရာ ထောင်ဝင်း(သို့မဟုတ်) ထောင်တံတိုင်းအတွင်း မိမိမှတပါး အခြားသောရဟန်းတော် မရှိခဲ့သော်သာ အကျဉ်းခံနေရသော ရဟန်းတော်သည် ၎င်းထောင်ဝင်း၊ (သို့မဟုတ်)တံတိုင်းအတွင်း တည်ထောင်ထားသော ဝိသုံဂါမသိမ် (သို့မဟုတ်) ကမ္မဝါစာဖြင့် သမုတ်ထားသော ဗဒ္ဓသိမ်၌ တံမြက်လှည်းခြင်း၊ သောက်ရေ သုံးဆောင်ရေ တည်ထားခြင်း၊ နေရာခင်းခြင်း၊ ဆီမီးထွန်းညှိခြင်းတို့ကိုပြု၍ အချိန်းကုန်လွန်အောင် စောင့်ဆိုင်းနေထိုင်ရမည်။ အကယ်၍ တပါးသောရဟန်းတို့ ရောက်လာကုန်အံ့၊ ၎င်းရဟန်းတော်တို့နှင့် ဝိနည်းတော်လာတိုင်း ဥပုသ်ပြုရမည်။ မလာရောက်ခဲ့သော် "အဇ္ဇ မေ ဥပေါသထော" ဟုဆို၍ အဓိဋ္ဌာန်ဥပုသ်ပြုနိုင်သည်။

သာမဏေပုစ္ဆပြည်တော်ကား-

"ဣဓ ပန ဘိက္ခဝေ အညတရသ္မိံ အာဝါသေ တဒဟုပေါသထေ ဧကော ဘိက္ခု ဝိဟရတိ၊ တေန ဘိက္ခဝေ ဘိက္ခုနာ ယတ္ထ ဘိက္ခူ ပဋိက္ကမန္တိ၊ ဥပဋ္ဌာနသာလာယဝါ မဏ္ဍပေဝါ ရုက္ခမူလေဝါ သော ဒေသော သမ္မဇ္ဇိတ္ဝာ ပါနီယံ ပရိဘောဇနီယံ ဥပဋ္ဌာပေတွာ အာသနံ ပညာပေတွာ ပဒီပံ ကတွာ နိသီဒိတဗ္ဗံ၊ သစေ အညေ ဘိက္ခူ အာဂစ္ဆန္တိ တေဟိ သဒ္ဓိံ ဥပေါသထော ကာတဗ္ဗော နော စေ အာဂစ္ဆန္တိ၊ အဇ္ဇ မေ ဥပေါသထောတိ အဓိဋ္ဌာတဗ္ဗော" (မဟာဝါပါဠိတော်)

(၉) ရာဇဝတ်မှုကျူးလွန်၍ ထောင်ကျနေသော ရဟန်းတော်မှာ အစားအစာ မသုံးဆောင်ပဲနေ၍မိမိအသက်ကိုစွန့်လျှင် ဝိနည်းတရားတော်ကို ကျူးလွန်ပါသလား။

(၉) ပုဗ္ဗာရှင်းလင်းချက်အဖြေ။ ။အသက်ကို စွန့်လွှတ်သော ရဟန်းတော်၏ အာဘောဂ နှလုံးသွင်း စိတ်ချင်းကို ပဓာနပြု၍၊ အမေးနှစ်ပါး အဖြေသုံးမျိုးသုံးစား ခွဲခြားရှင်းလင်းဖြေဆိုမှ ကျမ်းဂန်နှင့် ညီညွတ်ပေလိမ့်မည်။

ရှင်းလင်းပုံကား-''အစားအစာ မသုံးဆောင်ပဲနေ၍ မိမိအသက်ကိုစွန့်လွှတ်သော ရဟန်းတော်သည် ဝိနည်းတဆူးတော်ကို ကျူးလွန်ပါသလား''အမေး၌-

(က) ၁။ ကာမဂုဏ် ဆာလောင်လှ၍ လူ့ဘောင်သို့ ပြောင်းရွှေ့အံ့ဟု စိတ်ဖြစ်ပြီးမှ တဖန် မိမိစောင့်ထိန်းသော သီလတရား မပျက်စီးမီ သေရသည်ကား ကောင်း၏ဟု ကြံစည်နှလုံးသွင်းပြီးလျှင် အမှတ်မရှိ တခုခုသော လုံ့လပယောဂဖြင့် သေသော်လည်းကောင်း၊ အစားအစာမသုံးဆောင်ပဲ ဖြတ်သားသဖြင့်သေသော်သည်းကောင်း၊ မိမိအသက်ကိုစွန့်သော ကာမပရိဠာဟ ရဟန်းသည်လည်းကောင်း၊

၂။ သင့်မြတ်ကောင်းမွန်သောဆေး၊ ပြုစုသူ အလုပ်အကျွေးတို့သည် ရှိပါကုန်လျက် သက်သက်မဲ့ သေစေလို၍ အစားအစာ မသုံးဆောင်ပဲ မိမိအသက်ကိုစွန့်သော သူနာရဟန်းသည်လည်းကောင်း ဝိနည်းတရားတော်ကို ကျူးလွန်သည်ဟု မှတ်ရမည်။

အထောက်သာဓကကား-

''အဒ္ဒေသနပိ ယေနကေနစိ ဥပက္ကမေန အန္တမသော အာဟာရုပစ္ဆေဒနပိ နမာရေတဗ္ဗော၊ ယောပိ ဟိ ဂိလာနော ဝိဇ္ဇမာနေ ဘေသဇ္ဇေစ ဥပဋ္ဌာကေသုစ မရိတုကာမော အာဟာရံ ဥပစ္ဆိန္ဒတိ ဒုက္ကဋ္ဌမေဝ'' (ပါရာဇိကဏ် အဋ္ဌကထာ)

(ခ) ၁။ ဤငါ၏ ကိုယ်အတ္တဘောသည် ပြုစုပါကုန်သော်လည်း တည်မြဲနိုင်မည်မဟုတ်၊ ပြုစုသူ တပည့်ဘပန်းတို့သာ ပင်ပန်းကြကုန်၏-ဟု နှလုံးသွင်း၍ အစားအစာကိုလည်းကောင်း၊ ဆေးကိုလည်းကောင်း မသုံးဆောင်ပဲ မိမိအသက်ကိုစွန့်သော နာတာရှည်ရောဂါ စွဲကပ်သော သူနာရဟန်းသည်လည်းကောင်း။

၂။ ဤရောဂါဝေဒနာသည် ကြမ်းတမ်းခက်ထန်၏၊ အာယုသင်္ခါရတို့သည် တည်မြဲနိုင်မည် မဟုတ်ကုန်။ ကမ္မဋ္ဌာန်းအားရှိ၍ တည်ကြည်သော ဤသမာဓိနှင့် ဝိပဿနာသည်လည်း ငါ၏လက်သို့ ရောက်ဘိသကဲ့သို့ထင်၏ဟု နှလုံးသွင်း၍ အစားအစာမသုံးဆောင်ပဲ မိမိအသက်ကိုစွန့်သော သူနာရဟန်းသည်လည်းကောင်း။

၃။ အစာအာဟာရကို ရှာဖွေခြင်းသည် သံသရာ ခွဲ့ထွင်ရေး လက်စ မသိမ်းခြင်းပေတည်း။ ကမ္မဋ္ဌာန်းကိုသာ ရှုဆင်ခြင်တော့အံ့ဟု နှလုံးသွင်း၍ ကမ္မဋ္ဌာန်းကို အဦးပြုပြီးလျှင် အစားအစာ မသုံးဆောင်ပဲ မိမိအသက်ကို စွန့်သော သံဝေဂဖြစ်သော ရဟန်းသည်လည်းကောင်း ဝိနည်းတရားတော်ကို ကျူးလွန်သည်မဟုတ်ဟု မှတ်ရမည်။

အထောက်သာဓကကား—

"သစေ သော အယံ အတ္တဘာဝေါ ပဋိဇဂ္ဂိယမာနောပိ နတိဋ္ဌတိ ဘိက္ခူစ ကိလမန္တိတိ အာဟာရံ ဥပစ္ဆိန္ဒတိ၊ ဘေသဇ္ဇံ န သေဝတိ ဝဋ္ဋတိ၊ ယော ပန အယံရောဂေါ ခရော အာယုသင်္ခါရာ နတိဋ္ဌန္တိ၊ အယဉ္စ မေ ဝိသေသာဓိဂမော ဟတ္ထပ္ပတ္တောဝိယ ဒိဿတီတိ ဥပစ္ဆိန္ဒတိ ဝဋ္ဋတိယေဝ အဂိလာနဿပိ ဥပ္ပန္နသံဝေဂဿ အာဟာရ ပရိယေသနံ နာမ ပပဉ္စော ကမ္မဋ္ဌာနမေဝ အနုယုဉ္ဇိဿာမီတိ ကမ္မဋ္ဌာနသီသေန ဥပစ္ဆိန္ဒန္တဿ ဝဋ္ဋတိ" (ပါရာဇိကကဏ် အဋ္ဌကထာ)

"ထောင်ကျနေသော ရဟန်းတော်သည် အစားအစာ မသုံးဆောင်ပဲ နေ၍ မိမိအသက်ကို စွန့်လွှတ်လျှင် ဝိနည်းတရားတော် ကျူးလွန်ပါသလား" အမေး၌ ယခုကာလ ထောင်အတွင်း အကျဉ်းခံရသော ရဟန်းတော်တို့၏ နှလုံးသွင်းကို ရှုမျှော် ထောက်ဆလိုက်သော် သက်န်းတော်ပါရစေ၊ ဥပုသ်ပြုပါရစေ ခွင့်ပြုပါဟု တောင်းဆိုသောစကား ထင်ရှားစွာ ရှိလေသောကြောင့်လည်းကောင်း၊ ရဟန်းတော်တို့၏ အဇ္ဈတ္တအာသယ နှလုံးသွင်းစိတ်ဓာတ်ရင်းသည် မိမိတို့နှင့် တကွ နေရာ အကျဉ်းခံရမည့် ပုဂ္ဂိုလ်တို့၏ အဓိသီလတရားကို သုတ်သင်ဖြူစင်လိုသောသဘော ပေါ်လောပေါ်လျက်ရှိနေသည်ကို မည်သူ တဦးတယောက်မျှ ငြင်းဆိုနိုင်ကြမည်မဟုတ်။ သို့အတွက် ၎င်းထောင်အတွင်း အကျဉ်းခံရသော ရဟန်းတော်တို့၏ အာသယနှလုံးသွင်း စိတ်ရင်းသည် အထက်ပါ (က)အရ ရဟန်းတော်တို့နှင့်လည်း မတူ၊ (ခ)အရ ရဟန်းတော်တို့သို့လည်း မဝင်။ သို့ပင် ဖြစ်သော်လည်း—

"အနုဇာနာမိ ဘိက္ခဝေ (ပ)ပံသုကူလစီဝရံ နိဿာယ ပဗ္ဗဇ္ဇာ တတ္ထ ဘော ယာဝဇီဝံ ဥဿာဟော ကရဏီယော" စသည်ဖြင့်လည်းကောင်း။

"အနုဇာနာမိ ဘိက္ခဝေ ဥပေါသထေ ပါတိမောက္ခံ ဥဒ္ဒိသိတုံ" စသည်ဖြင့်လည်းကောင်း။

ဖော်ပြခဲ့ပြီးသော အထက်ပါစကားများသည် အစိုးရမင်းတို့၏ အမေး ၉-ချက်ကို မေ့ခိုင်ဆုံးဖြေကြားခြင်း

ဖောကြားညွှန်ပြ ဗုဒ္ဓပညတ်တော်တည်းဟူသော ပါတိမောက္ခ သံဝရအင်္ဂါ သီလတရားတော်ကို ဖြူစင်စေလို၊ မပျက်စီးစေလိုသော နှလုံးသွင်းရှိခြင်းကြောင့် အစားအစာ မသုံးဆောင်ပဲနေ၍ မိမိအသက်ကို စွန့်လွှတ်သော ထောင်ကျနေသော ရဟန်းတော်သည် ဝိနည်းတရားတော်ကို ကျူးလွန်သည်မမည်၊ ကောင်းသောပြုခြင်းပေတည်း။

ထို့ကြောင့်–

"ပါတိမောက္ခံ ဝိသောဓေန္တော အပ္ပေဝ ဇီဝိတံ ဇဟေ၊ ပညတ္တံ လောကနာထေန န ဘိန္ဒေ သီလသံဝရံ" ဟူသော ပရိဝါ ပါဠိတော်ကို လည်းကောင်း။

"ယထာပညတ္တံ သိက္ခာပဒံ အနဝဇ္ဇသံ သဒ္ဓါယ၊ သမာဒိယိတ္ဝာ ဇီဝိတေပိ အပေက္ခံ အကာရောန္တေန သာဓုကံ သမ္ပာဒေတဗ္ဗံ" ဟူသော ဝိသုဒ္ဓိမဂ် အဋ္ဌကထာကိုလည်းကောင်း ထောက်လေ။

(ဤသို့ အမေးနှစ်ပါး အဖြေသုံးစား ထား၍ မှတ်သားကြလျှင် ကျမ်းဂန်သဘော အယူအဆကွဲကြမည် မဟုတ်ဟု ဆရာတော်တို့က ထင်မြင်ကြသည်)။

ဆိုခဲ့ပြီးသော အထက်ပါစကားများသည် အစိုးရမင်းတို့၏ အမေး ၉-ချက်ကို မေ့ခိုင်ဆုံး သဘောဖြင့် ရှင်းလင်းဖြေကြားခြင်းမျှသာ ဖြစ်သည်။ ယခု ဆိုလတ္တံ့သော စကားသည် ဆရာတော်တို့၏ အလိုဆန္ဒကို ဖော်ပြခြင်းပေတည်း။

မဇ္ဈိမ ဒေသခေါ် အိန္ဒိယတိုင်း ရာဇဂြိုဟ် ပြည့်ရှင် ဘုရင်ဗိမ္ဗိသာရမင်းကြီးသည် သစ်တော်တို့ကို ခိုးယူသော ရှင်ဓနိယကို အပြစ်ထင်ရှားပါလျက် သင်္ကန်းတော်ကို အလေးဂရုပြု၍ မှုပြစ်ဒဏ်မှ လွှတ်ငြိမ်းချမ်းသာခွင့် ပြုတော်မူသည်။

၎င်းအိန္ဒိယတိုင်း ပါဋလိပုတ် ပြည့်ရှင် ဘုရင်မွေ့ာသောကမင်းကြီးသည် ထောင်သောင်းမကသော တိတ္ထိတို့သည် ဗုဒ္ဓသာသနာတော်သို့ ဝင်ရောက်နှောင့်ယှက်ခြင်းကြောင့် ရဟန်းတော်တို့မှာ ပရိသတ်မစင်ကြယ်သဖြင့် ခုနစ်နှစ်တိုင်တိုင် ဥပုသ်မပြုရပဲ အခက်အခဲနှင့် တွေ့ကြုံနေကြရာ မိမိ၏ ကိုယ်စိတ်နှစ်ဖြာ ကြီးစွာသော ပင်ပန်းခြင်းကို ဂရုမထားမူ၍ ရဟန်းတော်တို့ ဥပုသ်ပြုနိုင်ခွင့် ရရန်ကိုသာ ပဓာနထားပြီးလျှင် အလွန်ခက်ခဲသော အရှုပ်အထွေးကြီးကို တရားသဖြင့် ရှင်းလင်းသုတ်သင်၍ ရဟန်းတော်တို့ကို ဥပုသ်ပြုစေတော်မူသည်။

မြန်မာပြည် ရတနာပုံနေပြည်တော်အရှင် ပဉ္စမသင်္ဂါယနာတင် မင်းတရားကြီးသည် မိမိဂုဏ်ကျက်သရေ ညှိုးနွမ်းလောက်အောင်လည်းကောင်း၊ အကြည်ညိုပျက်လောက်အောင်သည်းကောင်း ဟောပြောခြင်း လှုံ့ဆော်ခြင်း၊ ကြေငြာခြင်းကို ပြုခြင်းကြောင့် "ပဏ္ဍိတာဝံသာဘိဓေ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ ဗန်းမော်ဆရာတော်ကြီးကို နယ်ခြားပို့သော အပြစ်ဒဏ် ထားတော်မူသည်။ သို့ နယ်ခြားပို့သော်လည်း ခြေကျင်းမခတ်ပဲ သင်္ကန်းဝတ်ခွင့်၊ ဥပုသ်ပဝါရဏာပြုခွင့်၊ ဘုရားဖူးမျှော်ခွင့်၊ ပြည်သူတို့ဆွမ်းကိုစားခွင့် ပြုတော်မူပါသေးသည်။

၎င်းမင်းတရားကြီး လက်ထက်၌ပင် အိမ်တော်ရာ ဘုရားပွဲ ကျင်းပရာ ဗဟိဒ္ဓါဝန် အစရှိသော ကျောင်းတိုက်အသီးသီးနေ ပဉ္စင်းပျိုတို့သည် မြို့ကွပ် မြို့ကြပ် မြို့စောင့် အမှုထမ်းတို့ကို ခုခံရိုက်နှက်ခြင်းကြောင့် ဖမ်းဆီးပြီးလျှင် ရေဝတီမြစ်အလယ်တွင် သမ္ဗန်၌ အကျဉ်းချထားတော်မူသည်။ သို့ထားသော်လည်း အထက်ပါအခွင့်ကို ပြုတော်မူပါသေးသည်။

ရတနာပုံ နေပြည်တော် သီပေါမင်းတရားကြီးသည် ဗဟိဒ္ဓါရမတိုက် ဦးသုမန၏ စာရေးကိုတောင်ပြင် ကင်းစောင့် အမှုထမ်းတို့က ဖမ်းဆီးချောက်လှန့်၍ ပါသော ငွေခြောက်မူးကို ယူလိုက်သဖြင့် ၎င်းစာရေးက ပြန်၍ ပဉ္စင်းပျိုတို့ကို လျှောက်ထားလျှင် ဒေါသအမျက် ခြောင်းခြောင်းထွက်၍ ကင်းအမှုထမ်းတို့ကို ခုခံရိုက်နှက်ခြင်းကြောင့် မန္တလေးတောင်ပေါ်၌ အကျဉ်းချထားတော်မူသည်။ သို့ထားသော်လည်း အထက်ပါ အခွင့်ကို ပြုတော်မူသေးသည်ပင်။

ဤသို့ဗုဒ္ဓမြတ်စွာ သာသနာ ဘာသာတရားတော်ကို အလေးဂရုပမာဏပြုလျက် စောင့်သိရှိသေတော်မူကြကုန်သော ရှေးအိန္ဒိယပြည်ပိုင်မင်း၊ မြန်မာပြည်ပိုင်မင်းတို့၏ ကျင့်ထုံးကို နှလုံးသွင်းလျက် ယခုမြန်မာပြည် အရှင် အင်္ဂလိပ်အစိုးရမင်းတို့သည်လည်း ဗုဒ္ဓပညတ်တော်တည်းဟူသော သာသနာဘာသာကို မထိမခိုက်စေသော ဥပဒေစည်းကမ်းတို့ဖြင့် စောင့်သိရှိသေခြင်းအမှု ပြုလိမ့်မည်ဟု ဆရာတော်တို့ ယုံမှတ်တော်မူကြသည်။

နောက်တဖန် ဆာဂျေအေ-မောင်ကြီးလက်ထက်မှာပင် သာသနရက္ခိတ အသင်း တောင်ခွင်သာသနာပိုင် ဆရာတော်တို့နှင့် ပူးပေါင်း၍ ဝိနယရေ ဥပဒေကြမ်းကို ထုတ်ပြန်ကြေငြာပြန်ရာ ၎င်းဥပဒေ၌ အတိုချုပ်အဓိပ္ပာယ်မှာ "ရဟန်းတို့၏ ဂရုဘဏ် လဟုဘဏ် စသည်ဘို့နှင့်ပတ်သက်၍ တရားတပေါင် ဖြစ်ခဲ့ပါမူ ဝိနည်းခိုရ်တင်၍ ဆုံးဖြတ်ရမည်။ မကျေနပ်လျှင် လူရုံးများမှာ

အဆုံးအဖြတ်ခံပြီး အဆုံးသတ်ရမည်ဟု ပါရှိသည့်အတွက် ဝိနည်းအရာမလိမ္မာသော လူဒါယကာထံ ပြီးစေရမည်''ဟူသော ဥပဒေကို တနိုင်ငံလုံး ရှိ ရဟန်းသံဃာတော်များက မနှစ်သက်နိုင်ကြသဖြင့် ဘုရားကြီးဂိုဏ်း ဆရာတော်တို့က ခေါင်းဆောင်၍ နိုင်ငံတော်အစိုးရနှင့် ဥပဒေအဖွဲ့တိုင်အောင် ဓာန်ကွက်ကြရာ ရင်းဥပဒေ ပျက်ရပြန်ချေသည်။

ဤသို့ဖြင့် ဆရာတော် ဦးဝိမလဗုဒ္ဓိ လက်ထက်၌ သာသနသောဓနကိစ္စများကို များစွာပြုလုပ်၍ သာသနာတော်ကို စည်ပင်စေခဲ့လေသည်။

## စည်းလုံးညီညာအောင်ကြောင်းဖြာ

ဆရာတော် အရှင်ဝိမလဗုဒ္ဓိသည် မိမိ၏ လက်အောက်၌ ရှိသော သမ္မုတိရ ဆရာတော်များ၊ ဂဏဝါစက ပရိယတ္တိဝန်ဆောင် ဆရာတော်များတို့အား စည်းလုံးညီညွတ်အောင် ဆောင်ရွက်တော်မူနိုင်ခဲ့သည်။

တိုက်တာမှုသာသနာမှုတွင် အရေးကြီးသောကိစ္စများ ပေါ်လာလျှင် သင့်လျော်သော သမ္မုတိရ ဆရာတော်များ ဂဏဝါစက ဆရာတော်များအား ဆုံးဖြတ်စေခြင်း၊ ရေးမှတ်စေခြင်း စသည်တို့ဖြင့် တိုက်တာမှု၊ သာသနာမှုတို့ကို ပြီးပြတ်အောင် ဆောင်ရွက်တော်မူနိုင်သည်။

ဆရာတော်သည်—

"သုခါ သံဃဿ သာမဂ္ဂီ၊ သမဂ္ဂါနံ တပေါ သုခေါ"

"သံဃာညီညွတ်မှု ချမ်းသာသည်၊ စိတ်ဘူကိုယ်မျှ ညီညွတ်တော်မူကြသော ရဟန်းသံဃာတော်တို့၏ အကျင့်သည် ချမ်းသာသည်"

ဟူသော ဒေသနာကို ထာဝစဉ် သတိပြုတော်မူသည်။ ယင်းသို့ တိုက်သံဃာတို့ စည်းလုံးညီညာသဖြင့် အောင်ကြောင်းဖြာခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ သာသနာစိတ်ရှိတော်မူသော ဒက္ခိဏာရာမ တိုက်ကြီး၏ ပဥ္စမမြောက် သံဃမဟာနာယကဖြစ်တော်မူသော အရှင်ဝိမလဗုဒ္ဓိမဟာထေရ်သည် သက်တော် ၇၅-နှစ် သိက္ခာတော် ၆၅-ဝါရှိရာ သက္ကရာဇ် ၁၃၀၅ ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။



ဒက္ခိဏာရာမတိုက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ
အရှင်ဥက္ကံသမာလာ (ဦးငြိမ်း)

## သံဝေဂယူရန်

မတ္တာဂဇာ ဘိန္နဂဋ္ဌာ ပဘိန္နာ၊
နဂရာနိ မဒ္ဒန္တိ ဇနံ ဟနန္တိ။
နမစ္စုနော မဒ္ဒိတု မုဿဟန္တိ။

ပဘိန္နာ=မျက်စိ သို နား သုံးပါးသောအရပ်တို့၌ ပေါက်ထွက်ကုန်သည်ဖြစ်၍။ ဝါ=ခါးရပ်သိုနား သုံးပါးသောအရပ်တို့မှ ပေါက်ထွက်ကုန်သည်ဖြစ်၍။ ဘိန္နဂဋ္ဌာ=ယိုစီးသော မုန်ရည်ရှိကြကုန်သော။ မတ္တာဂဇာ=အမုန်ယစ်သောဆင်တို့သည်။ နဂရာနိ=မြို့ငယ်မြို့ကြီး အသီးသီးတို့ကို။ မဒ္ဒန္တိ = နင်းချေဖျက်ဆီးကြကုန်၏။ ဇနံ= ကြီးကြီးငယ်ငယ် ရွယ်ရွယ်သောင်းပြောင်း သတ္တဝါအပေါင်းကို။ ဟနန္တိ = ညှာတာမဖက် နှိပ်စက်သတ်ဖြတ်ကြကုန်၏။ မစ္စုနော = ယုတ်မာစင်းစင်း သေမင်းကိုကား။ မဒ္ဒိတုံ=နင်းခြေဖျက်ဆီး သတ်ဖြတ်ခြင်းငှာ။ နဥဿဟန္တိ=ကေန်မုချ မစွမ်းနိုင်ကြကုန်။



### ဒက္ခိဏာရာမဘုံရားကြီးတိုက် ဆဋ္ဌမပြောက် သံဃမဟာနာယက
### အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဥက္ကံသမာလာ

ဆရာတော် အရှင်ဥက္ကံသမာလာသည် ဆရာတော် အရှင်ဝိမလဗုဒ္ဓိ ပျံလွန်တော်မူပြီးနောက် ဒက္ခိဏာရာမ ကျောင်းတိုက်ကြီး၏ သံဃမဟာနာယက ဖြစ်တော်မူသည်။

အင်းစိန်ခရိုင် ထန်းတပင်ရွာ၌ အဖဦးမိတ်-အမိဒေါ်မိုးတို့မှ သက္ကရာဇ် ၁၂၃၈-ပြည့်နှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် ဦးငြိမ်းဖြစ်၏။ ယင်းအမည်ဖြင့်ပင် ယနေ့တိုင် ထင်ရှားလေသည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဘွဲ့တော် အရှင်ဥက္ကံသမာလာ ဖြစ်လေသည်။ ငယ်စဉ်ကပင်

ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်၍ ဒက္ခိဏာရာမ ဆရာတော် အရှင်အာစာရ မဟာထေရ် စသည်တို့၏ အထံတွင် ပိဋကတ်အခြေခံ ကျမ်းဂန်များနှင့်တကွ ပိဋကတ်ကျမ်းဂန် အရပ်ရပ်ကို သင်ယူတော်မူခဲ့လေသည်။

## စာပေကျမ်းဂန် ချပို့တော်မူခြင်း

စာပေကျမ်းဂန် ကျွမ်းကျင်တတ်မြောက်တော် မူပြီးနောက် များစွာသော စာလိုက်သံဃာတော်တို့အား စာပေချပို့၍ ပရိယတ္တိသာသနာတော် တည်းဟူသော ဌာနပေါင်းကန်သင်းကို ဆည်ဖို့တော်မူခဲ့လေသည်။ ဆရာတော်ကား-

"စာသင်ဆရာတို့၏ အင်္ဂါသည်၊ သဒ္ဒါအဘိဓာန်၊ ကျမ်းဂန်သိလှ၊ မုချဥပစာ၊ သေချာမိပ္ပာယ်၊ လေးဆယ်နယ၊ သို့ချသို့ဝင်၊ သို့သင်သို့ပစ်၊ အရစ်အပင့်၊ အဆင့်အသတ်၊ အမှတ်သညာ၊ လာသည်ပါဠိ၊ သိသည်အနက်၊ အကွက်အသန်၊ အမှန်သဘော၊ ချောမောအာဂုံ၊ အင်ပြည့်စုံမှ၊ များလှသောင်းသောင်း၊ တပည့်ပေါင်းတို့၊ ညွှတ်ပြောင်းကြည်လင်၊ ချစ်ခင်ရိုသေကြမြဲ ဖြစ်ချေသည်"

ဟူသည်နှင့်အညီ စာချ ဂဏဝါစက အင်္ဂါလုံလောက်သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း

ဆရာတော် အရှင်ဥက္ကံသမာလာသည် အင်္ဂလိပ်အစိုးရတို့ လှူဒါန်းဆက်ကပ်သည့် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို သဘင်ကြီးစွာခံ၍ အလှူခံရရှိတော်မူသည်။

## ဒက္ခိဏာရာမတိုက် သံဃနာယက ဖြစ်တော်မူခြင်း

သက္ကရာဇ် ၁၃၀၅-ခုနှစ်တွင် သံဃနာယက ဆရာတော်အရှင် ဝိမလဗုဒ္ဓိ ပျံလွန်တော်မူသဖြင့် ဒက္ခိဏာရာမတိုက် သံဃာတော် အရှင်မြတ်အပေါင်း၏ သံဃနာယက ဖြစ်၍ သာသနာရေးကိစ္စအဝဝကို ဆောင်ရွက်တော်မူခဲ့လေသည်။



ကျွဲဘားရုံးတိုက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ
ငြင်းသာဆရာတော် အရှင်ခန္တိမေ

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

သက်တော် ၇၆–နှစ် သိက္ခာတော် ၅၆–ဝါခန့်ရှိရာ သက္ကရာဇ် ၁၃၀၆-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။ သံဃနာယက ဌာနန္တရ၌ တနှစ်နှင့် ခြောက်လခန့် တည်တော်မူသည်။

### သံဝေဂယူရန်

ကွဋာသိနော ကတဟတ္ထာဗိ ဝီရာ၊
ဒူရေပါတီ အက္ခဏဝေဓိနောပိ။
န မစ္စုနော ဝိဇ္ဇိတု မုဿဟန္တိ[၁]၊

ဝီရာ=အလွန်အကဲ ရဲရင့်ကြပေကုန်သော။ ကတဟတ္ထာ=ဆရာလက်ထပ် ကောင်းစွာသင်အပ်ပြီးသော လေးအတတ်ရှိကြကုန်သော။ ဒူရေပါတီ=ဝေးလံပေလှ ရပ်ဒေသ၌ မြားကို ကျစေခြင်းငှာ စွမ်းနိုင်ကုန်သော။ ကွဋာသိနော=လေးသမား လေးပါရဂူ တို့သည်လည်းကောင်း။ အက္ခဏဝေဓိနော=မချွတ်ကေန် မှန်အောင် ပစ်တတ်ကုန်သော။ ကွဋာသိနော=လေးသည် တော်တို့သည်လည်းကောင်း။ မစ္စုနော=သတ္တဝါမှန်သမျှ မကျန်ရအောင် အကုန်သတ်ညှဉ်း သေမင်းကိုကား။ ဝိဇ္ဈိတုံ=မှန်အောင်ပစ်ခြင်းငှာ။ နဥဿဟန္တိ=ပုံသေမုချ မစွမ်းနိုင်ကြကုန်။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် သတ္တမမြောက် သံဃမဟာနာယက အဂ္ဂမဟာပဏ္ဍိတ ပင်းသာဆရာတော် အရှင်ခန္တိဓမ္မ

ဆရာတော် အရှင်ခန္တိဓမ္မသည် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ တံဆိပ်တော်ရ အရှင်ဥက္ကံသမာလာ (ဦးငြိမ်း) ပျံလွန်တော်မူပြီးနောက် ဒက္ခိဏာရာမတိုက်ကြီး၏ အာရာမာဓိပတိ သံဃနာယက ဖြစ်တော်မူသည်။

---

၁။ ဇာ၊ ဋ္ဌ။ ၃၅၄။ အယောဃရဇာတ်

ရန်အောင်မြို့တွင် အဖ ဦးရွှေအောင်–အမိ ဒေါ်မေတို့မှ သက္ကရာဇ် ၁၂၃၂ နှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ခင် (မောင်ဖိုးခင်) ဖြစ်လေသည်။အရွယ်ရောက်သော်ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ တနင်းလာနေ့သား ဖြစ်သည့်အလျောက် နေ့သင့်နံသင့် ဘွဲ့တော် အရှင်ခန္တိဓမ္မဖြစ်လေသည်။

### ဒက္ခိဏာရာမတိုက်ရောက် ပညာသင်

ပုဗ္ဗေကတပုည ထောက်ပင့်သဖြင့် ငယ်စဉ်ကပင် ဒက္ခိဏာရာမ ဘုရားကြီး တိုက်သို့ ရောက်ရှိတော်မူ၍ ဒက္ခိဏာရာမ သံဃနာယက ဆရာတော်ဘုရားကြီး အရှင်အာစာရမဟာထေရ်၊ ဆရာတော် ဦးရန်ကုဒ် အစရှိသော ကျမ်းဂန်တတ် အကျော်ဆရာတော်များအထံတွင် ပိဋကတ်အခြေပြုကျမ်းဂန်များနှင့်ပိဋကပါဠိ တော် အဋ္ဌကထာ အထက်တန်းကျမ်းဂန်ကြီးများနှင့် ညဝါကျမ်းဂန်များကို မဟုသာဘဖွဲ့လုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

### ပင်းသာဆရာတော်ဟု ထင်ရှားခြင်း

ဒက္ခိဏာရာမ ဘုရားကြီးတိုက် အပြင်ထပ် သာသနဇောတိကာရုံ အုတ်ကျောင်း အနောက်ဘက်၌ ကပ်လျက် ပင်းသာကျောင်း တည်ရှိလေသည်။ ယင်းပင်းသာကျောင်းမှာ မန္တလေးတောင်အနီးမှ ရွှေ့ပြောင်းလာသော ကျောင်းဖြစ်လေသည်။ မန္တလေးတောင်အနီး အနောက်ဘက်ရှိ မြေနေရာကို မြင်းပြိုင်ကွင်း ပြုလုပ်လိုကြသော အင်္ဂလိပ်အစိုးရမင်းကိုသည် ထိုနေရာရှိ ကျောင်းများကို အရွှေ့ခိုင်းလေသည်။

ယင်းသို့ အရွှေ့ခိုင်းရာတွင် သက်ဆိုင်ရာ ကျောင်းဘုန်းကြီးများ နှစ်သက်သော မြေနေရာကို အစားပေးလေရာ ပင်းသာကျောင်းဆရာတော် ဦးတေဇော မန္တလေးမြို့တောင်ပြင် သိမ်နီကြီး သို့မဟုတ် အာနန္ဒာဘုရားကြီး အရှေ့တောင် ဘက် ယခု ပင်းသာကျောင်းနေရာကို အလိုရှိကြောင်း မိန့်ကြားသဖြင့် ထိုနေ ရာကို ရလိုက်ခြင်း ဖြစ်သည်။ပင်းသာမင်းသား၏ အိမ်တော်ကိုဖျက်၍ ဆောက် လုပ်ထားသော ကျောင်းဖြစ်သဖြင့် ရှေးအိမ်၊ ရှေးကျောင်းများထုံးစံအတိုင်း အောက်ထပ်၌ လူတရပ်မလွှတ်တလွတ် အနိမ့်ရှိလေသည်။ အရှင်ခန္တီဓမ္မသည် ဖော်ပြပါ ပင်းသာကျောင်းဆရာတော် ဦးတေဇ ပျံလွန်တော်မူသဖြင့် ပင်းသာ ကျောင်းထိုင်ဆရာတော် ဖြစ်တော်မူသည်။

## စာချကျော်စောခြင်း

ဆရာတော် အရှင်ခန္တီမွေသည် သဒ္ဒါ၊ သင်္ဂဟ၊ ဋီကာကျော်၊ ရူပသိဒ္ဓိ၊ နျာသ-စသည့်ကျမ်းမျိုးစုံကို ချပို့ရာ စာဝါလည်းမှန် စာပြော လည်း ကောင်းသဖြင့် စာလိုက်သံဃာများစွာတို့ ဆရာတော်ထံ စာပေလိုက်နာသင်ယူကြကုန်၏။ စာချအကျော်အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒမဟာထေရ်၊အဂ္ဂမဟာပဏ္ဍိတ ဦးကြယ်စသူတို့သည် ဖော်ပြပါ အရှင်ခန္တီမွေ၏ တပည့်တို့ ဖြစ်ကုန်၏။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် အလှူခံရရှိတော်မူခြင်း

ဆရာတော်သည် စာပေကျမ်းဂန်ချပို့ခြင်း၊ သီလ၊ သမာဓိ၊ပညာဂုဏ်တို့နှင့် ပြည့်စုံတော်မူခြင်း စသည့်ဂုဏ်တို့ကြောင့် အင်္ဂလိပ်အစိုးရတို့ ဆက်ကပ်လှူဒါန်းသည့် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူခဲ့လေသည်။

## ဒက္ခိဏာရာမတိုက် သံဃမဟာနာယကဖြစ်တော်မူခြင်း

သက္ကရာဇ် ၁၃၀၆-ခုနှစ်တွင် ဒက္ခိဏာရာမ သံဃမဟာနာယက အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်ဥက္ကံသမာလာ (ဦးငြိမ်း) ဘဝနတ်ထံ ပျံလွန်တော်မူသဖြင့် ဒက္ခိဏာရာမ သံဃာ့အရှိန် ဗိမာန်တော်ကြီး၏ တိုက်အုပ်သံဃမဟာနာယကဖြစ်တော်မူသည်။ဆရာတော်သည်သံဃမဟာနာယကအရာ၌ တည်တော်မူ၍—

ခမာ ဇာဂရိယုဋ္ဌာနံ၊ သံဝိဘာဂေါ ဒယိက္ခဏာ။
ဆဟိ ဂုဏေဟိ သမ္ပန္နော၊ နာယကော ဟောတိ ပဏ္ဍိတော။

ဟူသည်နှင့်အညီ ခမာ၊ဇာဂရိယ-စသည် ပေါင်းစုံ ခြောက်ပါးသော နာယကဂုဏ်နှင့် ကုံလုံလောက်ပြည့်စုံစွာ တာဝန်အရပ်ရပ်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

## အခြားတာဝန်များ

ဆရာတော်သည် အစိုးရပဋ္ဌမပြန်ပါဠိပညာရေးအဖွဲ့၏ နာယကဆရာတော်အဖြစ်ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။ ၎င်းပြင် ထိုစဉ်က ရှိခဲ့သော မြန်မာနိုင်ငံတော် ဂိုဏ်းပေါင်းစုံ မဟာသံဃအဖွဲ့ကြီး၏ နာယကဆရာတော်တာဝန်ကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။ ၁၃၀၈-ခုနှစ် နယုန်လဆန်း

၁-ရက်နေ့မှ ၄-ရက်အထိ လေးရက်တိုင်တိုင် ရန်ကုန်မြို့ ခြောက်ထပ်ကြီးဘုရားကြီးတိုက်၌ ကျင်းပပြုလုပ်အပ်သော ဂိုဏ်းပေါင်းစုံမဟာသံဃာ့အစည်းအဝေးကြီးသို့လည်း ကြွရောက်တော်မူ၍ အစည်းအဝေးတွင် ဩဝါဒကထာကိုရတနာပုံဦးဇာဂရအား ဖတ်ကြားစေတော်မူခဲ့လေသည်။

ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ ''သာသနာရေး ကိုယ့်အရေး''ဟုအားပေးစောင့်ရှောက်တော်မူခဲ့သော ဒက္ခိဏာရာမဘုရားကြီးတိုက်၏ သတ္တမမြောက် သံဃမဟာနာယက ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတဘွဲ့ဘံဆိပ်တော်ရ ပင်းသာဆရာတော် အရှင်ခန္တီမှသည် သက်တော် ၇၇-နှစ် သိက္ခာတော် ၅၇-ဝါခန့် ရရှိရာ ၁၃၀၉-ခုနှစ် သီတင်းကျွတ်လပြည့်နေ့ ည ၇-နာရီအချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

သရာနိ ခီယန္တိ သဓသလကာနနာ။
သဗ္ဗံ ဟိဒံ ခီယတိ ဒီဃမန္တရံ။
သဗ္ဗံ ဟိဒံ ဘဥ္စရေ ကာလပရိယာယံ[၁]။

သရာနိ=အနဝတ်ရေအိုင် စသည်သီးသီး အိုင်ကြီးတို့သည်။ ခီယန္တိ=တနေ့နေ့ကျမုချပုံသေခန်းခြောက်ရကုန်၏။သဓသလကာနနာ=တောင်ငယ်တောင်ကြီး တောသယ်တောကြီးနှင့်တကွ ဖြစ်သော မဟာပထဝီမြေကြီးသည်လည်း။ ခီယတိ=တနေ့နေ့ကျ ကုန်ဆုံးပျက်စီးရ၏။ သဗ္ဗံ=ကြွင်းမဲ့ဥဿုံ အလုံးစုံသော။ ဣဒံ=ဤပြုပြင်အပ်သမျှ သခ်ါရသည်။ ဒီဃမန္တရံ=ရှည်ကြာမြင့်လှ အခါသမယသို့။ပတ္ဂာ=ရောက်၍။ခီယတိ=ပျက်ဝီးကုန်ခန်း၏။ သဗ္ဗံ=ကြွင်းမဲ့ဥဿုံ အလုံးစုံသော။ဣဒံ=ဤပြုပြင်အပ်သမျှ သခ်ါရသည်။ ကာလပရိယာယံ=ပျက်စီးဖို့ရာ ချိန်ခါသမယအလှည့်သို့။ ပတ္တာ=ရောက်သည်ရှိသော်။ ဘဥ္စရေ=မုချဆတ်ဆတ်ပျက်စီးတတ်သည်သာ။

---

၁။ ဇာ၊ ၁၊ ၃၅၄ (အခေယျာဿရဇာတ်)။



ဒက္ခိဏာရာမတိုက် သံဃနာယက အရှင်ပဏ္ဍိတာဘိဝံသ

## ဒက္ခိဏာရာမဘုရားကြီးတိုက် အင္ဂမမြောက် သံဃမဟာနာယက ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသ

အရှင်ပဏ္ဍိတာဘိဝံသသည် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ သံဃနာယက ပင်းသာဆရာတော် ပျံလွန်တော်မူပြီးနောက် ဒက္ခိဏာရာမ သံဃာ့အရံဗိမာန်တော်ကြီး၏ သံဃနာယက ဖြစ်တော်မူသည်။

ဆရာတော်သည် ယင်းတောမြို့နယ် ဝါစုကျည်ရွာ၌ အဖ ဦးပိုက်- အမိ ဒေါ်ဥတို့မှ သက္ကရာဇ် ၁၂၃၉-ခုနှစ် ကဆုန်လဆန်း ၈-ရက် ကြာသပတေး နေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ပန်းမွှေးဖြစ်သည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့သည်။ ဘွဲ့တော် အရှင်ပဏ္ဍိတဖြစ်သည်။ ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်၍ ပညာသင်ကြားတော် မူခဲ့လေသည်။ ထေရမြောက်ပြီးသောအခါ သီတင်းသုံးရာ လယ်ပေါ်ကျောင်းကို စွဲ၍ လယ်ပေါ်ဆရာတော်ဟု ထင်ရှား တော်မူသည်။ ဆရာတော်သည် ဝိနယဂရုက၊ သိက္ခာကာမ၊ ပရိယတ္တိမာမက စသောဂုဏ်တို့နှင့်လည်း ပြည့်စုံတော်မူသည်။

### သံဃနာယက တိုက်အုပ်ဖြစ်ခြင်း

သက်တော် ၇၀-သိက္ခာတော် ၅၁-ခန့်ရရှိရာ ၁၃၀၉-နှစ်တွင် ဒက္ခိဏာ ရာမ ဝိဇ္ဇာယတနကြီး၏ အင္ဂမမြောက် သံဃနာယကတိုက်အုပ်ဖြစ်၍ သာသနာ အကျိုးကို သယ်ပိုးထမ်းဆောင်တော်မူခဲ့လေသည်။

### ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသံဃနာယက တိုက်အုပ်ဖြစ်၍ သာသနာအကျိုး သယ်ပိုးထမ်းဆောင် စဉ် သက်တော် ၈၅-နှစ် ဝါတော် ၆၆-ဝါခန့်ရရှိရာ ၁၃၂၄-ခုနှစ်တွင် ဘဝ နတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

### သံဝေဂယူရန်

သဗ္ဗေသမေဝံ ဟိ နရနာရီနံ၊
စလာစလံ ပါဏဘုနောဓ ဇီဝိတံ။
ပဋောဝ မုတ္တသ္သ ဒုမောဝ ကူလဇော။

## ဒက္ခိဏာရာမဘုရားကြီးတိုက် အဋ္ဌမမြောက် သံဃမဟာနာယက ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသ

အရှင်ပဏ္ဍိတာဘိဝံသသည် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ သံဃနာယက ပင်းသာဆရာတော် ပျံလွန်တော်မူပြီးနောက် ဒက္ခိဏာရာမ သံဃာ့အရံဗိမာန်တော်ကြီး၏ သံဃနာယက ဖြစ်တော်မူသည်။

ဆရာတော်သည် ယင်းတောမြို့နယ် ဝါစုကျည်ရွာ၌ အဖ ဦးပိုက်- အမိ ဒေါ်ဥတို့မှ သက္ကရာဇ် ၁၂၃၉-ခုနှစ် ကဆုန်လဆန်း ၈-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ပန်းမွှေးဖြစ်သည်။

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် အရှင်ပဏ္ဍိတဖြစ်သည်။ ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်၍ ပညာသင်ကြားတော် မူခဲ့လေသည်။ ထေရမြောက်ပြီးသောအခါ သီတင်းသုံးရာ လယ်ပေါ်ကျောင်းကို စွဲ၍ လယ်ပေါ်ဆရာတော်ဟု ထင်ရှားတော်မူသည်။ ဆရာတော်သည် ဝိနယဂဏ္ဌိ၊ သိက္ခာကာမ၊ ပရိယတ္တိမာမက စသောကျမ်းတို့နှင့်လည်း ပြုစုံတော်မူသည်။

### သံဃနာယက တိုက်အုပ်ဖြစ်ခြင်း

သက်တော် ၇၀-သိက္ခာတော် ၅၁-ခန့်ရှိရှာ ၁၃၀၉-နှစ်တွင် ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီး၏ အဋ္ဌမမြောက် သံဃနာယကတိုက်အုပ်ဖြစ်၍ သာသနာအကျိုးကို သယ်ပိုးထမ်းဆောင်တော်မူခဲ့လေသည်။

### ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသံဃနာယက တိုက်အုပ်ဖြစ်၍ သာသနာအကျိုး သယ်ပိုးထမ်းဆောင်စဉ် သက်တော် ၈၅-နှစ် ဝါတော် ၆၆-ဝါခန့်ရှိရှာ ၁၃၂၄-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

### သံဝေဂယူရန်

သဗ္ဗေသမေဝံ ဟိ နရနာရီနံ၊
စလာစလံ ပါဏဘုနောဓ ဇီဝိတံ။
ပဋေဝ ဝုတ္တဿ ဒုမေဝ ကူလဇော။

ဣခ=လှုပ်လှုပ်ရွရွ သက်ရှင်ကြသား ဤဇီဝလောက၌။ ပါဏဘူနေသ–ပါဏဘူတာနံ=သတ္တဝါဖြစ်၍ ဖြစ်ကုန်သော။ နရနာရီနံ–ယောကျ်ား မိန်းမတို့၏။ ဇီဝိတံ=အသက်ခေါ်ကြ ဇီဝိတသည်။ စလာ စလံ=အရှည်အစွဲ အမြဲမဟုတ် တုန်လှုပ်သည်သာ။ ဓုတ္တဿ=သေရည်သေရက် ရက်ဆက်နေ့စဉ် လွှံလျှင်သောက်မူး သေသောက်ကြူး၏။ ပဋ္ဌော=ခါးဝတ်ပုဆိုးသည်။ စလော ကြွဝ=တည်ငြိမ်မနေ တုန်လှုပ်လေသကဲ့သို့လည်းကောင်း။ ကူလဇော=မြစ်ကမ်းအနီး ပေါက်ရောက်စည်ကားသော။ ဒုမော=သစ်ပင်သည်။ စလောဣဝ=ငြိမ်သက်မနေ တုန်လှုပ်လေသကဲ့သို့လည်းကောင်း။ ဧဝံ=ဤအတူ။ သတ္တာနံ=သံသရာ့ဇာတ် ကြုံလာဖြစ်လာ သတ္တဝါတို့၏။ ဇီဝိတံ=အသက်သည်။ ဝါ= အသက်သမုဘ် နာမ်နှင့်ရုပ်သည်။ စလံ=အချိန်သမယ ကာလကြာရှည် မတည်မနေ တုန်လှုပ်လေ၏။

သံဃာတော် ၁၀၀၀၀-ကျော်ဖြင့် ဈာပနပွဲကျင်းပပူဇော်

ကြွင်းကျန်ရစ်သော ဆရာတော်အရှင်ပဏ္ဍိတာဘိဝံသ၏ ဥတုဇရုပ်ကလာပ်ကို ၁၃၂၅-ခုနှစ် နတ်တော်လတွင် ပြာသာဒ်၊ ရထား၊ တလား၊ လောင်တိုက်တို့ဖြင့် သိုက်မြိုက်စွာ ဆင်ယင်ကျင်းပ ပူဇော်ကြပြီးလျှင် ရဟန်းသံဃာတော် ၁၀၀၀၀-ကျော်တို့ဖြင့် ဝိုင်းအုံချီကြ ပူဇော်ကြ၍ မီးသင်္ဂြိုဟ်ခြင်းပြု၍ ဈာပနကိစ္စကို ပြီးဆုံးစေခဲ့ကြကုန်၏။

ဘဒန္တပဏ္ဍိတော ထေရော၊ အဋ္ဌမော သံဃနာယကော။
ဒက္ခိဏာရာမအာလယေ၊ ယတိဂဏနိသေဝိတေ။



ဒက္ခိဏာရာမတိုက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ
ဆရာတော် အရှင်ဣန္ဒာသဘ

## ဒက္ခိဏာရာမဘုရားကြီးတိုက် နဝမမြောက် သံဃာ့နာယက

## အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီ ဆရာတော် အရှင်ဣန္ဒာသဘ

ဟံသာဝတီဆရာတော်ဟု ထင်ရှားသော ဆရာတော်အရှင်ဣန္ဒာသဘသည် ဒက္ခိဏာရာမ ဝိဇ္ဇာလယဘုန်ကြီး၏ နဝမမြောက် နာယကဖြစ်တော်မူ၍ သာသနာ တော်ဟိတ အဝဝတို့ကို ထူးချွန်ပြောင်မြောက်စွာ ဆော င်ရွက်နိုင် ... ပ ဟာ ထေရ်မြတ် ဖြစ်တော်မူသည်။

### ဆရာတော်နှင့် ရင်းနှီးခွင့်ရခြင်း

ဤစာပြုသူသည် ယခုဖော်ပြမည့် အတ္တုပ္ပတ္တိသခင် ဟံသာဝတီဆရာတော် ဘုရားကြီး အရှင်ဣန္ဒာသဘ မဟာထေရ်နှင့် ရင်းနှီးခွင့်ကို ရခဲ့ပါသည်။ ဤစာ ပြုသူ ငယ်စဉ်က ဒက္ခိဏာရာမတိုက် အမရပူရကျောင်း၌ နှစ်နှစ်ကျော်နေထိုင်၍ ပညာသင်ခဲ့ရာ ညနေတိုင်း ဟံသာဝတီကျောင်းသို့ သွားရောက်၍ အဘိဓမ္မာ ညဝါများ ရွတ်ရလေရာ ဆရာတော်၏ ရုပ်သွင်ပုံသဏ္ဍာန်ကို တွေ့မြင်နေကျ ဖြစ်ခဲ့၏။

ဆရာတော် ယိုးဒယားနိုင်ငံသို့ သာသနာရေးကိစ္စနှင့် ကြွစဉ်ကလည်း ဤစာ ပြုသူလည်း ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် အဘိဓဇ မဟာရဋ္ဌဂုရု၊ အဂ္ဂ မဟာပဏ္ဍိတ ဆရာတော်ဘုရားကြီး အရှင်သုန္ဒရမဟာထေရ်၏ ပစ္ဆာသမဏ အဖြစ် လိုက်ပါခဲ့ရသဖြင့် ဆရာတော်နှင့် ပိုမို ရင်းနှီးခွင့် ရခဲ့ပါသည်။ နောင် အခွင့်အခါသင့်တိုင်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိလေရာ ဆရာ တော်နှင့် ရံခါတွေ့ရပါသည်။ သို့ဖြစ်၍ ဆရာတော်နှင့် အလွန်လျှင် ရင်းနှီး ပါသည်။ ဆရာတော်ကား ဖော်ရွေသည်။ လူငယ်များအပေါ် ချစ်ခင်တတ် သည်၊ မိမိဘုရားကြီးတိုက် အလည်အပတ်ရောက်၍ ဆရာတော်ထံမှောက် ရောက်၍ ဂုဏ်ပြုသွားလျှင် ဆရာတော်က "မောင်ဇောလာ-ငါ့ဆီမှာ ဆွမ်းစား ရမယ်" စသည်ဖြင့် မိန့်ကြားတော်မူလေ့ရှိပါသည်။

သို့ဖြစ်၍ ဆရာတော်၏ ရုပ်ပုံလက္ခဏာမှစ၍ လုပ်ဆောင်ချက်တို့ကိုပါ အကျဉ်းချုပ်၍ ဤမန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲ၌ မှတ်တမ်းတင် အပ်ပါသည်။

ရုပ်ပုံသဏ္ဍာန်

သာမုဒ္ဒိက လက္ခဏာကျမ်း၌—

၁။ အရှည်အင်္ဂါ ၅-ပါး၊
၂။ အတိုအင်္ဂါ ၄-ပါး၊
၃။ နူးညံ့သိမ်မွေ့အင်္ဂါ ၅-ပါး၊
၄။ အမြင့်အင်္ဂါ ၆-ပါး၊
၅။ အနီအင်္ဂါ ၇-ပါး၊
၆။ အနက်အင်္ဂါ ၃-ပါး၊
၇။ ကျယ်ပြန့်အင်္ဂါ ၃-ပါး—

အားဖြင့် ချီးမွမ်းထိုက်သူ၊ ထူးချွန်မည့်သူ၊ အထက်တန်းကျမည့်သူ၊ အကြီးအကဲဖြစ်သူတို့၏ အင်္ဂါလက္ခဏာများ လာရှိလေသည်။

သာမုဒ္ဒိက လက္ခဏာ လင်္ကာကျမ်း၌လည်း—

"အရှည်ငါးပါး၊ ပိုင်းခြားပြဆို၊ အတိုကားလေး၊ အသေးစတု၊ သိမ္မမှတ်ချင့်၊ အမြင့်ခြောက်လီ၊ အနီခုနစ်၊ ကွက်စစ်သီးသန့်၊ ကြီးပြန့်သုံးထွေ၊ နက်စေသုံးဖြာ"

ဟူ၍ အထက်ပါရုပ်ပြ ကျမ်းရင်းဂါထာအတိုင်း အကျဉ်း ဥဒ္ဒေသမာတိကာ ၇-ချက် လာရှိလေသည်။

ယင်း ဥဒ္ဒေသမာတိကာ ၇-ချက်၏ အကျယ်နိဒ္ဒေသကိုလည်း—

"ရှည်ရှာတွက်ကျူး၊ မောင်းလက်ရိုးနှင့်၊ မျက်လုံးလျှာရှည်၊ တမည်မေးညောင်း၊ နှာခေါင်းနှာတံ၊ နက်စံဆုံးဖြတ်၊ သားမြတ်အကြား၊ မှတ်သားသိလို၊ အတိုလေးမည်၊ လည်နိမိတ်နှုန်း၊ ကျောက်ကုန်းမြင်းခေါင်း၊ သေးသွယ်လျှောင်းသား၊ ခြေချောင်းလက်တံ၊ ဆံအရိုးသွား၊ အမြင့်အားမူ၊ နံပါးဝမ်းရင်၊ အပြင်ကုန်အောင်၊ နှာရောင်မြင့်ပြူး၊ ပခုံးနဖူး၊ အထူးသီးခြား၊ အနီပြားကား၊ ဖဝါးလက်ခြေ၊ နီတွေချင်းချင်း၊ မျက်ကွင်းအစုံ၊ ပေါက်ငုံပွင့်နည်း၊ ခြေလက်သည်းနှင့်၊ လျှာလည်းဂုင်း၊ နီမောင်းစက်စက်၊ အောက်ထက်နှုတ်ခမ်း၊ ကျူးအာရွမ်းသို့၊ နှိုင်းတမ်းထုံးတီး၊ ကြီးစေတင့်ခေါင်၊ ပေါင်ဥကွောင်း

ဦး၊ နဖူးကြီးပြက်၊ အနက်သုံးမည်၊ အတည်အစံ၊ အသံအသွား၊ အသားရျက်မှာ၊ နက်စေမှုသည်၊ ကောင်းစွာအတု လွတ်ကြူး တည်း''

ဟူ၍ သာမုဒြိကလက္ခဏာကျမ်း၌ပင် ဆက်လက်၍ ဖော်ပြထားလေသည်။ ဒက္ခိဏာရာမ မဟာဝိဇ္ဇာလယတန်ကြီး၏ နဝမမြောက် သံဃနာယကဖြစ်သော မူသော အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော် အရှင်ကုန္ဒ ယသ မဟာ ထေရ်သည် ဖော်ပြပါလက္ခဏာများနှင့် ပြည့်စုံသည်သာဖြစ်၏။

## အရုပ်အမောင်းတော်

ဆရာတော်၏ ခန္ဓာကိုယ် ရူပကာယ အတ္တဘောဟည့်ဆောက်ပုံသည်လည်း အလွန်ကောင်း၏၊ အရပ်တော်သည်း မြင့်မား၏၊ အရပ်တော်မြင့်မားသည်နှင့် အမျှ အလုံးလည်းထွက်၏။ ပိန်ပိန်သေးသေး မဟုတ်ပါချေ။ ဖူးမြင်ရလိုက် လျှင် ဖူးမြင်ရသူတို့၏ဘဂင်ကို ရွှင်ပြစေသည်။ ခြေတံလက်တံလည်း ရှည်၏၊ ဖနောင့်များလည်း ရှည်၏။ ယင်းသို့ ကိုယ်နေကိုယ်ဟန် မြင့်ရှည်ခြင်း၊ ဖနောင့်ရှည်ခြင်း၊ လက်တံခြေတံရှည်ခြင်းတို့ကြောင့် သက်တော် ၈၅-နှစ်တိုင် အသက်ရှည်ခြင်းဖြစ်လေသည်။

''ဖနောင့် လက်ခြေ၊ ရှည်ဘုံပေ၊ ကိုယ်နေမှတ်ရပ်စွာ၊
အသက်ရှည်ဖို့၊ အင်္ဂါတို့၊ မချွတ်သိအပ်စွာ[၁]။''

## အရေအဆင်း ရွှေနှယ်ဝင်း

ဆရာတော်၏ အသားအရေများမှာလည်း ဝါဝင်းထိန်ပြေ ရွှေအဆင်း ကဲ့သို့ဖြစ်၏။ အရေအဆင်း ဝင်းဝါထိန်ပြေသည့် လက္ခဏာတော် ဆရာတော် ပိုင်ဆိုင်ရသည့်အတွက် အဝတ်သင်္ကန်း အထည်အခင်း အသုံးအဆောင် စသည် မကုန်အောင် ပေါများခြင်းဖြစ်သည်၊ မကြာမကြာတိုက်ဟာတွင် ဂဏ္ဍဝါစက၊ စာချဆရာတော်များ၊ တပည့်အပန်းခြွေ့ရံပရိသတ်တို့ကို လှူဒါန်း၍ မကုန်နိုင် အောင် ပေါများလေသည်။

''အရေအဆင်း၊ ရွှေနှယ်ဝင်း၊ အခင်းအရံသာ[၂]။''

---

၁။ လယ်တီဆရာတော်၏ လက္ခဏာတော်ကြီး ဘုရားရှိခိုး။
၂။ ဗုဒ္ဓဝံသမဟာ ပုရိသလက္ခဏာ ဒီပနီ။

## အသားအရေနူးညံ့ခြင်း

ဆရာတော်၏ အသားအရေများမှာလည်း အလွန်နူးညံ့၏၊ ဤစာပြုသူ ဆရာတော်အား ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့ ဝပ်မဟာဓာတုကျောင်းတိုက် ခေတ္တရောက်စဉ်က ဝတ်ပြုဘူး၍ ဆရာတော်၏ အသားအရေ နူးညံ့ပုံကို သတိပြုမိပါသည်။ သို့ဖြစ်၍ ဆရာတော် ဉာဏ်ထက်မြက်ခြင်းဖြစ်သည်။ အလွန် အမင်း ပင်ပန်းကြီးစွာ မကြိုးစားပဲ စာပေကျမ်းဂန် တတ်မြောက်ခြင်း ဖြစ်လေသည်။

"ပညာလို၍၊ မေးမြန်းလေ့ကြောင့်၊ သိမ်မွေ့ကိုယ်ရေ၊ ဉာဏ်မိုးစွ၏ [၁]။"

## အသံတော်ကြည်လင်၍ မြည်ဟိန်းသာယာခြင်း

ဆရာတော်၏ အသံသည်လည်း အလွန်လျှင် ကြည်လင်ပြတ်သားသည်၊ ကြားသူတို့၏နားသောတပသာဒ၏ ရသာယာတန ဆေးသဖွယ်ဖြစ်လေ၏။ ဆရာတော်၏အသံ ကြားမိလျှင် လူငါးဦးလေးဦး ကြည်ညိုကြသည်။ ဆရာတော် သံဃပရိသတ် လူပရိသတ်တို့အား ဩဝါဒပေးလျှင် သဘောကျကျေနပ်ကြသူ သာများသည်။

"သတ္တဝါလုံးစုံ၊ သုံးပုံပုံ၊ နှစ်ပုံအဆင်းမှာ။
သတ္တဝါလုံးစုံ၊ ငါးပုံပုံ၊ လေးပုံအသံမှာ။
သတ္တဝါလုံးစုံ၊ ဆယ်ပုံပုံ၊ ကိုးပုံအကျင့်မှာ။
သတ္တဝါလုံးစုံ၊ တသိန်းပုံ၊ တပုံတရားမှာ။"

ဟူသည်နှင့်အညီ အဆင်းလှ ရုပ်ချောသူမှာ ပုဂ္ဂိုလ်သတ္တဝါ သုံးပုံလျှင် နှစ်ပုံက ကြည်ညို၏။ ငါးပုံလျှင် လေးပုံက အသံကိုအကြောင်းပြု၍ ကြည်ညိုကြသည်။ ဆရာတော်၏ ရုပ်ရည် ရူပကာယကလည်း လွန်စွာသန့်စင် အသံကလည်း လွန်စွာ ကြည်လင်လေရာ အများ၏ အကြည်ညိုခံ သံဃနာယကအရာအား လွန်စွာမှ ထိုက်တန်လှပေသည်။

ဤသည်လျှင် ဆရာတော်၏ ရူပနိကာယ်၊ သဒ္ဒနိကာယ်နှင့်စပ်၍ သာမန်ဖော် ပြချက်ဖြစ်သည်။

---

၁။ ဒွတ္တိံသ မဟာပုရိသလက္ခဏာ ဒီပနီ။

## ဇာတိချက်ကြွေမွေးရပ်မြေ

ရန်ကုန်မြို့ ရွှေဘိုဂုံစေတီမြတ်ကြီး၏ အရှေ့မြောက်ယွန်းအစွန်း သုံးဂါဝုတ်နှင့် တယူဇနာ အတိုင်းအရှည်ရှိသော အသိတဥ္စမည်သော ပဲခူးမြစ်၏ အရှေ့ဘက်ကမ်း ခပ်လှမ်းလှမ်းအနုပ်တွင် တည်ရှိသော ရွှေပေါက်ပင်ရွာ၌ ဘုရားဒါယကာကြီး ဦးမြတ်သာ-ဘုရားအမ ဒေါ်ရွှေမှိန်တို့မှ သက္ကရာဇ် ၁၂၄၉-ခုနှစ် တပေါင်းလဆန်း ၁၄-ရက် သောကြာနေ့နံနက် ၉-နာရီအချိန်တွင် ဖွားမြင်တော်မူခဲ့လေသည်။

ဦးမြတ်သာ ဒေါ်ရွှေမှိန်တို့မှ သားသမီး ၉-ယောက်ဖွားမြင်ခဲ့သည်။ ၎င်းတို့မှာ—

(၁) မလှမယ်၊ (၂) မလှဘူး၊
(၃) မလှသူ၊ (၄) ကိုစံညွန့်၊
(၅) ကိုအောင်သူ၊ (၆) ကိုအောင်မြ၊
(၇) ကိုရွှေဝင်း၊ (၈) မပြုံးထွေး၊
(၉) ကိုရွှေသင်းတို့ ဖြစ်ကုန်၏။

ယင်းကိုးယောက်အနက် ဆရာတော်ကား ခြောက်ယောက်မြောက် ကိုအောင်မြ ဖြစ်ခဲ့လေသည်။

## ပညာသင်ကြားတော်မူခြင်း

ခြောက်နှစ်သားအရွယ်တွင် ရွှေပေါက်ပင် ရွာဦးကျောင်းဆရာတော် ဦးကလျာဏအမည်တွင်သော အရှင်နန္ဒမာလာထံ မိဘတို့က အပ်နှံသဖြင့် စာသင်ရောက်ရှိပညာသင်ကြားတော်မူခဲ့လေသည်။ ဆရာတော် ဦးကလျာဏမည်သော အရှင်နန္ဒမာလာမဟာထေရ်က မောင်အောင်မြကို မောင်အောင်ရဟု ပြောင်းမှည့်ခေါ်တော်မူသည်။ ဆရာတော်လောင်းလျာသည် ဆရာတော် ဦးကလျာဏမည်သော အရှင်နန္ဒမာလာထံတွင်—

"နမောဗုဒ္ဓါယသိဒ္ဓံ" အစချီ၍ က၊ မ၊ ချ၊ ယပင်း ကကြီးကခမြန်မာဘာသာ သဒ္ဒါ ဂဏန်း ဗိုလ်လက်ဒကျမ်းများ၊ ဘာသာရေး ယဉ်ကျေးမှု ဂျပ်ပုံဖွဲ့ စာပေများဖြစ်သော မင်္ဂလသုတ်၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ ရတနာရွှေချိုင့်၊ နမက္ကာရ၊ ပရိတ်ကြီး၊ လောကနီတိ၊ ရာဇနီတိ၊ ဇာတ်ကြီးဆယ်ဆောင်တို့ကို သက်တော် ၁၂-နှစ်အတွင်းတွင် ပြီးဆုံးအောင် သင်ယူတော်မူခဲ့သည်။

## ရှင်သာမဏေဝတ်ခြင်း

သက်တော် ၁၂-နှစ်အရွယ်တွင် မိဘနှစ်ပါးတို့ကို အဦးထား၍ ဘဒ္ဒေ တော် ဦးသာဒွန်းအေး ဇနီး ဒေါ်မိန်းကလေးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ဦးကလျာဏီအမည်တွင်သော အရှင်နန္ဒမာလာ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော် "ရှင်ဣန္ဒာဘ" ဖြစ်သည်။ ဝါဝင်းထိန်ပြေ ကျက်သရေရှိနေသည့် ခန္ဓာကိုယ်ကို အလွန်လျှင် ကျက်သရေရှိသော အရဟဒ္ဓဇသင်္ကန်းဖြင့် ဖုံးလွှမ်းဝဝဆင်ထားသည်မှာ အလွန်လျှင် ပဏာရအချိုးကျလှပေသည်။

## ၁၃-နှစ်သားအရွယ်တွင် သဒ္ဒါကြီးသင်ကြားခဲ့

ဆရာတော်လောင်းလျာသည် သာမဏေတဝါရပြီး ၁၃-နှစ်သားအရွယ်တွင် ကစ္စည်း သဒ္ဒါကြီးကို သင်ကြားတော်မူသည်။ ဆရာထံတက်ပြီးသမျှ သဒ္ဒါ ကြီးသုတ်စဉ်၊ ဝိဘတ်သွယ်၊ သဒ္ဒါကြီးပါဠိတို့ကို ကရားရေလွှတ် တတွတ်တွတ် ရအောင် အလေ့အလာ ပြုတော်မူခဲ့လေသည်။ "သဒ္ဒါတတ်တော့ဆော့၊ သင်္ဂြိုဟ်တတ်တော့ပျော့" ဟုသည့် စကားပုံအတိုင်း သင်ပြီးသမျှ သဒ္ဒါအရည် အချင်းဖြင့်ပင် နှုတ်ကစားခဲ့လေသည်။

## ဒက္ခိဏာရာမကိုက်သို့ ရောက်ရှိပညာသင်

ယင်းသို့ သဒ္ဒါကြီးတက်၍ တစိတ်တဝက်ခန့် အပြီးတွင် ကျေးဇူးရှင် ဦးကလျာဏီ အမည်တွင်သော ဆရာတော် အရှင်နန္ဒမာလာ ကိုယ်တိုင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီး၏ စတုတ္ထမြောက် အဓိ ပတိ မဟာနာယက ဖြစ်တော်မူသော အရှင်အာစာရ မဟာထေရ်ထံ လိုက်ပို့ အပ်နှံတော်မူသည်။ ဆရာတော်ဦးရန်ကုန် အထံ၌လည်း မိမိ၏တပည့် သာမ ဏေ ရှင်ဣန္ဒာဘကို ပညာပေး ချီးမြှောက်တော်မူပါဟု လျှောက်ထား အပ်နှံတော် မူခဲ့လေသည်။[၁]

---

၁။ ဆရာတော်ကြီး ဦးကလျာဏီခေါ် အရှင်နန္ဒမာလာကား ၁၂၀၄-ခုဖွား။ ဆရာတော်အရှင်အာစာရ မဟာထေရ်ကား ၁၂၀၅-ခုဖွား၊ ဆရာတော် ဦးရန်ကုန်ကား ၁၂၀၉-ခုဖွားတည်း၊ ၎င်းဆရာတော်ကြီးများ အလွန် ချစ်ကျွမ်းဝင်ကြကုန်၏။

## အရှင်ဝိစိတ္တထံ ပညာသင်ကြားခြင်း

**သာမဏေ** ရှင်ကုလနန္ဒာသဘသည် ဆရာတော်ဘုရားကြီး အရှင်အာစာရ **မဟာထေရ်**၏ အမိန့်အရ ဆရာတော်၏ လက်ထောက်တပည့်ကြီး ဖြစ်သော အရှင်ဝိစိတ္တထံ ပိဋကတ် အခြေခံကျမ်းစာများဖြစ်သော-

သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပုဒ်စစ်၊ သဒ္ဒါစစ်၊ နည်းလေးဆယ်၊ သံဝဏ္ဏနာ၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်းကျမ်းတို့ကို သင်ယူတော်မူခဲ့လေသည်။ ၎င်းပြင် ဒွေမာတိကာနှင့် ကင်္ခါဝိတရဏီ အဋ္ဌကထာ၊ သင်္ဂြိုဟ် ဋီကာကျော်ကျမ်းတို့ကိုလည်း ကျမ်းရိုးအသွားအလာ စုဒ်စောဒနာ၊ အာဘော်၊ ဥပနာ၊ ဝိနိစ္ဆယနှင့်တကွ သင်ယူတော်မူခဲ့လေသည်။ ရဟန်းပြုမည်ဟု ရည်ရွယ်ချင်းရှိသဖြင့် ဝိနည်းပါဠိတော်ကြီး ငါးကျမ်းကိုလည်း သင်ယူတော်မူခဲ့လေသည်။

## ဆရာတော်ဦးရန်ကုန်ထံ သဒ္ဒါကြီးထပ်မံသင်ယူ

သက္ကရာဇ် ၁၂၆၇ - ခုနှစ်တွင် သဒ္ဒါကျမ်းတတ်အကျော် ဆရာတော်ဦးရန်ကုန်ထံတွင် ကစ္စည်းသဒ္ဒါကျမ်းကို အာစရိယ လဒ္ဓေါပဒေသ အာစရိယမုဋ္ဌိရအောင် သင်ယူတော်မူခဲ့လေသည်။ ၁၂၆၈-ခုနှစ်တွင် မန္တလေးမြို့တော်အတွင်း ပလိပ်ကပ်ရောဂါကြီးနှိပ်စက်လေရာ ဓမ္မာစရိယ စာချအကျော်ဆရာတော်ဦးရန်ကုန်သည်လည်း ယင်းပလိပ်ရောဂါ ဖိစီးနှိပ်စက်ခြင်း ခံရလေသည်။ သို့ဖြစ်၍ ရန်ကုန်သို့ ပြန်ကြွတော်မူ၍ ရထားပေါ်တွင် ပျံလွန်တော်မူသဖြင့် အလောင်းတော်ကို ပြည်တန်ဆာမြို့နေ ရဟန်းရှင်လူ တပည့်အပေါင်းတို့က ပင့်ဆောင်ပူဇော်ထားပြီး ၁၂၆၉-ခုနှစ်တွင် အန္တိမဈာပနသဘင်ဆင်ယင်ကျင်းပ သင်္ဂြိုဟ်ကြလေသည်။ ဆရာတော်လောင်းလျာ ရှင်ကုလနန္ဒာသဘမှာ ဆရာတပါးဖြစ်တော်မူသော ဦးရန်ကုန် ပျံလွန်တော်မူသဖြင့် ဝမ်းနည်းခြင်း၊ သံဝေဂရခြင်းတို့ ဖြစ်ကုန်၏။

## ရဟန်းဘဝ ဒုလ္လဘသို့

ရှင်ကုလနန္ဒာသဘသည် သက်တော် ၂၀-ပြည့်မြောက်ရာ သက္ကရာဇ် ၁၂၆၉-ခုနှစ် ကဆုန်လဆန်း ၆-ရက်နေ့တွင် မိဖနှစ်ပါး၊ ဘထွေးများ၏ ပစ္စယာနုဂ္ဂဟဖြင့် ရွှေပေါက်ပင် ဆရာတော်ဘုရားကြီး ဦးကလျာဏမည်တွင် အရှင်နန္ဒမာလာ ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရွှေပေါက်ပင် ရွာဦးကျောင်းခဏ္ဍသိမ်တော်၌ ဥပသမ္ပဒကာတ် မြင့်မြတ်သောရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။

## အရှင်အာစာရဆရာတော်ထံ ဆက်လက်ပညာသင်

ထို့ကြောင့် ရဟန်းဖြစ်သည့်နှစ် ဝါတွင်းသုံးလပတ်လုံး ဥပဇ္ဈာယ်ဆရာတော်ကြီးအား ဝတ်ကြီးဝတ်ငယ် ပြုစုလုပ်ကျွေးယင်း မိမိဇာတိချက်ကြွေ ရွှေပေါက်ပင်ရွာ၌ သီတင်းသုံးတော်မူခဲ့လေသည်၊ ဝါကျွတ်၍ ပဝါရဏာ ပြုပြီးသော အခါတွင် ဆရာတော်ကြီးထံ ခွင့်ပန်၍ မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့ ပြန်ကြွတော်မူခဲ့၍ အာရာမာဓိပတိ ဆရာတော်ဘုရားကြီး အရှင်အာစာရာဘိဝံသ မဟာထေရ်ထံ၌ မောဂ္ဂလ္လာန်ဗျာကရုဏ်းကျမ်းနှင့် အဘိဓမ္မာ အဋ္ဌကထာ ဋီကာကျမ်းကြီးများ၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းညဝါကျမ်းတို့ကို သင်ယူတော်မူခဲ့လေသည်။

## ရဟန်း ၃-ဝါရ စာပေ စတင်ချပို့

ဆရာတော်လောင်းလျာ ရှင်ကုလ္လာသဘသည် နှေဝါညဝါ ကျမ်းဥဿုံ အကုန်အစင် သင်ယူပြီးမြောက်ပြီးဖြစ်ရာ ရဟန်းသိက္ခာ သုံးဝါအရမှစ၍ စာသင်ပျိုနု အခြေပြု ရဟန်းသာမဏေတို့အား ပိဋကတ် အခြေခံ ကျမ်းစာများကို ချပို့သင်ကြားပေးတော် မူခဲ့လေသည်။

## စာဆိုစာလိုက်တို့ များစွာသဘောကျ

စာချဆရာတော်ကလေး အရှင်ကုလ္လာသဘသည် ရုပ်ရည်ရူပကာယလည်း ကြည်လင်၊ အသံကလည်း ပီပြင်မြည်ဟိန်းပြီး နားလည်သဘောပေါက် စာပြောကောင်းသဖြင့် စာဆိုစာလိုက် ရဟန်းသာမဏေတို့ များစွာ သဘောကျကြကုန်၏။

## ဟံသာဝတီဆရာတော်ဟု ထင်ရှားခြင်း

၁၂၇၅-ခုနှစ်တွင် ဟံသာဝတီခရိုင် ခရမ်းမြို့နယ် ရွှေပေါက်ပင်ရွာနေ လောကီဥစ္စာ သဒ္ဓါတရားနှင့် ပြည့်စုံ အဟုန်ကြီးမားသော ဘုရားဒါယကာကြီး ဦးရွှေမှည့်- ဇနီးဒေါ်သောင်တို့သည် မန္တလေးမြို့ ရောက်လာကြ၍ အာရာမာဓိပတိ အရှင်အာစာရာဘိဝံသ ဆရာတော်ဘုရားကြီးထံ လျှောက်ထားပန်ကြားကြပြီးလျှင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်အတွင်း ဘာသာဆောင်ပြာသာဒ်နှင့်တကွ ယွန်းဆောင်လေးဆောင်တွဲ တိုက်ခံကျောင်းကြီးကို ဆောက်လုပ်ကြပြီးလျှင် စာချဆရာတော်ကလေး အရှင်ကုလ္လာသဘ ရဟန်းတော်အား လှူဒါန်းအပ်နှံကြကုန်၏။ ကျောင်းကိုလည်း ''ဟံသာဝတီကျောင်း'' ဟူ၍ ကမ္ပည်း

ဆိုင်းဘုတ် တင်ကြကုန်၏။ ရဟန်းတော် အရှင်ဣန္ဒာသဘသည် ဖော်ပြပါ ဟံသာဝတီကျောင်းပေါ်၌ သီတင်းသုံးတော်မူ၍ များစွာ စာသင်သားတို့အား စာပေချပို့၍ ပရိယတ္တိသာသနာတော်အညွှန်းဟူသော ကန်ပေါင်ကန်သင်းကို ဆည်ဖို့တော်မူခဲ့လေသည်။ ထိုအခါမှစ၍ "ဟံသာဝတီ ဆရာတော်"ဟု ထင်ရှားလာလေသည်။

ဟံသာဝတီ ဝိဟာရေ ယိ၊ ဝသိတွာ ဝါစနံ ကရိ။
ဟံသာဝတီဆရာတော် ဣတိ၊ ဝေါဟာရံ ပါကဋော့ ဘဝိ။

## ပရိယတ္တိသာသနဟိတမူလဓမ္မာစရိယ

အနုသန္ဓေအဆက်အစပ် ဝါကျအသွားအလာ အာဘောဂဋ္ဌပနာစုံလင်စွာ ညွှန်ပြ၍ လိုရင်းအဓိပ္ပာယ် ပေါ်လွင်ထင်ရှားအောင် ပြတ်သားစွာပြောဟော၍ စာပေချနိုင်စွမ်း ရှိသဖြင့် ဟံသာဝတီကျောင်း တကျောင်းလုံးပြည့်မျှ စာလိုက်သံဃာများစွာတို့ ဆရာတော်ထံ စာပေ လိုက်နာသင်ယူကြကုန်၏။ ယင်းဂုဏ်သတင်းကြောင့် ၁၃၁၀-ခုနှစ်တွင် မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်းကြီး၏ "ဘဒ္ဒန္တဣန္ဒာသဘာဘိဝံသ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)"ဟူသော ဘွဲ့တံဆိပ်တော်နှင့်တကွ ဂုဏ်ပြု ဆွမ်းဆန်တော် ဆက်ကပ်လှူဒါန်းခြင်းကိုလည်း ခံယူတော်မူရလေသည်။စာသင်သားတို့၏ နှုတ်ဖျားမှလည်း "အကတွင် လေ(လစ်)ဘာတီ၊ စာချတွင် ဟံသာဝတီ"ဟု ဂုဏ်သတင်း ထွက်ပေါ်လာခဲ့လေသည်။

## ဓဏ္ဍာရာမဘုရားကြီးတိုက် သံဃကတိကဝတ်စည်းမျဉ်း ရေးတော်မူခြင်း

၁၂၇၇-ခုနှစ်တွင် စတုဘူမြောက် အာရာမာဓိပတိသံဃနာယက ဖြစ်တော်မူသော အရှင်အာစာရာဘိဝံသဆရာတော်ဘုရားကြီး ပျံလွန်တော်မူ၍ ဖြင့် ကြွင်းကျန်ရစ်သော ဥတုဇရုပ်ကလာပ်တော်ကို ပန္နလေးမြို့ပေါ် တိုက်တွင်း တိုက်ပြင်ရှိ တပည့်သံဃာတော်များနှင့် အထက်အောက်နိုင်ငံအတွင်း သီတင်းသုံးတော်မူကြသော တပည့်တပန်း ရဟန်းအပေါင်းတို့နှင့်တကွ လူဒါယကာများက လုပ်ထိန်ပြောင် ရွှေရောင်ငွေရောင် ပင်ဝင်းမြောင်နေသော နန်းဆောင်ပြာသာဒ် ညော်ခံမဏ္ဍပ်ပေါင်း ၆၀-ကျော်၊ ပယ်တော် ခြောက်ပယ်မျှရှိ ဧရိယာကျယ်ဝန်းလှသော ပြေအပြင်ဝယ် တင့်တယ်လှပသော ဓာတ်မီးတိုင် တထောင်ကျော်တို့ဖြင့် ဝင်းပြောင်ထွန်းလင်းစေကြပြီးလျှင်

ပွဲသဘင် တူရိယာ ပဒေသာအမျိုးစုံမကျန် စားသုံးရန် အာဝ ပြည့်စုံလုံလောက်အောင် နေ့ရောညပါ ကျွေးမွေးလှူဒါန်းခြင်းကို ခုနစ်ရက်တိုင်တိုင် ပြုလုပ်ကြပြီးလျှင် ရုပ်ကလာပ်တော်ကို နံ့သာပုံ၌ တပည့်ကြီးငယ်အပေါင်းတို့သည် ပိုင်းအုံပတ်လည် လက်အုပ်ချီလျက် ပူဇော်ကြသည့်အဆုံး၌ လျှပ်စစ်မီးလုံးတို့ဖြင့် အပြီးတိုင် သင်္ဂြိုဟ်ကြကုန်၏။

ယင်းသို့ သင်္ဂြိုဟ်ကြပြီးနောက် ဈာပနပွဲသဘင်သို့ ကြွရောက်တော်မူသာကြကုန်သော ဆရာတော်ကြီး၏ တပည့်ကြီးများဖြစ်ကြသော မဟာထေရ်ကြီးတို့က ''ငါ့ချင်ဟဲသ ဝတီ....ငါ့ချင်သည့် အစဉ်တစိုက် ညီညွတ်လာခဲ့သော ဤဒက္ခိဏာရာမ ဘုရားကြီးတိုက်ကြီး မကွဲမပြား စည်းလုံးညီညွတ်အောင် ဆောင်ရွက်စေလိုကြောင်း'' မိန့်ကြားတော်မူကြသည်။ အထူးသဖြင့် မိတ္ထီလာနေ ဦးဖိုးမင်းကြီးဟု လူအမည်တွင်သော ဆရာတော်ကြီးနှင့် စလင်းမြို့နေ ဆရာတော်ကြီး ဦးသုန္ဒရတို့က အထပ်ထပ်အခါခါ မှာကြားတော်မူလေသည်။

တိုက်တွင်းရှိ သံဃာကြီးငယ်တို့ကလည်း ''ရှေးအဖို့စည်းစည်းလုံးလုံး ရှင်ပြုံးမေတ္တာ ချမ်းသာစွာ သီတင်းသုံး နေထိုင်ကြရန် ကျောင်းတိုက်ကြီး၏ စည်းမျဉ်းဥပဒေ တခု ရေးသွဲ့ပေးပါ''ဟု တိုက်တွန်း တောင်းပန်ကြသဖြင့် အရှင်ဝိမလဗုဒ္ဓိမဟာထေရ်မြတ်ကြီးကို ပဉ္စမမြောက် အာရာမာဓိပတိ သာသနာယကအဖြစ် သဘောတူ တင်မြှောက်ကြပြီးလျှင် ကာလအလျောက် အထူးပေါ်ပေါက်လာသော ကျောင်းတိုက်ကိစ္စ အဝဝတို့ကို ဆွေးနွေးဆုံးဖြတ်နိုင်ရန် အတိုင်ပင်ခံ သမ္မုတိရဆရာတော် ခုနစ်ပါး အပ္ပးထား၍ ကျောင်းထိုင်ပုဂ္ဂိုလ်များ၊ ခန်းနေ စာသင်သားများ လိုက်နာကျင့်ကြံ နေထိုင်ရန် ''ကတိကဝတ်စည်းမျဉ်း''ကို ရေးသား ပေးအပ်တော်မူခဲ့လေသည်။

အရှင်ဝိမလဗုဒ္ဓိ လက်ထက်က သမ္မုတိ ၇-ပါး

အာရာမာဓိပတိ တိုက်အုပ်ဆရာတော် အရှင်ဝိမလဗုဒ္ဓိ လက်ထက် သမ္မုတိဆရာတော် ၇-ပါးတို့ကား—

၁။ ဆရာတော် ဦးသံဝရ၊
၂။ ဆရာတော် ဦးငြိမ်း၊
၃။ ဆရာတော် ဦးပိုင်း၊
၄။ ဆရာတော် ဦးဝဇီရ၊
၅။ ဆရာတော် ဦးဇ္ဇနန္ဒာသဘ၊

၆။ ဆရာတော် ဦးနာရဒ၊
၇။ ဆရာတော် ဦးဥက္ကံသ (ဦးကြယ်)တို့ ဖြစ်ကြကုန်၏။

## အင်္ဂလိပ်အစိုးရ၏ ပုစ္ဆာ ၉ ချက်ကို ဖြေကြားတော်မူခြင်း

သက္ကရာဇ် ၁၂၉၁-ခုနှစ် အင်္ဂလိပ်အစိုးရမင်းတို့ ခန့်ထားသော ဆာခရက်ဒေါက် ဘုရင်ခံ လက်ထက်တွင် နိုင်ငံရေးနှင့် ပတ်သက်၍ အမျိုးသားညီညွတ်အောင် ဝံသာနုစေတက် ကြီးပွားသောအခါ "နိုင်ငံရေး မွေ့လော်ထိက ညေပတိ ဦးဥတ္တမသည် ရာဇဝတ်ဒဏ်ထောင်ထဲ၌ အကျဉ်းခံရစဉ် အကျဉ်းသား ရဟန်းတော်များကို သင်္ကန်းဝတ်နှင့်ထားပေးရန်၊ ဥပုသ်ပြုရန်၊ သိမ်သမုတ်ပေးရန်" ထောင်တွင်းမှနေ၍ အင်္ဂလိပ်အစိုးရထံ တောင်းဆိုလေသည်။

ထိုတောင်းဆိုချက်ကို "တပြည်လုံးရှိ ဝံသာနုအမျိုးသားတို့က ထောက်ခံတောင်းဆိုကြပြန်သဖြင့် မလွဲမရှောင်သာသော အစိုးရမင်းတို့က ပြည်ထဲရေးဝန်ကြီး ဆာဂျေအေ မောင်ကြီးအမည်ဖြင့် စဉ်းလဲကောက်ကျစ်သော သဘောပါသည့် ပုစ္ဆာ ၉-ချက်ထုတ်၍ ရာဇဝတ်ဒဏ်ခံရသော ရဟန်းတော်များကို သင်္ကန်းဝတ်နှင့် ထားထိုက် မထားထိုက်၊ သိမ်သမုတ်ပေးသင့် မပေးသင့် ပုစ္ဆာ ၉-ချက်ကို ဖြေဆို၍ တိုင်းပြည်၏ အလိုဆန္ဒကို ပေးကြရန်"ထုတ်ပြန် ကြေငြာလေသည်။

၎င်းပုစ္ဆာကို အချို့ပညာရှိများ အဖြေရေးသားကြသည်၊ မပြေလည်။ အချို့အဖြေများ ပြေလည်ပါသော်လည်း အကုန်အစင်မဖြေကြပဲ လိုရင်းကိုသာ အဖြေရေးသားကြသည်။

ယင်းသို့ ဖြစ်နေသောအခါတွင်-

၁။ ရွှေရေးဆောင်တိုက် အရှင်အာဒိစ္စရံသီ ဆရာတော်ကြီး။
၂။ ညောင်ကန်တိုက် အရှင်ကလျာဏဘိဝံသ ဆရာတော်ကြီး။
၃။ ဇေတဝနာရာမ ဘုရားကြီးတိုက် အရှင်ခန္တီမဟာဘိဝံသ ဆရာတော်ကြီး။

အစရှိသော မဟာထေရ်မြတ်ကြီးတို့သည် တခုသော ဝိနည်းကံကိစ္စအတွက် တွေ့ဆုံမိကြလေရာ "ဤပုစ္ဆာ ၉-ချက်နှင့် စပ်မိကြသဖြင့် အကုန်အစင် မဖြေဆိုကြခြင်းသည် အင်္ဂလိပ်လူမျိုးတို့က အထင်အမြင်သေးရာ ဖြစ်နေပေလိမ့်မည်။ သို့ဖြစ်၍ ဟံသာဝတီ ဘုန်းကြီးကလေးက အဖြေရေး၍ ထင်သွင်းရမည်"ဟု တိုက်တွန်းစေခိုင်းခြင်းကြောင့် ပုစ္ဆာ ၉-ချက်လုံး မွေ့ဝိနယနှင့်အညီ ရေးသားပြီးလျှင်-

"နိဂုံးချုပ်အနေဖြင့် (အစတေကိစ္စ) ကုစား၍ မရကောင်းသော အာပတ်သင့်သည့် ရဟန်းတော်များမှအပ (သတေကိစ္စ) ကုစား၍ ရကောင်းသော အာပတ်သင့်သည့် ရဟန်းတော်များ ရာဇဝတ်ဒဏ် အကျဉ်းခံရသော် သင်္ကန်း ဝတ်ကာ သင့်ပါသည်၊ ဥပုသ်ပြုရန် သိမ် သမုတ်ပေးသင့်ပါသည်"

ဟု ရှေး မင်းကောင်းမင်းမြတ်များ လုပ်ထုံးကိုဖော်ပြ၍ မေတ္တာရပ်ခံစာ ရေးပြီးလျှင် ဆရာတော်ကြီးများ သဘောတူညီချက်နှင့်တကွ မန္တလေးမြို့ မင်းတိုင်ပင်အမတ် ဗဟိုစည်ဦးဘဦးမှတဆင့် လွှတ်တော်သို့ တင်သွင်းလေ သည်။

လွှတ်တော်အစည်းအဝေး၌ ဦးဘဦးနှင့် ဆာဂျေအေ မောင်ကြီးတို့ အချေ အတင် ပြောဆိုကြပြီးနောက် မကြာမီပင်ဦးဥတ္တမ၏ တောင်းဆိုချက်ကို ခွင့်ပြု ကြောင်း ဂေဇက်မှ ထုတ်ပြန်လေသည်။

ဤအခါမှစ၍ မအူပင်ထောင်၊ မန္တလေးထောင် စသည်၌ သိမ်သမုတ်ထား လေသည်။ အကျဉ်းခံရသော ရဟန်းတော်များကိုလည်း လူဝတ်မလဲစေပဲ သင်္ကန်းဝတ်ဖြင့် စိတ်ချမ်းသာနေကြစေကုန်၏[၁]။

## သက္ကျသီဟအသင်းတိုက် အခွန်လွှတ်ငြိမ်းရန် ဆောင်ရွက်တော်မူခြင်း

အင်္ဂလိပ်မင်းတို့ ခန့်ထားသော ဘုရင်ခံ ကော့ကရိမ်း လက်ထက်တွင် မန္တလေးမြို့ ပရိယတ္တိ သာသနဟိတ (သက္ကျသီဟ) အသင်းတိုက်ကို မြူနီစီပယ်ခွန် စည်းကျပ်ကောက်ခံလေသည်။ အသင်းလူကြီးများ အခွန်အခ လွှတ်ငြိမ်းခွင့် ပြုမည့်အကြောင်း မေတ္တာရပ်ခံသည်ကို မြူနီစီပယ်အဖွဲ့က လွှတ် ငြိမ်းခွင့်ပြုသော်လည်း အင်္ဂလိပ်လူမျိုး ခရိုင်ဝန်ရှင်တော်က ကန့်ကွက်လွှာ ရေးသား၍ အစိုးရထံ တင်သွင်းခြင်းကြောင့် ဘုရင်ခံမင်း အမိန့်နှင့် မြူနီစီပယ် ၏ ခွင့်လွှတ်ချက်ကို ပယ်ဖျက်လိုက်လေသည်။

ထိုအခါ အသင်းလူကြီးများက "တိုက်အခွန်ပေးရမည် ဖြစ်ခဲ့သော် သံဃိက ငွေထဲက ယူ၍ပေးသင့် မပေးသင့်" မန္တလေးမြို့ရှိ စာချဆရာတော် ကြီးငယ် တို့ကို ပင့်ဖိတ်၍ တိုက်ကိစ္စအဝဝကို လျှောက်ထား ပြီးလျှင် "သံဃိက ရန်ပုံငွေ

---

၁။ အကျယ်ဒကွိဏာရာမတိုက် သံဃနာယက အရှင်ဝိမလဗုဒ္ဓိအခန်း သာသနာ သုတ်သင်ခြင်းလည်းကြည့်။

ထဲမှ ပေးသင့်မပေးသင့် အဆုံးအဖြတ် ပေးသနားတော်မူပါ''ဟု လျှောက်ထားကြလေသည်။ ယင်းသို့လျှောက်ထားသောအခါ ဆရာတော်ကြီးများက "အဆုံးအဖြတ် ဝိနိစ္ဆယ ချပေးမှု၊ မပေးမှုကို ထားဦး၊ လူဒါယကာတို့က မေတ္တာရပ်ခံ၍ မရသော်လည်း ရဟန်းတော်များဘက်က မေတ္တာရပ်ခံထိုက်သေးသည်''ဟု အညီအညွတ်ဆုံးဖြတ်ကြပြီးလျှင် ဤကိစ္စကို ဆောင်ရွက်တော်မူကြရန်-

၁။ ညောင်ရမ်းဆရာတော်ဘုရားကြီး အရှင်ရေဝတ၊
၂။ ဆရာတော် အရှင်ကုဏ္ဍလာဘ (ဟံသာဝတီဆရာတော်)၊
၃။ အရှင်ဇနကာဘိဝံသ (မဟာဂန္ဓာရုံဆရာတော် အမရပူရ)

တို့ကို ရွေးကောက်တင်မြှောက်ကြ၍ တာဝန်ပေးအပ်တော်မူကြသည်။

ယင်းတာဝန်ကို ဆောင်ရွက်ရန် အသင်းဥက္ကဋ္ဌကြီး ဦးဘိုးလှ၊ ကာရကလူကြီး ဦးစံမင်း၊ သင်းမလူကြီး ဦးကျွန်း ပေါင်းသုံးယောက်တို့ကို ဝေယျာဝစ္စဆောင်အဖြစ် ခေါ်၍ ရန်ကုန်သို့သွားရန် စိုင်းပြင်းကြသောအခါ အရှင်ဇနကာဘိဝံသ မပါတော့ချေ။ ညောင်ရမ်းဆရာတော် အရှင်ရေဝတနှင့် ဟံသာဝတီဆရာတော် အရှင်ကုဏ္ဍလာဘတို့သာ ကြွတော်မူကြသည်။

ရန်ကုန်မြို့သို့ရောက်လျှင် မိမိတို့လိုအပ်သော ကိစ္စအတွက် ရဟန်းပညာရှိ လူပညာရှိများနှင့် တွေ့ဆုံနှီးနှော တိုင်ပင်ကြပြီးလျှင် ပညာရေးဌာနအတွင်းဝန်ကြီးဦးကျော်၏ အကူအညီကိုရပြန်သဖြင့်-

၁။ အသင်းတိုက်သည် ဒါယိကာမကြီး တဦးကယောက်က သဒ္ဓါတရားအလျောက် သံဃာတော်အား လှူဒါန်းထားသော သံဃိကတိုက်ဖြစ်ပါသည်။
၂။ ၎င်းတိုက်၌ ပရိယတ္တိ သာသနဟိတ အသင်း၏ ပရိဘောဂ ပစ္စည်းများ၊ ပိဋကတ်ကျမ်းစာများ၊ စာအုပ်စာတမ်းများသာ ထားရှိပါသည်။
၃။ အမြဲတမ်းလူများ နေထိုင်ခြင်းမရှိပါ၊ အစောင့် ဒရဝမ်တယောက်သာ ထားပါသည်။
၄။ စာမေးပွဲကျင်းပသောအခါ ပုစ္ဆာထုတ်ခြင်း၊ အဖြေစစ်ဆေးခြင်း၊ အောင်မှတ်ပေးခြင်းအတွက် သံဃာတော်များ ခေတ္တ နေထိုင်သီတင်းသုံးတော်မူကြပါသည်။

ဟူသော အချက်အလက်တို့ကို ထည့်သွင်း၍ အကျယ်တဝင့် မေတ္တာရပ်ခံစာရေးပြီးလျှင် အတွင်းဝန်ကြီး ဦးကျော်မှတဆင့် အစိုးရထံသို့ ကြာသပတေး

နေ့ တင်သွင်းလိုက်ရာ စနေနေ့ဂဇက်တွင် "မန္တလေးမြို့ ပရိယတ္တိ သာသန ဟိတ အသင်းတိုက်ကို အခွန်လွတ်ငြိမ်ခွင့် ပြုသည်"ဟု သတင်းစာတွင် တွေ့ မြင်ရလေသည်။ ဆရာတော်၏ လုပ်ဆောင်ချက်က အောင်မြင်ခဲ့လေပြီ တကား။

ပဌမပြန် စုံစမ်းရေးကော်မီတီတွင် ပါဝင်တော်မူခြင်း

ဆရာတော်သည် ပဌမပြန် စုံစမ်းရေးကော်မီတီတွင်လည်း ပါဝင်ဆောင် ရွက်တော်မူခဲ့လေသည်။ ၁၂၉၉-ခုနှစ် ဗိုလ်အာဒီခေတ် အတွင်းဝန် (ပညာ ရေးဌာန တာဝန်ခံဝန်ကြီးဆိုင်ရာ)၌ ခေါင်းစဉ်ဖုန်ငွေမလုံမလောက် ကျပ်ကျပ် ကည်းတည်း သုံးစွဲစီမံရခြင်းကြောင့် ဘာသာ သာသနာရေးဘက်တွင် အခက် အခဲ တွေ့ကြုံနေကြရာ ဖြင့် ပဌမပြန် စာမေးပွဲ ကျင်းပရခြင်းသည် တဖြည်း ဖြည်း ပျက်ပြယ်လုမတတ် အခြေသို့ ရောက်နေစဉ် တရားဝန်ကြီးချုပ်ဟောင်း ဦးသိမ်းမောင် တာဝန်ခံဝန်ကြီးအဖြစ် လက်ခံအုပ်ချုပ်ရသောအခါ ပဌမပြန် စာမေးပွဲလုပ်ပုံကို ပြည်သူလူထုက မကျေမနပ်ဖြစ်နေကြသည်ကို ရိပ်စားမိသည် အားလျော်စွာ "စုံစမ်းရေးကော်မီတီ" ရွေးချယ်ခန့်ထားရာတွင် မန္တလေး မြို့မှ—

၁။ ညောင်ရမ်းဆရာတော် အရှင်ရေဝတ၊

၂။ မစိုးရိမ်ဆရာတော် အရှင်သူရိယ၊

၃။ သုဓမ္မာဆရာတော် အရှင်ရေဝတ၊

၄။ အဘယာရာမဆရာတော် အရှင်အဂ္ဂဓမ္မ၊

၅။ ဟံသာဝတီဆရာတော် အရှင်ဣန္ဒာသဘတို့ ပါဝင်လက်ခံ ရလေသည်။

ထက်ခံပြီးနောက် နိုင်ငံတော်အတွင်း မြို့ကြီးပြကြီးများသို့ လှည့်လည်၍ တွေ့ဆုံမေးမြန်း စုံစမ်းပြီးလျှင် အစီရင်ခံစာ ရေးရန်အတွက် အစည်းအဝေး ထိုင်ကြ၍ ရှေးမြန်မာမင်းများနှင့် အင်္ဂလိပ်မင်းများ ကျင်းပခဲ့သော ငယ်၊ လတ်၊ ကြီး စာမေးပွဲကို တိုးချဲ့၍ -

၁။ ဓမ္မာစရိယ (စာချတန်း) စာမေးပွဲထည့်သွင်းရန်၊

၂။ စာမေးပွဲ စီမံအုပ်ချုပ်သော အဖွဲ့တွင် ရဟန်းတော်များ ပါဝင် စေ၍ ရဟန်းတော်များဘက်က ရသင့်သော အခွင့်အရေးတို့ကို ပေးရန်—

ဟူသော အချက် နှစ်ချက်ကို ဟံသာဝတီဆရာတော်က အဆိုတင်သွင်းပြီး လက်ခံနိုင်အောင် ဆောင်ရွက်ခြင်းဖြစ်သော လိုအပ်သော အချက်အလက်တို့ကို ကူညီပြုလုပ် အစီရင်ခံစာ ဩဝါဒကထာ ပြီးဆုံးအောင် ဆောင်ရွက်၍ အစိုးရဌာနသို့ တင်သွင်းကြလေသည်။

ယင်း အစီရင်ခံစာ ဩဝါဒကထာကို အစိုးရမင်းတို့က လက်ခံကြပြီးလျှင် အစီရင်ခံစာတွင် ညွှန်ပြထားသည့် အပိုဒ်များအရ ယာယီအဖွဲ့များ ဖွဲ့စည်း၍ ငယ်၊ လတ်၊ ကြီးနှင့် ဓမ္မာစရိယ (စာချတန်း) စာမေးပွဲများကို နှစ်ပေါင်းများစွာ ကျင်းပခဲ့ရာ ၁၃၁၂-ခုနှစ်တွင် ယင်းအစီရင်ခံစာအရ "ပါဠိပညာရေးအဖွဲ့ အက်ဥပဒေ"ကို လွှတ်တော်က ပြဋ္ဌာန်းပြီး မြန်မာနိုင်ငံ့ အစိုးရမင်း အဆက်ဆက် ပရိယတ္တိသာသနာ ပါဠိဘာသာကို အားပေးသောအားဖြင့် စာမေးပွဲများကို ကျင်းပခဲ့လေသည်။

**ဒက္ခိဏာရာမ ဘုရားကြီးတိုက် နှစ်တရာပြည့်ပွဲတွင် ဆောင်ရွက်တော်မူခြင်း**

ဆရာတော် ဒက္ခိဏာရာမဘုရားကြီးတိုက် နှစ်တရာပြည့်ပွဲတွင်လည်း ထူးခြားစွာ ပါဝင်ဆောင်ရွက်တော်မူခဲ့သည်။ သက္ကရာဇ် ၁၂၀၉-ခုနှစ်က စတင် တည်ထောင်ခဲ့သော ဒက္ခိဏာရာမ ဘုရားကြီးတိုက်သည် ၁၃၀၉-ခုနှစ်တွင် အနှစ် ၁၀၀-ပြည့်မြောက်ခဲ့လေသည်။ သို့ဖြစ်၍ ကျောင်းတိုက်သက် ၁၀၀-မင်္ဂလာအချိန်ကာလ ခါသမယဖြစ်၍ စိန်ရတုသဘင် ဆင်ယင်ကျင်းပရန် အတွက် တိုက်တွင်းရှိ သံဃာတော် ၄၀၀-ကျော်တို့က အခမ်းအနား စီစဉ်တော်မူရန် သမ္မုတိ ဆရာတော် ငါးပါး တင်မြှောက်တော်မူကြလေသည်။

ယင်း သမ္မုတိ ဆရာတော်တို့သည် တာဝန်ရှိသည့်အတိုင်း စီစဉ်ကြရာတွင် "မင်္ဂလာဩဘာ စာတမ်းတစောင် လိုအပ်သည်ဖြစ်၍ စာချဆရာတော် အရှင်ဥယျာဘိဝံသက ဟံသာဝတီဆရာတော် ရေးသားတော်မူပါ"ဟု တောင်းပန်ခြင်းကြောင့် မင်္ဂလာဩဘာ စာတမ်းလည်းဖြစ် အနှစ်သာရ ပဋိပတ်ဓမ္မ အာစရိယဝံသ အစဉ်အဆက်ပြလည်း ဖြစ်စေရန် ရည်သန်တော်မူ၍ ဒက္ခိဏာရာမ ဘုရားကြီးတိုက် သာသနာဝင်အနေဖြင့် မင်္ဂလာဩဘာ စာတမ်းကို ရေးသားစီရင်တော်မူခဲ့သည်[၁]။

---

၁။ ဒက္ခိဏာရာမတိုက်သက်တရာ မင်္ဂလာဩဘာ စာတမ်းကြည့်။

၁၃၀၉-ခုနှစ် တပေါင်းလဆန်း ၁၃-ရက်နေ့တွင် ရပ်ဝေးမြို့နယ်မှ ကြွရောက်လာကြသော တပည့်ကြီးငယ် သံဃာတော်ပေါင်း ၅၀၀-ကျော်၊ မန္တလေးမြို့ လေးပြင်လေးရပ်မှ ကြွရောက်တော်မူလာကြသော သမဂ္ဂသံဃာတော် ၅၀၀-ကျော်၊ တိုက်တွင်းရှိ သံဃာတော် ၉၀၀-ကျော်၊ ပေါင်း သံဃာတော် ၁၉၀၀-တို့အား ခွဲဖွယ်အားဖြင့် ချိုချဉ် ယမကာ ကောင်းမွန်စွာတို့ဖြင့် ဆက်ကပ်လှူဒါန်းဖွယ်ရာ ဒါနတွေ့ မ စုစုတို့ကို ဆက်ကပ်လှူဒါန်းခြင်း အစရှိသော ကိစ္စပြီးဆုံးသည့်အခါ ၁၂-နာရီအချိန်တွင် သံဃာ သန္နိပါတအစည်းအဝေးကြီးကို မင်္ဂလာသုတ်ပရိတ်တော်၊ မေတ္တာသုတ် ပရိတ်တော်များ ရွတ်ဖတ်တော်မူကြ၍ ဖွင့်လှစ်တော်မူကြသည်။

ထိုအခါ အစီအစဉ်အရ ဂဏာစရိယ၊ ဂဏပါမောက္ခ၊ ပိဋကတ္တယဝိဒူ ဖြစ်တော်မူကြကုန်သော မဟာထေရ် သံဃာတော်ကြီး အသီးသီးတို့က ဒက္ခိဏာရာမ ဝါသီ ပုဂ္ဂိုလ်တို့၏ ပညာစေယျတ္တိ ဗဟုလဂုဏ်၊ ပရိယတ္တိ ဗဟုလဂုဏ်၊ သဗ္ဗာယာန ဗဟုလဂုဏ်တို့ကို အတွင်းချုံလျက် အဖွဲ့ဖုံသော သြဘာစကားများ မိန့်ကြားတော်မူကြလေသည်။ ပစ္စယာနုဂ္ဂဟ သဒ္ဒါပသန္န ရတနတ္တယ မာမက ဖြစ်ကြသော ရောက်ရှိလာကြသော ဒါယကာ ဒါယိကာမ အပေါင်းတို့ကလည်း မိမိတို့၏ ညဏ်အမြင်ရှိသလောက် ချီးမြှောက်ပူဇော်လိုကြသဖြင့် မမ္မဂိတ အဖုံဖုံ ပိဒ်စုံ ရတု ဖတ်မှုကာချာ ဆေကာဂုဏ်မြှောက် ဖတ်လျှောက် ပူဇော်ကြလေသည်။

ရင်းပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် သာသနာဝင် မင်္ဂလာသြဘာစာတမ်းကို တင်သွင်းဆက်သ ဂါဝရမြှောက် ဖတ်လျှောက်ပြီးအဆုံး နိဂုံးချုပ်အနေဖြင့် မူလအစ အာဒိကမ္မိက တိုက်တော်တည် ဇာဂရဘိဓဇ ဆရာတော်ဘုရားကြီးကို အမှူးထား၍ အဆက်ဆက်သော ကျေးဇူးရှင် ဆရာတော်ဘုရားကြီးတို့၏ ဂုဏ်တော်အပေါင်းတို့ကို ရည်မှန်းပြီးလျှင် ဦးတင်ညွတ်ပြောင်း သံဃာတော်အပေါင်းတို့က ရှိခိုးပူဇော် ဖူးမျှော်ကန်တော့ကြပြီး စိန်ရတုသဘင် အခမ်းအနားကို အောင်မြင်စွာရုပ်သိမ်းကြလေသည်။

## နိုင်ငံတော် ဝိနည်းဓိုရ်နှင့် တာဝန်ခံ ဝိနည်းဓိုရ်

ဆရာတော်သည် ၁၃၁၁-ခုနှစ်က ရေးဆွဲသည့် ဝိနိစ္ဆယ အက်ဥပဒေ ရေးဆွဲ၍ အဖွဲ့တွင်လည်း ပါဝင် ရေးဆွဲတော်မူခဲ့သည်သာမက နိုင်ငံတော် ဝိနည်းဓိုရ်တာဝန်၊ တာဝန်ခံ ဝိနည်းဓိုရ် တာဝန်တို့ကိုလည်း ထမ်းဆောင်တော်မူခဲ့လေသည်။ ၎င်းပြင် အထက် အောက် နိုင်ငံတော် 'နှစ်ရပ်ပေါင်း

"နိုင်ငံတော် ဝိနိစ္ဆယဌာန ဖြတ်ထုံး ပဌမတွဲ"ကိုလည်း စက်တင် ပုံနှိပ်ထုတ်ဝေနိုင်ခဲ့လေသည်။

## ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေ ပါဝင်ရေးဆွဲခြင်း

ရင်းပြင် ၁၃၁၂-ခုနှစ်က အတည်ပြု ပြဋ္ဌာန်းခဲ့သော ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေကို ပါဝင်ရေးဆွဲတော်မူသည့်ပြင် ထိုဥပဒေအရ ရှိခဲ့သော ဗဟိုအဖွဲ့တွင် ဒုတိယဥက္ကဋ္ဌအဖြစ် ဆောင်ရွက်တော်မူခဲ့လေသည်။

## ဆဋ္ဌသံဂါယနာဝန်ဆောင် သံဃာ့အဖွဲ့ဝင်တာဝန်

၁၃၁၆-ခုနှစ် ကဆုန်လပြည့်နေ့မှစ၍ ၁၃၂၃-ခုနှစ် တပို့တွဲလဆန်း ၁၂-ရက်နေ့အထိ နိုင်ငံတော်အစိုးရနှင့် ပြည်သူလူထု အထောက်အပံ့ အကူအညီဖြင့် ထေရဝါဒနိုင်ငံပေါင်းစုံပါဝင်စေလျက် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းများကို သံဂါယနာတင်တော်မူခဲ့သည်။ ယင်းဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင် ဆရာတော်သည် ဝန်ဆောင်သံဃာ့အဖွဲ့ဝင်အဖြစ် ဆောင်ရွက်တော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခြင်း

ဆရာတော်ကား လောကဓမ္မ နှစ်ဌာန၌ မယှဉ်းသည့်ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။ ယင်းသို့ လောကရေးရာ၌လည်းကုံလုံ ဓမ္မ၌လည်း ပြည့်စုံသော ပုဂ္ဂိုလ်ထူးဖြစ်ရကား ၁၃၁၄-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ လှူဒါန်းသည် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။

## သီဟိုဠ်ကျွန်းသို့ ကြွတော်မူခြင်း

၁၃၁၄-ခုနှစ်တွင် သီဟိုဠ်နိုင်ငံသို့ ညောင်ရမ်းဆရာတော်ဘုရားကြီး အရှင်ရေဝတ အစရှိသော မထေရ်မြတ်တို့နှင့်အတူ ကြွတော်မူ၍ သီဟိုဠ်ကျွန်းရှိ—

(၁) သျာမနိကာယ၊
(၂) အမရပူရနိကာယ၊
(၃) ရာမညနိကာယဝင်—

သံဃာတော် အရှင်မြတ်တို့နှင့် ဆဋ္ဌသံဂါယနာကိစ္စကို တိုင်ပင်ဆွေးနွေးတော်မူကြလေသည်။

## ယိုးဒယားနိုင်ငံသို့ ကြွတော်မူခြင်း

ယိုးဒယားနိုင်ငံ သာသနာရေးအခြေအနေများကို ကျနမှန်ကန်စွာ သိရှိနိုင်ရေးအတွက် နိုင်ငံတော်အစိုးရ၏ စေလွှတ်ချက်အရ ၁၃၂၃-ပြည့်နှစ် ပြာသိုလဆန်း ၈-ရက်နေ့တွင် ယိုးဒယားနိုင်ငံသို့ အခြားဆရာတော်များနှင့်အတူ ကြွတော်မူခဲ့သည်။ ယိုးဒယားနိုင်ငံ၌ ၁၅-ရက်ခန့် သီတင်းသုံးတော်မူ၍ အရပ်ဒေသအနှံ့အပြားကြွရောက်တော်မူ၍ ယိုးဒယားသာသနာ့အကြောင်းသိကောင်းစရာများကို လေ့လာတော်မူခဲ့သည်။ ယိုးဒယားနိုင်ငံ၌ ထင်ရှားသော မြဘုရား၊ ရွှေဘုရား၊ နဂါးပတ်ဘုရား စသည်တို့ကိုလည်း ဖူးမျှော်တော်မူခဲ့သည်။

ထိုခရီး၌ ဆရာတော်အပါအဝင် ကြွရောက်တော်မူကြသော ဆရာတော်များမှာ—

၁။ ဆရာတော် ဦးသုန္ဒရ၊ အဘိဓဇမဟာရဋ္ဌဂုရု အဂ္ဂမဟာပဏ္ဍိတ မဟာဝိသုတာရာမတိုက် ပခုက္ကူမြို့၊

၂။ ဆရာတော် ဦးကုန္ဒာသဘ၊ အဂ္ဂမဟာပဏ္ဍိတ၊ ဟံသာဝတီ ဆရာတော် ဒက္ခိဏာရာမဘုရားကြီးတိုက် မန္တလေးမြို့၊

၃။ ဆရာတော် ဦးဝိသုဒ္ဓ၊ အဂ္ဂမဟာပဏ္ဍိတ၊ ဝိဇ္ဇာလင်္ကာရကျောင်းတိုက်၊ မန္တလေးမြို့၊

၄။ ဆရာတော် အရှင်ကေလာသ၊ ဓမ္မစာရိယ ဂဏဝါစကတိ - အေ (ဂုဏ်ထူး) ပခုက္ကူဆရာတော် ဦးသုန္ဒရ၏ ပစ္ဆာသမဏ၊

၅။ ဦးမြင့်ဟန် အထက်မြန်မာပြည် လက်ထောက် သာသနာ့ညွှန်ကြားရေးဝန် တို့ ဖြစ်ကုန်၏။

## သာသနာ့ဗိမာန်တော်ကြီး မြေနေရာရရှိရန် ဆောင်ရွက်ခြင်း

၁၃၁၄-ခုနှစ်က မန္တလေးမြို့ ၈၄-လမ်းရှိ ပရိယတ္တိ သာသနဟိတအသင်းကြီး၏ တည်ရာဌာနအုတ်တိုက်ကြီးမှာ ကိုမင်းယိုယွင်း၍ မိုးလုံခြင်းမရှိ ပကတိသဘောမှယွင်းယိုပြိုတော့မည်ကဲ့သို့ရှိရာ အသစ်တဖန် ပြုပြင်ရန်အတွက် အသင်းလူကြီးများ စည်းဝေးရာတွင် အချို့လူကြီးများက ဤနေရာဌာနပင် ဆောက်လုပ်ရန် ပြောကြသည်။ အချို့လူကြီးများကမူ "ဤနေရာဟောင်းသည် အရှေ့ဘက်ကလည်း ၈၄-လမ်း၊ မြောက်ဘက်ကလည်း လမ်းမကြီးရှိနေသဖြင့် တိုက်၏ ဥပစာမရှိသည့်အတွက် စာမေးပွဲကျင်းပခြင်း၊ အောင်လက်မှတ်



၁၃၂၀-ခုနှစ် ထိုင်းနိုင်ငံ ဗန်ကောက်မြို့ ဝပ်မဟာဓါတုကျောင်းတိုက်၌
ဟံသာဝတီ ဆရာတော်ကို အခြားဆရာတော်များ နှင့်အတူ ဖူးမြင်ရပုံ

**ရှေ့တန်း** (၁) အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိသုဒ္ဓါ၊ (၂) အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိမလ၊
(၃) အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ၊ (၄) အဂ္ဂမဟာပဏ္ဍိတ အရှင်ဣန္ဒာဘိဝံသ။

**နောက်တန်း** (၁) ဦးဇောတိက၊ (၂) ဦးတေဇိန္ဒ၊ (၃) ဦးကေလာသ (ဤကျမ်းပြုသူ)

ဆက်ကပ်ပွဲသဘင် ဆင်ယင်ကျင်းပသောအခါ တင့်တယ်ဖွယ်ရာ သိုက်မြိုက်စွာ မဟုတ်သည့်အတွက် ဝင်းခြံရေယာကျယ်ပြန့်သော နေရာတခု ရှာကြံရန် သင့်ပါသည်''ဟု ပြောဆိုဆွေးနွေးကြသည်။

ဤသို့ စသည်ဖြင့် သဘောဆန္ဒမညီမျှပဲ ကွဲလွဲနေကြရာ ''ကျွန်ုပ်တော်တို့ ချည်း နှီးနှောပြောဆိုနေကြသဖြင့် ပြီးပြတ်နိုင်မည်မဟုတ်ပါ။ ကျွန်ုပ်တော်တို့၏ ကိုးကွယ်ရာဖြစ်တော်မူကြသော ဆရာတော်ကြီးများကို ပင့်၍ အမိန့်ကို နာခံ သင့်ပါသေးသည်''ဟူသော အကြံပေးချက်ကို လက်ခံအတည်ပြုကြပြီးလျှင် သင့်လျော်သောနေ့တွင်ဆွမ်းစားပင့်ဖိတ်လှူဒါန်းဆက် ကပ်ကြပြီးလျှင် စာချ သံဃာတော်များအား မိမိတို့ အသင်းတိုက်ကြီးကို ပြင်ဆင်ရန်ကိစ္စနှင့် စပ် လျဉ်းသော အကြောင်းအလုံးစုံကို လျှောက်ထားကြလေသည်။

ထိုအခါ ဆရာတော် သံဃာတော်များကလည်း ''ဤနေရာသည် လွန်စွာ ကျဉ်းမြောင်းလှ၏၊ ကျယ်ကျယ်ပြန့်ပြန့် ရေယာရှိသော ဝင်းခြံတခုခုကို ရှာဖွေ ရန် သင့်သည်''ဟု မိန့်ကြားတော်မူကြရာ ''တပည့်တော်ကို လူသားအချင်း ချင်း မေးမြန်းစုံစမ်းရလျှင် အဆမတန် အဖိုးငွေ တောင်းခံကြပါမည်။ ရန်ပုံ ငွေလည်း လုံလောက်စွာမရှိပါဘုရား၊ သို့ဖြစ်၍ ဆရာတော်များ စုံစမ်းတော်မူ ၍ တရားဝမ္မ ဟောပြောပေးပါမူ အမြန်ထမြောက်အောင်မြင်ပါလိမ့်မည်''ဟု အသင်းလူကြီးများက လျှောက်ထားသောအခါ စာချဆရာတော်ကြီးယ်တို့ က ''ဤနေရာဌာနနှင့် ပတ်သက်၍ ဘုန်းတော်ကံတော် ကြီးမားတော်မူလှ သော ညောင်းရမ်းဆရာတော်၊ မစိုးရိမ်ဆရာတော်၊ ဟံသာဝတီဆရာတော် သုံးပါးတို့က စုံစမ်းမေးမြန်းပေးတော်မူကြပါရန် တပည့်တော်များ သံဃာ တော်များ အပေါင်းက ရိုသေလေးမြတ်စွာ ထပ်လောင်း၍ လျှောက်ထား တောင်းပန်းကြပါသည်''ဟု တောင်းပန်ကြလေရာ ဆိုဘ်ဆိတ်နေ၍ ဝန်ခံကြ ရလေသည်။ ဝန်ခံကတိရှိသည့်အတိုင်း စုံစမ်းတောက်သွမ်းသောအခါ မြောက် ပြင်၌ မြေကွက်တခု၊ အရှေ့ပြင် ပျဉ်းမနားမင်းသားကြီး ဝင်းတော်အနီး မြေကွက်တခု၊ နဝမကွန်ဖရင့် စည်းဝေးရာ မြေကွက်တခု စုစုပေါင်း မြေကွက် သုံးကွက်တွေ့ရာ အသွားအလာ အဆင်မပြေသောကြောင့် လျစ်လျူရှုကြရ လေသည်။

ဒုတိယအကြိမ် စုံစမ်းသောအခါ အနောက်ပြင် ဝိသုဒ္ဓါရုံတိုက်သစ် မြောက် ဘက် စတီးကုမ္ပဏီပိုင် စက်ရုံဟောင်းကြီးကို တွေ့ရှိဖူးနှုံးသည်၊ ''ဤ မြေကွက်သည် မြို့လယ်လည်း ကျပါ၍ ဂမနာဂမနသမ္ပန္နနှင့်လည်း ပြည့်စုံပါ

၏။ သို့သော် ချိုင့်ဝှမ်း သော နေရာဖြစ်သောကြောင့် ရေဘေး စိုးရိမ်ရပါလိမ့်မည်”ဟု ဆိုကြပြန်သဖြင့် လျှော်လျှို့ရှုရပြန်သည်။

ဒုတိယအကြိမ် စုံစမ်းထောက်လှမ်းသောအခါ မလွန်သောလုံးကွင်းကြီး အရှေ့ဘက် ရွှေပါးစောင်ရုံပျက်နှင့် ဆန့်စက်ဝန်းပျက်ကို တွေ့ရသဖြင့် မြို့လယ်လည်းကျ ပနေ့ဂမ္ဘ သာနန္ဒလည်းဖြစ် ရေဘေးမီးဘေး စိုးရိမ်ဖွယ်ရန်လည်း ကင်းပေမည်ဟု သဘောပေါက်ကြပြီးလျှင် ဆိုင်ရာပစ္စည်းရှင်များထံသို့ ကိုယ်တိုင် ကြွရောက်တော်မူကြ၍ စုံစမ်းမေးမြန်း သဒ္ဓါပန်း ရှင်လန်းအောင် ဟောပြော တော် မူကြသော်လည်း “အမွေဆိုင်ပစ္စည်းဝတ္ထု ဖြစ်ခြင်းကြောင့် သဘော တူညီချက်ရဖို့ရာ ခက်ပါသည်”ဟု လျှောက်ထားကြသဖြင့် ဆက်လက် ဖွယ် မရှိကြ၍ ပြန်ကြွတော် မူခဲ့ကြရလေသည်။

## ဆရာတော်ကြီး ရှစ်ပါး လက်မှတ်ထိုး အလှူခံ

နောက်များမကြာမီပင် မန္တလေးမြို့ အရေးပိုင်မင်း ဦးစိန်းမောင်က သဒ္ဓါစွမ်း ဆက်ကာလိုသဖြင့် ပင့်ဖိတ်၍ လှူဒါန်းပြီးသည့်အဆုံး၌“ဟံသာဝတီ ဆရာတော်ဘုရားတို့...နေရာဌာန စုံစမ်း၍ရကြပြီပါလား”ဟု မေးလျှောက်ရာ၊ ဆရာတော်က “ဒကာကြီး မလိုတာကိုတော့ ရပါ၏၊ လိုချင်တဲ့နေရာက ငွေစကားပြောနေကြသည်”ဟု အကျယ်တဝင့် မိန့်တော်မူရာ အရေးပိုင်မင်း ဦးစိန်းမောင်က “တပည့်တော် အကြံတခုပေးလိုသည်မှာ မြန်မာနိုင်ငံတော် အစိုးရထံသို့ ဌင်းမြေကွက်လပ်ကို သာသနာ့ရာရန်မြေ ပြုလုပ်၍ လှူဒါန်း ချီးမြှောက်စေလိုကြောင်း မေတ္တာရပ်ခံစာ တင်သွင်းတော်မူကြလျှင် အောင် မြင်စရာ ရှိပါသည်”ဟု အကြံဉာဏ်ပေးလေသည်။

ထိုအခါ “စက္ကူနှင့် ဖောင်တိန်ပေးပါ၊ ယခုပင် မေတ္တာရပ်ခံစာ ရေး ပါမည်”ဟု တောင်းယူပြီးလျှင် အရေးပိုင်၏အိမ်မှာပင် မေတ္တာရပ်ခံစာရေး ပြီး၍ “ဆရာတော်ကြီးများ လက်မှတ်ရေးထိုးကြပါ”ဟု လျှောက်ထားရာ—

၁။ အဂ္ဂမဟာပဏ္ဍိတ ခေမာသီဝံဆရာတော် ဦးဝိလာသ၊
၂။ အဂ္ဂမဟာပဏ္ဍိတ ညောင်ရမ်းဆရာတော် ဦးရေဝတ၊
၃။ အဂ္ဂမဟာပဏ္ဍိတ မစိုးရိမ်ဆရာတော် ဦးသုရိယ၊
၄။ အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော် ဦးဣန္ဒာသဘာ၊
၅။ အဂ္ဂမဟာပဏ္ဍိတ သာသနဇောတိကာရုံဆရာတော် ဦးနာရဒ၊
၆။ အဂ္ဂမဟာပဏ္ဍိတ ရွှေဘုန်းရှိန်ဆရာတော် ဦးဥက္ကံသ (ဦးကြယ်)

၇။ အဂ္ဂမဟာပဏ္ဍိတ ဝေဃံဘုံသာဆရာတော် ဦးကလျာဏ၊
၈။ အနေ့ရှုပြင်တိုက်တော် ဦးဓမ္မဝံသ—

ပေါင်းဆရာတော်ရှစ်ပါး လက်မှတ်ရေးတော်မူကြ၍ "အရေးပိုင်မင်း ဦးစိန်းမောင်ထံမှ တဆင့် ဆိုင်ရာ အစိုးရဌာနသို့ တင်သွင်းပါစေသော" ဟုအပ်နှံ၍ ပြန်ကြတော်မူခဲ့ကြလေသည်။

နောက်နှစ်ရက်ခန့်အကြာတွင် အရေးပိုင်မင်းထံမှ "တိုင်းမင်းကြီးကို နားလည်အောင် ပြောထားလျှင် သာ၍ ကောင်းပါလိမ့်မည်" ဟု စာတစောင် ရောက်လာသည်။ ၎င်းစာအရ ဟံသာဝတီဆရာတော်ဘပါးတည်းပင် တိုင်းမင်းကြီးဦးအောင်မြင့်ထံ သွားရောက်၍ မြေနေရာနှင့် စပ်လျဉ်းသည့်အကြောင်းအလုံးစုံ ပြောပြပြီးနောက်—

"ဗုဒ္ဓသာသနာတော် ကမ္ဘာပေါ်၌ တည်မြဲထွန်းလင်းနိုင်ခြင်းမှာ ပရိယတ္တိဟု ဆိုအပ်သော စာပေကျမ်းဂန် ချပို့သင်ကြားခြင်းသည် မူလအခြေခံ ပဓာနဖြစ်သည်။ ပရိယတ္တိသာသနာတော် ထွန်းလင်းနေသမျှ ပဋိပတ္တိဟူသော အကျင့်တရားများ မကွယ်ပျောက်နိုင်၊ ပဋိပတ္တိအကျင့်တရားရှိနေလျှင် မဂ်ဖိုလ်နိဗ္ဗာန် ရခြင်းဟူသော ပဋိဝေဓ သာသနာတော်တည်မြဲပါသည်။ ယခု ပရိယတ္တိသာသနဟိတ အသင်းကြီးသည် ၁၂၆၀-ပြည့်နှစ်ကစ၍ စာသင်တန်း စာချတန်း စာမေးပွဲများ ကျင်းပပေးပြီးလျှင် အောင်မြင်သော ပုဂ္ဂိုလ်များကို ဆွမ်းဆန်တော် ချီးမြှောက်ထောက်ပံ့ လှူဒါန်းသောကြောင့် တနှစ်ထက်တနှစ် စာချပုဂ္ဂိုလ် တိုးတက်ပွားများလာခြင်းသည် ပရိယတ္တိသာသနဟိတ အသင်းကြီး၏ ဆောင်ရွက်ချက်ဟုဆိုလျှင် မှားမည်မဟုတ်ပါ၊ သို့အတွက် ၎င်းအသင်းကြီးကို ကူညီထောက်ပံ့ရလျှင် သာသနာတော်ကို ကူညီထောက်ပံ့ခြင်းမည်တော့သည်။ ဤသို့ အခြေခံ ကို ပိုင်ပိုင်မိမိသိရလျှင် တိုင်းမင်းကြီးကလည်း ကူညီ ထောက်ပံ့လိမ့်မည်ဟု ဆရာတော်များ မျှော်လင့်ပါသည်" စသည်ဖြင့် အကျယ် ပြောဟောပြလျှင်—

"အလွန်ဝမ်းမြောက်ပါသည် ဆရာတော်....လေးလေးစားစား ထောက်ပံ့ကူညီပါမည်" ဟု ကတိပေးဝန်ခံလေသည့်ပြင် "အရေးပိုင်မင်းကို အမြန် အမှုတွဲပြုလုပ်၍ တင်ပို့ပါဟု မိန့်တော်မူပါဦး" ဟူ၍လည်း လျှောက်ထားလိုက်လေသည်။

ထိုအကြောင်းကို အရေးပိုင်မင်းထံ ဝင်၍ ပြောပြလိုက်၍ "တလလောက်နှင့်ပြီးပါစေမည်" ဟု ဝန်ခံကတိပြုလိုက်သည့်အတိုင်း ဆောင်ရွက်ခြင်းပြုလေသည်။

၁၃၁၄-ခုနှစ် ဝါဆိုလဆုတ် ၂-ရက်နေ့ သာသနာရေးဝန်ကြီးကိုယ်တိုင် မန္တလေးသို့ လာရောက်၍ မူလမေတ္တာရပ်ခံစာတွင် ပါဝင်တော်မူကြသော ဆရာတော်ကြီးရှစ်ပါးတို့ကို ပင့်ဖိတ်ပြီး လျှင် သာသနာ့ဂရန်မြေပုံကို ဆက်ကပ် လှူဒါန်းလေသည်။ ထိုအခါ ဆရာတော်ကြီးများက ပရိယတ္တိသာသနဟိတ အသင်းလူကြီးများအား "သာသနဝဏ္ဏကမြေကို ထိန်းသိမ်းစောင့်ရှောက် ထားလေ" ဟု အမိန့်ချမှတ်တော်မူကြသည်။

"ဤသို့ မြန်မာနိုင်ငံတော် အစိုးရမင်းတို့က ငွေကုန်ကြေးကျ အကုန်ခံ၍ မြေဒနရာလှူဒါန်းသည်" ဟူသော သတင်းစကားကိုကြားသိကြရကုန်သော မြို့သူမြို့သားအပေါင်း သူတော်ကောင်းတို့ကလည်း ဖမ်းမြောက်ဝမ်းသာ စေတနာရွှင်လန်း သဒ္ဓါပန်းပွင့်လန်းကြပြီးလျှင် မိမိတို့ခွန်အားဗလ ငွေမ်းအား ရှိသမျှ ဒါနဝတ္တုလှူဒါန်းခြင်းကို ပြုကြခြင်းကြောင့်လည်းကောင်း၊ မြေ့ကထိက ဦးလှသိန်းကလည်း သာသနာ့အစေခံကျွန်စာရင်း မြောက်နှစ်မျှခံ၍ ထက်သန် သောစေတနာ ကြီးစွာသောဥဿာဟဖြင့် ဇာဝသံသရာ လွတ်ကင်းရာမှန်ပြည် နိဗ္ဗာန်ကို ရောက်ရန်အကြောင်း လမ်းကြောင်းပြု၍ ပြည်သူပြည်သားတို့အား သဒ္ဓါတရား ပွားများတိုးတက်အောင် တိုက်တွန်းနိုးဆော်ခြင်းကြောင့်လည်း ကောင်း၊ ပရိယတ္တိသာသနဟိတ အသင်းလူကြီးမင်းတို့ကလည်း ခွန်အားရှိသမျှ ဒါနဝတ္ထုလှူဒါန်းခြင်းကို ပြုကြသည့်အပြင် မဆုတ်မနစ် အားသစ်ခွန်ဗေဟောင်း ကောင်းအောင်ကြပ်မတ် အတတ်ပညာ သဒ္ဓါပသန္န ဇွဲလုံ့လဖြင့် တပကင်းကွာ ပညာသတိရှေ့ရှိပြီးကာ ခိုင်မြဲစွာ ဆောင်ရွက်လုပ်ကိုင်ခဲ့ခြင်းကြောင်းလည်း ကောင်း သာသနိကဝဏ္ဏကမြေပေါ်ဝယ် တင့်တယ်လှပ ပသာဒဂုဏ် လွှမ်းခြုံ အပြီးသာသနာ့ဗိမာန်တော်ကြီး ပေါ်ထွက်တော်မူလာခြင်းသည် ရဟန်းနှင့်လူ အတူယှဉ်တွဲ သဟဲပြုကြရသဖြင့် ပရိယတ္တိသာသနာရောင် ထွန်းပြောင်တောက်ပ လာရခြင်း အမှန်ပင်ဖြစ်တော့သတည်း။

ဧဝံ ဟိ မဟုဿာဟေန၊ မဟာထေရောဘိယုဉ္ဇယိ။
သာသနဿ ဟိတတ္ထာယ၊ သဒ္ဓါ ဒဠှမာနသော။

## သံဃနာယကတိုက်အုပ် ဖြစ်တော်မူခြင်း

ဒက္ခိဏာရာမ ဘုရားကြီးကျောင်းတိုက်ကြီး၏ အဌမမြောက် သံဃနာယက ဖြစ်တော်မူလာ အရှင်ပဏ္ဍိတာဘိဝံသသည် ၁၃၂၄-ခုနှစ်တွင် လူ့ပြည်ငြီး၍ နတ်ထီးဝင်စံတော်မူခဲ့ရာ ရုပ်ဂလာင်ကို ၁၃၂၅-ခုနှစ် နတ်တော်လတွင် ပြာသာဒ်၊ ဘလား၊ လောင်တိုက်တို့ဖြင့် သိုက်မြိုက်ခမ်းနားစွာ ပူဇော်ကြ၍

အင်္ဂလိပ်စာပြန်ပြုလုပ်ကြသည်၊ ဟံသာဝတီ ဆရာတော်ဘုရားကြီးသည် ၁၃၂၅-ခုနှစ် ပြာသိုလဆန်း ၇-ရက်နေ့တွင် တိုက်ဘာသံဃာ အားလုံးတို့၏ ညီညာဟသော စည်းဝေးတင်မြှောက်မှုကြောင့် ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသ၏ အရိုက်အရာကို ဆက်ခံတော်မူ၍ ဒက္ခိဏာရာမတိုက်မဟာ၏ သံဃနာယကတိုက်အုပ် ဖြစ်တော်မူခဲ့လေသည်။

## မဟာမြတ်မုနိ ဘဏ္ဍာဂါရိက ဩဝါဒါစရိယတာဝန် ဆောင်ရွက်တော်မူခြင်း

သက္ကရာဇ် ၁၃၀၇-ခုနှစ်တွင် မဟာမြတ်မုနိဘုရားကြီး ရာသက်ပန် ဘဏ္ဍာတော်ထိန်း ဦးကျော်ရန် စသော လူကြီးမင်းများ၏ လျှောက်ထားချက်အရ အောက်ပါဆရာတော်ကြီး ၁၁-ပါးကို ဩဝါဒါစရိယ ဆရာတော်ကြီးများအဖြစ် တာဝန်ထမ်းဆောင်တော်မူကြသည်။

၁။ အဂ္ဂမဟာပဏ္ဍိတ ညောင်ရမ်းဆရာတော်ကြီး ဦးရေဝတ၊
၂။ အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော် ဦးသုရိယ၊
၃။ အဂ္ဂမဟာပဏ္ဍိတ ဒက္ခိဏာရာမတိုက် ဦးနာရဒ၊
၄။ အဂ္ဂမဟာပဏ္ဍိတ စံကျောင်းဆရာတော် ဦးနန္ဒိမာ၊
၅။ အဂ္ဂမဟာပဏ္ဍိတ ဒက္ခိဏာရာမတိုက် ဦးဉက္ကံသ (ဦးကြယ်)၊
၆။ ဆီးဗန်းနီ တိုက်အုပ်ဆရာတော် ဦးသုန္ဒရ၊
၇။ တောင်ဆောင်တဲ တိုက်အုပ်ဆရာတော် ဦးဥက္ကမ၊
၈။ အဂ္ဂမဟာပဏ္ဍိတ ဗားလရာတိုက်အုပ် မြသိန်းတန်ဆရာတော်၊
၉။ မိဘပုံ ကျောင်းအုပ်ဆရာတော် ဦးရေဝ၊
၁၀။ သစ်ပင်မှ တိုက်အုပ်ဆရာတော် ဦးဝိစိတ္တ၊
၁၁။ အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော် ဦးဇာနက္ကာဘိဝံသ၊

ဝန်ဆောင် ဆရာတော်တို့ ဖြစ်ကုန်၏။

## မဟာမြတ်မုနိ ဘုရားကြီးအတွင်း တိုးပွားလာသောအဆောက်အအုံများ

ဟံသာဝတီ ဆရာတော်ဘုရားကြီး အရှင်ဇာနက္ကာဘိဝံသသည် မဟာမြတ်မုနိ ဘုရားကြီး ဘဏ္ဍာဂါရိက ဩဝါဒါစရိယအဖွဲ့၏ ဝန်ဆောင်ဆရာတော် ဖြစ်၍ မဟာမြတ်မုနိဘုရားကြီး တိုးတက်ကြီးပွားရေးကို အားသွန်ခွန်စိုက် ဆောင်

ရှက်တော်မူခဲ့လေသည်။ ဆရာတော်၏ ဦးဆောင်ကြိုးပမ်းမှုကြောင့် အဆောက် အအုံ များစွာတိုးပွားလာလေ၏။

၎င်းတို့မှာ-

၁။ အရှေ့မုခ် ကျွန်းပြာသာဒ်တော်အနီး ဦးစံရီ-ဒေါ်မယ်တို့က ဆောက်လုပ်လှူဒါန်းအပ်သော ၄၇၀၀ဝိ ကျော်တန် ကွန်က ရစ် မဏ္ဍပ်ကြီး။

၂။ မြောက်မုခ် အုတ်ပြာသာဒ်တော်ကြီးအနီး ဦးကျော်-ဒေါ်သန်း ရင်တို့က ဆောက်လုပ် လှူဒါန်းသော ၃၀၀၀ဝိ ကျော်တန် ကွန်ကရစ် မဏ္ဍပ်ကြီး။

၃။ အရှေ့ အုတ်စောင်းတန်းဟောင်းမှ အနောက်သို့ ရှေ့တော် သံပြာသာဒ် တန်ဆောင်းတော်ကြီးအထိ ခန်းရေး ၄၂-ရှိ ကောင်းမှုရှင် အများတို့က စုပေါင်း ဆောက်လုပ် လှူဒါန်း အပ်သော ၃-သိန်းကျော်တန် အုတ်စောင်းတန်းတော်ကြီး။

၄။ အနောက်ခြသေ့်ကြီးမှ အပြင်တံတိုင်း မုခ်ဦးထိ သံတန်ဆောင်း ပြာသာဒ်တော်ကြီးနှင့်တကွ ခန်းရေ ၁၇-ရှိ ကောင်းမှုရှင်တို့ က စုပေါင်းလှူဒါန်းအပ်သော ၁-သိန်း ၅-သောင်းကျော် တန် စောင်းတန်းတော်ကြီး။

၅။ မြောက်ဘက်စောင်းတန်းဟောင်းမှ အရဏ်ခံ ကွန်ကရစ် အုတ် ပြာသာဒ်ကြီးအထိ ခန်းရေ ၅၃-ရှိ ကောင်းမှုရှင်တို့က စုပေါင်း လှူဒါန် အပ်သော ၅-သိန်း ၂-သောင်း ကျော်တန် အုတ် စောင်းတန်းတော်ကြီး။

၆။ အရှေ့ဘက် ရှေ့တော် ကောင်းမှုရှင်အများ စုပေါင်းဆောက် လုပ် လှူဒါန်းအပ်သော လေးခန်းပတ်လည် ၁ သိန်း ကျော် တန် သံ တန်ဆောင်းတော်ကြီး။

၇။ တောင်ဘက်အတွင်း မုခ်ဦးကို သုတ်သင်ရှင်းလင်း၍ ဒေါ်ညွန့်ရီ မောင်နှမတစုတို့က စုပေါင်းလှူဒါန်း ထားအပ်သော ၁-သိန်း ကျော်တန် ကွန်ကရစ် အုတ်ပြာသာဒ်တော်ကြီး။

၈။ မြောက်ဘက် မုခ်ဦးကို သုတ်သင်ရှင်းလင်း၍ ဒေါ်စောတင်က တဦးတည်း ဆောက်လုပ်လှူဒါန်းအပ်သော ၁-သိန်း ကျော် တန် ကွန်ကရစ် အရဏ်ခံ ပြာသာဒ်တော်ကြီး။

၉။ အရှေ့မြောက်ဘက် အုတ်တိုက်ဟောင်းကြီးကို အသစ်ပြင်ဆင် ၍ အနံ ၆-ခန်း အလျား ၁၁-ခန်းရှိ ကောင်းမှုရှင် အများ

တို့က လှူဒါန်းအပ်သော ရှမ်းဆောင်း ကျော်တန် ဓမ္မသာလာ တန်ဆောင်းတော်ကြီး။

၁၀။ အရှေ့တောင်ဘက် အနံ ၅-ခန်း အလျား ၁၁-ခန်းရှိ အများပြည်သူတို့ ဆောက်လုပ်လှူဒါန်းထားအပ်သော ရှမ်းဆောင်း ကျော်တန် ဓမ္မစကြာ ပြတိုက်တန်ဆောင်းကြီး။

၁၁။ ဘဏ္ဍာတော်စုစည်းများကို ကြည့်ညိုဖွယ် ပြသထားအပ်သော အနံ ၅-ခန်းရှိ ၁-သိန်းကျော်တန် ဦးတင်အောင်နှင့် ဇနီးတို့က ဆောက်လုပ်လှူဒါန်းအပ်သော ၁-သိန်းကျော်တန် ပြတိုက်တန်ဆောင်းကြီး။

၁၂။ ရှေးပြတိုက် ဟောင်းကို ရှင်းလင်းသုတ်သင်၍ အနံ ၅-ခန်း အလျား ၁၁-ခန်းရှိ ဦးစိန်အမွှေးရှိသော ဆွေမျိုးတစုတို့က ဆောက်လုပ်လှူဒါန်း ထားအပ်သော ၁-သိန်းကျော်တန် မိုးကောင်း ဓမ္မာရုံတန်ဆောင်းကြီး။

၁၃။ အနောက်တောင်ဘက် စက်တော်ရာ ကိန်းဝပ်တော်မူရန် အနံ ၅-ခန်း အလျား ၁၁ ခန်းရှိ ဦးမောင်မောင် တဦးတည်း လှူဒါန်းထားအပ်သော ၁-သိန်း ၅-သောင်းကျော်တန် စက်တော်ရာ တန်ဆောင်းကြီး။

၁၄။ အနောက်မြောက်ဘက် အနံ ၄-ခန်း၊ အလျား ၁၁-ခန်းရှိ ဦးသိန်းမောင်- ဒေါ်လှဝင်း ဆွေမျိုးတစုတို့က ဆောက်လုပ်လှူဒါန်းအပ်သော ၁-သိန်းကျော်တန် ပိဋကတ်တိုက်ကြီး။

၁၅။ အနောက်မြောက်ဘက် ကြေးစည်တော်ကြီး ထားရာ၌ အနံ ၄-ခန်း အလျား ၃-ခန်းရှိ စက်ပိုင်ရှင် ဦးအေး-ဇနီး ဒေါ်အေး သားသမီးတစုတို့က လှူဒါန်းထားအပ်သော ၅-သောင်းကျော်တန် ကြေးစည် ပြတိုက်ကြီး။

၁၆။ ဉာဏဝတီပါ ကြေးရုပ်ကြီးများထားရာ အနံ ၂-ခန်း အလျား ၄-ခန်းရှိ ပြည်သူတို့ကောင်းမှုဖြစ်သော ၁-သောင်းကျော်တန် ပြတိုက်။

၁၇။ အနောက်မြောက်ထောင့်ရှိ အများပြည်သူတို့ ဆောက်လုပ် လှူဒါန်းအပ်သော ၁-သောင်းကျော်တန် သမ္မာဒေဝ နတ်ကျွန်း အုတ်ပြာသာဒ်တော်ကြီး။

၁၈။ အနောက်မြောက်ဘက် ဦးငြိမ်း- ဒေါ်ရှိရှိ တို့က တည်ထား လှူဒါန်းအပ်သော မဂ်သာ အောင်မောင်းတော်ကြီး နှင့် ၁-သောင်းကျော်တန် တန်ဆောင်းကြီး။

၁၉။ အရှေ့မြောက်ထောက် ဦးမောင်ကြီး-ဒေါ်နီ သားသမီးတစုတို့က ဆောက်လုပ်လှူဒါန်းအပ်သော ၁-ဆောင်း ၂-ဆောင်ကျော်တန် နေရဥ္စာ တန်ဆောင်းတော်ကြီး။

၂၀။ ဦးညီ-ဒေါ်ရင်တို့က ဆောက်လုပ် လှူဒါန်းထားအပ်သော ၃-ဆောင်းကျော်တန် ဗဟိုစည် စင်တော်ကြီး။

၂၁။ ဂန္ဓကုဋီပြာသာဒ်တော် လေးမျက်နှာ ပတ်လည်၌ ခင်းထားအပ်သော နံ့သာကျောက်ပြား အကြမ်းတို့ကို ခွါ၍ နှလုံးချောမွေ့ ပြေပြစ်သော တာရာဆို ကျောက်ပြားတို့ကို အသစ်မွမ်းမံ၍ ပြည်သူတို့ကောင်းမှု သိန်းကျော်တန်အခင်း။

၂၂။ ဂန္ဓကုဋီ ပြာသာဒ်တော်ကြီး၏ ထီးတော် စိန်ဖူးတော် ငယ်နေသည်ကို ရတနာ ၇ ပါး အစစ်တို့ဖြင့် ခြယ်လှယ် တပ်ဆင်၍ ပြည်သူအများက ၃-သိန်းကျော်တန် တင်လှူအပ်သော ရွှေကွန်ရက် စိန်ဖူးတော်ကြီး။

၂၃။ ရွှေစင်အစစ် ပန်းသွား နှင်းလာ အညွန့်အဖူးတို့၌ ကျောက်မျက်ရတနာ အစစ်တို့ဖြင့် တန်ဆာဆင်၍ ပန်းထိမ်ကျော်တို့ကို ထုလုပ်စေပြီးလျှင် ၃-သိန်းကျော်တန် ပြည်သူတို့ ဆင်မြန်းကပ်လှူအပ်သော စိန်ဘယက်တော်ကြီး စသော အဆောက်အအုံ ဝတ္ထုပစ္စည်းတို့ ဖြစ်ကုန်၏။

ဤသို့ စသည်ဖြင့် မဟာမြတ်မုနိဘုရား တိုးတက်အောင် ဆောင်ရွက်တော်မူခဲ့သည်မှာ သက်ဆိုးတိုင်ပင် ဖြစ်ခဲ့လေသည်။

## သမိုင်း ဥပဒေ စည်းမျဉ်းများကို ပြုစီရင်ခြင်း

ဆရာတော်သည် လောက သာသနာ ကျေးဇူးများမည့် သမိုင်းဥပဒေ များစွာတို့ကို ပြုစီရင်တော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ ဒက္ခိဏာရာမ သာသနာဝင်ခေါ် မင်္ဂလာသြဘာသာ စာတမ်း။
၂။ မဟာမြတ်မုနိဘုရားကြီး သမိုင်း အကျဉ်းချုပ်။
၃။ မဟာမြတ်မုနိ ဂေါပက စည်းမျဉ်းဥပဒေ။
၄။ သကျသီဟ ဂေါပက စည်းမျဉ်းဥပဒေ။
၅။ မဟာလောကရံသီ အိမ်တော်ရာဘုရား ဂေါပက စည်းမျဉ်းဥပဒေ။
၆။ လောကမာရဇိန် ကုသိုလ်တော်ဘုရား ဂေါပက စည်းမျဉ်းဥပဒေ။
၇။ မကွေးမြို့ မြသလွန် ဂေါပက စည်းမျဉ်းဥပဒေ။
စသည်တို့ ဖြစ်ကြကုန်၏။

စင်စစ်တမူကား ဆရာတော်သည် "သာသနာ့ ဥပဒေ ပါရဂူ"ဖြစ်တော်မူပါပေသည်။

ဥပဒေသေသု ဆေကော စ၊ ဌာနာဌာနေသု ကောဝိဒေါ။
ဥပဒေသ ပါရဂေါတိ၊ ဝုတ္တော သမ္ဗုဒ္ဓသာသနေ၊

## ပျံလွန်တော်မူခြင်း

ယင်းသို့ သာသနကိစ္စ ဗုဒ္ဓကိစ္စ အဝဝကို ဆောင်ရွက်စဉ် ၁၃၃၄-ခုနှစ် တန်ဆောင်မုန်း လဆုတ် ၈-ရက်နေ့တွင် ဆေးရုံတင်ရလောက်အောင် ကျန်းမာရေး ချွတ်ယွင်းလာလေသည်။ သို့ဖြစ်၍ မန္တလေး ပြည်သူ့ဆေးရုံ သံဃဆောင်၌ ထက်ရောက် ကုသတော်မူရသည်။ ဆေးရုံတက်ရောက်စဉ် ဆေးရုံအုပ်ကြီး၊ သီးသက်ဆိုင်ရာ ဆရာဝန်ကြီး၊ နှလုံးဘက်ဆိုင်ရာ ဆရာဝန်ကြီးတို့နှင့် အတူတကွ ဆရာ ဆရာမများ ကြိုးစားကုသကြသော်လည်း သက်သာမှု မရရှိသဖြင့် နတ်တော်လဆန်း ၉-ရက်နေ့တွင် ကျောင်းသို့ ပြန်လည် ပင့်ဆောင်လာရလေသည်။

ကျောင်းသို့ ပြန်လည်ရောက်ရှိစဉ် ကြိုးစား၍ ကုသကြ၏။ အနောက်မြောက်တိုင်းမှူး ဗိုလ်မှူးကြီးစိန်လွင် (ယခုပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီး) လူထု ဦးလှ-ဒေါ်အမာတို့ကလည်း လိုအပ်သော ဆေးဝါးများဖြင့် ကူညီစောင့်ရှောက်လေသည်။ ယင်းသို့ ကုသစဉ် သက်တော် ၈၅-နှစ် သိက္ခာတော် ၆၆-ဝါ ရရှိရာ ၁၃၃၄-ခုနှစ် နတ်တော်လဆုတ် ၁-ရက် ည ၁၁-နာရီ ၂၅-မိနစ်အချိန်တွင် စုတိကမ္မဇရုပ် ချုပ်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဒုမပ္ပလာနေဝ ပတန္တိ မာဏဝါ၊
ဒဟာရာ စ ဝုဒ္ဓါ စ သရီရဘေဒါ။
နာရိယော နရာ မဇ္ဈိမ ပေါရိသာ။

ဒုမပ္ပလာနိ၊ အနု အရင့် အငယ် အကြီး သစ်ရွက်သစ်သီးတို့သည်။ ပတန္တိက္လဝ၊ မခိုင်မြဲချေ ကြွေကျလေကုန်သကဲ့သို့။ ဝေံတထာ၊ ပမာပုံယူဆို့အတူ။ ဒဟာရေ၊ အသက်အရွယ် နုနယ်ငယ်လျသည်လည်း ဖြစ်

---

၁။ ဇာ၊ ၁။ ၄၅၁။ (အယောဃရစ္ဆတ်)

ကုန်သော။ ဝုဒ္ဓါစ၊ အရှယ်လွန်ပြီး ကြီးရင့်သည်လည်း ဖြစ်ကုန်သော။ မာဏဝါ၊ အရွယ်အလယ်အလတ် သတ္တဝါဖြစ်ကြကုန်သော။ နာရိယောစ၊ မိန်းမတို့သည်လည်းကောင်း။ နရာစ၊ ယောကျ်ားတို့သည်လည်းကောင်း။ မဇ္ဈိမ ပေါရိသာစ၊ မိန်းမ ယောကျ်ားတို့၏ အကြားအလယ်မှတ် ဥဘတောဗျည်း နပုံးပဏ္ဍုတ် တို့သည်လည်းကောင်း။ သရီရဘေဒါ၊ လေးပါးဓာတ်ခို ခန္ဓာကိုယ်၏ ယွင်းယို ပျက်စီးကြကုန်ခြင်းကြောင့်။ ပတန္တိ၊ ဇီဝိတိန္ဒြေ မကြွကျ သေဆုံးကြကုန်၏။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် ဒသမမြောက် သံဃမဟာနာယက အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်ဥက္ကံသာဘိဝံသ (ဆရာတော် ဦးကြွယ်)

ဆရာတော်သည် ဒက္ခိဏာရာမ သံဃဗိမာန်တော်ကြီး၏ ဒသမမြောက် သံဃနာယကဖြစ်၍ သာသနာကျိုးကို ဘာယ်ပိုးရွက်ဆောင်တော်မူသည့် မဟာထေရ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင်တော်မူခြင်း

မိတ္ထီလာခရိုင် မိတ္ထီလာမြို့ အရှေ့တောင် ခပ်ယွန်းယွန်း၌ ကိုးမိုင်ခန့် ကွာလှမ်းသည့် ကွက်ငယ်ရွာ ညောင်ပင်ကြီးရပ်နေ[၁] အဖ ကျောင်းဒါယကာကြီး ဦးဖုး-ကျောင်းဒါယိကာမကြီး ဒေါ်ပွားလေးတို့မှ သက္ကရာဇ် ၁၂၅၁-ခုတော်သလင်းလပြည့်ကျော် ၇-ရက်၊ တနင်္ဂနွေနေ့ ၂-ချက်တီးကျော်အချိန်တွင် ဖွားမြင်တော်မူခဲ့လေသည်။ ငယ်မည် မောင်ကြွယ်ဖြစ်လေသည်။

---

၁။ ''တံတိုင်းမလုံ၊ ဈေးသာစုံ၊ နိဂုံအမည်ပေး''ဟူသည်နှင့်အညီ ကွက်ငယ်ရွာသည် ဈေးရှိရကား ရွာဟုခေါ်သော်လည်း နိဂုံးပင်ဖြစ်သည်။ ယင်းရွာ၌ တောင်ပိုင်းကို ကွက်ငယ်ရပ်၊ မြောက်ပိုင်းကို ညောင်ပင်ကြီးရပ်ဟု ခေါ်သည်။ ဆရာတော်သည် ညောင်ပင်ကြီးရပ်၌ ဖွားမြင်တော်မူသည်။



ဒက္ခိဏာရာမတိုက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ
အရှင်ဥက္ကံသာဘိဝံသ (ဦးကြွယ်)

## ပညာ သင်ကြားတော်မူခြင်း

သက်တော် ၇-နှစ်အရွယ်ရှိရာ ၁၂၅၇-ခုနှစ်တွင် မိဘတို့ အပ်နှံသဖြင့် ကွက်ယက်ရွာ အရှေ့ဘက် မင်းကျောင်းဆရာတော် ဦးစန္ဒာသိရိထံ ရောက်ရှိ၍ ပညာသင်ကြားတော်မူခဲ့သည်။ ဦးစန္ဒာသိရိထံတွင် သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ ရတနာ့ရွှေချိုင့်၊ နမက္ကာရ၊ ပရိတ်ကြီး၊ လောကနီတိ-စသော အခြေခံ ကျမ်းစာများကို သင်ယူတော်မူခဲ့သည်။ ရင်းပြင် လက်ခရေးလက်သား လှစေခြင်းအကျိုးငှာ သစ်သားသင်ပုန်း၌ ဇနက္ကဇာတ်၊ မဟောသဓာဇာတ်တော်တို့ကို ဆရာတော် ခိုင်းသည့်အတိုင်း ရေးသား၍ သင်ယူတော်မူခဲ့လေသည်။

## သာမဏေဝတ် သာသနာ့ဝန် ထမ်းဆောင်ခြင်း

သက်တော် ၁၁-နှစ်အရွယ်သို့ ရောက်ရှိရာ ၁၂၆၁-ခုနှစ် တပေါင်းလတွင် ဦးချစ်ဖူး-ဒေါ်လှဘုံ[၁] တို့၏ ပဋ္ဌယာနုဂ္ဂဟဖြင့် ဆရာတော် ဦးစန္ဒာသိရိကို ဥပဇ္ဈာယ်ပြု၍ သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သာမဏေဘွဲ့ ရှင်ဥက္ကံသ ဖြစ်လေသည်။ ၁၂၆၂-ခုနှစ် ဝါတွင်းတွင် ကိုရင်ဝတ်နှင့်နေပြီး ဝါကျွတ်လျှင် အသက်အရွယ် နုနယ်ငယ်လျှသေး၍ လူဝတ်လဲခဲ့သည်။ တဖန် ၁၂၆၃-ခုနှစ် ဝါဆိုဦးတွင် ပြန်လည် သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ၁၂၆၄-ခုနှစ်တွင် ဆရာတော် ဦးစန္ဒာသိရိ ပျံလွန်တော်မူခဲ့လေသည်။

## ဦးကဝိန္ဒထံ ပညာသင်ကြားတော်မူခြင်း

ဆရာတော်လောင်းလျာ ရှင်ဥက္ကံသသည် ဥပဇ္ဈာယ်ဆရာတော် ဦးစန္ဒာသိရိ ပျံလွန်တော်မူသဖြင့် ဆရာတော် ဦးစန္ဒာသိရိ၏ တပည့်ရင်းဖြစ်သော ဦးကဝိန္ဒထံတွင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဋီကာကျော်၊ ကင်္ခါဝိတရဏီ အဋ္ဌကထာ၊ အဋ္ဌသာလိနီ အဋ္ဌကထာ အစိတ်အဝက်နှင့် အဘိဓမ္မာညဝါ မာတိကာ၊ ဓာတုကထာ ကျမ်းများကို မဟုဿာတ ဇွဲလုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

---

၁။ ဒေါ်လှဘုံကား ဆရာတော် လောင်းလျာ၏ မိခင် ဒေါ်ပွားလေး၏ ညီမ ဖြစ်သည်။

## ဒက္ခိဏာရာမဘုရားကြီးတိုက် ရောက်ရှိ ပညာသင်

သက်တော် ၁၅-နှစ်သားအရွယ်တွင် မန္တလေးမြို့ အောင်မြေ ဒက္ခိဏာရာမ ဘုရားကြီးတိုက် အပြင်ထပ်၌ ကမ္ဗောဇနန်းဟု လွန်စွာကျော်စော ကိတ္တိရှိသော စာချဆရာတော် ဦးနန္ဒိယထံ ရောက်ရှိ၍ ပညာသင်ကြားတော်မူခဲ့လေသည်၊ ဆရာတော် ဦးနန္ဒိယက ဆရာတော် လောင်းလျာ သာမဏေ ရှင်ဥက္ကံသကို ဘွဲ့မခေါ်ပဲ "ဘိုးကြွယ်"ဟူ၍ ခေါ်လေ့ရှိတော်မူသည်၊ ဆရာတော်လောင်း လျာ ရှင်ဥက္ကံသသည် ဖော်ပြပါ ကမ္ဗောဇနန်းခေါ် ဆရာတော် ဦးနန္ဒိယထံတွင် သဒ္ဒနယ၊ အတ္ထနယ၊ အနုသန္ဓေ၊ စုဒ်စောဒနာ အဆုံးအဖြတ် စသည်တို့ကို နည်းနာနယ ရရှိရန် ကစ္စည်းသဒ္ဒါကြီး၊ ဝါစ္စဝါစက၊ ဝိဘတျတ္ထ၊ ကစ္စာယန သာရ၊ န္យာသကျမ်းတို့ကို ဆိုဝါဖြင့် သင်ယူတော်မူခဲ့လေသည်။

## ရဟန်းဘဝ ဒုလ္လဘသို့

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၇၀-ပြည့်နှစ် နတ်တော်လဆန်း ၉-ရက် ကြာသပတေးနေ့ နံနက်အချိန်တွင် ကွက်ယော်ရွာနေ ဇရပ် ဒါယကာ ကြီး ဦးလူတုပ်-ဇရပ် ဒါယိကာမကြီး ဒေါ်မြိုင်တို့၏ ပစ္စယာနုဂ္ဂဟ ဖြင့် ကွက်ယော်ရွာ အရှေ့ကျောင်း ခဏ္ဍသိမ်တော်၌ ဆရာတော် အရှင်ဝိဇယ မဟာ ထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝ ဒုလ္လဘသို့ ရောက်တော်မူခဲ့လေသည်။

## အရှင်အာစာရ မဟာထေရ်ထံ ပညာသင်ယူခြင်း

ရဟန်းခံပြီးနောက် ဘူမိနက်သန် အောင်မြေမှန်သည့် မန္တလေးမြို့ ဒက္ခိဏာ ရာမ ဘုရားကြီးတိုက်သို့ ပြန်လည်ကြွရောက်တော်မူ၍ ဒက္ခိဏာရာမတိုက်ကြီး၏ စတုတ္ထမြောက် သံဃနာယက ဂဏဝါစက ဖြစ်တော်မူသော အရှင်အာစာရ မဟာထေရ်ထံတွင် သဒ္ဒါကြီးရှစ်စောင်၊ သင်္ဂြိုဟ်၊ ဋီကာကျော်၊ ပါရာဇိကဏ် အဋ္ဌကထာကျမ်းများကို ထက်သန် အားကောင်းသော ဝီရိယ ဇွဲလုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

## ပင်းသာဆရာတော် အရှင်ခန္တီမေ့ကလည်း များစွာချီးမြှောက်

ဆရာတော် လောင်းလျာသည် ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ သတ္တမ မြောက် သံဃနာယကာ ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ပင်းသာကျောင်း ဆရာတော် အရှင်ခန္တီမေ့ထံ၌လည်း န္យာသ စသည့် ကျမ်း များကို ဆိုဝါဖြင့် သင်ယူတော်မူခဲ့လေသည်။ သင်္ဂြိုဟ်ကျမ်းကိုလည်း ညဝါ

ပြု၍ ပါဠိအနက် အာဂုံကျက်၍ သင်ယူတော်မူခဲ့လေသည်။ ရဟန်းတော် အရှင်ဥက္ကံသသည် စာပေအရာအမြော်အမြင် များသည်၊ ဉာဏ်လည်း အလွန်ထက်သည်။ သို့ဖြစ်၍ ပင်းသာဆရာတော် အရှင်ခန္တိမမှသည် နေ့စဉ်နေ့တိုင်း လိုလိုပင် ပင်းသာကျောင်းရှေ့ ခုတင်ကြီးပေါ်၌ ကြွရောက်၍ စာပေကျမ်းဂန်များ၊ သာသနာ့ရေးရာများ ဆွေးနွေးတော်မူကြသော ညောင်ကန်ဆရာတော်ဘုရားကြီး ဦးဣန္ဒ၊ အသင်းကျောင်းဆရာတော်ကြီး ဦးမေဓ၊ ဆရာတော် ဦးနန္ဒိယ၊ ဆရာတော် ဦးဝိုင်း၊ ဆရာတော် ဦးဝိမလတို့ ရှေ့မှောက်၌ ''ဘိုးကြွယ် ဘယ်ဂါထာ ရွတ်လိုက်စမ်း၊ ဘယ်ပါဠိ ရွတ်လိုက်စမ်း'' စသည်ဖြင့် စေခိုင်းချီးမြှောက်တော်မူခဲ့လေသည်။ ထိုအခါမှစ၍ ဘွဲ့မည်ပျောက်ကာ ဦးကြွယ်ဟု ထင်ရှားလေသည်။

## အစိုးရစာမေးပွဲ ငယ် လတ် ကြီး အောင်မြင်ခြင်း

စာပေ အရအမိများသဖြင့် ဆရာသမား သိတင်းသုံးတော်တို့၏ တိုက်တွန်းချက်အရ အစိုးရစာမေးပွဲများကိုလည်း ဝင်ရောက်ဖြေဆိုရာ ၁၂၇၄-ခုနှစ်တွင် ပဌမငယ်၊ ၁၂၇၅-ခုနှစ်တွင် ပဌမလတ်၊ ၁၂၇၈ ခုနှစ်တွင် ပဌမကြီး တန်းတို့ကို အောင်မြင်တော်မူခဲ့လေသည်။

## သက္ကသီဟ စာမေးပွဲ စာသင်တန်း အောင်မြင်ခြင်း

ဆရာတော်လောင်းလျာ အရှင်ဥက္ကံသသည် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဒွေမာတိကာ၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ ဝေဒစိန္တာ၊ ကစ္စာယနသာရ ကျမ်းတို့ကို ကြောင်ပုဇွန်စား ကြွပ်ကြွပ်ဝါး နှုတ်တက်ရသည်။ မာတိကာ၊ ဓာတုကထာ၊ ယမိုက် အောက်ငါးကျမ်း တို့ကိုလည်း သဘောမိမိ နိုင်နင်းသည်။ သို့ဖြစ်၍ ၁၂၇၆-ခုနှစ်တွင် ပရိယတ္တိ သာသနဟိတ (သက္ကသီဟ) စာမေးပွဲကို ဝင်ရောက်ဖြေဆိုရာ လွယ်ကူစွာ အောင်မြင်တော်မူခဲ့လေသည်။

## ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၌ ဆက်လက်၍ ပညာသင်ခြင်း

ယင်းသည့် သက္ကသီဟ စာသင်တန်း အောင်မြင်၍ ၁၂၇၆-ခုနှစ်မှစ၍ ၁၂၇၇-ခုနှစ်အထိ နှစ်နှစ်တိုင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီး၌ သိတင်းသုံးတော်မူ၍ အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာမဟာထေရ် စသည့် နိကာယ်ငါးမှုပ် ပိဋကတ် ကမ်းကူး လင်းယာဉ်မှူးကြီးများထံ နိကာယ်စာဝါကြီးများကိုလည်း သင်ယူတော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတ ဦးဝါသဝနှင့် ဦးဇာနိန္ဒာဝုဓ ဦးကြည်တို့ထံ ပညာသင်

အရှင်ဥက္ကံသာ ဘိဝံသသည် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ သုဓမ္မာချုပ် ဖြစ်တော်မူသော စာချအကျော် ဆရာတော် ဦးဝါသဝ (ဦးဝိုင်း)ထံ၌လည်း သဒ္ဒါကြီး ရှစ်စောင်နှင့် အဋ္ဌသာလိနီ ကျမ်းများကို ကြီးမားသောဝီရိယဖြင့် သင်ယူတော်မူခဲ့လေသည်။ ၎င်းပြင် စာချအရာ ကျော်စောထင်ရှားသည့် ညောင်ကန်တိုက်အုပ် တိုက်ပိုဆရာတော် ဦးဇာနိန္ဒာဘိဝံသထံတွင် သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ၊ မူလဋီကာ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ် မဟာဋီကာ ကျမ်းတို့ကို သင်ယူတော်မူခဲ့သည်။ ရွှေရေးဆောင် ဆရာတော် ဦးကြည်ထံတွင်လည်း ဝါကျသွား ဝါကျအဖြာဖြာ၌ နည်းနာနယ ရစိမ့်သော ဌာ ပါရာဇိကကဏ် အဋ္ဌကထာကို သင်ယူတော်မူခဲ့လေသည်။

## သကျသီဟစာချတန်း ဖြေဆိုအောင်မြင်ခြင်း

၁၂၈၀-ပြည့်နှစ် ရဟန်းသိက္ခာ ၉-ဝါအရတွင် ပရိယတ္တိ သာသနဟိတ (သာကျသီဟ) အသင်းစာချတန်း စာမေးပွဲကို အပြီးတိုင် ဖြေဆိုအောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တ ဥက္ကံသာဘိဝံသ ပရိယတ္တိ သာသနဟိတ မေ္ဓာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

## စာပေကျမ်းဂန်ချပို့ သာသနာပြုတော်မူခြင်း

၁၂၈၁-ခုနှစ်မှစ၍ ဆရာတော်ဦးနန္ဒိယ (ကဗျာနန်)အထံ၌ပင် သီတင်းသုံး၍ များစွာသော စာလိုက်သံဃာတို့အား စာပေချပို့၍ သာသနာပြုတော်မူခဲ့လေသည်။ ဆရာတော်သည် အောက်ပါဒေသ မြောင်းမြမြို့၌ စာပေချပို့ သီတင်းသုံးတော်မူဖူးသည်။ ၁၂၈၂-ခုနှစ်တွင် မန္တလေးမြို့ တောင်ပြင် အောင်နန်းရိပ်သာရပ်၊ ရသာတန်း ထိးငန်းရပ်နေ ကျောင်းဒါယကာကြီး ဦးငွေမောင်-ကျောင်းဒါယိကာမကြီး ဒေါ်စီတို့၏ သမီးဖြစ်သော ဒေါ်မေ ဆောက်လုပ်လှူဒါန်းသည့် သုံးခန်း လေးခန်း ကျောင်းဆောင်နှင့် မိတ္ထီလာမြို့နယ်ကွက်ယော်ရွာ ရဟန်းဒါယကာကြီး ဦးလူတုပ်-ရဟန်းဒါယိကာမကြီး ဒေါ်မြိုင်တို့လှူဒါန်းသည့် ကျောင်းဆောင်အားဖြင့် နှစ်ဆောင်တွဲကျောင်းကို အလှူခံတော်မူရလေသည်။ ၎င်းနောက်တွင် ရွှေဘုန်းရှိန်ကျောင်းကြီး စသည်တို့ကိုလည်း ဆက်ကာဆက်ကာ အလှူခံ၍ စာပေချပို့ သာသနာပြုတော် မူခဲ့လေသည်။

## ခေတ်ပျက်သော်လည်း စာဝါမပျက်

ဆရာတော်သည် စာပေချပို့မှု၌ အလွန်ဝါသနာ ထုံတော်မူသည်၊ ဒုတိယကမ္ဘာစစ်အတွင်း၊ ဗုံးကြဲစဉ်အတွင်း စက်သေနတ်တပြောပြော ပစ်ခတ်စဉ်အတွင်းမှာပင် စာဝါချတော်မူသည်။ ငယ်ရွယ်စဉ်က နေ့ဝါ ညဝါများကို ဆက်တိုက် ချပို့တော်မူသည်။ ဥပုသ်နေ့များတွင်လည်း ဝါစ္စဝါစက၊ ကစ္စာယန သာရ၊ ဆန်းကျမ်း အစရှိသောကျမ်းငယ်များကို ချပို့တော်မူခဲ့လေသည်။

## ကျမ်းဂန်များ ပြုစုရေးသားခြင်း

ဆရာတော်သည် စာပေချပို့မှုကိစ္စ လုပ်ငန်းအကြားတွင် ကျမ်းဂန်များကို ပြုစု စီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ လက္ခဏာဒိ ပကာသနီ ဋီကာကျမ်း၊
၂။ အလင်္ကာရတ္ထ ဒီပနီကျမ်း၊
၃။ အလင်္ကာရ ဝိဘာဝနီကျမ်း၊
၄။ အာနာပါနာဒိ ဘာဝနာနယကျမ်း၊
၅။ ကိုယ်တိုင်ရေး သုံးဘဝ အတ္ထုပ္ပတ္တိကျမ်း၊

စသည်တို့ဖြစ်ကုန်၏။ ယင်းကျမ်းများအနက် အာနာပါနာဒိ ဘာဝနာနယကျမ်းကို ၁၃၁၇-ခုနှစ်က ရိုက်နှိပ်ထုတ်ဝေခဲ့သည်။ ကျမ်းစာမျက်နှာဖုံး၌ ဘဒ္ဒန္တဥက္ကံသာဘိဝံသ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးကြည် စီရင်ရေးသားအပ်သော နိဗ္ဗာန်လမ်းပြ အာနာပါနာဒိ ဘာဝနာ နယကျမ်းဟု ပါရှိလေသည်။ ကရောင်း ၁၆ ချိုးဆိုက် ၁၀၄-မျက်နှာ ရှိလေသည်။ ကျမ်းဦး၌-

သမ္မေသမ္ဗုဒ္ဓံ၊ အာနာပါနာဒိဒေသကံ။
နိဗ္ဗာနာယာဘိဝန္ဒိယ၊ ကဿာမ ဒွယဘာဝနံ။

ဟူသောဂါထာဖြင့် ရတနတ္တယပဏာမ၊ ပဋိညာဉ်တို့ကို ဖော်ပြ၍ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

"သုံးဘဝ အတ္ထုပ္ပတ္တိကျမ်း"ကိုလည်း ဆရာတော် ပျံလွန်တော်မမူမီကပင် ကိုယ်တိုင်ရေးသား စီရင်တော်မူခဲ့သည်။ ဆရာတော်သည် ယင်း ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိ၌ ကွယ်ငယ်ရွာတောင်ဘက် ကွယ်ငယ်ရပ်၌ ဦးရွှေအုံအမည်ဖြင့် လူဖြစ်ခဲ့ပုံ၊ ၎င်း ဦးရွှေအုံဘဝမှ နေပြောက်မထိုးသော သစ်ပင်ကြီးတပင်

အောက်၌ လေ ပေခန့်အရပ်ရှိသော လူတယောက်ဖြစ်ခဲ့ရပုံ၊ ၎င်းနောက် ယခု ဘဝဖြစ်စဉ်ဖြစ်၏။ ယင်း ဦးကြွယ်ဘဝဖြစ်စဉ် အတ္ထုပ္ပတ္တိမှာ ၁၃၃၄-ခုနှစ် တိုင်အောင် ဖော်ပြသည့် အတ္ထုပ္ပတ္တိကျမ်း ဖြစ်လေသည်။

## ဆောင်ရွက်ချက်အမျိုးမျိုး

ဆရာတော်သည် ပါဠိပညာရေးအဖွဲ့ နာယကတာဝန်၊ နိုင်ငံတော် ဝိနည်းဓိုရ် တာဝန်၊ ကျောင်းထိုင်ဆရာတော်များအဖွဲ့ ဥက္ကဋ္ဌတာဝန်၊ ဆင္ဃသံဃ ါယနာဝန်ဆောင်ဆရာတော် တာဝန် စသည်တို့ကို ဆောင်ရွက်တော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခြင်း

စာပေကျမ်းဂန် ချပို့တော်မူခြင်း၊ ကျမ်းဂန်ပြုစုရေးသားတော်မူခြင်း အစ ရှိသော ဂုဏ်တို့ကြောင့် သက္ကရာဇ် ၁၃၁၄-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့ လေသည်။ ယင်းသည့် ၁၃၁၄-ခုနှစ်တွင် ဆရာတော်နှင့်အတူ—

၁။ ရန်ကုန်မြို့၊ ခြောက်ထပ်ကြီး ဘုရားကြီးတိုက်၊
ဆရာတော် ဦးကောဏ္ဍည၊

၂။ ရန်ကုန်မြို့၊ ကျောက်ကုန်းဘောဂ မေဒနီကျောင်းတိုက်၊
ဆရာတော် ဦးအာဒ္ဒိစ္စ၊

၃။ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၊
ဆရာတော် ဦးကုဋမ္ဘသဘာ ဘိဝံသ၊

၄။ မန္တလေးမြို့ အနောက်ပြင် ဝိသုဒ္ဓါရုံတိုက်သစ်၊
ဆရာတော် ဦးဉာဏဝံသတို့လည်း အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် တော်ကို အလှူခံ ရရှိတော်မူကြကုန်၏။

## မဇ္ဈိမဒေသသို့ ဘုရားဖူးကြွတော်မူခြင်း

ဆရာတော်သည် ၁၃၁၃-ခုနှစ် သီတင်းကျွတ်လဆုတ် ၁၂-ရက်နေ့တွင် ဆန်ကိုဒါယကာတော်ဖြင့် ဂိုဏ်းပေါင်းစုံ မဟာသံဃာ အဖွဲ့ချုပ်ကြီး၏ အကျိုးတော် ဆောင်ချုပ် ရတနာပုံ ဦးဇာဂရ စသည့် သံဃာတော်ပေါင်း ၂၁-ပါး၊ ဒါယကာ ဒါယိကာမပေါင်း ၃၀-ကျော်တို့နှင့်တကွ မဇ္ဈိမဒေသသို့ ကြွတော်

မူသည်။ တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့တွင် ကာလကတ္တားမြို့သို့ ရောက်တော်မူသည်။ ထိုစဉ်က ကာလကတ္တားမြို့၌ သီတင်းသုံး ရောက်ရှိတော်မူကြသော သီဟိုဠ်မြန်မာ ဘုန်းတော်ကြီးများအား သက်န်းစသော လှူဖွယ်ဝတ္ထုတို့ကိုလည်း လှူဒါန်းတော်မူလေသည်။

## ဗုဒ္ဓဂယာသို့ ဆက်လက်ကြွတော်မူခြင်း

ကာလကတ္တားမြို့၌ အပန်းဖြေနားနေယင်း ၄-ရက်ခန့် သီတင်းသုံးတော်မူ၍ လှည့်လည်ကြည့်ရှု လေ့လာတော်မူပြီး ၁၃၁၃-ခုနှစ် တန်ဆောင်မုန်းလဆန်း ၆-ရက်နေ့ည ၈-နာရီအချိန်တွင် မီးရထားဖြင့် ကြွတော်မူရာ ၇-ရက်နေ့ နံနက် ၆-နာရီအချိန်တွင် ဂယာမြို့သို့ ရောက်တော်မူသည်၊ တဖန် ဗုဒ္ဓဂယာသို့ ဆက်လက်ကြွတော်မူရာ ၉-နာရီခန့်တွင် ဗုဒ္ဓဂယာသို့ ရောက်တော်မူသည်။ ဗုဒ္ဓဂယာအနီးရှိ မြန်မာကျောင်း (ဦးဥက္ကမ) ကျောင်းတွင် သုံးရက်သီတင်းသုံးတော်မူ၍ -

၁။ မဟာဗောဓိတော်၊
၂။ မဟာစင်္ကြံတော်၊
၃။ မဟာဗောဓိပလ္လင်တော်၊
၄။ မဟာဗောဓိစေတီရံများ၊
၅။ မဟာဗောဓိပင်၊
၆။ အနိမိသကုန်း၊
၇။ စင်္ကမနကုန်း၊
၈။ ရတနာဃရရွှေအိမ်၊
၉။ ဆိတ်ကျောင်းညောင်ပင်၊
၁၀။ မုစလိန္ဒာအိုင်၊
၁၁။ လင်းလွန်းပင်နေရာ၊
၁၂။ ဘုရားရှင် ဒုက္ကရစရိယကျင့်တော်မူရာဌာန၊
၁၃။ သုဇာတာ နို့ဃနာဆွမ်းဆက်ကပ်ရာဌာန - စသည်တို့ကိုလည်း သဒ္ဓါရွှင်စိုကြည်ညိုဖူးမျှော် သံဝေဂယူတော်မူခဲ့လေသည်။

## မဟာဗောဓိ စေတီတော်

ဗုဒ္ဓဂယာတွင် မဟာဗောဓိ စေတီတော်ကြီးမှာ မဟာဗောဓိပလ္လင်တော်၏ ရှေ့၌ တည်ရှိလေသည်။ ပုံတော်မှာ လေးထောင့်နှစ်ဆင့်ထပ်ဖြစ်၏။ အရှေ့အနောက် ၅၇-တောင်၊ တောင်မြောက်အတောင် ၂၀၊ အထက်သို့ပိတ်

မြောက်အထိ ဒေါင်မြင့်ပေ ၁၃၀-ခန့်ရှိ၏။ ၎င်းမှ အထက်ပေ ၄၀-ရှိ၏။ ယင်း စေတီတော်ကြီး၏ မြောက်ထပ်ဂူအကွင်း၌ ဉာဏ်တော် သုံးတောင် တမိုက်ရှိ ရုပ်ပွားတော် တဆူရှိ၏။ ယင်းစေတီတော်ကြီးကား သီရိဓမ္မာသောကမင်းကြီး စောင်တည်ထား ပြီးနောက် မန္တလေးမြို့တည် နန်းတည် မင်းတုန်းမင်းတရား ကြီး၏ ဆလိုတော်ဖြင့် အင်္ဂလိပ်ဘုရင်မကြီးက ထပ်မံ၍ တည်ထားခဲ့သည်။

ယင်းဗုဒ္ဓဂယာ မဟာဗောဓိ စေတီတော်ကြီးနှင့် စပ်၍ ဗုဒ္ဓဝင်ဆရာကြီး ဦးထွန်းစိန်၏ ဖောက်ပါလေးချိုးကို ဖတ်ရှုကြည့်ညိုရာ၏။

## မဟာဗောဓိ စေတီတော်ဘွဲ့ လေးချိုး

စောင်နံကျင့်သမ္မာမြူးပါလို့၊
ဗောဓိဉာဏ် ပွင့်သွာအဖူးကိုလ၊
ဆင့်ကာခူးရာဘွဲ့ဗုဒ္ဓဟော။
တရားမင်းအားတင်းကာ မာရ်ကိုနှင်၍၊
ရန်ပြိုလျှင် ပီတိပျှုံးတယ်၊
မျိုးအောင်ညွှန့်မြေ။
ကပ်ကမ္ဘာအလီလီ အသချင်္ချာကဲပါလို့၊
မြတ်ပါရမီတွေကို မယုဉ်သာအောင် နွဲ့ရှာရ၊
အကြွင်နာမနဲပါတဲ့ ထွတ်ဆုံးမဟော။
ဝဋ်သုံးဗွေကိုတဲ့ ရှောင်ကာသွား၊
နောင်သောခါ အောင်သြဘာတကယ်ဆင်ဖို့၊
အနွယ်စဉ် အလျဉ်မပြတ်အောင်ပ၊
ရှင်ဓာတ်တော်ကြည်သဒ္ဒါ၍၊
ဤကမ္ဘာတည်ကြောင်းကိုလ၊
ရည်ချွေညောင်းက အမွှတ်သဘောပေပေါ့၊
မပြတ်စောကာ အခြေမှီကြတဲ့၊
ဗောဓိပင် စေတီယကို ကွယ်ဦးချဝတ်တွား [၁]။

## ရာဇဂြိုဟ်မြို့ဟောင်းသို့ ကြွရောက်ကြည်ညိုတော်မူခြင်း၊

ဗုဒ္ဓဂယာ၌ သုံးရက်သီတင်းသုံးတော်မူ၍ ပူဇော်သံဝေဂယူ အလှူဒါန ပြုတော်မူပြီး တန်ဆောင်မုန်းလဆန်း ၉-ရက်နေ့နံနက်တွင် ရာဇဂြိုဟ်မြို့သို့

---

၁။ ဗုဒ္ဓဂယာဘုရားညွှန်ပေါင်း၊ ၄၃၊

ဆက်လက်၍ ကြွတော်မူရာ နေ့လယ် ၂-နာရီအချိန်တွင် နာလန္ဒာကျောင်းတော်ကြီးသို့ ရောက်တော်မူသည်။

ယင်း နာလန္ဒာကျောင်းတော်ကြီးကို ကြည့်ရှုလေ့လာ သံဝေဂယူတော်မူပြီး ဆက်လက်ကြွတော်မူရာ ညနေ ၄-နာရီအချိန်ခန့်တွင် ရာဇဂြိုဟ်မြို့ ဦးဇယန္တကျောင်းသို့ ရောက်တော်မူသည်။ ဦးဇယန္တကျောင်းတိုက်၌ သံဃာတော်များအား ကထိန်သင်္ကန်း ဆက်ကပ်လှူဒါန်းတော်မူခဲ့သည်။ ဆရာတော်ကား အလှူရေစက် လက်နှင့်မကွာသည့် ဒါနာဘိရတပုဂ္ဂိုလ်မြတ်လည်းဖြစ်တော်မူသည်။ ယင်းသို့ ကထိန်သင်္ကန်း ကပ်လှူတော်မူပြီးနောက် ဝေဘာရတောင်နံဘေးရှိ ရဟန္တာသခင် အရှင်မြတ် ၅၀၀-တို့ ညီညာသံချို ရွတ်ဆို၍ ပဌမသံဂါယနာတင်ရာ သတ္တပဏ္ဏိလိုဏ်ဂူတော်သို့ ကြွရောက်တော်မူ၍ တရားသံဝေ ရှာဖွေတော်မူခဲ့လေသည်။ ယင်းလိုဏ်ဂူကား အလျား ၂၄-တောင်၊ အနံ ၁၄-တောင်ခန့်ရှိသည်။ မုဒ္ဒဝင်ဆရာကြီး ဦးထွန်းစိန်သည် ယင်းလိုဏ်ဂူတော်ကြီးကို အောက်ပါတေးထပ်ဖြင့် ဖွဲ့ဆိုတော်မူခဲ့လေသည်။

## ပဌမသံဂါယနာတင်လိုဏ်ဂူတော်ဘွဲ့ တေးထပ်

ရာဇဂြိုဟ်အနီးရှင့်၊ စရည်းပင့်ရောက်ရာ။
ခရီးဖြင့် ထောက်မကွာသည်၊ နောက်သာသနာတည်ကြောင်း။
ပန်းမြိုင်တောဂူလိုဏ်မှာ၊ တူပြိုင်ကာ ရွတ်ကြပေတောင်း၊
ဇာတသတ်မြတ်ဘုရင်၊ မွတ်ယှဉ်ကာတူပေါင်း။
ထေရ်ငါးရာ အရှင်အောင်းတွေ့သို့၊ ကျောင်းမကျွပ်ဆောက်ကာ။
တာဝတိံ သုဓမ္မာဇရပ်လိုပ၊ ရှုစဆုမလပ်တင့်လှပေတာ။
ပဌမသံဂါယနာမှာ၊ အရှင်မဟာကဿပ မှူးပါလို့။
မြတ်လှအထူး ပေါင်းစုဘင်သည်၊ ကောင်းမှုယှဉ်ဘည်။
မြတ်ဗုဒ္ဓစက်ရောင်ခြည်မှာ၊ လက်ပြောင်ကြည်ထိန်ဝင်းလို့လေး ၁။

ဆရာတော်သည် ဂိဇ္ဈကုဋ်တောင်ပေါ်သို့ တက်ကြွတော်မူ၍ ဘုရားရှင်သီတင်းသုံးတော်မူရာ၌ ဆွမ်းတော်ကပ်လှူ ပူဇော်တော်မူခဲ့သည်။ ၎င်းပြင် ရာဇဂြိုဟ်မြို့တော်ဟောင်းနှင့် ဝေဠုဝန်ကျောင်းတော်ရာကိုလည်း လေ့လာကြည့်ရှုတော်မူခဲ့လေသည်။

---

၁။ ဗုဒ္ဓဂယာ ကဗျာသွန်ခေါင်း။ ၁၃။

## ပါဋလိပုတ် (ပတ္တနာ)သို့ ဆက်လက်ကြွတော်မူခြင်း

ပါဋလိပုတ်မြို့တော်သည် သာသနာ့သမိုင်းတွင် လွန်စွာထင်ရှားသည့် မြို့ကြီးဖြစ်သည်။ "ကုသုမပုရ" "ပုပ္ဖပုရ" ဟူသော အမည်များဖြင့်လည်း ထင်ရှားသည်၊ ယခုအခါ ပတ္တနာဖြစ်သည်။ ဆရာတော် ဦးဆောင်သော ဘုရားဖူးအဖွဲ့သည် တန်ဆောင်မုန်းလဆန်း ၁၂-ရက်နေ့နံနက် ၆-နာရီတွင် ရာဇဂြိုဟ်မှ ကားဖြင့် ပါဋလိပုတ်သို့ ဆက်လက်ကြွတော်မူရာ ၁၂-နာရီအချိန်တွင် ဆိုက်ရောက်သည်၊ ဆရာတော်သည် ပါဋလိပုတ်မြို့တော်၌ ရှေးဟောင်းပြတိုက် အသောကကျောက်တိုင် စသည်တို့ကို ကြည့်ရှုလေ့လာတော်မူခဲ့သည်။

## ဗာရာဏသီမိဂဒါဝုန်သို့

တန်ဆောင်မုန်းလဆန်း ၁၃-ရက်နေ့တွင် ပတ္တနာမှ မီးရထားဖြင့် ဗာရာဏသီသို့ ဆက်လက်ကြွတော်မူရာ ယင်းသည့် ၁၃-ရက်နေ့ညတွင် ဗာရာဏသီသို့ ဆိုက်ရောက်တော်မူသည်။ ၎င်းမှကားဖြင့် ဘုရားမြတ်စွာ ဓမ္မစကြာတရား ဟောတော်မူရာ မိဂဒါဝုန်ဥယျာဉ်သို့ ဆက်လက် ကြွတော်မူ၍ သုံးရက်ခန့် သီတင်းသုံးတော်မူ၍ မိဂဒါဝုန်ဥယျာဉ်အတွင်း၌ရှိ နန္ဒိယသူကြွယ် ဆောက်လုပ်သည့် ကျောင်းတော်ရာ သီဟိုဠ်ကျွန်းသား အနာဂါရိက ဓမ္မပါလ ၁၉၃၁-ခုနှစ်အာ ဦးစီး၍ အပြီးတည်ဆောက်ခဲ့သော စေတီတော်တိုက် ဓမ္မကစေတီ စသည်တို့ကိုလည်း လှည့်လည်ကြည့်ရှု ဖူးမျှော်သံဝေဂယူတော်မူခဲ့လေသည်။ အနာဂါရိက ဓမ္မပါလ ဦးစီးတည်ဆောက်ခဲ့သော စေတီတော်တိုက်ကြီးမှာ အလျားပေ ၁၃၀-နှင့် ငါးလက်မ၊ အမြင့်ပေ ၁၁၀-ရှိသောဟူ၏။ မိဂဒါဝုန်၌ သုံးရက်သီတင်းသုံးတော်မူပြီး ဗာရာဏသီမြို့သို့ ဆက်လက်ကြွတော်မူ၍ ယင်းဗာရာဏသီမြို့၌ သုံးရက်သီတင်းသုံးတော်မူ၍ လှည့်လည်ကြည့်ရှု သံဝေဂယူတော်မူခဲ့လေသည်။

## ကုသိနာရုံသို့ ကြွတော်မူ

တန်ဆောင်မုန်းလဆုတ် ၄ ရက်နေ့ည ၁၁-နာရီအချိန်တွင် ဗာရာဏသီမှ ဂေါရခပူမြို့သို့ မီးရထားဖြင့် ဆက်လက်၍ ကြွတော်မူရာ လဆုတ် ၅-ရက်နေ့နံနက် ၈-နာရီအချိန်တွင် ဂေါရခပူဘူတာသို့ ရောက်တော်မူသည်၊ ၎င်းမှ နေ့လယ် ၁-နာရီအချိန်တွင် ကားဖြင့် ကုသိနာရုံသို့ ကြွတော်မူပြန်ရာ ညနေ ၄-နာရီခန့်အချိန်တွင် ကုသိနာရုံ ဦးစန္ဒမုနိကျောင်းသို့ ရောက်တော်မူသည်။

ယင်းကုသိနာရုံရှိ—

၁။ ပရိနိဗ္ဗာန်စံတော်မူပုံ ဆင်းတုတော်ကြီး၊
၂။ ညီတော်အာနန္ဒာ ရေကြည်တော်ကပ်ရာဌာန၊
၃။ တေဇောခတ်လောင်ရာကုန်း၊
၅။ ကုသိနာရုံစေတီတော်ကြီး—

စသည် ပူဇနီယဌာနတို့ကို ဖူးမျှော်ပူဇော်တော်မူပြီးနောက် တန်ဆောင်မုန်းလဆုတ် ၆-ရက်နေ့ ၂-နာရီအချိန်တွင် ကုသိနာရုံမှ ဂေါရခပူမြို့ ပြန်ကြွတော်မူခဲ့သည်။

## လုမ္ဗိနီဥယျာဉ်သို့ ကြွတော်မူခြင်း

ဂုဏ်ပြင် ဂေါရခပူမြို့မှ နော်တာနဝသို့ ဆက်လက်ကြွတော်မူ၍ နော်တာနဝမှ ဘုရားဖွားမြင်တော်မူရာ လုမ္ဗိနီဥယျာဉ်တော်သို့ ကြွတော်မူသည်၊ ယင်းလုမ္ဗိနီဥယျာဉ်တော်ရှိ အသောကကျောက်တိုင်၊ မယ်တော်မာယာအုတ်ဂူတိုက် စသည်တို့ကို ကြည့်ရှုလေ့လာ သံဝေဂယူတော်မူခဲ့လေသည်။ မယ်တော်မာယာအုတ်ဂူတိုက်၌ မယ်တော်မာယာမိဖုရားကြီး အလောင်းတော်သားမြတ် ဖွားမြင်တော်မူပုံ ရုပ်ထုတခုရှိသည်။ ယင်းမယ်တော်မာယာ၏ ရုပ်ပုံအုတ်ဂူတိုက်ကို ဗုဒ္ဓဝင် ဦးထွန်းစိန်က အောက်ပါတေးထပ်ဖြင့် ရေးစပ်ဖွဲ့ဆိုခဲ့လေသည်။

### မယ်တော်မာယာ အုတ်ဂူတိုက်ဘွဲ့ တေးထပ်

ကျွန်းဇမ္ဗူတသောင်းထိပ်မှာလ၊ ကောင်အဟိတ်ဆင်ပန်၊
ဒေါင်းတံဆိပ်သွင်ဟန်လို၊ အင်မတန်ကျော်ကြား။
ဘုရားမြတ် မေ့ မိခင်ကို၊ တွေးကြည့်လျှင် သိကြစေသား။
အုတ်လိုဏ်နန်းစမုခ်မှာ၊ ရုပ်အတူထုထား။
ကုမုဒ်ကြူစုဘုရားငယ်က၊ ယခုဖွားပုံသွင်။
အင်ကြင်းမြိုင် ပန်းဂနိုင်အကွေ့မှာလ၊ နွမ်းယိုင်၍ ဖြစ်ရလေအင်။
လောကခေတ်နယ်တခွင်မှာ၊ နွယ်သဇင် မိမယ်မြတ်ဟာမို့၊
သိကွယ်အမှတ်ရှုရလေပြီ၊ အတုသဒေဝီ။
ရှုမဝမဟေသီငယ်၊ ကေရီထွတ်မှူးရှင့်လေး[၁]။

၁။ ဗုဒ္ဓဂယာဘကျော်ညွှန့်ပေါင်း။ ၃၅။

## သာဝတ္ထိမြို့ဟောင်းသို့

ရင်းပြင် လုမ္ဗနီဥယျာဉ်မှ နောင်တာနဝ၊ နောင်းတာနဝမှ ဂေါရခပူမြို့၊ ဂေါရခပူမြို့မှ သာဝတ္ထိသို့ ခရီးဆက်တော်မူရာ တန်ဆောင်မုန်းလဆုတ် ၈-ရက်နေ့ည ၁၁-နာရီအချိန်တွင် ဘာလမ္ဗူမြို့သို့ ရောက်သည်၊ ဘာလမ္ဗူမြို့၌ ၉-ရက်နေ့ ၁၀-ရက်နေ့ နှစ်ရက်နားပြီး တန်ဆောင်မုန်းလဆုတ် ၁၁-ရက်နေ့တွင် သာဝတ္ထိမြို့တော်ဟောင်းသို့ ကြွတော်မူသည်။

သာဝတ္ထိမြို့တော်ဟောင်း ဇေတဝန်ကျောင်းတော်ဝင်းအတွင်းရှိ—

၁။ အာနန္ဒာဗောဓိ၊
၂။ ပူတိဂတ္တမထေရ်အရိုးအိုးစေတီ၊
၃။ ကောသမ္ဗကကုဋီရာ၊
၄။ ရဟန္တာ စေတီများ၊
၅။ အင်္ဂုလိမာလကျောင်းတော်ရာ၊
၆။ ဇေတဝန်ကျောင်းတော် အလယ်ဂန္ဓကုဋီနေရာ၊
၇။ သလလာဂါရကုဋီရာ၊
၈။ ကရေရိကုဋီရာ—

စသည့် ရှေးဖြစ် အောက်မေ့ဖွယ်တို့ကို ကြည့်ရှုဖူးမျှော် အောက်မေ့တော်မူခဲ့လေသည်။

ဆရာတော်သည် လပ်ကနောင်းမြို့၊ နယူးဒေလီမြို့၊ မဒရပ်မြို့တို့သို့ ကြွတော်မူ၍ ကြည့်ရှုလေ့လာသင့်သည့် အရာများကို ကြည့်ရှုလေ့လာတော်မူခဲ့လေသည်။

## သာယာစိုပြေ ကျွန်းသီဟိုဠ်

သီဟိုဠ်ကျွန်း (သီရိလင်္ကာ) နိုင်ငံကား တင့်တယ်သည်၊ သာယာသည်၊ တကျွန်းလုံးလိုလို အုန်းပင် ပိန္နဲပင်စသည့်သစ်ပင်တို့ဖြင့် ဖုံးလွှမ်းနေရာ စိမ်းစိမ်းစိုစိုလည်း ရှိသည်၊ သီဟိုဠ်ကျွန်းမြေနှင်းမိလျှင် အလွန်ပျော်ရွှင်ကြသည်၊ ရာသီဥတုလည်း မပူ-မအေး အနေတော်ဖြစ်၏။ ပင်လယ်ပတ်လည် ဝန်းရံသျက်ရှိရာ နေထွက်လျှင်လည်း ပင်လယ်တွဲ နေဝင်လျှင်လည်း ပင်လယ်ထဲဟုထင်ရသည်။

ဒီပဝံသကျမ်း၌ သီဟိုဠ်ကျွန်းကို—

သုဒေသံ ဥတုသမ္ပန္နံ၊ သုဘိက္ခံ ရတနာကရံ။
ပုဗ္ဗဗုဒ္ဓမနုစိဏ္ဏံ၊ အရိယဂဏ သေဝိတံ။
လင်္ကာဒီပဝရံ ဒိသွာ၊ သုခေတ္တံအရိယာလယံ [၁]။

ဟူ၍ စာဖွဲ့တော်မူခဲ့သည်။ ဖော်ပြပါ သီဟိုဠ်ကျွန်းသည် အိန္ဒိယနိုင်ငံတောင်ဘက် အိန္ဒိယပင်လယ်အတွင်း၌ တည်ရှိလေသည်။ အလျား မိုင်- ၂၇၀၊ အနံမိုင်-၁၄၀၊ အကျယ်စတုရမ်း ၂၅၃၃၂-မိုင်ရှိ၏။ လူနေအိမ်ခြေ မရှိမီက ဘီလူးတို့၏ နေရာ ဘီလူးကျွန်းဖြစ်သည်။ ဘုရားဇိနော်သည် ဘုရားဖြစ်တော်မူပြီးနောက် ကိုးလမြောက်တွင်တခါ၊ ငါးဝါမြောက်တခေါက်၊ ရှစ်ဝါမြောက်တွင် တကြိမ်အားဖြင့် သုံးကြိမ်သုံးခေါက် ကြွရောက်တော်မူခဲ့လေသည်။

ယင်းသို့ ဘုရားရှင် သုံးကြိမ်ကြွတော်မူခြင်းနှင့် စပ်၍—

"မြတ်စွာလူ့ဘာ၊ ပွင့်တော်စကာ၊ ကိုးလတခါ၊ ငါးဝါတခေါက်၊ ရှစ်ဝါမြောက်တွင်၊ ကြွရောက် သုံးကြိမ်၊ မွေသိမ် ဖလ၊ ဖန်ဖန်မျှလျက်၊ လင်္ကာဒီပ၊ သီဟဠဗွေ၊ တကျွန်းမြေသို့"

ဟူ၍ စပ်ဆိုတော်မူခဲ့ကြကုန်၏။

## သီဟိုဠ်ကျွန်း၌ လူနေအိမ်ခြေ စတင်ခြင်း

ဘုရားသမ္ဗုဒ္ဓ ပရိနိဗ္ဗာန်စံတော်မူသည့်နေ့၌ပင် ဝိဇယမင်းသားသည် ခမည်းတော် သီဟဗာဟုမင်းတရား၏ တိုင်းပြည်မှနှင်ထုတ်သဖြင့် အခြံအရံ ပရိသတ် ၇၀၀-နှင့် တကွ သီဟိုဠ်ကျွန်းသို့ ဆိုက်ရောက်ခဲ့လေသည်။ ယင်းသို့ သီဟဗာဟုနှင့် သီဟသီဝလိဒေဝီတို့မှ ဖွားမြင်သောကြောင့် သီဟအမည်တွင်သည့် ဝိဇယဘုရင် စတင်သိမ်းယူရာ ကျွန်းဖြစ်၍ "သီဟဠဒီပ" မည်ကြောင်း သိရ၏။ တနည်းအားဖြင့် သီဟအနွယ် ဆက်သွယ်ကြီးပွား မင်းအများတို့ ပိုင်းခြားအုပ်စိုး မင်းပြုလုပ်၍ နေထိုင်ရာကျွန်းဖြစ်သဖြင့် သီဟဠဒီပမည်ကြောင်း သိရသေး၏ [၂]။

---

၁။ ဒီပဝံသ၊ ၁၊ ၁၈-၁၉။

၂။ လာဠရဋ္ဌေ ပုရေတသ္မိံ၊ သီဟဗာဟု နရာဓိပေါ။
　ရဇ္ဇံ ကာရေသိ ကတ္တာန၊ မဟေသိံ သီဟသီဝလိံ။
　　မဟာဝံသ၊ ၄။ ၃၆။ စသည်ကြည့်။
　　ပဏ္ဏာသဋီကာ။ ပဥ္စမ (မ၊ ဋီ၊ ၁။ ၁၆) လည်းကြည့်။

ယင်း သီဟိုဠ်ကျွန်းကား ကုမာရောက္ကန္တဒီပ၊ ဘရိယောက္ကန္တဒီပ၊ လင်္ကာဒီပ၊ သြဇဒီပ၊ ဝရဒီပ၊ မဏ္ဍဒီပ၊ မဟိန္ဒဒီပ စသည့်အမည်တို့ဖြင့်လည်း ထင်ရှားသည်။ ယင်းသီဟိုဠ်ကျွန်း၌ နှစ်ပေါင်း ၂၃၄၈-အတွင်း ဝိဇယအစ ဝိက္ကမရာဇ သီဟအဆုံး မင်းပေါင်း ၁၇၇-ဆက်တို့ စိုးအုပ်မင်းပြုခဲ့ကြကုန်၏။

သောဂတဒ္ဓဇ္ဇတန္တသော၊ ဥက္ကဿော ပရိပါလကာ။

ဘူဘုဇာကမတော ဟေသုံ၊ သတံ သတ္တတိ သတ္တစ။

**နိုင်ငံခြားသားများသိမ်းပိုက် လွတ်လပ်ရေးရ**

**ခရစ်သက္ကရာဇ် ၁၅၀၅-ခုနှစ်တွင် ပေါ်တူဂီလူမျိုးများ သီဟိုဠ်ကျွန်း တချို့ ဒေသကို သိမ်းပိုက်ကြလေသည်။ ၁၆၀၂-ခုနှစ်နှင့် ၁၆၅၈-ခုနှစ်အကြား ဒတ်ချ်(နယ်သာလင်)များက** ပေါ်တူဂီတို့ကို တိုက်ထုတ်၍ သိမ်းပိုက်ခဲ့ကြကုန် ၏။ ခရစ်သက္ကရာဇ် ၁၇၉၆-ခုနှစ်တွင် ဒတ်ချ်တို့လက်မှ ဗြိတိသျှတို့က သိမ်း ပိုက်ခဲ့ကြကုန်၏။ ၁၉၄၈-ခုနှစ် ဖေဖော်ဝါရီလ ၄-ရက်နေ့တွင် ဒိုမီနီယံ အဆင့်ဖြင့် လွတ်လပ်ရေးရရှိခဲ့လေသည်။ ၁၉၇၂-ခုနှစ် မေလ ၂၂-ရက်နေ့ တွင် သီရိလင်္ကာ သမ္မတနိုင်ငံ ဖြစ်လာလေသည်။

သီဟိုဠ်နိုင်ငံနှင့် မြန်မာနိုင်ငံတို့သည် လွန်စွာရင်းနှီးကြကုန်၏။ ရှေးမင်း များလက်ထက်ကပင် ရွှေလမ်းငွေလမ်း ဖောက်ခဲ့ကြကုန်၏။ သီရိလင်္ကာ ဝန်ကြီးချုပ် မစ္စက်သီရိမာဗိုဘန္ဒရာနိုက်ကေးသည် ၁၉၇၆-ခုနှစ် ဇန်နဝါရီလ ၂၈-ရက်နေ့မှ ဖေဖော်ဝါရီလ ၂-ရက်နေ့အထိ မြန်မာနိုင်ငံသို့ ရောက်ရှိသည် ပင်ခဲ့သည်။

**သီဟိုဠ်သာသနာရောင်**

အိန္ဒိယနိုင်ငံ (ဇမ္ဗူဒိပ်)မှ အရှင်မဟိန္ဒထေရ် ဦးဆောင်သော သာသနာ ပြုအဖွဲ့ ဒေဝါနံပိယတိဿမင်း လက်ထက် သာသနာသက္ကရာဇ် ၂၃၆-ခုနှစ် နယုန်လပြည့်နေ့တွင် သီဟိုဠ်ကျွန်းသို့ ရောက်ရှိတော်မူ၍ စတင် သာသနာပြု ခဲ့ရာ အတိုင်းမသိ ခရီးရောက်ခဲ့သည်။ ဘုရားမြတ်စွာ သာသနာရောင် လွန်စွာ ထွန်းလင်းပြောင်ခဲ့လေသည်။ တချိန်က ဆန်စပါး စသည် နေလှန်း၍ ခက်ခဲ အောင်ပင် မိုးဝကောင်းကင်တွင် ဈာန်ပျံရဟန်းတို့ ပြည့်ခဲ့ဘူးသည်။ အရှင်

---

၃။ မဟာဝံသ။ ၉၉။ ၃၄-ဂါထာ။

မဟိန္ဒထေရ် သာသနာသက္ကရာဇ် ၂၃၆-ခုနှစ် နယုန်လပြည့်ကျော် ၂-ရက်နေ့တွင် မဟာဝိဟာရ ကျောင်းတိုက်ကြီး (မဟာမေဃဝန်ဥယျာဉ်)ကို အလှူခံတော်မူ၍ သာသနာပြုတော်မူခဲ့ရာ လွန်စွာယိမ်းရောက်သည်။

အရှင်မဟိန္ဒနှင့် အတူပါလာသော အရှင်ဣဋ္ဋိယ၊ အရှင်ဥတ္တိယ၊ အရှင်သမ္ဗလ၊ အရှင်ဘဒ္ဒသာလ တို့သည် အာသဝေါကုန်ခမ်း ရဟန္တာပုဂ္ဂိုလ်ချည်းသာဖြစ်ကြ၍ ပိဋကသုံးပုံ၊ နိကာယ်ငါးရပ်ကို ဆောင်ပို့တော်မူကြကုန်၍ သက်ဆုံးတိုင် သာသနာပြုတော်မူကြကုန်၏။

၎င်းနောက် အရှင်မဟိန္ဒထေရ်မှ စ၍ အဆက်ဆက် ပေါ်ထွန်းခဲ့ကြသော ထေရဝါဒ သာသနာ့ခေါင်းဆောင်တို့ကား-

၁။ အရှင်အရိဋ္ဌ၊
၂။ အရှင်တိဿဒတ္တထေရ် (၎င်းသည် ဘာသာ ၁၈-မျိုးတတ်မထေရ်တည်း)
၃။ အရှင်ဒီဃနာမထေရ်၊
၄။ အရှင်ဒီဃသုမနထေရ်၊
၅။ အရှင်ကာဠသုမနထေရ်၊
၆။ အရှင်မဟာနာဂထေရ်၊
၇။ အရှင်ဗုဒ္ဓရက္ခိတထေရ်၊
၈။ အရှင်တိဿထေရ်၊
၉။ အရှင်ဒေဝထေရ်၊
၁၀။ အရှင်သုမနထေရ်၊
၁၁။ အရှင်စူဠနာဂထေရ်၊
၁၂။ အရှင်ဓမ္မပါလိတထေရ်၊
၁၃။ အရှင်ခေမာထေရ်၊
၁၄။ အရှင်ဥပတိဿထေရ်၊
၁၅။ အရှင်ဖုဿဒေဝထေရ်၊
၁၆။ အရှင်သုမနထေရ်၊
၁၇။ အရှင်မဟာပဒုမထေရ်၊
၁၈။ အရှင်မဟာသိဝထေရ်၊
၁၉။ အရှင်ဥပါလိထေရ်၊
၂၀။ အရှင်မဟာနာဂထေရ်၊
၂၁။ အရှင်အဘယထေရ်၊

၂၂။ အရှင်တိဿထေရ်၊
၂၃။ အရှင်စူဠဒေဝထေရ်၊
၂၄။ အရှင်သိဝထေရ်-စသည်တို့ ဖြစ်ကုန်၏။

ၡင်းမထေရ်တို့ကား သီဟိုဠ်ကျွန်း မဟာဝိဟာရ ကျောင်းတိုက်ကြီး၌ အကြီးအကဲအဖြစ် သိတင်းသုံးတော်မူကြ၍ သီဟိုဠ်သာသနာရောင်ကို ထွန်းပြောင်စေတော် မူခဲ့ကြကုန်၏။

ၡင်းပြင်—

၁။ အရှင်အာနန္ဒာထေရ်၊
၂။ အရှင်ဓမ္မပါလထေရ်၊
၃။ အရှင်ဗုဒ္ဓဒတ္တထေရ်၊
၄။ အရှင်ဥပတိဿထေရ်၊
၅။ အရှင်မဟာနာမထေရ်၊
၆။ အရှင်ဥပသေနထေရ်၊
၇။ အရှင်ဝဇိရဗုဒ္ဓိထေရ်၊
၈။ အရှင်အနုရုဒ္ဓါထေရ်၊
၉။ အရှင်ဓမ္မသိရိထေရ်၊
၁၀။ အရှင်ဗုဒ္ဓရက္ခိတ ထေရ်တို့သည်လည်း—

မဟာဝိဟာရ အဆက်အနွယ်ဝင် ထိပ်တန်းပညာရှင် မဟာထေရ်မြတ်တို့ ဖြစ်တော်မူကြကုန်၏။

၁။ အရှင်တိပိဋကစူဠနာဂထေရ်၊
၂။ အရှင်တိပိဋကစူဠာဘယထေရ်၊
၃။ အရှင်တိပိဋကမဟာသိဝထေရ်၊
၄။ အရှင်ဝိနယဓရဥပတိဿထေရ်၊
၅။ အရှင်ဒီဃဘာဏကအဘယထေရ်၊
၆။ အရှင်အာဘိဓမ္မိကအဘယထေရ်၊
၇။ အရှင်မဇ္ဈိမဘာဏကဒေဝထေရ်၊
၈။ အရှင်စတုနိကာယိကတိဿထေရ်၊
၉။ အရှင်တိပိဋကစူဠသုမနထေရ်၊
၁၀။ အရှင်အာဘိဓမ္မိကဂေါဒတ္တထေရ်၊
၁၁။ အရှင်ဗုဒ္ဓမိတ္တထေရ်—

စသည်တို့ကား သီဟိုဠ်၌ ဇွေပမ လွန်စွာလွန်စွာ ထင်ရှားလှသော သာသနာ့ဝန်ဆောင် သာသနာပြု ပုဂ္ဂိုလ်ထူးတို့ ဖြစ်တော်မူကြကုန်၏။

အရှင်မဟာသံဃရက္ခိတ ထေရ်သည် မဇ္ဈိမနိကာယ်လာ အခက်အခဲတို့ကို အဆုံးအဖြတ် ပေးတော်မူခဲ့သည့် မဟာဝိဟာရ ကျောင်းတိုက်ကြီး၏ ထိပ်တန်း ပညာရှင်ဟာပါး ဖြစ်တော်မူသည်။[၁]

အရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ်ကျွန်း မဟာဝိဟာရကျောင်းတိုက်ကြီး၌ လျှမ်းလျှမ်းတောက် ကျမ်းပြု အကျော်အမော်ဆုံး မထေရ်မြတ် ဖြစ်တော်မူသည်။

၁။ အရှင်သံဃပါလထေရ်၊
၂၊ အရှင်ဗုဒ္ဓသိရိထေရ်၊
၃။ အရှင်သောဏထေရ်၊
၄။ အရှင်စူဠဗုဒ္ဓဃောသထေရ်၊
၅။ အရှင်သုမင်္ဂလပရိဝေဏဝါသီထေရ်၊
၆။ အရှင်ဒါဌာနာဂသံဃထေရ်၊
၇။ အရှင်ဗုဒ္ဓမိတ္တထေရ်၊
၈။ အရှင်ဇောတိပါလထေရ်၊
၉။ အရှင်ဗုဒ္ဓဒေဝထေရ်—

စသည်တို့သည် အဋ္ဌကထာသစ် ကျမ်းကြီးများ ပြုစုရန် အရှင်မဟာဗုဒ္ဓဃောသထေရ်အား တောင်းပန်မှု အဘိယာစကမှု ပြုကြသော မထေရ်မြတ်တို့ ဖြစ်ကြကုန်၏။

ဂုဏ်ပြင် ပုလတ္ထိပုရ ခေတ်၌ ထင်ရှားသော—

၁။ ဥဒုမ္ဗရဂိရိ မဟာဝိဟာရဝါသီ အရှင်မဟာကဿပထေရ်၊
၂။ ဂုဏ်၏ တပည့် ဝိနယသင်္ဂဟ အဋ္ဌကထာ၊ သာရတ္ထဒီပနီ ဋီကာ-စသည်ကျမ်းပြု အရှင်သာရိပုတ္တဆရာထေရ်၊
၃။ ဂုဏ်၏တပည့်များဖြစ်ကြသော သုဗောဓာလင်္ကာရကျမ်း၊ စုတ္တောဒယဆန်းကျမ်း-စသည်ပြု အရှင်သံဃရက္ခိတထေရ်၊

---

၁။ မ၊ ဋီ၊ ၁။ ၂၉၉ (သမ္မာဒိဋ္ဌိသုတ်အဖွင့်)။

၄။ ဋီကာကျော်ကျမ်း စသည်ပြု အရှင်သုမင်္ဂလသာမိထေရ်၊
၅။ ဒါဌာဝံသကျမ်းပြု ရာဇဂုရု အရှင်ဓမ္မကိတ္တိထေရ်၊
၆။ ဝိနယဝိနိစ္ဆယ ဋီကာကျမ်းပြု အရှင်ဝါစိဿရထေရ်၊
၇။ ကင်္ခါဋီကာသစ် (ကင်္ခါဝိတရဏီအဘိနဝဋီကာ)ကျမ်းပြု
အရှင် ဗုဒ္ဓနာဂထေရ်—

စသည်တို့သည်လည်း မဟာဝိဟာရ အနွယ်ဝင် မဟာထေရ်မြတ်များဟု ဆိုနိုင်လေသည်။

ထိုမှတပါး—

၁။ မောဟဝိစ္ဆေဒနီ အဋ္ဌကထာ၊ ဝိမတိဝိနောဒနီဋီကာ ကျမ်းပြု အရှင်စောဠိယကဿပထေရ်၊
၂။ အဘိဓာနပ္ပဒီပိကာ ကျမ်းပြု အရှင်မောဂ္ဂလ္လာန်ထေရ်၊
၃။ ပဒရူပသိဒ္ဓိ စာကိုယ်၊ပဒရူပသိဒ္ဓိ ဋီကာ၊ ပဇ္ဇမဓု ကျမ်း စသည်ပြု အရှင်စောဠိယဗုဒ္ဓပ္ပိယထေရ်၊
၄။ သမန္တကူဋဝဏ္ဏနာ ကျမ်းပြု အရှင်ဝေဒေဟထေရ်၊
၅။ ဇိနာလင်္ကာရ စာကိုယ်နှင့် ဋီကာကျမ်းပြု အရှင်ဗုဒ္ဓရက္ခိတထေရ်၊
၆။ မောဂ္ဂလ္လာန် သဒ္ဒါကျမ်းပြု အရှင်မောဂ္ဂလ္လာန်ထေရ်၊
၇။ ပဒသာဓနကျမ်းပြု အရှင်ပိယဒဿီထေရ်၊
၈။ ပဒသာဓန ဋီကာကျမ်းပြု အရှင်ရာဟုလာထေရ်၊
၉။ ဗာလာဝတာ ဋီကာသစ်ကျမ်းပြု အရှင်သိရိသုမင်္ဂလထေရ်၊
၁၀။ အဘိဓာနပ္ပဒီပိကာသူစိ ကျမ်းပြု အရှင်သုဘူတိထေရ်—

စသည်တို့သည်လည်း သီဟိုဠ်သာသနာပြု မထေရ်မြတ်တို့ ဖြစ်ကုန်၏။

### သီဟိုဠ်၌ ထင်ရှားသော စေတီပုထိုးများ

သီဟိုဠ်ကျွန်း၌ ဗုဒ္ဓဘာသာဝင်တို့ ဆင့်ဆင့် မြတ်နိုး ကိုးကွယ်ရာ ဗောဓိ၊ စေတီပုထိုးတို့မှာလည်း မည်သည့် သမိုင်းဆရာမျှ ကုန်စင်စွာ မဖော်ပြနိုင်အောင် များလှကုန်၏။

---

၁။ သီဟိုဠ်သာသနာဝင် ကြည့်၊ မဟာဝိသုဒ္ဓာရာမနိကာယ သာသနာဝင် ကျမ်းဦးမှတ်ဖွယ်လည်းကြည့်။

အနုရာဓမြို့မှ ဇယသိရိသံဃမိတ္တာ ဗောဓိ၊ ထူပါရာမစေတီ၊ သုဝဏ္ဏမာလီ မဟာစေတီ၊ လင်္ကာရာမစေတီ၊ အဘယဂိရိစေတီ ဇေတဝနစေတီ၊ ကူဋာဂါရ မုနိစေတီ၊ ဝေဿဂိရိစေတီ၊ မရိစဝဋ္ဋိစေတီ၊ စေတီယတောင်မှ စေတီများ၊ နာဂဒီပကျွန်းမှ နာဂဒီပစေတီ၊ တရိန်ကောင်မာလီမြို့မှ မင်္ဂလာမဟာစေတီ၊ ပုလတ္တိမြို့မှ ထူပါရာမစေတီ၊ ရတနကောဋ္ဌစေတီ၊ ကိရိဝေဟာရစေတီ၊ မလယ (မာတလေ့) ဒီစကြိုတ် မြောက်ပိုင်းရှိ ဒမ္ဗုလ ဘုရားကျောင်း၊ မာလယ (မာတလေ့)မြို့ အနီးရှိ ပေါ်တ္တကာရှင့် သင်္ဂါယနာတင်ရာ အာလောကလိုဏ်၊ ကိုလံဘိုမြို့ အနီးရှိ ကလျာဏီစေတီ၊ ကန္ဒီမြို့ရှိ လင်္ကာတိလက ဘုရားကျောင်း၊ စွယ်တော်တိုက်၊ ဘဒ္ဒုလမြို့ရှိ မုတိယင်္ဂဏစေတီ၊ မဟိယင်္ဂဏစေတီ၊ ဒီဃဝါပီ အရပ်ရှိ ဒီဃဝါပီစေတီ၊ ဆောင်ဏတိုင်းရှိ တိဿမဟာရာမစေတီ၊ စိတ္တလ တောင်ရှိ စေတီပုထိုးများ၊ ကိုလံဘိုမြို့မှ ၃၃-မိုင်ခန့် အကွာတွင်ရှိသည့် သမန္တ ကူဋတောင်မှ ဘုရားရှင် ခြေတော်ရာ စသည်တို့သည်ကား သီဟိုဠ်၌ ထင်ရှား သော စေတီပုထိုး ကိုးကွယ်ရာတို့ ဖြစ်ကုန်၏။

## ထင်ရှားခဲ့ ကျောင်းတိုက်ကြီးများ

သာသနာ သက္ကရာဇ် ၂၃၆-ခုနှစ်တွင် နန်းတက်သော ဒေဝါနံပိယတိဿ မင်းကြီး၏ ကောင်းမှုတော် အနုရာဓမြို့ရှိ မဟာဝိဟာရ ကျောင်းတိုက်ကြီး၊ သာသနာသက္ကရာဇ် ၄၅၅-ခုနှစ်တွင် ဒုတိယအကြိမ် နန်းတက်သော ဝဋ္ဋဂါမဏိ (ဝလဂမ္ဗာ)မင်း၏ ကောင်းမှုတော် အနုရာဓမြို့ရှိ အဘယဂိရိ ကျောင်းတိုက် ကြီး၊ သာသနာသက္ကရာဇ် ၈၁၉-ခုနှစ်တွင် နန်းတက်သော မဟာသေနမင်း ၏ ကောင်းမှုတော် အနုရာဓမြို့ရှိ ဇေတဝန်ကျောင်းတိုက်ကြီး၊ သာသနာ သက္ကရာဇ် ၁၇၀၇-ခုနှစ်တွင် နန်းတက်သော ပုလတ္တိမြို့တော်ရှိ ဇေတဝန် ကျောင်းတိုက်ကြီး စသည်တို့ကား စိတ်ဝင်တစား လေ့လာကြည့်ရှု သုတေသန ပြု သုံးသပ်ယူစရာ ကျောင်းတိုက်ကြီးတို့ ဖြစ်ကုန်၏။

## အဋ္ဌကထာ ဋီကာကျမ်းတို့ ပေါ်ထွန်းရာ

ကမ္ဘာ့အရပ်ရပ်ရှိ ဗုဒ္ဓဘာသာဝင်အားလုံး ပညာရှင်အားလုံးတို့ အလေ့ အလာပြုကြသည့် သင်ယူချပို့ကြသည့် သုတေသနပြုကြသည့် အဋ္ဌကထာကျမ်း ဋီကာကျမ်းကြီး အားလုံးနီးပါးတို့သည် သီဟိုဠ်ကျွန်း သာသနာ့ဝန်ဆောင် တို့ ရေးသားစီရင်တော်မူခဲ့ကြသည့် ကျမ်းဂန်တို့ ဖြစ်ကုန်၏။

## အဘယဂိရိ ကျောင်းတိုက်ထွက် ကျမ်းများ

သာသနာသက္ကရာဇ် ၇၅၇-၇၇၉-တွင် နန်းတက်သော ဝေါဟာရတိဿ မင်းသည် တရားဆုံးဖြတ်မှု၌ လိမ္မာကျွမ်းကျင်သော ကပိလအမတ်ကို အဘယ ဂိရိ တိုက်ထွက် ကျမ်းစာများကို စိစစ်စေရာ ထေရဂါထာနှင့် ဖြေ ပုံဖြင့် ဆန့်ကျင်လာဖြင့် ဗုဒ္ဓမြတ်စွာ သာသနာအား ကျေးဇူး မပြုဟု ယူဆကာ အဘယဂိရိ ကျောင်းတိုက်သုံး၊ အဘယဂိရိ ဂိုဏ်းသုံး ကျမ်းစာများကို မီးရှို့ ဖျက်စေလေသည်။

ဝေတုလ္လဝါဒံ မဒ္ဒိတွာ၊ ကာရေတွာ ပါပနိဂ္ဂဟံ။
ကပိလေန အမစ္စေန၊ သာသနံ ဇောတယိစ သော^၁။

သို့ဖြစ်၍ အဘယဂိရိဂိုဏ်းသုံး ကျမ်းများကို သီဟိုဠ်(သီရိလင်္ကာ)၌ ယခု အချိန်ကာလ ရှာမရတော့ချေ။ သို့ရာတွင် ဥတ္တရ ဝိဟာရဝံသ အဋ္ဌကထာကျမ်း (အဘယဂိရိသမိုင်း)လည်း ရှိခဲ့သည်ဟု သိရ၏။ ၎င်းပြင် ကဝိစက္ကဝတ္တိ အရှင် အာနန္ဒာမထေရ် စီရင်ရေးသားသော သဒ္ဓမ္မော ပါယန ကျမ်းကိုကား တွေ့ရှိ နိုင်လေသည်။ ၎င်းသဒ္ဓမ္မော ပါယန ကျမ်းမှာ အားလုံးဂါထာဖြင့်ချည်းပြီး သော ပဇ္ဇမယကျမ်းဖြစ်၏။ ဂါထာပေါင်းနိဂုံးများ အလွတ် ၆၂၁-ဂါထာ ပါရှိလေသည်။ နိဂုံးဂါထာ ရှစ်ဂါထာရှိ၏။ နှစ်ရပ်ပေါင်း ၆၂၉-ဂါထာရှိ၏။

ကျမ်းဦး၌-

သဗ္ဗာသဝဝိနိမ္မုတ္တံ၊ သဗ္ဗသာဝ ဂုဏာကရံ။
သဗ္ဗလောက ဂရုံ ဝီရံ၊ ဟိတံ အမတ မဂ္ဂဒံ။
သဗ္ဗာ ရေန ဝန္ဒိတွာ၊ ဿမ္မာသမ္ဗုဒ္ဓ မာဒိတော။
အထ မမ္မဥ္စ သံဃဉ္စ၊ သဒ္ဓယာ မုဒ္ဓနာ အဟံ။
သဒ္ဓမ္မော ပါယနံ ကိဉ္စိ၊ ရစယိဿာမိ ပေသိတုံ။
နာမတော ဗုဒ္ဓသောမဿ၊ ပိယသဗြဟ္မစာရိနော။
အဋ္ဌက္ခဏာ ဝိနိမုတ္တံ၊ ခဏံ ပရမ ဒုလ္လဘံ။
ဥပလဒ္ဓေန ကတ္တဗ္ဗံ၊ ပုညံ ပုညဝတာ သဒါ။

ဟူသော လေးဂါထာဖြင့် ပဏာမ၊ အဘိယာစကာ၊ ၎ိုညာဉ်၊ ဥယျောဇဉ် တို့ကို ဖော်ပြခဲ့သည်။ ဤကျမ်းသည် သီဟိုဠ်နိဿယနှင့်တကွ ရှိုင်ဆိုက် ၁၂၇- မျက်နှာရှိလေသည်။ ဤသည်လျှင် သီဟိုဠ် သာသနာ့သမိုင်း အမြွက်တည်း။

---

၁။ မဟာဝံသ။ ၃၆။ ၄၁။
၂။ ပခုက္က။ သာသနာ၀င် ကျမ်းဦးမှတ်ဖွယ် ၃-ကြည့်။

## ဆရာတော် သီဟိုဠ်ကျွန်းသို့ ကြွတော်မူခြင်း

ဆရာတော်သည် သီဟိုဠ်ကျွန်းသို့ ကြွရောက်ရန် အလွန်လျှင် စိတ်အား ထက်သန်တော်မူသည်။ ဖော်ပြပါ သမိုင်းကြောင်းတို့ကိုလည်း ကောင်းကောင်း ကြီး သိရှိနားလည်နေရာ အဘယ်မှာလျှင် မကြွချင်ပဲ ရှိပါမည်နည်း။ သို့ဖြစ်၍ ၁၃၁၃-ခုနှစ် နတ်တော်လဆန်း ၁၂-ရက်နေ့ နံနက် ၁၁-နာရီ ၄၅-မိနစ် အချိန်တွင် မဒရပ်မြို့ လေယာဉ်ကွင်းမှ လေယာဉ်ဖြင့် သွားတော်မူရာ နေ့လယ် ၁-နာရီခွဲ အချိန်တွင် ဂျပ်ဖနားလေဆိပ်သို့ ဆိုက်ရောက်တော်မူသေးသည်။ တဖန် ၂-နာရီ ၁၅-မိနစ်တွင် လေယာဉ်ဖြင့်ပင် ဆက်လက်၍ ကြွတော်မူရာ ညနေ ၃-နာရီခွဲအချိန်တွင် ကိုလံဘိုလေယာဉ်ကွင်းသို့ ဆိုက်ရောက်တော်မူလေသည်။ သံရုံးမှကားဖြင့် လာရောက်ကြိုဆိုရာ ညနေ ၄-နာရီအချိန်တွင် ကိုလံဘိုမြို့ မကုဋ္ဌာရာမတိုက်သို့ ရောက်ရှိလေသည်။ သီဟိုဠ်ကျွန်း၌ ကိုးရက်ခန့် သီတင်းသုံး၍ တကျွန်းလုံး အနှံ့အပြား ဘုရားပုတိုးများကို လှည့်လည်ကြည့်ရှု ဖူးမျှော်တော်မူပြီး ၁၃၁၃-ခုနှစ် နတ်တော်လဆုတ် ၇-ရက်နေ့တွင် ကိုလံဘိုမှ တလိုင်းမင်းနားသို့ ရထားဖြင့်ကြွတော်မူ၍ တဖန် တလိုင်းမင်းနားမှ မဒရပ်သို့ သင်္ဘောဖြင့် ကြွတော်မူသည်။ တဖန် မဒရပ်မှ နတ်တော်လဆုတ် ၁၁-ရက် နေ့တွင် အင်္ဂလိစတန် သင်္ဘောကြီးဖြင့် မြန်မာပြည်သို့ ပြန်ကြွတော်မူရာ ပြာသိုလဆန်း ၂-ရက်နေ့တွင် ရန်ကုန်မြို့သို့ ဘေးမခ ရန်မသန်းပဲ အေးချမ်းစွာ ရောက်ရှိတော် မူခဲ့လေသည်။

ဇဝံ ဟိ ဥက္ကံသဒေသေဓော၊ ဥက္ကံသညာဏိကော ဝိဒ္ဓါ။
ဘာရတ လံကာဒေသေသု၊ ဝိစရိ ထိရစေတသာ။

## ယိုးဒယားနိုင်ငံသို့ ကြွတော်မူခြင်း

ဆရာတော်သည် ၁၃၁၇-ခုနှစ် ကဆုန်လဆန်း ၁၃-ရက်နေ့တွင် အဘိဓဇ မဟာရဋ္ဌဂုရု မန္တလေးမြို့ မစိုးရိမ်ဆရာတော်ဘုရားကြီး အရှင်သူရိယ မဟာထေရ်၊ ရန်ကုန်မြို့ သာသနာ့ရိပ်သာ အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော် အရှင်သောဘန၊ ရန်ကုန်မြို့ အောင်မြေသုခ ကျောင်းတိုက် ဆရာတော် အရှင်ဝိသုဒ္ဓတို့နှင့်အတူ နိုင်ငံတော်အစိုးရ လျှောက်ထား စေလွှတ်ချက်အရ ယိုးဒယားနိုင်ငံသို့လည်း ကြွရောက်တော် မူခဲ့လေသည်။ ယိုးဒယားနိုင်ငံ၌ ဗန်ကောက်မြို့ရှိ တန်ခိုးကြီးဘုရားများ၊ အယုဒ္ဓယမြို့ဟောင်းရှိ တန်ခိုးကြီး ဘုရားများ စသည်တို့ကိုလည်း ဖူးမျှော်တော်မူခဲ့လေသည်။ ၎င်းပြင် ယိုးဒယား

သာသနာပိုင်၊ ယိုးဒယား သံဃဝန်ကြီးများနှင့်လည်း တွေ့ဆုံ၍ သာသနာရေးကိစ္စ အဝဝကို ဆွေးနွေးတော်မူခဲ့လေသည်။ ၈ ဆုနှင့်လပြည့်ကျော်တွင် မြန်မာပြည်သို့ ပြန်ကြွတော်မူခဲ့လေသည်။

ဂန္ထာ ဝိဇ္ဇာ မရင့်မှိ၊ ဥက္ကံသော ထေရပုင်္ဂဝေါ။
သာသနာသမ္ဗန္ဓာဂတ်၊ ဗဟုကာ စရင့်ဝင်္ကမေ။

## အလှူအဒါန်း လွန်စွာဝါသနာပါ

ဆရာတော်သည် ငယ်စဉ်ကပင် အလှူအဒါန်း လွန်စွာ ဝါသနာထုံတော်မူသည်။ စာမေးပွဲအောင်တိုင်း ရရှိသော နဝကမ္မဖြင့် သံဃာတော်များအား ဆွမ်း ခေါက်ဆွဲ စသည် လှူဒါန်းဆက်ကပ် ကျွေးမွေးတော်မူခဲ့သည်။ ၁၃၀၀-ပြည့်နှစ်မှစ၍ ၁၃၃၄-ခုနှစ်တိုင်အောင် နှစ်စဉ်နှစ်တိုင်း မွေးနေ့ အလှူဒါန စသည်တို့ကို ပြုလုပ်တော်မူခဲ့သည်။ ရှင်လောင်းများစွာတို့အား ပရိက္ခရာ လှူဒါန်း၍ ရှင်ပြုပေးခြင်း၊ ရဟန်းလောင်းများစွာတို့အား ပရိက္ခရာ လှူဒါန်း၍ ရဟန်းခံပေးခြင်း စသော ကုသိုလ်ကောင်းမှု များစွာတို့ကို ပြုတော်မူခဲ့လေသည်။

## ကျောင်းကန်များကို လှူအပ်လှူဒါန်းခြင်း

သက်တော် ၇၀-ပြည့်ရာ ၁၃၂၁-ခုနှစ် တော်သလင်းလဆုတ် ၇-ရက်နေ့တွင် ကျောင်းကန် အသုံးအဆောင်ပစ္စည်းများကို အောက်ပါအတိုင်း လှူဒါန်းတော်မူခဲ့လေသည်။

၁။ တံတိုင်းအရံနှင့်တကွ ဦးကြွယ်ကျောင်း အရံမြေ၊
၂။ မန္တလေးမြို့ ရသာတန်းရပ် ရွှေကုန်သည် ဒေါ်မကျောင်း၊
၃။ အင်းဝကျောင်းဆောင်၊
၄။ ပင်းတယကျောင်းဆောင်၊
၅။ လှည်းကူးကျောင်းဆောင်၊
၆။ ရွှေဘုန်းရှိန် တိုက်ကျောင်းကြီး၊
၇။ စကြံဆောင်၊
၈။ ဒေါ်မြသွယ် အုတ်ကျောင်း(သံဃိက)၊
၉။ ဆွမ်းစားကျောင်း၊

၁၀။ မီးတင်းကုပ်၊
၁၁။ ရေတွင်းဟောင်းနှင့် အမိုး၊
၁၂။ အင်ဂျင်စက်ရုံ၊
၁၃။ ရေစင်တိုင်ကီကြီး၊
၁၄။ ရေချိုးအုတ်ကန် သုံးခု၊
၁၅။ မိုးရေလှောင် အုတ်ကန် သုံးခုတို့ကို-

ဆရာတော် ဦးဉာဏာဘာသ၊ ဦးခင်မောင်ညို ဓေါ် ဦးဣန္ဒာစရိယ၊ ဦးထွန်းညို ဓေါ် ဦးကုသလတို့အား လှူဒါန်းတော်မူခဲ့လေသည်။ ပန်းကန်ခွက်ယောက် ဖျာ သင်ဖြူး စသည်တို့ကို သာသနာ့ဘောဂအဖြစ်ဖြင့် ကျောင်းအား လှူဒါန်းတော်မူ၍ အယက်ပ ! ဆရာတော်သုံးပါးအား စောင့်ရှောက် ထိန်းသိမ်းရန် လွှဲအပ်တော်မူသည်။

အာနန္ဒာ ဘုရားဝင်းအတွင်းရှိ သာသနာ့လက်ာရကျောင်းကို ဦးပညာဝံသအား လှူဒါန်းလွှဲအပ်တော်မူသည်။ အာနန္ဒာဘုရားအနောက်ပေါက် မြောက်ဘက်ရှိ မိတ္ထီလာကျောင်းကို ဦးဥတ္တမအား လှူဒါန်းတော်မူခဲ့လေသည်။ ပေထုပ်များ၊ ကျမ်းစာအုပ်များကိုလည်း ကျောင်းသံဃာများ သင်ကြားချပို့ရန်အထက်ဖော်ပြပါ ဦးဉာဏာဘာသ၊ ဦးဣန္ဒာစရိယ၊ ဦးကုသလတို့အား လွှဲအပ်တော်မူသည်။ ဆရာတော်အား ပစ္စည်းပစ္စယများ မခင်တွယ်မိရန် များစွာ သတိရှိတော်မူသည်။

## သင်္ကန်း ထီး ဖိနပ် စသည်တို့လည်း လှူဒါန်းခဲ့

ဆရာတော်သည် ၁၃၀၀-ပြည့်နှစ်မှ စ၍ ၁၃၃၄-ခုနှစ်အထိ သံဃာတော်များစွာတို့အား အကြိမ်ပေါင်း ၁၂၇ ကြိမ်တိုင်တိုင် ဆွမ်းကပ်လှူဒါန်းခဲ့သည်။ သံဃာတော်အရှင်မြတ်တို့အား နှစ်ထပ်သင်္ကန်းကြီး ၃၃ ထည်၊ ဒွိစုံ ၇၂၃-စုံ၊ သင်းပိုင် ၃၂၄-ထည်၊ ထီးပေါင်း ၃၅၃-လက်၊ ဖိနပ်ပေါင်း ၃၃၆-ရံ လှူဒါန်းတော်မူခဲ့သည်။

အဒန္တဒမနံ ဒါနံ၊ ဒါနံ သဗ္ဗတ္ထသာဓကံ။
ဒါနေန ပိယာဝါစာယ၊ ဥန္နမန္တိ နမန္တိစ[၁]။

ဒါနံ = ပေးကမ်းလှူဒါန်းခြင်းသည်။ အဒန္တဒမနံ = မယဉ်ကျေးသောသူကို ယဉ်ကျေးစေသတ်၏။ ဒါနံ=ပေးကမ်းလှူဒါန်းခြင်းသည်။

---

၁။ ကဝိဒပ္ပဏနီတိ။ ၂၆၂-ဂါထာကြည့်။

သဗ္ဗတ္ထသာဓကံ=အလုံးစုံသော အကျိုးကို ပြီးစေတတ်၏။ ဒါနနန=ပေးကမ်းလှူဒါန်းခြင်းဖြင့်လည်းကောင်း။ ပိယဝါစာယ= ချစ်ဖွယ်စကား ပြောကြားခြင်းဖြင့်လည်းကောင်း။ ဒါယကာ = ပေးလှူသူတို့သည်။ ဥန္နမန္တိ=မျက်နှာပန်းပွင့် ကြီးမြင့်တတ်ကုန်၏။ ပဋိဂ္ဂါဟကာ=ခံယူတတ်သူတို့သည်။ နမန္တိ=ပေးလှူတတ်သူ အလှူရှင်သို့ ဆောလျင်မကြာ ညွတ်လာတတ်ကြကုန်၏။

## သက်တော် ဝါတော်ကြီး ဆရာတော်များအား လှူဒါန်းပူဇော်

ဆရာတော်သည် ငယ်သူကိုချစ်ခင်၊ ကြီးသူကိုလေးစားတတ်သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။ ၁၃၂၈-ခုနှစ် သီတင်းကျွတ်လတွင်—

၁။ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ခေမာသိဝံ ဆရာတော်ဘုရားကြီး ဦးဝိလာသ၊

၂။ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ခင်မကန် တိုက်အုပ်ဆရာတော်ဘုရားကြီး ဦးနန္ဒိယ၊

၃။ အောင်မြေ ရွှေဘုံတိုက်ဆရာတော်ဘုရားကြီး ဦးစက္ကိန္ဒ၊

၄။ ဆီးမန်းနီ ဆရာတော်ဘုရားကြီး ဦးသုန္ဒရ၊

၅။ အဘိဓဇ မဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီး ဦးသူရိယ၊

၆။ အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော်ဘုရားကြီး ဦးဣန္ဒာသဘ၊

၇။ ပခန်းကျောင်း ဆရာတော်ဘုရားကြီး ဦးသုန္ဒရ-

တို့အား ကျောင်းသို့ ပင့်၍ ဆွမ်းခဲဖွယ် ဘောဇဉ် ချိုချဉ်အရသာ အဖြာဖြာတို့ကို ဆက်ကပ်လှူဒါန်းပြီးလျှင် သက်န်းတစုံစီဖြင့် ဆက်ကပ်လှူဒါန်း ပူဇော်တော် မူခဲ့လေသည်။ အသက်ကြီးအဘိုးကြီး အမယ်ကြီးသုံးယောက်တို့အားလည်း စောင်စသည့် ချီးမြှင့်ပေးကမ်းဖွယ်များဖြင့် ပေးကမ်းချီးမြှင့်တော်မူသည်။ ဆရာတော်၏ လုပ်ဆောင်ချက်ကား ယခု ပစ္စက္ခဘဝတွင် လူနတ်ချီးမွမ်းသည့် လုပ်ဆောင်ချက်၊ တမလွန်ဘဝ၌လည်း သုဂတိဘဝရောက်ကြောင်း ကောင်းသောလုပ်ဆောင်ချက် ဖြစ်ပေ၏။

ယေ ဝုဍ္ဎ မပစာယန္တိ၊ နရာ ဓမ္မဿ ကောဝိဒါ။
ဒိဋ္ဌေ ဓမ္မေဝ ပါသံသာ၊ သမ္ပရာယေ စ သုဂ္ဂတိ[၁]။

ဘိက္ခဝေ=ချဉ်းကပ်ခစား ရဟန်းများတို့။ ဓမ္မဿ=ကြီးသူလေးစားကောင်းသောကျင့်ဝတ်တရား၌။ ကောဝိဒါ=လိမ္မာတတ်သိကုန်သော။

---

၁။ ဇာ၊ ၂၊ ၉။ တိတ္တိရဇာတ်။

ယေနရာ=အကြင်သူဘို့သည်။ ဝုဒ္ဓိ=အသက်သိက္ခာ ဂုဏ်ဝါကြီးမြတ်သောသူကို။ အဘိဝါဒယန္တိ=မြတ်နိုးကော်ရော် ပူဇော်ကြကုန်၏။ တေနရာ=ထိုအသက်သိက္ခာ ဂုဏ်ဝါကြီးသူ ပူဇော်သူတို့သည်။ ဒိဋ္ဌေဝဓမ္မေ=ယခု ပစ္စက္ခ မျက်မှောက်ဘဝ၌သာလျှင်၊ ပါသံသာ = ချီးမွမ်းထိုက်သူတို့ မည်ကုန်၏၊ သမ္ပရာယေစ = တမလွန်ကျ နောက်ဘဝ၌လည်း။ သုဂ္ဂတိ = သုဂတိမှန် လူ့ ရပ်နတ်ထံသို့။ ယန္တိ=မသွေ မးဖောက် ဆိုက်ရောက်ကြကုန်၏။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ဖြင့် စာပေ၌လည်းရဲရင့်၊ အလှူဒါနမှု၌လည်း ရဲရင့်တော်မူသည့် ဒက္ခိဏာရာမ ဘုရားကြီးကျောင်းတိုက်ကြီး၏ ဒသမမြောက် သံဃနာယကတိုက်အုပ်ဆရာတော် ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ အရှင်ဥက္ကံသာဘိဝံသ (ဦးကြယ်)သည် သက်တော် ၈၇-နှစ်၊ သိက္ခာတော် ၆၇·ဝါ ရရှိရာ ၁၃၃၇-ခုနှစ်၊ နတ်တော်လဆန်း ၁-ရက်နေ့ ည ၇-နာရီ အချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ယက္ခာ ပိသာစာ အထဝါပိ ပေတာ၊
ကုပိတာ တေ အဿသန္တိ မနုဿေ။
န မစ္စုနော အဿာသိတု သဟန္တိ။

ယက္ခာ=အားခွန်လွန်ကြီး ဘီလူးတို့သည်လည်းကောင်း။ ပိသာစ=ဆိုးဝါးကြမ်းကြုတ် မြေဘုတ်ဘီလူးတို့သည်လည်းကောင်း။ အထဝါ=ထို့ပြင် ဟာပါးကား။ ပေတာပိ= ပြိတ္တာကိုသည်လည်းကောင်း။ ကုပိတာ=ဒေါသအမျက် ချောင်းမြောင်းထွက်ကုန်သည်ဖြစ်၍။ မနုဿေ=လူဘိုကို။ အဿသန္တိ=ညှဉ်ဆဲနှိပ်စက်ကြကုန်၏။ ဝါ=ခန္ဓာကိုယ်ဘဲ့ပူးဝင်ကာ သေအောင် ညှဉ်းဆဲကြကုန်၏။ မစ္စုနော= သေမင်းကို မူကား။ အဿာသိတုံ= ပူးဝင်ညှဉ် ဆဲခြင်းငှါ။ ဝါ=ပူးဝင်ခြင်းငှါ။ နသဟန္တိ= မုချပုံသေ မစွမ်းနိုင်ကြကုန်ချေ။

## မဟာနာယကနှစ်ပါး အုပ်ချုပ်ခြင်း

ဒသမမြောက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဥက္ကံသာဘိဝံသ (ဦးကြွယ်)ပျံလွန်တော်မူပြီးနောက်တွင် ပေဒတာကျောင်း ဆရာတော် အရှင်စာရိန္ဒာဘိဝံသ မဟာထေရ်နှင့် အမရပူရကျောင်းဆရာတော် အရှင်ဥက္ကံသာဘိဝံသတို့နှစ်ပါး တိုက်တာကို အုပ်ချုပ်ကွပ်ကဲ၍ သာသနာပြုတော်မူကြသည်။ ဆရာတော် အရှင်စာရိန္ဒာဘိဝံသသည် နိုင်ငံတော် သံဃာနာယကအဖွဲ့ ဩဝါဒါစရိယဖြစ်၍ ဆရာတော် အရှင်ဥက္ကံသာ ဘိဝံသမှာ နိုင်ငံတော် ဗဟိုဥက္ကဋ္ဌနာယက ... 

ဆရာတော် ဖြစ်တော်မူသည်။

ဝေံ ဟိ ထေရော သေဋ္ဌာ ဒွေ၊ အာရာမံ ဒက္ခိဏာဝှယံ။
ပါလေတွာန သမ္ဗုဒ္ဓ-သာသနံ ဇောတေသုံ ဟိ ဝေါ။

ဒုတိယပိုင်းပြီး၏။

# တတိယပိုင်း

## ဒက္ခိဏာရာမ ဘုရားကြီးတိုက်

## ဂဏဝါစက စာချဆရာတော် အရှင်သုတဗုဒ္ဓိ

ဆရာတော်အရှင်သုတဗုဒ္ဓိသည် မန္တလေးမြို့ ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီး၌ ထူးခြားသော ဂဏဝါစက စာချဆရာတော် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင်ရဟန်းပြု သာသနာ့ဝန် ထမ်းဆောင်ခြင်း

ညောင်ဦးမြို့ ဆုံကုန်းရပ်၌ ဦးတက်ခါး-ဒေါ်ရေပေါ်တို့မှ သက္ကရာဇ် ၁၂၀၀-ပြည့်နှစ်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။ သက်တော် ခုနစ်နှစ်သားအရွယ်တွင် အရှင်သဒ္ဓမ္မာလင်္ကာရ အထံတွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့လေသည်။ သာမဏေဘွဲ့တော် "အရှင် သုတ"ဖြစ်လေသည်။ ဥပဇ္ဈာယ်ဆရာတော်ထံတွင် သဒ္ဒါ၊ သင်္ဂဟ အစရှိသော ပိဋကတ် အခြေခံ ကျမ်းဂန်များကို သင်ယူတတ်မြောက်တော် မူခဲ့လေ သည်။ သက်တော် ၂၀-ပြည့်မြောက်ရာအခါ ရဟန်းပြုတော်မူ၍ သာသနာ့ ဝန်ကို ဆက်လက်ထမ်းဆောင်တော်မူခဲ့လေသည်။

### ဒက္ခိဏာရာမ ဘုရားကြီးတိုက် ရောက်ရှိခြင်း

ဥပသမ္ပဒဇာတ် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်တော်မူပြီးနောက် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိတော်မူ၍ "ဇာဂရာဘိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု၊ ဇာဂရ ဘိဝံသ သီရိပဝရာလင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု၊ ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်သုံးထပ်ရ ဒက္ခိဏာရာမ အဓိပတိ အရှင် ဇာဂရ ဆရာတော်ဘုရားကြီး ထံ ရောက်ရှိ၍ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ကျမ်းဂန်တို့ကို ပါရဂူပေါက်တတ်မြောက်အောင် သင်ယူတော်မူခဲ့လေသည်။

## နှစ်ဝါရ ဝိနည်းငါးကျမ်း ဆောင်တော်မူခြင်း

ရဟန်းသိက္ခာနှစ်ဝါ အရတွင် မြေနန်းတော်တွင် ဘဝရှင်မင်းတရားကြီး အရှင်မိဖုရားခေါင်ကြီး အစရှိသော မင်းမိဖုရား ပရိသတ်တို့၏ ရှေ့မှောက်တွင် ပါရာဇိကပါဠိ၊ ပါစိတ္တိယပါဠိ၊ မဟာဝဂ္ဂပါဠိ၊ စူဠဝါပါဠိ၊ ပရိဝါပါဠိ ဟူသော ဝိနည်းငါးကျမ်းကို ကြောင်ချွန်စား ကြပ်ကြပ်ဝါး ပြန်ဆိုနိုင်ခဲ့သဖြင့် ''ဝိနယဓရအရှင်သုတ'' ဟု ထင်ရှားခဲ့လေသည်။

## စာပေချပို့ သာသနာ ချီးမြှောက်တော်မူခြင်း

စာပေကျမ်းဂန် ကျမ်းကျင် တတ်မြောက်တော်မူသဖြင့် ဆရာတော်ဘုရားကြီး၏ ချီးမြှောက်ချက်အရ ဇက္ခိဏာရာမ ဘုရားကြီးတိုက်၌ ဂဏဝါစက စာချဖြစ်၍ များမြောက်လှစွာသော စာသင်သား ရဟန်းသာမဏေတို့အား စာပေကျမ်းဂန် ချပို့တော်မူ၍ ပရိယတ္တိသာသနာတော်ကို ချီးမြှောက်တော်မူခဲ့လေသည်။

## ကျမ်းဂန်များ ပြုစုတော်မူခြင်း

ဆရာတော်သည် စာပေချပို့သည့် ကိစ္စအကြား၌ ကျမ်းဂန်များကို ပြုစီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ ဝိဘတျတ္ထဋီကာကျမ်း၊
၂။ ပါရာဇိကဏ် ဂဏ္ဌိသစ်ကျမ်း၊
၃။ မောဂ္ဂလ္လာန်သုတ်နက်ကျမ်း—စသည်တို့ဖြစ်ကုန်၏။

ပင်းယခေတ်တွင် ကျမ်းဂန်တတ် ဆရာတော်တပါးသည် ပိဋကတ်ကို ကူးခတ်ရာ၌ တဘက်တလမ်းမှ အထောက်အကူပြု ရည်ရွယ်တော်မူ၍ ဝိဘတျတ္ထ ပါဌ်ကို စီရင်တော်မူခဲ့လေသည်။

ယင်း ဝိဘတျတ္ထပါဌ်ကျမ်းကို—

ဝိဘတ္တျတ္ထံ သမ္ဗုဒ္ဓံ၊ ဓမ္မံ သုဇနသေဝိတံ၊
သံဃဉ္စ ဝန္ဒိတွာ ကဿံ၊ ဝိဘတျတ္ထံ သုဒုလ္လဘံ၊

ဟူသော ရတနတ္တယ ပဏာမ၊ ပဋိညာဉ် ပါရှိသော ဂန္ထာရမ္ဘဂါထာဖြင့် စတင်တော်မူခဲ့လေသည်။ ကျမ်း၏အဆုံး နိဂုံးဂါထာကား—

နိဋ္ဌိတောစ ဝိဘတျတ္ထော၊ ယထာ သဗ္ဗေပိ ပါဠိနော။
တထာဝ သမ္မာသင်္ကပ္ပါ၊ သီဃံ သိဇ္ဈန္တု ပတ္ထိတာ။

ဖြစ်၏။ ယင်းဝိဘတျတ္ထပါဠ်ကျမ်း၌ ဂါထာပေါင်း ၃၇-ဂါထာ ပါရှိလေသည်။

## ဝိဘတျတ္ထဋီကာကျမ်း

**ဆရာတော်** အရှင်သုတဗုဒ္ဓိသည် ဖော်ပြပါ ဝိဘတျတ္ထပါဠ်ကျမ်း၏ အဖွင့် **သံဝဏ္ဏနာ** ဋီကာကျမ်းကို ရဟန်းသိက္ခာ ၄၀ အရတွင် ရှင်ပညာသီဟ အမည် **ရှိသော သာမဏေ** တောင်းပန်ခြင်းကြောင့် ရေးသားစီရင်တော်မူခဲ့လေသည်၊ **ဝိဘတျတ္ထဋီကာ** အနည်းဆုံး သုံးစောင်ရှိရာ ဆရာတော် အရှင်သုတဗုဒ္ဓိ၏ ဋီကာ**သည် ဝိဘတျတ္ထဋီကာ**ဟောင်း တွင်သည်။

ဆရာတော်သည် ကျမ်းဦး၌—

၁။ ဝိဘတ္တဝါဒိံ သမ္ဗုဒ္ဓံ၊ ဓမ္မံ သာဓူဟိ ပူဇိတံ။
ပုညေဟိ ဘဇိတံ သံဃံ၊ ဝန္ဒိတွာ သာဒရံ အဟံ။
၂။ ပညာသီဟ နာမကေန၊ သာမဏေရေန ယာစိတော။
ဝိသုဒ္ဓါစာရသီလေန၊ သာသနဿာ ဘိဝုဒ္ဓိယာ။
၃။ သုဒုလ္လဘံ ကရိဿာမိ၊ ဝိဘတျတ္ထဿ ဝဏ္ဏနံ။
ကတံ ပုဗ္ဗေဟိ နိဿာယ၊ ဝိညူနံ ပီတိဝဍ္ဎနံ။

ဟူသော သုံးဂါထာဖြင့် ရတနတ္တယ ပဏာမ၊ အဘိယာစက၊ ပဋိညာဉ် တို့ကို ဖော်ပြ၍ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ကျမ်း၏အဆုံး၌လည်း—

၁။ ရာဇဋ္ဌာနီ နဂရဿ၊ ရတနာပုဉ္ဇ နာမိနော။
ပတီစျာပါစိကာဂမှိ၊ ဆယောဇန ပမာဏကေ။
၂။ ဌာနေ ပုဏ္ဏာဂါမဝှယ၊ နဂရဿ ဒိယဍ္ဍကေ။
ယဋ္ဌိသဟဿေ ပါစီဘာဂေ၊ ဌာနေ သာဓုနိဝါသကေ။
၃။ နာနာရတန သမ္ပုဏ္ဏေ၊ သုသမ္ပန္န သီတောဒကေ။
သာဓုဇ္ဇန သမာကိဏ္ဏေ၊ အသံကိဏ္ဏ ကုလာကုလေ။
၄။ နရနာရီ ဂဏာကိဏ္ဏေ၊ ဝိဝိဓာပဏလင်္ကတေ။
ဖီတေ သဗ္ဗင်္ဂသမ္ပန္နေ၊ ဂါမေ ဗောဓိပ္ပမုခဝှယေ။

၅။ ဇာတိယာ ဇာယမာနေန၊ ပဉ္စဝဿေန ဘိက္ခုနာ။
သုတဗုဒ္ဓိတိနာဒမနေ၊ ဒွိဂဿေန ဝိနယဒ္ဓရာ။
၆။ ကဒဘာယံ ဂန္ထော နိဋ္ဌိတော၊ ဝိနာ အန္တရာယံ ကထာ။
တထာ ကလျာဏသကံပ္ပါ၊ သိဒ္ဓိံ ဂစ္ဆန္တု ပါဏိနံ။
၇။ ဧတေန ပုညကမ္မေန၊ ပညာဓိကော ဘဝါမဟံ၊
ဗုဒ္ဓတ္တံ ပါပုဏိတွာန၊ သန္တာရေယျံ သဒေဝကံ။

ဟူသော ခုနစ်ဂါထာဖြင့် ဇာတိချက်ကြွေမွေးရပ်မြေနှင့် ငါးဝါအရ၍ကျမ်းရေးပုံ၊ နှစ်ဝါရက ဝိနယဓရဖြစ်ပုံ၊ ပညာဓိက ဘုရားဖြစ်လိုပုံ စသည်တို့ကို ပြည့်စုံစွာ ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့သည်၊ ရင်းပြင် "ဣတိ ဘဒ္ဒန္တသုတဗုဒ္ဓိနာမကေန ထေရေန ရစိ ဘာယံ ဝိဘတျတ္ထဝိဘာဝိနီနာမ ဝိဘတျတ္ထဋီကာ ပရိသမတ္တာ"ဟူ၍ ပါရှိသဖြင့် ဝိဘတျတ္ထဝိဘာဝိနီ မည်သော"ဝိဘတျတ္ထဋီကာ" မည်ကြောင်း သိသာလေသည်။

## ပါရာဇိကဏ်ဂဏ္ဌိသစ် ကျမ်းကြီး

ပါရာဇိကဏ်ဂဏ္ဌိသစ် ကျမ်းကြီးမှာ သာသနာပိုင် မောင်းထောင်ဆရာတော် ပြုလက်စ ဂဏ္ဌိကို ဆက်လက်ရေးသားသော ကျမ်းဖြစ်သည်ဟု အဆိုရှိသည်။

## ဆင်တဲဆရာတော်နှင့် မောင်းထောင် သာသနာပိုင်

ဘိုးတော်မင်းတရားလက်ထက်က အရှင်ဉာဏာသဒ္ဓမ္မ အမည်ရှိသော ဆင်တဲဆရာတော်ဘုရားကြီးနှင့် မောင်းထောင် သာသနာပိုင် ဆရာတော် အရှင်ဉာဏာဘိဝံသ တို့သည် တခုသောပဏ္ဏာပ်၌ ဆုံမိကြရာ မောင်းထောင်ဆရာတော်က ဆင်တဲဆရာတော်အား "ဆရာတော်..ယခု ဘာကျမ်းများ ပြုစုတော်မူပါတုံး ဘုရား"ဟု လျှောက်ထားသဖြင့် ဆင်တဲဆရာတော်က "ပရမတ္ထဝိနိစ္ဆယနိဿယ၊ နာမရူပဝိနိစ္ဆယနိဿယ၊ ဋီကာကျော် နိဿယ စသည်တို့ကို ပြုပြီးဖြစ်ပါ၍ ဂဏ္ဌိ ဆက်လက်ရေးသားရာ ယခု ဝိနည်းမဟာဝါ ရောက်နေပြီဖြစ်ကြောင်း" အမိန့်ရှိရာ "ဆရာတော်ဘုရား ရေးသားသည်ကို မသိသဖြင့် တပည့်တော်လည်း ဝိနည်း ဂဏ္ဌိ ရေးနေပါသည်။ ယခုသော် ဆရာတော်ဘုရား ရေးမှန်းသိသဖြင့် တပည့်တော် မရေးတော့ပြီဖြစ်ကြောင်း" မောင်းထောင်သာသနာပိုင် ဆရာတော်က လျှောက်ထားလေသည်။ မောင်းထောင်ဆရာတော် ရေးလက်စမှာ အရှင်မဟိန္ဒထေရ် ဝေဒိသဂီရိသို့ ကြွခန်းတွင် ရောက်လေသည်။

ဆရာတော် ဦးသုတဗုဒ္ဓိ ဉာဏ်ရည်ဉာဏ်သွေး စွမ်းပကားကိုသိသော သီတင်းသုံးဖော်နှင့် စာသင်သား အပေါင်းတို့က မောင်းထောင်သာသနာပိုင် ရေးလက်စ ဝိနည်း ဂဏ္ဌိကို အဆုံးတိုင်အောင် ဆက်လက်ရေးသားရန် လျှောက်ထားကြကုန်၏။ ထို့ကြောင့် ပါရာဇိကဏ်ဂဏ္ဌိသစ် ကျမ်းကို ရေးသားကြောင်း အဆိုရှိသည်။ သို့သော် ရေးလက်စကို ဆက်ရေးခြင်းမဟုတ်ပဲ သီးခြားအသစ် ရေးသားခြင်းဖြစ်သည်။

မောင်းထောင်ဆရာတော်၏ ဝိနည်းဂဏ္ဌိသစ် ကျမ်းဦး၌-

၁။ ပညာယ ယဿ ဓမ္မေသု၊ ဒယာ သတ္တေသု ယာ ဂတာ။
သဗ္ဗေသု တာယ သညုတ္တော၊ ဝိနယံ ယော အဒေသယိ။
၂။ သဒါ ဥဿုက္ကမာပန္နံ၊ ဝိဓနံယျ ဝိနယာယတံ။
နတွာ နာထံ သ သဒ္ဓမ္မ-ဂဏံ ဂါရဝဘာဇနံ။
၃။ ယော နေက သေတနာဂိန္ဒေ၊ နာနာရာဇူန မုတ္တမော။
သာသနသောဓနေ ဒဠှံ၊ သဒါ ဥဿာဟ မာနသော။
၄။ တံ နိဿာယ မမေသောပိ၊ သတ္ထုသာသန ဇောတနေ။
အပ္ပေဝ နာမုပတ္ထမ္ဘော၊ ဘဝေယျာတိ ဝိစိန္တယံ။
၅။ သောဓေယိဿံ ဂဏ္ဌိဋ္ဌာနံ၊ ဝိနယဋ္ဌကထာယ ဟံ။
ဋီကတ္တယံ သမာနေန္တော၊ အညဋ္ဌာပိ ယထာရဟံ။

ဟူသော ဂါထာများဖြင့် ဂန္ထာရမ္ဘ ပြုတော်မူခဲ့သည်။

ဆရာတော်အရှင်သုတဗုဒ္ဓိသည် ကျမ်းဦး၌—

၁။ သာဝကဗုဒ္ဓိသယာတိတော၊ ဝိနယော ယေန ဒေသိတော၊
မဟာကာရုဏိကဿ တဿ၊ နမော ဗုဒ္ဓဿ သာဒရံ။
၂။ ပါမောက္ခံ သဗ္ဗဓမ္မာနံ၊ ကုသလာနံ ယေန ယံဝိနာ။
ပတိဋ္ဌာနတ္ထိ နိဗ္ဗာနေ၊ မေ့ တံလက္ခိတံ နမေ။
၃။ သာသာနေ ကုလပုတ္တာနံ၊ ပတိဋ္ဌာနတ္ထိ ယံ ဝိနာ။
ပါဏိကတံ သံပရဿ၊ နမော သံဃဿ တမ္ပတော။
၄။ ဇာဂရဋ္ဌ မဟာထေရံ၊ ပရိယတ္တိ ဝိသာဒရံ။
ကောဝိဒံ နာနသတ္ထေသု၊ ဂရုံ မေ သိရသာ နမေ။
၅။ နိပစ္စာကာရသော တဿ၊ ကတဿ ရတနတ္တယေ။
တေဇသာဟံ ပဟန္တွာန၊ အန္တရာယေ အသေသတော။

၆။ နာနာဂန္ထာ နာနာနယံ၊ ပ္ပကတ္တယာ ဝိသောသတော။
ပေါရာဏာဋ္ဌကထာ စာပိ၊ ဂန္ဓဟတ္ထာန ဝိနိစ္ဆယံ။
၇။ သာသနမူလ ကူတာယ၊ ဝိနယာသံ့ကထာယ။
ကရိဿံ ဂဏ္ဌိဋ္ဌာနေသု၊ နာနာနယံ ဝိနိစ္ဆယံ။
၈။ ပေါရာဏေဟိ အနေကေဟိ၊ အသမ္ပုဏ္ဏာ ဝိနိစ္ဆယာ။
ကတာ န တေဟိ ဝိညာတုံ၊ သက္ကောန္တိ မန္ဒဗုဒ္ဓယော။
၉။ တသ္မာ ဝါ ဟံ ကရိဿာမိ၊ ရေိပုဏ္ဏာ ဝိနိစ္ဆယံ။
ဂဏ္ဌိဋ္ဌာနံ ဝိဘာဝေန္တော၊ တံ မေ သုဏာထ သာဓဝေါ။

ဟူသော ကိုးဂါထာ၊ ယင်းကိုးဂါထာပါဌ် နိဿယဖြင့် ရတနတ္တယ ပဏာမ၊ အာစရိယပဏာမ၊ ကရဏပ္ပကာရ၊ ပကာရဏဟေတု၊ ပဋိညာဉ် စသည်တို့ကို ဖော်ပြရာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ဆရာတော် အရှင်သုတဗုဒ္ဓိသည်—

အနုသန္ဓေ၊ ဝိဂ္ဂဟ်ဆို၊ ပဒဝိနိစ္ဆယ၊ ခက်ခဲရာ၌ အနက်ပေးခြင်း၊ ခက်ခဲသော ဝါကျတို့ကို ရှင်းလင်းခြင်း၊ စ-ပိ-ဝါ စသော နိပါတ်များကို ရှင်းလင်းခြင်း၊ တဒ္ဓိတ်-ကိတ် ပစ္စည်း စသည်တို့၏ အနက်ကို ကျနစွာရှင်းလင် ခြင်း စသည်တို့ဖြင့် တန်ဆာဆင်၍ ပါရာဇိကကဏ် အဋ္ဌကထာ ဂဏ္ဌိသစ်ကျမ်းကြီးကို ကြိုးပမ်း အားသစ်တော်မူခဲ့လေသည်။

## ကိုးကားသောကျမ်းများ

ဆရာတော် အရှင်သုတဗုဒ္ဓိ၏ လွန်စွာကျမ်းဂန် နှံ့စပ်သည့် ပညာရှိပုဂ္ဂိုလ် ဖြစ်ကြောင်း ယင်း ဂဏ္ဌိကျမ်းလာ ကျမ်းကိုးတို့ဖြင့် သိသာသည်။ ယင်းကျမ်း၌ ဝိနည်းဋီကာများအပြင် သဒ္ဒါငယ် ကျမ်းအမျိုးမျိုး၊ အဘိဓာန်၊ အလင်္ကာ ဋီကာ၊ သဒ္ဒနီတိကျမ်းများ၊ မောဂ္ဂလ္လာန် စသော သဒ္ဒါကျမ်းများ၊ မဟာဝံသ၊ ဒီပဝံသ ဋီကာ စသည့် ကျမ်းပေါင်း မြားမြောက်စွာ ကိုးကား၍ ထားလေ သည်။

လောကီ သုပိနစျာယကျမ်းလာ—

ဒိဋ္ဌံ သုတာနု ဘူတဉ္စ၊ ပတ္ထိတံ ကပ္ပိယံ တထာ။
ဘာဝိတံ ဒေါသဇဉ္စေဝ၊ သုပိနေ သတ္တဝိဓော မတော။

ဟူသော ဂါထာကိုလည်း ယင်းဂဏ္ဌိ၊ ပဌမ၊ ၂၄၂-၌ တွေ့ရသည်။

ဆရာတော်သည် ပါရာဇိကဏ် ဂဏ္ဌိကျမ်းကြီး ရေးစဉ် ပျံလွန်တော်မူဟန် တူပါသည်။ ပါရာဇိက ကဏ္ဍ အဋ္ဌကထာ ပဌမအုပ် စာမျက်နှာ ၂၁၀၊ ပဌမ ပါရာဇိက သိက္ခာပုဒ် ပစ္စက္ခာနုဝိဟာဂ် ဝဏ္ဏနာ၊ "ဥဿုဇ္ဇိ တာကိ အနတိ ရတိယာ ဣမသ္မိ «သာသနေ ကိစ္စိဇိဝိကပ္ပတ္တော" ဟူသော အဋ္ဌကထာ စကား၏ ဂဏ္ဌိဋ္ဌာနတိုင်ရှိသော ပြီးဆုံးခဲ့လေသည်။ ယင်းကျမ်းကြီးကို ၁၃၁၂ ခု နှစ်တွင် မန္တလေးမြို့ ပိဋကတ်တော် ပြန့်ပွားရေး ပုံနှိပ်တိုက်က ရိုက်နှိပ်ထုတ်ဝေ ခဲ့ရာ ပဌမတွဲ၊ ဒုတိယတွဲ နှစ်တွဲရှိ၍ ပဌမတွဲ ရှိုင်ဆိုက် စာမျက်နှာ ၄၆၄- ရှိ၍ ဒုတိယတွဲ-၃၉၂- ရှိလေသည်။ ဒုတိယတွဲအဆုံး၌ ပေဖြင့် အဆင့်ဆင့် ကူးယူ လျှူဒါန်းသူတဦး၏ ပတ္ထနာစာတမ်း ကောပိဒ် ရတုမှာ-

"ကပ္ပါအတိတ်၊ ကြာတံဆိပ်ကြောင့်၊ နိမိတ်သြဘာ၊ သောင်းလုံး ဖြာလျက်၊ သက်လာလူ့ဘုံ၊ ငါးရုံရွှေကြာ၊ ရှိသည်တကြောင့်၊ ကပ္ပါဘဒ္ဒ၊ အမည်ရလျက်၊ ဗုဒ္ဓနဝမ၊ ခေတ်ကာလ၌၊ ရတော်လေစွ၊ ဒုလ္လဘဟု၊ မနုဿစစ်၊ ဖြစ်လာသောခါ၊ သဒ္ဓါရွှန်းအိ၊ ဂွမ်းဆီထိသို့၊ ပီတိငါးရပ်၊ ကိုယ်လုံးစွတ်၍၊ လွတ်လပ်မရှိ၊ ဟိရိသြတ္တပ်၊ ကိုယ်ကွပ်နှစ် ပါး၊ တရားလက်ဆုပ်၊ ကျင့်အားထုတ်၍၊ ကြိုးကုတ်လုံ့လ၊ ဥဿာဟ နှင့်၊ အဆက်ဆက်က၊ နေကြုတည်ကြည်၊ နာမည်မချို့၊ မမ္မဒါနံ၊ စေတနာသန့်၍၊ လျှူရန်ပုည၊ ကုသလကြောင့်၊ ဘဝသံသာ၊ ကျင် လည်ရာဝယ်၊ အပါယ်ကင်းလွတ်၊ ဆင်းရဲဝတ်မှ၊ ထွက်မြောက်ရ၍၊ ဗုဒ္ဓမြတ်စွာ၊ ပစ္စေကာတို့၊ ပျော်ရာအမှန်၊ ပြည်နိဗ္ဗာန်သို့၊ အမြန်ရောက် ကြောင်း၊ ဆုပန်တောင်းသည်၊အပေါင်းနတ်လူ သာဓုခေါ်စေသော်"

ဟု ဖြစ်သည်။

## ရာဇဂုရု တံဆိပ် အလှူမခံ

ပဥ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီးက ဆရာတော် အရှင်သုတ ဗုဒ္ဓိဂုဏ်သတင်း သိသဖြင့် ရာဇဂုရု တံဆိပ်တော် လှူလို၍ စုံစမ်းရန် ဦးရန်ကို စေလွှတ်ရာ ဦးရန်နှင့် အတွေ့မခံပဲ နေသည်သာမက ရာဇဂုရု တံဆိပ်တော် အလှူမခံလိုကြောင်း မင်းတရားထံ သတင်းပို့ခဲ့လေသည်။

## ဘုရားအလောင်း သူတော်ကောင်း

ဆရာတော် အရှင်သုတဗုဒ္ဓိကား ပညာမိက ဘုရားအလောင်း သူတော် ကောင်း ဖြစ်လေသည်။ ယင်းသို့ဖြစ်ကြောင်း—

ဧတေန ပုညကမ္မေန၊ ပညာမိကော ဘဝါမဟံ။
ဗုဒ္ဓတ္တံ ပါပုဏိတွာန၊ သန္တာရေယံ သဒေဝကံ။

ဟူသော ဝိဘတ္တျတ္တဋီကာ နိဂုံးလာ ဂါထာဖြင့် သိသာသည်။

ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ဖြင့် မနေမနား ဘုရားမြတ်စွာ သာသနာတော် တိုးတက်စည်ကား ပြန့်ပွားရေးကို ရှေးရှုကာ စာပေကျမ်းဂန် ချပို့ခြင်း၊ ကျမ်းစာ ရေးသားခြင်း စသော ကိစ္စလုပ်ငန်းကို ပြုလုပ်စဉ် လေနာရောဂါ နှိပ်စက်လာသဖြင့် သက်တော် ၄၂-နှစ်၊ သိက္ခာတော် ၂၂-ဝါ ရရှိရာ သက္ကရာဇ် ၁၂၄၂-ခုနှစ် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

သံဝေဂယူရန်

အပရာဓကေ ဒူသကေ ဟေဌကေစ၊
ရာဇာနော ဒဏ္ဍေန္တိ ဝိဒိတွာန ဒေါသံ။
န မစ္စုနော ဒဏ္ဍယိတု မုဿဟန္တိ[၁]။

အပရာဓကေစ၊ တိုင်းပြည်သနင်း ပြည့်ရှင်မင်းအား ပြစ်မှားကြကုန်သော သူတို့ကိုလည်းကောင်း။ ဝါ။ မင်းပြစ်စိုးဒဏ် သင့်ကြကုန်သော သူတို့ကိုလည်းကောင်း။ ဒူသကေစ၊ တိုင်းဖျက် ပြည်ဖျက် ပုဂ္ဂိုလ်တို့ကိုလည်းကောင်း။ ဟေဌကေစ၊ ခိုးဆိုးတိုက်ဖျက် လုယက်ညှဉ်းဆဲတတ်သူတို့ကိုလည်းကောင်း။ ရာဇာနော၊ တိုင်းပြည်သနင်း ပြည့်ရှင်မင်းတို့သည်။ ဒေါသံ၊ အပြစ်ဒေါသကို။ ဝိဒိတွာ၊ ဖြစ်စေကြကုန်၍။ ဒဏ္ဍေန္တိ၊ အပြစ်အားလျော်အောင် ထောင်ဒဏ်၊ သေဒဏ်၊ ပြည်နှင်ဒဏ် စသည် စားစား ဒဏ်ထား ဒဏ်တပ်ကြကုန်၏။ မစ္စုနော၊ သေမင်းကိုမူကား။ ဒဏ္ဍယိတုံ၊ ဒဏ်ထားခြင်းငှာ။ ဝါ၊ ဒဏ်တပ်ခြင်းငှာ။ နဥဿဟန္တိ၊ ပုံသေမုချ မစွမ်းနိုင်ကြကုန်။

---

၁။ ဇာ၊ ဋ္ဌ၊ ၃၅၅ (အယောဃရဇာတ်)



ဒက္ခိဏာရာမဘုရားကြီးတိုက် စာချအကျော် ဦးရန်ကုန်ခေါ်
အရှင်သုဇာတာဘိဝံသ (အရှင်သုဇာတာလင်္ကာရ)

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော်

## ဆရာတော် ဦးရန်ကုန် (အရှင်သုဇာတာဘိဝံသ)

ဆရာတော်သည် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်တို့၏ သမိုင်းတွင် လွန်စွာတင်ရှားသော ဆရာတော်ဖြစ်လေသည်။ ယခုအခါတိုင် ကျော်စောလှသော စာချဆရာတော်တို့ ဘုရားကြီးတိုက်၌ ပေါပေါက်ဖြစ်ထွန်း တည်ရှိနေသည့်မှာလည်း ဆရာတော် ဦးရန်ကုန် စသော ရှေးကထင်ပေါ် စာချဆရာတော်တို့၏ ဗွမ်းရည်က ကျေးဇူးပြုခြင်းကြောင့် ဖြစ်သည်။

### သာသနာဘောင်သို့ရောက်ခြင်း စာပေပို့ချခြင်း

ဆရာတော်သည် ရန်ကုန်ခရိုင် ရန်ကုန်မြို့ အနီး တိုးကြောင်ကြီး ရွာ၌ ၁၂၀၉-ခုနှစ်တွင် မိးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။ ငယ်မည် ''မောင်သာခို''ဖြစ်သည်။ အရွယ်ရောက်သော် သာမဏေဝတ် ရဟန်းပြုခဲ့သည်။ ဒက္ခိဏာရာမတိုက်သို့ ငယ်စဉ်ကမှ ရောက်ရှိ၍ စာပေကျမ်းဂန် အတန်တန်ကို သင်ယူတတ်မြောက်တော်မူခဲ့သည်။ ဒက္ခိဏာရာမတိုက်၌ စာလိုက်သံဃာ မြားမြောက်စွာတို့ကိုလည်း စာပေကျမ်းဂန် ချပို့တော်မူသည်။ ၁၂၆၀-ပြည့်နှစ် တပို့တွဲလဆန်း ၁၅-ရက်နေ့တွင် ပရိယတ္တိ သာသနဟိတ အသင်းကြီး၏ ''သုဇာတာဘိဝံသ ပရိယတ္တိ သာသနဟိတ (မူလ ဓမ္မာစရိယ)'' အဖြစ်ဖြင့် ဆွမ်းဆန်တော် စသည် ထောက်ပံ့လှူဒါန်းခြင်းကို ခံယူတော်မူရသည်။

### ကျမ်းဂန်များစွာတို့ကို ပြုစုတော်မူခြင်း

ဆရာတော်သည် စာပေကျမ်းဂန် ချပို့ယင်း ကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ နာမဂ္ဂဏာပဒမာလာပါဌ်၊
၂။ နာမဂ္ဂဏာပဒမာလာ နိဿယ၊
၃။ ကိတ်ပဒမာလာပါဌ်၊
၄။ ကိတ်ပဒမာလာပါဌ် နိဿယ၊
၅။ အာချာတပဒမာလာကျမ်း၊
၆။ အာချာတ်ဂိုဏ်း နိယံ၊
၇။ ကိတ်ပစ္စယခက်ဆစ် ဦးရန်ကုန် နိယံ—

စသည်တို့ ဖြစ်ကုန်၏။

## နာမဂ္ဂဏပဒမာလာပါဌ်

ဖော်ပြပါ ကျမ်းများအနက် နာမဂ္ဂဏပဒမာလာပါဌ်ကို စာသင်ပျိုနုအခြေပြုဖို့ ပါဠိစာပေ၊ ဝါကျစီကုံး၊ ဂါထာ ထုံးဖွဲ့ရာ၌ လွယ်ကူ လျင်မြန်စေရန် ရည်သန်တော်မူ၍ ရေးသားစီရင်တော်မူခဲ့သည်။

ကျမ်းဦး၌—

၁။ ဝန္ဒနေယျံ တိလောကေန၊ ဝန္ဒိတွာ မဟိဓိယတော။
နာမဂ္ဂဏပဒမာလာ၊ နယလက္ခဏသင်္ဂဟံ။
၂။ တတ္ထ လက္ခိယတေ ယေန၊ ဒုဗ္ဗိဓောပိ သရူပတော။
နာမဂ္ဂဏော ပဒမာလာ၊ လက္ခဏန္တိ ပဝုစ္စတိ။

ဟူသော နှစ်ဂါထာဖြင့် ရတနတ္တယပဏာမ၊ အမှာအထား ဂန္ထာရမ္ဘ ပြုတော်မူ၍ နာမဂ္ဂဏပဒမာလာပါဌ်ကို စီရင်တော်မူခဲ့လေသည်။

ရင်းနောက်—

တတ္ထ နာမဂ္ဂဏော တာဝ တိဝိဓော ဟောတိ။
မနောဂဏော၊ မနောဂဏာဒိကော၊ အမနောဂဏောစေတိ-

ဟူ၍ ဂိုဏ်း သုံးပါး သရုပ်ထုတ်၍ ကျမ်းကို စတင်တော်မူခဲ့လေသည်။

ကျမ်း၏အဆုံး၌—

သုဇာတ နာမဓေယျေန၊ ရစိတေ တံ သုနိဋ္ဌိတံ။
နာမဂ္ဂဏပဒမာလာ၊ နယလက္ခဏသင်္ဂဟံ။

ဟူသော ဂါထာဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။

## နာမဂ္ဂဏပဒမာလာ နိဿယ

ဆရာတော် ဦးရန်ကုန်သည် နာမဂ္ဂဏပဒမာလာ နိဿယကိုလည်း ကိုယ်တိုင်ရေးသား စီရင်တော်မူခဲ့လေသည်။ ကိုယ်တိုင် ရေးသားစီရင်သည့် ပါဠိကျမ်းကို ကိုယ်တိုင် နိဿယ ရေးသားခြင်းသည် သဘာဝကျပေသည်။ ကျမ်းဆရာ၏အာသော် မမိသည့် အရာဟူ၍ မရှိနိုင်တော့ချေ။

နာမဂ္ဂဏာပဒမာလာ ပါဠိသော ဂန္ထာရမ္ဘ ဂါထာများကို–

''တိလောကေန၊ သုံးပါးသောလူသည်။ ဝါ၊ ပေါင်းအပ်သော လူသုံးပါးသည်။ ဝါ၊ လူသုံးပါးတို့၏အပေါင်းသည်။ ဝန္ဒနေယျံ၊ ရှိခိုးထိုက် ရှိခိုးအပ်သော ရတနာသုံးပါးကို။ တနည်းကား၊ တိလော ကေန– တိလောကဿ၊ လူသုံးပါး၏။ ဝါ၊ ပေါင်းအပ်သော လူသုံး ပါး၏။ ဝါ၊ လူသုံးပါးတို့၏ အပေါင်း၏။ ဝန္ဒနေယျံ၊ ရှိခိုးခြင်း ငှာ ထိုက်တော်မူသော ရတနာသုံးပါးကို။ ဝန္ဒိတွာ၊ ကာယဝစီ မနောချီလျက် သုံးလီဒွါရ ပဏာမဖြင့် ကြည်ညိုဆည်းကပ်နူး ရှိခိုးဦး၍။ နာမဂ္ဂဏာပဒမာလာ နယလက္ခဏာသင်္ဂဟံ၊ တဆဲ့သုံးပါးသော နာမ် ဂိုဏ်း ပုဒ်အစဉ်၏ သိကြောင်း ဖြစ်ကြောင်းဟု ဆိုအပ်သော သဘော လက္ခဏာကို သင်္ဂြိုဟ်ရာ သင်္ဂြိုဟ်ကြောင်း အကျဉ်းပေါင်း၍ ယူရာ ယူကြောင်း ဖြစ်သောကြောင့် နာမဂ္ဂဏာပဒမာလာ နယလက္ခဏ သင်္ဂဟ အမည်ရှိသောကျမ်းကို။ ဝါ၊ တဆဲ့သုံးပါးသော နာမ်ဂိုဏ်း ၏ လက္ခဏာ ပုဒ်အစဉ်၏ သိကြောင်း ဖြစ်ကြောင်းဟု ဆိုအပ်သော လက္ခဏာကို သင်္ဂြိုဟ်ရာ သင်္ဂြိုဟ်ကြောင်း အကျဉ်းပေါင်း၍ ယူရာ ယူကြောင်း ဖြစ်သောကြောင့် နာမဂ္ဂဏာပဒမာလာ နယလက္ခဏာသင်္ဂဟ အမည်ရှိသောကျမ်းကို။ မေမယာ၊ ငါးသွယ်ခန္ဓာ မကွာထက်ကြပ် ခေါ်ဝေါ်အပ်သော ငါသည်။ အဘိဓီယတေ၊ နက်လေးခဲရပ် တမျဉ်း ခတ်သို့ ကြပ်ကြပ်သိုသို ဆိုအပ်သတတ်။

နာမဂ္ဂဏာပဒမာလာ နယလက္ခဏာသင်္ဂဟံ အဘိဓီယတေတိ = ဟူ၍ ယဒိဒံ ယံ ဣဒံဝစနံ၊ အကြင်စကားကို။ မယာ၊ သည်။ ပဋိညာတံ၊ မဆန်မသွန် ဝန်ခံအပ်ပြီ။ တဋ္ဌ တသ္မိံ ဝစနေ၊ ၌။ ယေနသဘာဝ ဇာတေန၊ အကြင်သဘောဖြင့်။ သရူပတော–သရူပဝသေန၊ သရုပ်၏ အစွမ်းအားဖြင့်။ ဝါ၊ သဘောလက္ခဏာနှင့် တကွ ဖြစ်သည်၏ အစွမ်း အားဖြင့်။ ဝါ၊ သဘောလက္ခဏာနှင့် တကွ ဖြစ်သည်၏ အစွမ်းဖြင့်။ ဝါ၊ သဘောလက္ခဏာ ထင်ရှားသည်၏ အစွမ်းအားဖြင့်။ ဒုဗ္ဗိဓောပိ၊ နှစ်ပါးအပြား ရှိသည်လည်းဖြစ်သော။ နာမဂ္ဂဏော၊ နာမ်ဂိုဏ်းကို လည်းကောင်း။ ပဒမာလာ၊ ပုဒ်စဉ်ကိုလည်းကောင်း။ လက္ခီယတေ၊ ကောန်ဆတ်ဆတ် မှတ်သားအပ်၏။ တံ သဘာဝဇာတံ၊ ထိုမှတ်သား ကြောင်း သဘောကို။ လက္ခဏံ၊ လက္ခဏာဟူ၍။ တည္ပုဟိ၊ ထိုလက္ခဏာ ကို သိလေ့ရှိသော ပညာရှိတို့သည်။ ပဝုစ္စတိ၊ အပြားအားဖြင့် ဆို အပ်၏။

ဟူ၍ ဂန္ထာရမ္ဘ နှစ်ဂါထာကို အနက်ယောဇနာတော် မူ၍ ဆက်လက်ရေးသားစီရင်တော်မူခဲ့လေသည်။

ရင်းပြင် နိဂုံးဂါထာကိုလည်း–

"သုဇာတ နာမဓေယျေန၊ မိဘနှစ်အင် လွန်ဖြူစင်လျက် ဖွားမြင်ငယ်မှတ် ယင်းအနွတ်ကြောင့် ဆွတ်ဆွတ်သီလဝန် ဆရာမွန်တို့ မိန့်ညွှန်ဖော်ပြ သုဇာတဟု နာမတွင်ဘိ အမည်ရှိသော ပဉ္စင်းပျိုသည်။ ရစိတံ၊ စီရင်ရေးသားအပ်သော။ တံ နာမဂန္ထာ ပဒမာလာ နယလက္ခဏာသင်္ဂဟံ၊ တဆဲ့သုံးပါးသော နာမ်ဂိုဏ်း၏ လက္ခဏာပုဒ်စဉ်နည်းဟု ဆိုအပ်သော လက္ခဏာကို သင်္ဂြိုဟ်ရာ သင်္ဂြိုဟ်ကြောင်း အကျဉ်းပေါင်း၍ ယူရာယူကြောင်း ဖြစ်သောကြောင့် နာမဂန္ထာပဒမာလာ နယလက္ခဏာသင်္ဂဟ အမည်ရှိသော ကျမ်းသည်။ နိဋ္ဌိတံ၊ ကောင်းစွာအပြီးအဆုံး အောင်မြင်ခြင်းသို့ ရောက်ပြီ"ဟူ၍အနက်ယောဇနာတော်မူသည်။

## ကိတ်ပဒမာလာပါဠိ

ဆရာတော် ဦးရန်ကုန်သည် သဒ္ဒါအရာ လွန်စွာကျမ်းကျင် နိုင်နင်းတတ်မြောက်သည့် ပုဂ္ဂိုလ်ထူး ဖြစ်သည့်အလျောက် ကိတ်ပိုင်းဆိုင်ရာ ဓာတ်ပစ္စည်းမှု၌လည်း လိုသည်မရှိ တတ်မြောက်ကျွမ်းကျင်တော်မူရာ စာသင်သားတို့အားလည်း ကိတ်အခန်းဆိုင်ရာ ဓာတ်ပစ္စည်းမှုကို မိမိတန္ဒု ကျွမ်းကျင်တတ်မြောက်တော် မူလိုသဖြင့် ကိတ်ပဒမာလာပါဠိ ကျမ်းကိုလည်း စီရင်တော်မူခဲ့လေသည်။

ကျမ်းဦး၌–

၁။ အနန္တကရုဏာပညံ၊ ဝိစိတြနယ ဒေသနံ။
နိရုတ္တိ မဟာဝိသယံ၊ ဝန္ဒေ နာထံ ဟိတာဝဟံ။
၂။ သုဒေသိတံ ဝိတမလံ၊ နိယျာနိကံ ဝိဘာဝိတံ။
ဝူပသန္တံ သုဂမ္ဘီရံ၊ ဝန္ဒေ ဓမ္မံ သုဇာနိတံ။
၃။ သီလာဒိ ဂုဏသမ္ပန္နံ၊ ပုညက္ခေတ္တံ အနုတ္တရံ။
နိဗ္ဗာန ဂေါစရံ သန္တံ၊ ဝန္ဒေ သံဃံ ဂဏုတ္တမံ။
၄။ ဝဏ္ဏိတံ ဗုဒ္ဓသေဋ္ဌေဟိ၊ မဟာပညံ သုပဏ္ဍိတံ။
ကစ္စာယနံ နိရုတ္တညုံ၊ ဝန္ဒေ ဝိမလဗုဒ္ဓိကံ။

၅။ မဟာယသံ မဟာထေရံ၊ ပရိယတ္တိ ဝိသာရဒံ။
ဂုရုသေဋ္ဌ သီသေန၊ ဝန္ဒေ ဂါရဝ ဘာဇနန္တိ။
၆။ ကိတကပ္ပေ ယာယံ ဝုတ္တော၊ သသာဓနော ပဒက္ကတော။
စတုမာ တံ ပဝက္ခာမိ၊ သုဝိညေယျာယ သောတုနံ။

ဟူသော ခြောက်ဂါထာဖြင့် ပြည့်စုံစွာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။ အလွန်လျှင် အင်္လေ့အလာပြုသင့်သော ကျမ်းကောင်းကျမ်းမွန် ဖြစ်လေသည်။

## ကိတ်ပဒမာလာနိဿယ

ဖော်ပြပါ ကိတ်ပဒမာလာပါဠိ၏ မှီရာ အတ္ထနိဿယကိုလည်း ဆရာတော်ကိုယ်တိုင်ပင် ပြုစုတော်မူခဲ့သည်။ ဆရာတော် ဦးရန်ကုန်သည် ကိတ်ပဒမာလာပါဠိလာ ဂန္ထာရမ္ဘ ခြောက်ဂါထာကို အောက်ပါအတိုင်း အနက်ယောဇနာတော်မူသည်။

၁။ အဟံ၊ ငါသည်။ အနန္တကရုဏာပညံ၊ အဆုံးအပိုင်းအခြား မရှိသော မဟာကရုဏာ သဗ္ဗညုတဉာဏ် ရှိတော်မူထသော။ ဝါ၊ အဆုံးအပိုင်းအခြား မရှိထသော မဟာကရုဏာကဲ့သို့သော သဗ္ဗညုတဉာဏ် ရှိတော်မူထသော။ ဝိစိတ္တနယ ဒေသနံ၊ ဆန်းကြယ်သောနည်းရှိသော ဒေသနာရှိတော်မူထသော။ ဝါ၊ ဆန်းကြယ်သောနည်းတည်းဟူသော ဒေသနာ ရှိတော်မူထသော။ နိရုတ္တိမဟာဝိသယံ၊ ကျယ်ဝန်းလှစွာ သဒ္ဒါတည်းဟူသော တိုင်းခရိုင်နိုင်ငံ ရှိတော်မူထသော။ ဟိတာဝဟံ၊ လူနတ်တို့၏ လောကီ လောကုတ် ပစ္စုပ်ဘမလွန်ကျိုးနှစ်တန်ကို အားသန်ရွေးရှု ဆောင်တော်မူထသော။ နာထံ၊ မြတ်စွာဘုရားကို။ ဝန္ဒေ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။

၂။ သုဒေသိတံ၊ အာဒိကလျာဏ စသောအားဖြင့် မြတ်စွာဘုရားသည် ကောင်းစွာ ဟောကြားတော်မူအပ်ထသော။ ဝိတမလံ၊ ကင်းသော အညစ်အကြေးရှိထသော။ နိယျာနိကံ၊ ဝဋ်ဆင်းရဲမှ ထုတ်ဆောင်တတ်ထသော။ ဝါ၊ ဝဋ်ဆင်းရဲမှ ထွက်မြောက်ရာ ထွက်မြောက်ကြောင်းဖြစ်ထသော။ ဝါ၊ ဝဋ်ဆင်းရဲမှ ထွက်မြောက်စေတတ်ထသော။ ဝိဘာဝိတံ၊ ဘုရားအစရှိသော အရိယာပုဂ္ဂိုလ်တို့သည် ဂေါစရသေဝန ဘာဝနာသေဝနအားဖြင့် အထူးထူးအပြားပြား အထူးသဖြင့် ပွားအပ်ထုံအပ်ထသော။ ဝူပသန္တံ၊ ရာဂ အစရှိသော မီးကို ငြိမ်းစေတတ်ထသော။ ဝါ၊ ရာဂ အစရှိသော မီး၏ ငြိမ်းရာငြိမ်းကြောင်း

ဖြစ်ထသော။ သုဂတ္တိရံ၊ အလွန်နက်နဲလှစွာထသော။ သုဇာနိတံ၊ ဘုရားအစရှိသော အရိယာပုဂ္ဂိုလ်တို့သည် ကောင်းစွာ သိအပ်ထသော။ ဓမ္မဥ္စ၊ ဆယ်ပါးသော တရားတော်ကိုလည်း။ ဝန္ဒေ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။

၃။ သီလာဒိဂုဏာသမ္ပန္နံ၊ သီလအစရှိသော ဂုဏ်ကျေးဇူး ရှိတော်မူထသော။ ဝ ါ၊ ပြည့်စုံသော သီလအစရှိသော ဂုဏ်ကျေးဇူးရှိတော်မူထသော။ ပုညက္ခေတ္တံ ကောင်းမှုတည်းဟူသော မျိုးစေ့တို့၏ စိုက်ပျိုးစေချရာ လယ်ယာမြေကြီးသဖွယ် ဖြစ်တော်မူထသော။ အနုတ္တရံ၊ မိမိထက် လွန်မြတ်သော သံဃာရှိတော်မမူထသော။ နိဗ္ဗာန ဂေါစရံ၊ နိဗ္ဗာန်လျှင်ကျက်စားရာ အာရုံရှိတော်မူထသော။ သန္တံ၊ ငြိမ်သက်တည်ကြည်သော ဣန္ဒြေရှိတော်မူထသော။ ဂဏုတ္တမံ၊ နတ်လူအပေါင်းတို့တွင်၊ နတ်လူအပေါင်းတို့၌၊ နတ်လူအပေါင်းတို့ထက် မြတ်တော်မူထသော။ သံဃဥ္စ၊ ရှစ်ယောက်သော သံဃာတော်ကိုလည်း။ ဝန္ဒေ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။

၄။ ဗုဒ္ဓသေဋ္ဌံ၊ ဘုရားမြတ်သည်။ မဟာပညံ- မဟာပညံ့ဉာတိ၊ ကြီးမြတ်သော ပညာရှိ၏ဟူ၍။ သုပဏ္ဏိတံ၊ သုပဏ္ဏိတံဉာတိ၊ ကောင်းသော လွန်ကဲသော ပညာရှိ၏ဟူ၍။ ဝဏ္ဏိတံ၊ ရွှေနှုတ်မြွက်တော် ချီးမွမ်းတော်မူအပ်သော။ နိရုတ္တညုံ၊ သဒ္ဒါကို သိတော်မူလေ့ရှိသော။ ဝိမလဗုဒ္ဓိကံ၊ အညစ်အကြေးကင်းသော ပညာရှိတော်မူထသော။ ကစ္စာယနဥ္စ၊ ကစ္စည်းထေရ်ကိုလည်း။ ဝန္ဒေ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။

၅။ မဟာယသံ၊ များမြတ်သော အခြံအရံ အကျော်အစောရှိတော်မူထသော။ မဟာထေရံ၊ အဝါနှစ်ဆယ်ရပြီး မထေရ်ကြီးလည်းဖြစ်တော်မူထသော။ ပရိယတ္တိဝိသာရဒံ၊ ပရိယတ်၌ ကင်းသော ရွံ့ရှားခြင်းလည်း ရှိထသော။ ဂါရဝဘာဇနံ၊ အရိုအသေပြုအပ်သူ၏ အဖြစ်တည်းဟူသော သီလ သမာဓိ အစရှိသော ဂုဏ်အပေါင်းတို့၏ တည်ရာလည်းဖြစ်တော်မူထသော။ မေ၊ ငါ၏။ ဂုရုသေဋ္ဌဥ္စ၊ ဆုံးမပဲ့ပြင်သွန်သင်နိုပ်ကွပ် ဆရာမြတ်အပေါင်းကိုလည်း။ သီသေန၊ ဦးခေါင်းဖြင့်။ ဝန္ဒေ၊ ရှိခိုးပါ၏။

၆။ ကိတကပ္ပေ၊ ကိတ်ကျမ်း၌။ သသာဓနော၊ သာဓနခုနစ်ပါးနှင့်တကွသော။ ယာယံ ယောအယံပဒဂ္ဂတော၊ အကြင်ပုဒ်သွားနည်းကို။ မဟာကစ္စာယနဒထေရေန၊ မဟာကစ္စည်းမထေရ်သည်။ ဝုတ္တောဒသယိ

ဓေတာ၊ ပြုအပ်ပြီ။ တံပဒဂ္ဂတံ၊ ထိုပုဒ်သွားနည်းကို။ စတုံခေ၊ လေးပါးသောအပြားတို့ဖြင့်။ ဝါ၊ လေးပါးသောအခြင်းအရာတို့ဖြင့်။ ဝါ၊ လေးပါးသော ဝေဖန်ခြင်းတို့ဖြင့်။ ၁ါ၊ စတုခေ စတုဗ္ဗိဓံ၊ လေးပါးအပြားရှိသော။ တံပဒဂ္ဂတံ၊ ထိုပုဒ်သွားနည်းကို။ သောတုနံ၊ စာသင်ပျို့နုအခြေပြုတို့၏။ သုဝိညေယျာယ၊ သိလွယ်ခြင်းငှာ။ ပဝက္ခာမိ၊ ဆိုပေအံ့။ ဣတိ၊ ဤသည့်လျှင် ကျမ်းပြုဆရာ သူတော်စွာတို့ ကွယ်ရာသမ္ဘာဝကို ပြသောစကားဘာရပ် အပြီးသတ်တည်း။

ဤသည့်လျှင် ဆရာတော် ဦးရန်ကုန်၏ ကိတ်ပဒမာလာ နိဿယသော ကိတ်ပဒမာလာပါဠ် ဂန္ထာရမ္ဘ ခြောက်ဂါထာ နိဿယတည်း၊ ဆရာတော် ဦးရန်ကုန်၏ အနက်ဉာဏ် မည်မျှသန်ကြောင်းကိုလည်း ရိပ်စားမိနိုင်လေ၏။

## ဆရာတော်ဦးရန်ကုန်၏ အနုသန္ဓေဆိုနည်း

ဆရာတော် ဦးရန်ကုန်သည်-

"ဤသို့ဆိုလျှင် ကျမ်းဦးအစ၌ ကျမ်းပြုဆရာတို့၏ သဘာဝ ပြမြဲဖြစ်သော အန္တရာယနိဝါရဏဂန္ထပရိသမာပန အကျိုးရှိသော ရတနတ္တယပဏာမ၊ အာစရိယပဏာမနှင့် တကွသည် နိမိတ်၊ ကတ္တား၊ ပရိမာဏ၊ ပယောဇဉ်တည်းဟူသော ငါးပါးသော အတ္တုပညာကို ပြုပြီး၍ ယခုအခါ ဝေဖန်ခြင်းရှိကုန်သော အန္တရာယ နိဝါရဏ ပုဒ်တို့၏ သဘောလက္ခဏာကို ပြခြင်းသည် သရုပ်နှင့်ကင်း၍ မဖြစ်၊ ယင်းသို့ မဖြစ်ခြင်းကြောင့် ယင်းပုဒ်တို့၏ သရုပ်ကို ထုတ်ပြခြင်းငှာ ကွိ-ခ စသည်ကို တက်ကသော်[၁]"

ဤကား ဆရာတော်ဦးရန်ကုန်၏ အနုသန္ဓေဆိုနည်း အမြွက်ဖြစ်၏။

## အာချာတပဒမာလာကျမ်း

ဆရာတော် ဦးရန်ကုန်သည် အာချာတပဒမာလာ ကျမ်းကိုသည်း ပြုစီရင်တော်မူခဲ့သည်။ အာချာတပဒမာလာကို နိုင်နင်းမှ လိုအပ်သော ကြိယာကို အလွယ်တကူ ရှာဖွေသိရှိနိုင်သည်။ လိုအပ်သောကြိယာကို မြန်စွာ ရှာဖွေသိရှိပါမှ ပါဠိဝါကျ၊ ပါဠိဂါထာ အစီအကုံး မြန်မြန် စီကုံးနိုင်သည်။ ဆရာတော် ဦးရန်ကုန်သည် ပါဠိဝါကျ၊ ပါဠိဂါထာ၊ ပါဠိကျမ်းဂန် ရေးသားပြုစုသူတို့

---

၁။ ကိတ်ပဒမာလာ နိဿယ။ ၄၁-၅၁။

အား အထောက်အကူ ပြုစိမ့်သောငှာ အာချာတပဒမာလာ ကျမ်းကိုလည်း ပြုစုစီရင်တော်မူခဲ့လေသည်။

ကျမ်းဦး၌-

ပဒမာလံ ကရိဿာမိ၊ အာချာတဿ နမဿိယ။
ဝတ္ထုတ္တယံ ဂုဏာဓာရံ၊ တံ မေ ပေက္ခန္တု ဘာသတော။

ဂုဏာဓာရံ၊ ချီးမွမ်းမကုန် အလုံးစုံသောဂုဏ်တို့၏ တည်ရာဖြစ်သော။ ဝတ္ထုတ္တယံ၊ ဘုရား တရား သံဃာ သုံးဖြာသော ရတနာတို့၏ အပေါင်းကို။ နမဿိယ၊ ရှိသေတုပ်ကွ ဦးနှိမ်ချ၍။ အာချာတဿ၊ အာချာတ်၏။ ပဒမာလံ၊ ပုဒ်အစဉ်ပဒမာလာကို။ ကရိဿာမိ၊ ပြုပေအံ့။ ဘာသတော၊ ဆိုလတ္တံ့သော။ မေ၊ ငါ၏။ တံ၊ ထိုအာချာတ ပဒမာလာကျမ်းကို။ ပေက္ခန္တု၊ ကြေးမုံမှန်ဝ မျက်နှာလှကို ပြဘိတန္တု ရှုပါကုန်လော့။

ဟူသော ဂါထာပါဌ် နိဿယဖြင့် ပဏာမ၊ ပဋိညာဉ်၊ ဂန္ထာရမ္ဘ ပြုတော်မူသည်။

ကျမ်း၏အဆုံး၌လည်း—

နိဋ္ဌိတာ ပဒမာလာယံ၊ ယထာ အနန္တရာယေန။
တထာ ခိပ္ပံဝ နိဗ္ဗာနံ၊ ပပ္ပေါန္တု သဗ္ဗပါဏိနော။

အယံပဒမာလာ၊ ဤ အာချာတပဒမာလာ ကျမ်းသည်။ အနန္တရာယေန၊ ကိုယ်ပကိုယ်တွင်း အန္တရာယ်ကင်းသဖြင့်။ နိဋ္ဌိတော ယထာ၊ အပြီးသို့ ရောက်သကဲ့သို့။ တထာ၊ ထို့အတူ။ သဗ္ဗပါဏိနော၊ ဦးမဲ့ဦးဖြူ ခပ်သိမ်းသူတို့သည်။ အနန္တရာယေန၊ ဘေးအန္တရာယ် ဝေးစွာပယ်သဖြင့်။ နိဗ္ဗာနံ၊ ဝါနထွက်ရာ တဏှာကင်းသော နိဗ္ဗာန်သို့။ ခိပ္ပံ၊ ဆော့လျင်စွာ။ ပပ္ပေါန္တု၊ ရောက်ဇေကုန်သတည်း။

ဟူသော တဂါထာပါဌ် နိဿယဖြင့်ပင် နိဂုံးအုပ်တော်မူခဲ့သည်။ ဆရာတော်ဦးရန်ကုန်သည် အာချာတ်ဂိုဏ်း နိယံကိုလည်း ရေးသား စီရင်တော်မူခဲ့သည်။ ယင်း အာချာတ်ဂိုဏ်းနိယံမှာ ၂၃-ပုဒ်သာရှိ၍ ရှားပါးစာပေဖြစ်ရာ ဤဆရာတော်၏ နိဂုံးနှင့်တကွ အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်။

အာချာတ်ကိုဏ်း နိယံ

နမော တဿ ဘဂဝတော အရဟတော

သမ္မာသမ္ဗုဒ္ဓဿ

ဿဗ္ဗေ ပူရေန္တု သင်္ကပ္ပာ၊ စန္ဒော ပန္နရသော ယထာ။

(၁) ရတနာသုံးစုံ၊ ပန်းနှယ်ငုံ၊ ဆယ်စုံဝတ်တုပ်ပြွတ်။

(၂) ခါတုပစ္စယ၊ ဆဆကာရန်၊ နှစ်တန်ရောက၊ ရှစ်ခုရ၊ မုချမိန့်လတ် ကျမ်းအာချာတ်။

(၃) ရုပ်သွားဝိကရဏ၊ ဆဲ့လေးကျ၊ ကိုဏ်းထားဝိဏရဏ၊ ပန္နရ၊ သ ရူပဋ္ဌ၊ သတ္တရ၊ ညွန်ပြဆုံးဖြတ်၊ ကျမ်းအာချာတ်။

(၄) ကာရန်ငါးဆစ်၊ ရခေတ်တွင်၊ အမှန်ဖြစ်၊ ကြွင်းခုနစ်မှာ၊ ရှစ်စီသာ၊ နှစ်ဖြာရောလစ်၊ ခြောက်ဆဲ့တစ်၊ စင်စစ်မလွဲ၊ ကေန်မြဲ၊ ခက်ခဲမိန့် လတ်၊ ကျမ်းအာချာတ်။

(၅) အတူကာရန်၊ ရမှန်ကိုဏ်းချင်း၊ ယှက်တုံလျှင်း၍၊ ကြွင်းရခေတ်၊ ကိုဏ်း အရှိနှင့်၊ ယှက်ဘိပြိုင်းပြိုင်း၊ ခုနစ်ကိုဏ်းလည်း၊ သိသည်မိန့်လတ်၊ ကျမ်း အာချာတ်။

(၆) သုဍ္ဍအဌ၊ သတ္တဌဟု၊ သွဌတဖြာ၊ ပဥ္စအဌ၊ စတုတ္ထနှင့်၊ တေဌဒွေဌ၊ ကောအဌ၊ စဉ်သင့်ချ၍၊ သုဒ္ဓကေမူလာ၊ ဒိနယာတွင်၊ မူလာမူလီ၊ တီတီ တွတ်တွတ်၊ မြွောက်တုံလတ်၍၊ နှစ်ရပ်ဒွယ၊ ပေါင်းကာတဖန်၊ အမှန် မုချ၊ နှစ်ရာ့သုံးဆယ်၊ နှစ်ခုကယ်၊ မှတ်ဘွယ်ကိုဏ်းခေတ်၊ ကျမ်းအာ ချာတ်။

(၇) ဘူဒိစူရာ၊ ကိုဏ်းသုံးဖြာဝယ်၊ သင်္ချာသချေ၊ မရေတွက်သာ၊ ခေတ် သွင်းရာ၊ သေချာမိန့်လတ်၊ ကျမ်းအာချာတ်။

(၈) ရခေဒိမှတ်၊ ကိုဏ်းကေတ်တွင်၊ ခေတ်နေကသရ၊ တခုမျှ၊ ဖော်ပြမိန့် လတ်၊ ကျမ်းအာချာတ်။

(၉) ကြွင်းသိမှန်ဘိ၊ ကိုဏ်းအရှိတွင်၊ ကာစသဒ္ဒေ၊ နှောင့်ရှက်လေ၍၊ မကျေ ခေတုဋ္ဌ၊ ယင်းကိစ္စကြောင့်၊ သွင်းရအကုန်၊ ခေတ်မျိုးစုံ၊ မိန့်ပုံဆန်း လတ်၊ ကျမ်းအာချာတ်။

(၁၀) နဝဗျဉ္ဇန၊ အကာရနှင့်၊ ဒသဝိကရဏာ၊ ပစ္စည်းမှာကား၊ သွားရာဝိဘတ်၊ မကျန်လတ်၍၊ ငှေအပ်ရှေ့မူ၊ ရှပ်ကိုစုကာ၊ ဆနဝုတိ၊ အမှန်ရှိ၊ တိတိမိန့်လတ်၊ ကျမ်းအာချာတ်။

(၁၁) အာ-ဤ-ဦ မှန်၊ သုံးကာရန်မူ၊ လေ့ဆူဝိဘတ်၊ သဗ္ဗဓာတ်တွင်၊ ဖဲကြည့်သတ္တမီ၊ ကျမ်းသုံးလီဝယ်၊ ငါးသွယ်သရ၊ ဖဲကြည့်ချ၍၊ သရဗျည်းစပ်၊ ငါးဝိဘတ်နှုတ်၊ ငါးသံယှဉ်လည်း၊ ရှင်းနည်းပင်၊ ဖဲကြည့်လေပါ၊ ပုဗ္ဗသရ၊ ဗျဉ်းဒွယနှင့်၊ အသဗ္ဗဓာတ်၊ လေးဝိဘတ်လည်း၊ ထိုနည်းဖဲလတ်၊ ကျန်ဝိဘတ်နှင့်၊ ယှဉ်ဟပ်ပေါင်းရိုး၊ တဆဲ့ကိုးသာ၊ ရှပ်သွားရာ၊ သေချာမိန့်လတ်၊ ကျမ်းအာချာတ်။

(၁၂) ဣ-ဥ-ဧ-ဩ၊ယင်းသဘောမူ၊ လေးဆူဝိဘတ်၊ သဗ္ဗဓာတ်တွင်၊ ဖဲကြည့်သတ္တမီ၊ ကျန်သုံးလီဝယ်၊ ငါးသွယ်သရ၊ ဖဲကြည့်ချ၍၊ သရဗျည်းစပ်၊ ငါးဝိဘတ်တွင်၊ အာယှဉ်ဝိဘတ်၊ မယူအပ်ပါ၊ ပုဗ္ဗသရ၊ ဗျည်းဒွယနှင့်၊ အသဗ္ဗဓာတ်၊ လေးဝိဘတ်လည်း၊ ထိုနည်းကြည့်ပါ၊ ကြွင်းသောသာနှင့်၊ မှန်စွာစင်စစ်၊ နှစ်ဆဲ့ရှစ်သာ၊ ရှပ်သွားရာ၊ သေချာမိန့်လတ်၊ ကျမ်းအာချာတ်။

(၁၃) ကေသရ၊ ဓာတ်ပဥ္စနှင့်၊ အဋ္ဌကာရန်၊ ဤနှစ်တန်မှာ၊ လောပါဒေသ၊ ဝုဒ္ဓိပြု၍၊ သွားရာအမှန်၊ ခါဟရုံ၊ ထုတ်ပြန်မိန့်လတ်၊ ကျမ်းအာချာတ်။

(၁၄) သရသက်သက်၊ ဆဲ့နှစ်ထွက်၊ ဗျည်းနှင့်ရောယှက်၊ တံပိုးတက်၊ ဗျည်းသက်သက်မှာ၊ ခြောက်ဆယ်သာ၊ သုံးဖြာဝိဘတ်၊ ကျမ်းအာချာတ်။

(၁၅) ဝေါ်-ပစ် ဘတ်ချ၊ ကြွင်းပဥ္စကြောင့်၊ အာဂမနည်း၊ ရရိုးစည်း၊ ကနည်းမိန့်လတ်၊ ကျမ်းအာချာတ်။

(၁၆) အဇ္ဇတ္တနာ၊ ကာလာတိပတ်၊ နှစ်ဝိဘတ်ကြောင့်၊ နှစ်ရပ်အာဂုံ၊ လာရိုးဆုံ၊ မိန့်တုံဆတ်ဆတ်၊ ကျမ်းအာချာတ်။

(၁၇) ပရောက်-ဘဝိဿ၊ ဝိဘတ်ဟိတ်ကြောင့်၊ ညိတ်ညိတ် ဣ-သာ၊ လာရိုးပါ၊ သေချာမိန့်လတ်၊ ကျမ်းအာချာတ်။

(၁၈) ဟိယျတ္တနိတ်၊ ဝိဘတ်ဟိတ်ကြောင့်၊ နှစ်ရပ်အာဂုံ၊ လာရိုးဆုံ၊ မဆောင့်မသာ၊ လာရိုးပါ၊ မှန်စွာမိန့်လတ်၊ ကျမ်းအာချာတ်။

(၁၉) အသဗ္ဗဓာတ်၊ သေးဝိဘတ်တွင်၊ ဆတ္တိသထွက်၊ ဗျည်းသက်သက်ရှိ၊ ဝိဘတ်ဟိုကြောင့်၊ ဣ-အာဂမ၊ လာတုံရ၊ မုချမိန့်လတ်၊ ကျမ်းအာချာတ်။

(၂၀) အ-အာဂမာ၊ လာနည်းမှာကား၊ ဗျဥ္စနာဓာတ်ဦး၊ ရှေးစူးစူးက၊ ယှဉ်ပူးပပ၊ လာတုံရ၊ ဖော်ပြမိန့်လတ်၊ ကျမ်းအာချာတ်။

(၂၁) ပစ္စယဓာတု၊ နှစ်ခုအထက်၊ လွှားခုံပက်၍၊ မြင်းတက်စီးပုံ၊ ဣ-အာဂုံ၊ လာတုံဆန်းလတ်၊ ကျမ်းအာချာတ်။

(၂၂) ဒိဝါဒိနည်း၊ ယပစ္စည်းကြောင့်၊ မဆောင့်လာရ၊ ဣဝဏ္ဏမှာ၊ ဓာတ်ထက်သာ၊ သချာမိန့်လတ်၊ ကျမ်းအာချာတ်။

(၂၃) နက်ကျယ်ခဲကတ်၊ ကျမ်းအာချာတ်ဝယ်၊ ရုပ်ဓာတ်ပစ္စည်း၊ ပုဒ်ကမ္ဘည်းကို၊ လိပ်လည်းမရှိ၊ စောင်းကြိုးညှိသို့၊ သိတို့လေစေ၊ နည်းထွေထွေကို၊ စေ့ရေဖော်ထုတ်၊ နိဂုံးအုပ်သည်၊ ဝှန်ချုပ်ခဲ့ရပ်၊ ခက်ဆစ်မှတ်။

ရာမညတိုင်း ဟံသာဝတီနေပြည်တော်ကြီး၏ အနောက်တောင်၊ တိဂုမ္ဘစေတီတော်မြတ်၏ အရှေ့မြောက် ဒေါပုံဘောင်နှင်း မော်ဘီလှိုင်၊ ဥက္ကလာပ ငါးမြို့၏ ပေးချက်အမှန်၊ ကျိုက်ဘသံ၊ ကျိုက်ရသစေတီတော်ကြီး နှစ်ဆူ၏ မြောက်တည့်တည့်၊ ငမိုးရိပ်ချောင်း၊ အရှေ့ဘက်တွင် အထက်ကာလ မွန်တို့ဘာသာဖြင့် (တပေါင်တပု) အမည်တော်ရှိသော မာဂဓဘာသာဖြင့် တပုဿ-ဘလ္လိက အမည်တော်ရသော ကုန်သည်ညီနောင် နှစ်ယောက်တို့ကစ၍ ယခုကာလတိုင် ကုန်သည်လယ်လုပ်တို့၏ ကျင်လည် ကျက်စားရာဖြစ်၍။ မြစ်ကိုမှီလျက် အသက်မွေးရာ နဒီမာတုဇီဝန၊ မိုးကိုမှီလျက် အသက်မွေးရာ၊ ဝုဋ္ဌိနိဿိတ သဿကဟု ဆိုအပ်သော နဒီမာတိက ဒေဝမာတိကဂုဏ်ဖြင့်၊ မသုံမညိုး တိုးတက်ပွားစီးသော၊ အတောင်အတွက် ဒေသပဝတ္တိနိမိတ် ဗျုပ္ပတ်ဟိတ်ကြောင့်၊ တိုးကြောင်ကြီး အမည်တွင်သောရွာလျှင် ဘွားရာဇာတိရှိသော (ပဝတ္တိ မန္တလေးမြို့ တောင်ပြင်ဒက္ခိဏာရာမတိုက် ဆရာတော်ဘုရားကြီး၏ အန္တေဝါသိက တပည့် သုဇာတနာမဓေယျ ဖြစ်သော) ဦးရန်ကုန် ဆရာ-မထေရ် ငါသည် များစွာသော စာသင်သားတို့အား သင်ကြားချပို့စဉ် ကြိုးကြား ကြိုးကြား ရေးသားအပ်သော အာချာတ်ပဒမာလာ သွားနည်းခေါ် "အာချာတ်ဂိုဏ်း နိယံ" သည် ပြီးစီးအောင်မြင်ခြင်းသို့ ရောက်၏။

ဤတွင်ရွှေကား အာချာတ်ဂိုဏ်း နိယံ ပြီး၏။

ဖော်ပြပါ အာချာတ်ဂိုဏ်း နိယံ နှင့် တကွ နာမဂ္ဂဏာပဒမာလာပါဠိ နိဿယ၊ ကိတ်ပ်ဒမာလာပါဠိ နိဿယ၊ အာချာတပဒမာလာပါဠိ နိဿယ တို့ကို ခရစ်သက္ကရာဇ် ၁၉ ၀၈-ခုနှစ်တွင် ရန်ကုန်မြို့ ဆူးလေဘုရားလမ်း ဟံသာဝတီ သတင်းစာတိုက်၌ ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် စာမျက်နှာ ၁၆ ၂-ရှိလေသည်။

ကိတ်ပစ္စယခက်ဆစ် နိယံကိုလည်း ရှားပါးစာပေလည်းဖြစ် နည်းလည်း နည်းသဖြင့် အောက်ပါအတိုင်း အပြည့်အစုံ ဖော်ပြအပ်ပါသည်။

## ကိတ်ပစ္စယခက်ဆစ် ဦးရန်ကုန် နိယံ

### နမော တဿ ဘဂဝတော အရဟတော

### သမ္မာသမ္ဗုဒ္ဓဿ

(၁) သုံးပါးရတနာ ထွတ်မြတ်စွာ ဆယ်ဖြာရှိခိုးပန်။

(၂) သရသက်သက် နှစ်ခုထွက် ဗျည်းနှင့်ရောယှက် ဆဲ့လေးချက် ဗျည်း သက်သက်မှာ သတ္တပညာသက် ဓာတ်ကျမ်းထွက် သုံးချက်ပစ္စယံ။

(၃) ကွိအာဒိထောက် အလံရောက် ယူကောက်အဆာရန်။

(၄) တုဏ-စထောက် မန့်တိုင်ရောက် ယူကောက်အာကာရန်။

(၅) ဏ္ဍ-အာနိ-တိ တ္တိအရှိ မှတ်ဘိဉ္ဆကာရန်။

(၆) ဃိဏ်-ဏီ-အာဝီ တာဝီပစ္စည်း လေးခုတည်း ယူသီးဤကာရန်။

(၇) ဏကြီးဏုက ဓုသ္ဓိကျ ယူသဥကာရန်။

(၈) ရှူးစ္စည်းတွင် ဦ-ဩမြင် ဆင်ခြင်သတိဖန်။

(၉) အာဂမနည်း ဦးစ္စည်း တနည်းဦကာရန်။

(၁၀) အတွင်း ပဥ္စ ပြင်ဒွယ သတ္တလိင်ဏာရန်။

(၁၁) အာကာရန်တွင် ပုလ္လိင်ထင် ဆင်ခြင်ပဋိဘာန်။

(၁၂) ဤကာရန်ဝယ် က္လတ္တိပယ် ဆိုလွယ်လိင်နှစ်တန်။

(၁၃) ဥါးကာရန်ကြွင်း သုံးလိင်ခင်း ရှင်းရှင်းသိဖို့ရန်။

(၁၄) တုံပစ္စည်းက တာယောကျ် မှတ်ပအဗျယ်။

(၁၅) ပစ္စည်း၌တွင် အပြင်အဌ အတွင်းဆ လင်းပြချင်းကာရန်။

(၁၆) ခေတ်တွင်ယူကောက် ကာရန်ခြောက် မဖောက်ရသည်မှန်။

(၁၇) နှစ်ပါးရာလစ် ဏာရန်ရှစ် ကျစ်ကျစ်သိဖို့ရန်။

(၁၈) ပစ္စယ-ဓာတု နှစ်ခုဂ.၁ခုန် ယှက်ပြန်ချင်းချင်း ယင်းအခင်းတွင် ကြေ ခြင်းဒွယ အာဒေသနှင့် တဝ-ဝုဒ္ဓိ နည်းအရှိ ယှက်ဘိ လျှင်မြန်မြန်။

(၁၉) ဘော-ကံ-ကတ္တား သုံးပါးနက်လျှောက် ပစ္စည်းကောက် ချင့်ထောက် ရှုပ်သွားဟန်။

(၂၀) ကိတ်ပုဒ်တွင်ခေတ် ဝိကရဏနှင့် ယှဉ်ကာဟပ် ဆုံးဖြတ်ရှင်မှန်မှန်။

(၂၁) သဏ္ဌမ္မက ခေတ်တဝတွင် ကြည်အပါဒါန် ယောဘုယျ်ဟု တဆူအကမ္မက ကံကိုချ ပြုကြဝိဂြိုဟ်ပြန်။

(၂၂) ကကြီး-ဃကြီး-ဏကြီး-နငယ်-ခရတွယ် ခြောက်သွယ်အနုဗန်။

(၂၃) ဃ-ဏ-နမှန် အနုဗန်မှန် ဝုဒ္ဓိညွှန်၏ တသွန်အမှန် ကနုဗန်ကား ဝုဒ္ဓိ ထား၏ ရကာ-အနု ဗန်တခုမှာ အကာရန္တ ပုံလိုင်ပြ ယူကြမြဲကောန်။

(၂၄) မယှဉ်ယှက်တွယ် နငယ်နုဗန် ညွှန်းသည်ဟန်ကား နှစ်ပါးအဝဏ် မသွေ လှုန် ကောန်သတိချွန်။

(၂၅) ရနုဗန္ဓ ရကောနှင့် ကွိ-တ-တိ-တ္တိ ပစ္စည်းရှိကြောင့် မထောက်ဆတ်ဆတ် ခေတ်နေကတ်တွင် တစိတ်လျှင် ကြေချင်သတိဖန်။

(၂၆) ဣယှဉ်တွဲဖက် တ-တချက်ကြောင့် ကြေပျက်-လောပ ဓာတ္ဝန္တ ဖော်ရ မူရင်းမှန်။

(၂၇) က-ယ-ဏျ ယင်းတယမှာ ဒီဝါဒီချုပ် ခေတ်တွင်ငုပ် စုတ်စုတ်နစ် သည်ဟန်။

(၂၈) ဣဝဏ်အာဂုံ ငှက်ဂဠုန်မြတ် သုတ်တုံလတ်က ဆတ်ဆတ်ပေါ်ရန် နာဂ သွင်းညည်း ခေတ်ပစ္စည်း ကြည်းကြည်း ထွက်ရှိခံ။

(၂၉) ကိတ်ပုဒ်၌လျှင် ခက်ဆစ်ပင် ဤတွင် နိဋ္ဌိတံ။

## ကိတ်ပစ္စယ ခက်ဆစ်နိယံ

### (ပစ္စယက္ကမ)

၁။ ကွိ
၂။ ခ
၃။ အ
၄။ ဏု
၅။ ဏွု
၆။ က
၇။ ဏုက
၈။ တုက
၉။ ရိစ္စ
၁၀။ ဌ
၁၁။ ဃ
၁၂။ ယာဏ
၁၃။ လးဏ
၁၄။ တ
၁၅။ တ္တ
၁၆။ ဏိတ္တ
၁၇။ တြဏ်
၁၈။ အန္တ
၁၉။ တု
၂၀။ တ
၂၁။ ဒ
၂၂။ ဣူဒ္ဒ
၂၃။ ဓ
၂၄။ အာနု
၂၅။ မာနု
၂၆။ ဣနု
၂၇။ ယု
၂၈။ တဗ္ဗ
၂၉။ မ
၃၀။ အမ
၃၁။ မာန်
၃၂။ ရမ္မ
၃၃။ ဏိမ
၃၄။ တ္တိမ
၃၅။ ယ
၃၆။ ဏျ
၃၇။ အနီယ
၃၈။ တေယျ
၃၉။ ရိရိယ
၄၀။ ရ
၄၁။ ဣရ
၄၂။ ဤဝရ
၄၃။ ဦရ
၄၄။ လ
၄၅။ ဣလ
၄၆။ ဥဿ
၄၇။ ဏုသ
၄၈။ သံ
၄၉။ အလံ
၅၀။ တု
၅၁။ တာန္တု
၅၂။ ရတ္ထု
၅၃။ ရာတု
၅၄။ ရိတု
၅၅။ မာန်
၅၆။ ဣ
၅၇။ အာနိ
၅၈။ ဟို

| | |
|---|---|
| ၅၉။ ကို | ၆၈။ ခု |
| ၆၀။ ဃိဏ် | ၆၉။ ရှု |
| ၆၁။ ဏီ | ၇၀။ တုံ |
| ၆၂။ အာဝီ | ၇၁။ တုန |
| ၆၃။ တာဝီ | ၇၂။ တွာန |
| ၆၄။ ဏု | ၇၃။ တွာ |
| ၆၅။ နူ | ၇၄။ တဝေ |
| ၆၆။ တု | ၇၅။ တာယေ |
| ၆၇။ ဒု | |

ဒက္ခိဏာရာမတိုက် ကြီးပွားရေး အလွန်အလိုရှိ

ဆရာတော်သည် ဘုရားမြတ်စွာ သာသနာ ကြီးပွားတိုးတက်ရေးကို အလွန် အလိုရှိတော်မူသည်။ အင်္ဂလိပ်ခေတ်တွင် ခရစ်သက္ကရာဇ် ၁၈၈၅-ခုနှစ် အင်္ဂလိပ်မြန်မာ တတိယစစ်ပွဲအချိန်တွင် ရန်ကုန်မြို့မှ တောင်ငူအထိ မိုင် ၁၆၆-မိုင် မီးရထားလမ်း ဖောက်လုပ်ခဲ့သည်။ ၁၈၈၆-ခုနှစ် အောက်တိုဘာလတွင် မန္တလေးအထိ မီးရထားလမ်း ဖောက်လုပ်ရန် အမိန့်ပေးပြီး ၁၈၈၉-ခုနှစ် မတ်လ ၁-ရက် သက္ကရာဇ် ၁၂၅၀-ပြည့်နှစ် တပေါင်းလဆန်း ၁-ရက်နေ့တွင် ရန်ကုန်မှ မန္တလေးသို့ မိုင်ပေါင်း ၃၈၆-မိုင်ရှည် မီးရထားလမ်းကို ဖောက် လုပ် ဖွင့်လှစ်လိုက်သည်။

ထိုစဉ် ဆရာတော် ဦးရန်ကုန်မှာ သက်တော် ၄၀-ကျော်စတွင် ရှိသေး၏။ မီးရထားဖောက်လုပ်စဉ်က မီးရထားဖောက်ရန် ရည်ရွယ်ချက်မှာ ဒက္ခိဏာရာမ ဘုရားကြီးကျောင်းတိုက် တောင်ထိပ်မှ မဟာမြတ်မုနိဘုရားကြီး အရှေ့မုခ် အတိုင်း မြောက်သို့ ဆက်ဖောက်ရန်ဖြစ်သည်။ သို့ရာတွင် ဦးရန်ကုန် ဦးဆောင် သော ဒက္ခိဏာရာမတိုက် သံဃာတော်များ၏ ကြိုးပမ်းချက်အရ ယင်းသို့ မဖောက်ဖြစ်ပဲ ယခုတွေ့မြင်ရသည့်အတိုင်း ဒက္ခိဏာရာမ ဘုရားကြီးတိုက် အရှေ့ ဘက်မှ မြောက်သို့ ဖောက်ခြင်းဖြစ်သည်။

ထိုစဉ်က ဦးရန်ကုန်သာ မကြိုးစားခဲ့လျှင် ဒက္ခိဏာရာမကျောင်း ယခု အသွင်ဖြင့် မမြင်တွေ့နိုင်ရာချေ။ ဆရာတော် ဦးရန်ကုန်၏ ကျေးဇူးကား ကြီးမားလှပေစွတကား။

## ကျောင်းတိုက်ဝန်းအတွင်း တံမြက် နေ့စဉ်လှည်းခဲ့

ဆရာတော်သည် နံနက်ခင်းစောစော ကျိန်းစက်ရာမှ ထတော်မူ၍ နေ့စဉ် ကျောင်းတိုက်အတွင်း ကျောင်းပတ်ဝန်းကျင်၌ တံမြက်လှည်းလေ့ ရှိတော်မူသည်။ ဆရာတော်ကား အလွန်အသန့်အရှင်းကြိုက်သည်ဟု ဆိုကြသည်။ ဓမ္မဝိစယသမ္ဗောဇ္ဈင်ဖြစ်ကြောင်း ကောင်းမြတ်လှပေသည်။

## ဝါးချက်မင်းကျောင်းဆရာတော်နှင့်လည်း လွန်စွာရင်းနှီး

ဆရာတော်သည် စစ်ကိုင်းတောင်ရိုး ဝါးချက်မင်းကျောင်း ဆရာတော် ဘုရားကြီး အရှင်သောဘမမဟာထေရ်နှင့်လည်း ရင်းနှီး ချစ်ခင်တော်မူသည်။ ရံခါ ဝါးချက်မင်းကျောင်းဆရာတော်ထံ ရောက်ရှိ၍ သာသနာ့ရေးရာကိစ္စများ ဆွေးနွေးသည်ဟု အဆိုရှိသည်။ ဝါးချက်မင်းကျောင်း ဆရာတော်ကြီးကား ဆရာတော် ဦးရန်ကုန်အောက် သက်တော် ခြောက်နှစ်ခန့် ငယ်တော်မူသည်။ ဝါးချက်မင်းကျောင်း ဆရာတော် အရှင်သောဘမထေရ်ကား ၁၂၁၅-ခုနှစ် ဖွားတည်း [၁]။

## စာနှင့် မျက်စိ ကင်းကွာချိန်အလွန်နည်း

ဆရာတော်ကား စာနှင့် မျက်စိ ကင်းကွာချိန် အလွန်နည်းသည်ဟူ အဆို ရှိသည်။ တနေ့လုံး စာနှင့်သာ အချိန်ကို အသုံးပြုတော်မူသည်။ အိပ်ရာဘေး တွင် ပေထုပ်များ ဝန်းရံ၍ နေသည်ဟူ၏။

## ယထာဝါဒီ တထာကာရီပုဂ္ဂိုလ်

ဆရာတော်ကား ပြောသည့်အတိုင်း ပြုလုပ်တော်မူတတ်သည့် ယထာဝါဒီ၊ တထာကာရီပုဂ္ဂိုလ်ဖြစ်တော်မူသည်။ အဆိုအမိန့်လည်း ဒိုးဒိုးဒက်ဒက် ရှိတော် မူသည်ဟု အဆိုရှိသည်။

---

၁။ အကျယ် စစ်ကိုင်းသာသနာဝင် ၁၅၁-၁၆၁-ကြည့်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

အင်္ဂလိပ်တို့ အုပ်စိုးစဉ်က မြန်မာနိုင်ငံတွင် ပလိပ်ကပ်ရောဂါများ မကြာမကြာ ဖြစ်တတ်သည်။ တခါတခါ နှစ်စဉ်လိုလိုပင် ဖြစ်တတ်သည်။ ၁၂၆၇-ခုနှစ်ကလည်း မန္တလေးမြို့ ပလိပ်ကပ်ရောဂါ အကြီးအကျယ်ဖြစ်သည်။ လူအများအပြား သေကျေပျက်စီးကြသည်။ ယင်းပလိပ်ကပ်ရောဂါသည် စာချအကျော်ဆရာတော် ဦးရန်ကုန်ကိုလည်း မညှာမထောက် စွဲကပ်ရောက်ရှိ နှိပ်စက်ခဲ့လေသည်။ ယင်းသို့ စွဲကပ်သဖြင့် သက်သာရာ ရလိုရငြား ရာသီဥတုကောင်းရာ မိမိရပ်ရွာ ရန်ကုန်မြို့သို့ ပြန်ကြွတော်မူရာ မီးရထားပေါ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။ အလောင်းတော်ကို ပြန်တန်ဆာမြို့နေ ရဟန်းရှင်လူတပည့်အပေါင်းတို့က ပင့်ဆောင်ပူဇော်ထားကြလေသည်။ ၁၂၆၉-ခုနှစ်တွင်မှ အန္တိမစျာပနသဘင် ဆင်ယင်ကျင်းပ၍ မီးသင်္ဂြိုဟ်ကြလေသည်။

## သံဝေဂယူရန်

အပရာဏှာ ဒူသကာ ဖေဟဋ္ဌကာစ၊
လဘန္တိ တေ ရာဇိနော နိဗ္ဗုပေတုံ။
န မစ္စုနော နိဗ္ဗုပနံ ကရောန္တိ [၁]။

ယေအပရာဏှာစ၊ အကြင်မင်းပြစ်စိုးဒဏ် သင့်သူတို့သည်လည်းကောင်း။ ယေဒူသကာစ၊ အကြင်မြို့ရွာ အသီးသီးဖျက်ဆီးတတ်သူတို့သည်လည်းကောင်း။ ယေဟေဋ္ဌကာစ၊ အကြင်ခိုးဆိုးတိုက်ဖျက်လုယက်ညှဉ်းဆဲတတ်သူတို့သည်လည်းကောင်း။ သန္တိ၊ ရှိကုန်၏။ တေ၊ ထိုသူတို့သည်။ ရာဇာနော၊ တိုင်းပြည်သနင်း ပြည့်ရှင်မင်းတို့ကို။ နိဗ္ဗုပေတုံ၊ တောင်းပန်တိုးလျှိုး ဝန်ချ၍ အမျက်ကောဓ ပြေစေခြင်းငှာ။ လဘန္တိ၊ အခွင့်သင့်ဏာ ရနိုင်ပါကုန်သေး၏။ မစ္စုနော၊ အာဏာလွန်ပြင်းသေမင်းကိုမူကား။ နိဗ္ဗုပနံ၊ တောင်းပန်တိုးလျှိုး၍ သေဒဏ်မှ ခွင့်လွှတ်ခြင်းကို။ နကရောန္တိ၊ ပုံသေမုချ မပြုနိုင်ကြကုန်။

---

၁။ ဇာ၊ ၁။ ၃၅၅။ (အယောဃရဇာတ်)။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်မဟာတေဇဝန္တ

အရှင်မဟာတေဇဝန္တသည်လည်း ဒက္ခိဏာရာမတိုက်၌ ထင်ရှားသော ဂဏဝါစက စာချဆရာတော် ဖြစ်တော်မူသည်။

### ဖွားမြင်ခြင်း

ကျောက်ဆည်မြို့နယ် သာဂရရွာ၌ သက္ကရာဇ် ၁၂၃၀-ပြည့်နှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ နံတော် စနေသား ဖြစ်သည်။ ငယ်မည် ဦးမွေး ဖြစ်သည်။

### ရှင်ရဟန်းပြု ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဘွဲ့တော် အရှင်တေဇဝန္တ ဖြစ်သည်။ အသက် သိက္ခာငယ်သော အရှင်တေဇဝန္တ တပါးရှိသဖြင့် နောက်တွင် အရှင်မဟာတေဇဝန္တ ဟု တွင်သည်။ ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးသို့ ငယ်စဉ်ကပင် ရောက်ရှိ၍ ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် သံဃနာယက အရှင်အာစာရာဘိဝံသနှင့် ဆရာတော် ဦးရန်ကုန်တို့ထံ နေ့ဝါ ညဝါ ပိဋက အခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။

### စာပေချပို့ သာသနာ့ဝန် ထမ်းဆောင်ခြင်း

ရဟန်း သိက္ခာ ၁၀-ဝါအတွင်းလောက်က စ၍ ချဉ်းကပ် ရောက်ရှိလာသော တပည့် တပန်း ရဟန်းသာမဏေများစွာတို့ကို စာပေချပို့ သာသနာပြုတော်မူရာ များစွာ အောင်မြင်လေသည်။ ဒက္ခိဏာရာမ တိုက်တော်တည် ကျေးဇူးရှင် အရှင်ဇာဂရာဘိဝံသ ဆရာတော်ဘုရားကြီး စသည်တို့ အဆက်ဆက် သယ်ဆောင်တော်မူခဲ့သည့် စာချ စာပြောနည်းကို ပိုင်ပိုင် မိမိ ရရှိ ချပို့တော်မူခဲ့လေသည်။

### ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ မဟာဿာဟ ဇွဲလုံ့လဖြင့် စာပေချပို့ သာသနာပြုတော်မူစဉ် သက်တော် ၇၀-ရှိတော်မူရာ ၁၂၇၀-ပြည့်နှစ်တွင် ပလိပ်ရောဂါဖြင့် ဒက္ခိဏာရာမ တိုက်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

သမ္ဗဝ နိက္ခိပိဿန္တိ၊
ဘူတာ လောကေ သမုဿယံ^၁။

သမ္ဗဝ၊ သူရောင်ပါ ပြဟ္မာနတ်လူ ရှိသူဗိုလ်ပုံ အလုံးစုံသာလျှင် ဖြစ်ကုန်သော။ ဘူတာ၊ ဖြစ်သာထင်ရှား သတ္တဝါ အများတို့သည်။ သမုဿယံ၊ ငါးဖြာငါးရပ် အထပ်ထပ်ဖြင့် စပ်၍စုချုပ် ခန္ဓာကိုယ် ရုပ်ကို။ နိက္ခိပိဿန္တိ၊ သူ့ဒသမြုပ်နှံ့ မြေသုသာန်၌ ကောန်မုချ စွန့်ပစ် ကြရကုန်လိမ့်လတ္တံ့။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

### အရှင်မဟာဉာဏ

အရှင်မဟာဉာဏသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးကိုက်၌ ထင်ရှားသည့် စာချဆရာတော်တပါး ဖြစ်တော်မူသည်။ ပရိယတ္တိသာသနာ မကွယ်မပအောင် ကျမ်းဂန်ပို့ချ သာသနာ့ဝန်ကို ဆောင်တော်မူခဲ့သည်။

### ဖွားမြင် ရှင် ရဟန်းပြု ပညာသင်

မိတ္ထီလာမြို့နယ် လွန်ငင်ရွာ၌ အဖ ဦးရွှေဆိုင်-အမိ ဒေါ်ခါတို့မှ သက္ကရာဇ် ၁၂၁၀-ပြည့်နှစ်တွင် မီးရှူးသန်စင် ဖွားမြင်တော်မူခဲ့သည်။ ငယ်မည် ဦးပန်စဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူခဲ့သည်၊ အင်္ဂါသားဖြစ်၍ ဘွဲ့မည် အရှင်ဉာဏ ဖြစ်သည်။ နောင်တွင် အခြား ဆရာတော်အောက် သိက္ခာဝါငယ်သော အရှင်ဉာဏတပါးရှိသဖြင့် အရှင်မဟာဉာဏဟု တွင်သည်။

ငယ်စဉ်ကပင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိ၍ ဒက္ခိဏာရာမတိုက် တတိယမြောက် သံဃနာယကဖြစ်တော်မူသော အရှင်သုန္ဒရာဘိဝံသနှင့် ထိုစဉ်က ထင်ရှားသော ဆရာတော်များထံ ပညာရင်နို့ သောက်စို့တော်မူခဲ့သည်။

---

၁။ ဒီ၊ ၂။ ၁၂၉။ (မဟာပရိနိဗ္ဗာနသုတ်)၊

## စာပေချပို့ သာသနာပြု

စာပေကျမ်းဂန် ဟတ်ပြောက်ကျွမ်းကျင်သဖြင့် ဒက္ခိဏာရာမ ဝိဇ္ဇာယတန ကြီး၌ ဂဏာငါစကစာချအဖြစ်သို့ ရောက်ရှိတော်မူသည်။ ဂဏဝါစကစာချ အဖြစ်ဖြင့် စာပေကျမ်းဂန် ချပို့ရာ စာလိုက်သံဃာများစွာတို့ ဆရာတော်ထံ စာပေလိုက်နာ သင်ယူကြကုန်၏။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချပို့ သာသနာပြုမူစဉ် သက်တော် ၇၁-နှစ်ရှိရာ ၁၂၇၁-ခုနှစ်တွင် ဒက္ခိဏာရာမတိုက်တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

သေရန်အန္တရာယ်၊ အသွယ်သွယ်၊ တကယ်များလှသည်။
မြွေကင်းကိုက်ကာ၊ မြန်မကြာ၊ မှန်စွာသေနိုင်သည်။
ချော်လဲ၍လဲ၊ ရုတ်ကနဲ၊ မလွဲသေနိုင်သည်။
သည်းခြေပျက်ကာ၊ မြန်မကြာ မှန်စွာသေနိုင်သည်။
သလိပ်ရောဂါ၊ စွဲကပ်ကာ၊ မှန်စွာသေနိုင်သည်။
လေဖြတ်၍လဲ၊ ရုတ်ကနဲ၊ မလွဲသေနိုင်သည်။
မနာမီက၊ မြတ်ဓမ္မ၊ ကျင့်မှသင့်တော်မည်။
မအိုမီက၊ မြတ်ဓမ္မ၊ ကျင့်မှသင့်တော်မည်။
မသေမီက၊ မြတ်ဓမ္မ၊ ကျင့်မှသင့်တော်မည်။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်မဟာနန္ဒိယ

အရှင်မဟာနန္ဒိယသည်လည်း ကျမ်းဂန်ပို့ချ ဒက္ခိဏာရာမ သာသနာ့ဝန် ဆောင် ဆရာတော်တပါးဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်းပြုခြင်း

တောင်တွင်းကြီးမြို့နယ်၌ သက္ကရာဇ် ၁၂၁၀-ပတ်ဝန်းကျင်တွင် ဖွားမြင် တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု သာသနာ့ဝန်ကို ထမ်းဆောင်

တော်မူခဲ့သည်၊ နံတော် စနေသားဖြစ်ရာ ဘွဲ့တော် အရှင်နန္ဒိယဖြစ်သည်။ ထိုစဉ် ခေတ်ပြိုင် ဆရာတော်အောက်ယ်သော အရှင်နန္ဒိယတပါး ဘုရားကြီး တိုက်၌ ရှိသဖြင့် အရှင်မဟာနန္ဒိယဟု ခေါ်ကြသည်။

## စာပေကျမ်းဂန်တတ်မြောက်

"ဆရာကောင်းထံ၊ နည်းနာခံ၊ ကောင်းပညာရ" ဆိုသည့်အတိုင်း ဗုဒ္ဓ ဘာသာ တိုက် စတုတ္ထမြောက် သံဃနာယက အရှင်အာစာရာဘိဝံသ၊ စာချအကျော် ဦးရန်ကုန်ခေါ် ဆရာတော် အရှင်သုဇာတ-အစရှိသော ကျမ်းဂန်အရပ်ရပ် တတ်မြောက်လှစွာသော ဆရာတော်တို့ထံတွင် ပိဋကအခြေခံကျမ်းဂန်များနှင့် တကွ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ နေ့ပါ ညပါ ကျမ်းဂန်များကို သင်ယူတတ် မြောက်တော်မူခဲ့လေသည်။

## နေ့ပါ ညပါ ကျမ်းဂန်ချပို့ သာသနာပြု

စာပေကျမ်းဂန် တတ်မြောက်သည့်အားလျော်စွာ မြားမြောက်စွာသော စာသင်သား ရဟန်းသာမဏေတို့အား နေ့ပါ ညပါ ကျမ်းစာပို့ချ သာသနာ ပြုတော်မူခဲ့လေသည်။

## မြွေခဲ ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချပို့ သာသနာပြုစဉ် မြွေခဲသောအနာရောဂါဖြင့် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။ အလောင်းကို တောင်တွင်းကြီးမြို့သို့ ပင့်ဆောင်၍ သင်္ဂြိုဟ်ကြကုန်၏။

## သံဝေဂယူရန်

ဒါနသီလာ၊ ဘာဝနာ၊ နုပ်သာပြုသင့်သည်။
ဇာတိဇရာ၊ မရဏာ၊ မကြာ နှင့်တွေ့မည်။
မျက်တောင်တချက်၊ လျှပ်တပြက်၊ နှင့်သက် သေလိမ့်မည်။
ဘယ်နှစ်ဘယ်လ၊ ရောက်ပါမှ၊ ကာလမရွေ့ပြီ။
ကြီးငယ်မဟူ၊ ကိုယ်ရွယ်တူ၊ ခုမှုသေလှပြီ။

---

၁။ ထွဋ်ခေါင်ဆရာတော်သံပေါက်များ။ စစ်ကိုင်းသာသနာဝင်။ ၁၃၁-၂-ကြည့်။

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

## အရှင်အရိယဝံသ

အရှင်အရိယဝံသသည်လည်း ဒက္ခိဏာရာမတိုက်၌ စာပေချပို့၍ သာသနာပြုတော်မူခဲ့၍ သာသနာဝင်ကျမ်း၌ အကျဉ်းချုပ် မှတ်တမ်းတင်အပ်ပါသည်။

### ဖွားမြင် ရှင် ရဟန်း ပြုခြင်း

ဆရာတော်သည် ယင်းတော်မြို့နယ် ချောင်းနား ရွာ၌ အဖ ဦးရွှေစု-အမိဒေါ်မွေးအုံတို့မှ သက္ကရာဇ် ၁၂၁၃-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည်ဦး ချက်ဖြစ်သည်။ နံတော် တနင်္ဂနွေသားဖြစ်၏၊ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ ဘုရားမြတ်စွာ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူခဲ့လေသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ပုဗ္ဗကတပုည ပင့်ထောက်သဖြင့် ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ စတုတ္ထမြောက် ဒက္ခိဏာရာမ သံဃနာယကဆရာတော်ဘုရားကြီး အရှင်အာစာရာဘိဝံသနှင့် ကျမ်းဂန်ကျွန ဦးရန်ကုန်ခေါ် ဆရာတော်အရှင်သုဇာတာဘိဝံသတို့၏ အထံတွင် ကျမ်းဂန် ငယ်ကြီး အသီးသီးတို့ကို သင်ယူတတ်မြောက်တော်မူခဲ့လေသည်။

### ကျမ်းစာချပို့ သာသနာပြု

ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးအတွင်းရှိ လယ်ပေါ်ကျောင်း၌ သီတင်းသုံး၍ စာပေချပို့ရာ ရဟန်းသာမဏေများစွာတို့ ပျားပန်းခတ်မျှ ချဉ်းကပ်ရောက်ရှိပညာသင်ယူကြကုန်၏။ ဆရာတော်သည် အဆုံးအဖြတ်နှင့် သဒ္ဒါဗျာကရုဏ်းကျမ်းများကို နိုင်နင်းသည့်ဆရာတော်ဖြစ်သည်။

### ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်ကား နေ့ရော ညဉ့်ပါ စာကြည့်များ စာချများ အထိုင်များသဖြင့် မည့ာမထောက် ကပ်ရောက်သာသော ဆီးချောင်ဂါ ဝေဒနာကြောင့် သက်တော် ၅၆-နှစ်ရှိရာ ၁၂၆၉-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

အမှန်သေရိုး၊ ထိုလူမျိုး၊ ကြောက်စိုးရွံ့သင့်ပြီ။
မသွင်းနှလုံး၊ အထင်ရှုန်း၊ ပျက်ပြုန်းလုလေပြီ။
ခန္ဓာကြွေလျော၊ ရှိပြန်သော၊ ပူဇောလောင်လှပြီ။
သွားကြိုးဆံဖြူ၊ ရှိပြန်မူ၊ ဘယ်သူမကြောက်ပြီ။
ခယဝယ၊ ဘိဇ္ဇန၊ ပျက်ကြလုလေပြီ။
အပ္ပိယေဟိ၊ ပိယေဟိ၊ ဒုက္ခကြုံလေပြီ။
ဒုက္ခထွေထွေ၊ တပေပေ၊ ခံနေရလေပြီ။
နိဗ္ဗာန်သာခေါင်၊ ဘေးမဲ့သောင်၊ ရောက်အောင်ပြုသင့်ပြီ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်ဝိစာရ

အရှင်ဝိစာရသည် အရှင်မဟာအရိယဝံသ၏ အဆက်အနွယ် တပည့်ဖြစ်ရာ ဒက္ခိဏာရာမအနွယ် ကျမ်းဂန်တတ် ဆရာတော်တပါးဖြစ်သည်။

## ဖွားမြင် ရှင်ရဟန်းပြုခြင်း

ပင်းတလဲတိုက်နယ် ပလဝါဘဏ်ကန်ရွာဇာတိ ဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်း ပြုတော်မူခဲ့သည်။ ဆရာတော် အရှင်ဝိစာရနှင့် အဘူ ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပါတိမောက်၊ ကခ်ါ၊ ဋီကာကျော်၊ ရူပသိဒ္ဓိ၊ မာတိကာ၊ ဓာတုကထာအရကောက်၊ ယမိုက်အရကောက်၊ ပဋ္ဌာန်းအရကောက် စသည်တို့ကို သင်ယူ တတ်မြောက်တော်မူခဲ့သည်။

## ဒက္ခိဏာရာမတိုက်၌ စာပေချပို့ သာသနာပြု

ဆရာရင်း အရှင်အရိယဝံသ၏ အမိန့်အရ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ စာသင်သား ရဟန်းသာမဏေတို့အား စာပေချပို့၍ သာသနာ ပြုတော်မူခဲ့လေသည်။

---

၁။ ထွဋ်ခေါင်ဆရာတော် သံပေါက်ချေး၊ စစ်ကိုင်းသာသနာဝင်။
၁၃၂-ကြည့်။

## ရန်ကုန်တောင်လုံးပြန်တိုက်၌ စာပေချပို့ခြင်း ပျံလွန်ခြင်း

နောင်တွင် ရန်ကုန်မြို့ တောင်လုံးပြန် ကျောင်းတိုက်၌ သီတင်းသုံး၍ စာသင်သား များစွာတို့အား စာပေ ချပို့တော်မူခဲ့လေသည်။ ယင်းသို့ စာပေ ချပို့ သာသနာ့ဝန် ထမ်းဆောင်စဉ် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

### သံဝေဂယူရန်

ပညာတတ်လဲ၊ လွှဲမရ၊ မုချသေရသည်။
ဥစ္စာပေါလဲ၊ လွှဲမရ၊ မုချသေရသည်။
တန်ခိုးကြီးလဲ၊ လွှဲမရ၊ မုချသေရသည်။
သေနေ့စေ့က၊ တနေ့ကျ၊ မုချသေရမည်။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

### အရှင်သံဝရ

အရှင်သံဝရသည်လည်း ဒက္ခိဏာရာမတိုက်၌ စာပေချပို့၍ ဘုရားမြတ်စွာ သာသနာရောင် လင်းလက်တောက်ပြောင်အောင် ဆောင်ရွက်တော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ဆရာတော်ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

မိတ္ထီလာမြို့နယ် မန်ကျည်းချောက်ရွာ၌ ဦးဖဦးလိုင်း-အမိ ဒေါ်ညိုတို့မှ သက္ကရာဇ် ၁၂၂၁-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ နံမတော် သောကြာသား ဖြစ်၏။ ငယ်မည် ဦးနှဲ့ဖြစ်သည်။အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် အရှင်သံဝရ ဖြစ်သည်။

### စာပေသင်ကြားတတ်မြောက်ခြင်း

ငယ်စဉ်ကပင် ပညာသင်ကြားခွင့်ကို ရရှိတော်မူခဲ့သည်။ မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ရောက်ရှိတော်မူ၍ "ပဏ္ဍိတသီလာလင်္ကာရ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်နှင့် "ပဏ္ဍိတဓဇာဓိပတိ သိရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော် နှင်ထပ်ရ ဒုတိယမြောက် ဒက္ခိဏာရာမ နာယက ဆရာတော်ဘုရားကြီး အရှင်ပဏ္ဍိတ၊ စာချ ဆရာတော်

အရှင်သုတဗုဒ္ဓိ၊ တတိယမြောက် သံဃနာယက အရှင်သုန္ဒရာဘိဝံသ-စသည့် ဆရာတော်တို့ထံ ပိဋကတ် အခြေခံ ကျမ်းဂန်များနှင့်တကွ တိပိဋက ကျမ်းဂန်တို့ကို သည်းစွာသော လုံ့လ ဝီရိယဖြင့် သင်ယူတော်မူခဲ့လေသည်။

## ကျမ်းဂန်ပို့ချ သာသနာပြု

စာပေကျမ်းဂန် ကျွမ်းကျင်သဖြင့် ဆရာတော်ကြီးများ၏ ချီးမြှောက်မှုကြောင့် ဒက္ခိဏာရာမ ဂဏဝါစက အဖြစ်သို့ ရောက်တော်မူသည်။ စာသင်သား ရဟန်းသာမဏေ များစွာတို့ ဆရာတော်ထံ ချဉ်းကပ်ရောက်ရှိ ပညာသင်ကြားကြကုန်၏။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချပို့ သာသနာပြုစဉ် မမျှော်သင့်ပဲ မုက္ခစိုနာ စွဲကပ်ရောက်ရှိသဖြင့် ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော မိတ္ထီလာမြို့နယ် မန်ကျည်းချောက်ရွာသို့ ကြွရောက်ကုသ အနားယူစဉ် သက်တော် ၇၇-နှစ်ရှိရာ ၁၂၉၈-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်၊

## သံဝေဂယူရန်

အနန္တာဒီနဝေါ ကာယော၊ ဝိသရုက္ခသမူပမော။
အာဝါသော သဗ္ဗရောဂါနံ၊ ပုဉ္ဇော ဒုက္ခဿ ကေဝလော။

ကာယော၊ မြေရေ လေမီး ဘုတ်ကြီး လေးခု တိုင်ခြေပြုထ ဤရူပကာယ ခန္ဓာကိုယ်ကြီးသည်။ အနန္တာဒီနဝေါ၊ အဆုံးအဆ မရှိ အပြစ်တွေ များမြောက်လှချေ၏။ ဝိသရုက္ခသမူပမော၊ အဆိပ်ပင် တမျှ အလားတူလှချေ၏၊ သဗ္ဗရောဂါနံ၊ ကိုးဆယ့်ခြောက်ဖြာ ဘေးရောဂါအားလုံးတို့၏။ အာဝါသော၊ စွဲမှီတည်နေရာ ဖြစ်ချေ၏။ ကေဝလော၊ ချမ်းသာမဖက် သက်သက်။ ဒုက္ခဿ၊ ဆင်းရဲဒုက္ခ အဝဝ၏။ ပုဉ္ဇော၊ အစုအပုံ ကောင်းစင်စစ် ဖြစ်ချေကုန်၏။

---

၃။ အပ၊ ၂။ ၁၁၇ (ငက္ကုလိထေရာပဒါန် ။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဂဏဝါစက စာချအကျော်

## ဆရာတော်ဦးပခန်း (အရှင်ဝိစာရ)

ဆရာတော်ဦးပခန်းသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ကျော်စော လှသော ဂဏဝါစက စာချဆရာတော်တပါး ဖြစ်တော်မူသည်။

### ဇာတိချက်ကြွေ မွေးရပ်မြေ

ပခုက္ကူခရိုင်(ယခင် ပခန်းမြို့ကြီးနယ် အဝင်အပါ)တွင်းမရွာ၌ အဖ ဦးပြန့်-အမိ ဒေါ်မှေးတို့မှ သက္ကရာဇ် ၁၂၂၄-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၇-ရက် ဗုဒ္ဓဟူးနေ့ နံနက်တချက်တီးကျော်အချိန်တွင် မီးရှူးသန့်စင် ဖွားမြင်တော် မူခဲ့လေသည်။ ငယ်နာမည် မောင်စံတိုက်ဖြစ်သည်၊ ရှင်ရည်ရှုပ ဘုံးယနှင့် ပြည့်စုံတော်မူသည်။ ဇာတိကုလပုတ္တ အာစာရကုလပုတ္တ အမျိုးကောင်းသား လည်း ဖြစ်တော်သည်။

### ကျောင်းနေပညာသင်ခြင်း

သက်တော် ရှစ်နှစ်သားအရွယ်တွင် မိဘတို့ အပ်နှံသဖြင့် လဇ္ဇီပေသလသိက္ခာ ကာမ ဂုဏ်နှင့် ပြည့်စုံတော်မူသော တွင်းမရွာကျောင်းဆရာတော် အရှင်ဥတ္တမ မဟာထေရ်ထံ ရောက်ရှိ၍ သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ နမက္ကာရ၊ ပရိတ်ကြီး၊ လောကနီတိ၊ ဓမ္မနီတိ၊ ဝသလသုတ်၊ ဇာတ်ကြီးဆယ်ဘွဲ့၊ အဘိဓမ္မာသင်္ဂြိုဟ် ကျမ်း စသည်တို့ကို ကျောင်းသားဝတ်ဖြင့် သင်ယူတော်မူခဲ့လေသည်။

### ရှင်သာမဏေဝတ် သာသနာ့ဝန် ထမ်းဆောင်ခြင်း

သက်တော် ၁၃ နှစ်သားအရွယ်တော်ခေတ်တွင် မိဘနှစ်ပါးတို့က ပဗ္ဗဇ္ဇမင်္ဂ လာသဘင် ဆင်ယင်ကျင်းပ၍ သာသနာတော်အတွင်းသို့ သွတ်သွင်းချီးမြှင့်ကြ သဖြင့် ဆရာတော် အရှင်ဥတ္တမမဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည် ''ရှင်ဝိစာရ''ဟု ဥပဇ္ဈာယ် ဆရာတော်က ဘွဲ့မည်မှည့်ခေါ် ချီးမြှင့်တော်မူသည်။ ကစ္စည်းသဒ္ဒါကြီးကိုလည်း ဥပဇ္ဈာယ်ဆရာတော်ထံတွင် သင်ယူတော်မူခဲ့လေသည်။



ဒက္ခိဏာရာမတိုက် ဂဏ္ဍဝါစက စာချအကျော်

ဆရာတော်ဦးပခန်း (အရှင်ငိစ္စရ)

## လူထွက် မိဘနှစ်ပါး ပြုစုလုပ်ကျွေးခြင်း

သက်တော် ၁၄-နှစ်သားအရွယ်တွင် လူထွက်၍ အမိအဖကို ပြုစုလုပ်ကျွေးတော်မူခဲ့လေသည်။ ဆရာတော်လောင်းလျာ မောင်စာတိုက်သည် လောကုတ္တရာစာပေကိုလည်း အရွယ်နှင့်မလိုက်အောင် ကျွမ်းကျင်သူဖြစ်သည့်ပြင် ပင်ကိုယ်အဇ္ဈာသယကိုက အလွန်ကောင်းမြတ်သူဖြစ်ရာ အမိအဖ နှစ်ပါးကို ရိုသေမြတ်လေး လုပ်ကျွေးတော်မူခဲ့လေသည်။

## တဖန် သာမဏေဝတ် သာသနာ့ဝန်ထမ်းဆောင်ခြင်း

သုံးနှစ်ခန့် အမိအဖ နှစ်ပါးတို့အား ပြုစုလုပ်ကျွေးတော်မူပြီး သက်တော် ၁၇-နှစ်သားအရွယ်တွင် ပါရမီတော် ကန့်ကွက်ဆော်ပြန်၍ တဖန် သာသနာ့ဝန်အားသွန်ကြိုးပမ်း ထမ်းလိုစိတ် ပြင်းပြလှသဖြင့် မိဘနှစ်ပါးတို့ထံ ခွင့်ပန်ပြီး ဆရာတော် အရှင်ဥတ္တမထံ၌ ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဆရာတော် လောင်းလျာသည် "ဒသသီဆယ်ပါး၊ ဘုရားမှုခပါ၌၊ ရှင်ကျင့်ဝတ်ကို၊ စောင်ကြပ်မြဲတွေ ညီလှစေ[၁]" ဟူသည်နှင့် အညီ သာမဏေသီလဆယ်ပါးကို မကျိုးမပေါက် မကျားအောင် ကျင့်ဆောင်တော်မူခဲ့လေသည်။ ဥပဇ္ဈာယ်ဆရာတော် အရှင်ဥတ္တမ မဟာထေရ်ထံတွင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပုဒ်စစ်၊ သဒ္ဒါစစ်၊ နည်းလေးဆယ်၊ သံဝဏ္ဏနာကျမ်းတို့ကိုလည်း သင်ယူတော်မူခဲ့လေသည်။

## ရဟန်းဘဝ ဒုလ္လဘသို့

သက်တော် ၁၉-နှစ် ၆-လ၊ အသက် ၂၀-မြောက် ပဋိသန္ဓေနှင့် တွက်သော် သက်တော် ၂၀-ကျော်ပြီးဖြစ်ရာ သက္ကရာဇ် ၁၂၄၄-ခုနှစ် နယုန်လဆန်း ၁၃-ရက်နေ့နံနက် ၁၂-ဖဝါးအချိန်တွင် သစ်ပင်ကြီးရွာနေ [၂]-ဆေးဆရာကြီး ဦးဖြူ-ဆရာကတော် ဒေါ်မယ်သန်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် စိုင်ကျောင်းရွာ ခဏ္ဍသိမ်တော်၌ တောဝေးကန် ဂိုဏ်းထောက်ဆရာတော်

---

၁။ တိလောကပါ အုံးမစာ။ ၅၃။ ပိုဒ်။

၂။ သစ်ပင်ကြီးရွာကား ပခုက္ကူအနောက်မြောက်ယွန်းတွင် တည်ရှိသည်။ ဤစာပြုသူ၏ဇာတိ ကန်ရပ်ရွာ၊ ကန်ရပ်ရွာ မြောက်ဘက်ကပ်လျက် ကန်တိမ်၊ ကန်တိမ်ရွာ မြောက်ဘက်အနီးတွင် သစ်ပင်ကြီးရွာ တည်ရှိသည်။

အရှင်အရိယကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝ ဒုလ္လဘသို့ ရောက်တော်မူသည်။ ထိုစဉ်က မြို့သာဆရာတော် အရှင်သုနန္ဒ၊ ညွှင်းလည် ဆရာတော် အရှင်မုနိန္ဒ၊ တွင်းမဆရာတော် အရှင်ဥတ္တမတို့က ကမ္မဝါစာဆရာများအဖြစ် ချီးမြှောက်တော်မူကြကုန်၏၊ သံဃာတော် ၂၅-ပါးတို့က ကာရက သံဃာတော်အဖြစ် ချီးမြှောက်တော်မူကြကုန်၏။

## ဥပဇ္ဈာယ်ဆရာထံ ဆက်လက်ပညာသင်

ရဟန်းဖြစ်ပြီးနောက် မူလက သာမဏေ ဥပဇ္ဈာယ်ဆရာတော် ဖြစ်တော်မူသော တွင်းမရွာကျောင်း ဆရာတော် အရှင်ဥတ္တမထံတွင် ဓမ္မမာတိကာနှင့် ခုဒ္ဒသိက္ခာ၊ မူလသိက္ခာ ကျမ်းတို့ကို သင်ယူတော်မူခဲ့လေသည်။

## ပခုက္ကူမြို့ မြစ်ကိုင်းရွာဦးကျောင်း

ပခုက္ကူမြို့ မြစ်ကိုင်းရွာ၊ ရွာဦးကျောင်း (မဟာသုခိတာရာမတိုက်) သည် ထိုစဉ်က စာသင်တိုက် ဝိဇ္ဇာလယ ဖြစ်ခဲ့လေသည်။ ထိုအဉ်က ကျောင်းတိုက် နာယက ဖြစ်တော်မူသော ဆရာတော် အရှင်သုနန္ဒ၊ ၎င်းဆရာတော်၏ တပည့်ကြီး အရှင်မုနိန္ဒတို့သည် ကျမ်းဂန်တတ်မြောက်ကြသော မထေရ်မြတ်တို့ ဖြစ်ကြသည့်အလျောက် စာသင်သားတို့အား စာပေချပို့ သာသနာပြုတော်မူကြကုန်၏။

## အရှင်ဝိစာရ မြစ်ကိုင်းကျောင်းရောက်ရှိ ပညာသင်

ဆရာတော် ဦးပာန်းဟု ကျော်စောလတ္တံ့သော ရဟန်းတော် အရှင်ဝိစာရသည် ဖော်ပြပါ ပခုက္ကူမြို့ မြစ်ကိုင် ရွာ၊ ရွာဦးကျောင်း (မဟာသုခိတာရာမတိုက်)သို့ ရောက်၍ ဆရာတော် အရှင်သုနန္ဒနှင့် ဆရာတော် အရှင်သုနန္ဒ၏ တပည့် အရှင်မုနိန္ဒတို့ထံတွင် အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ ဘေဒစိန္တာ၊ ဂန္ထာဘရဏ အစရှိသော ကျမ်းဂန်များနှင့်တကွ မာတိကာ၊ ဓာတုကထာ၊ ဝီထိ လက်ရိုးဟူသော အဘိဓမ္မာ ညဝါများကို သင်ယူတော်မူခဲ့လေသည်။ ၎င်းပြင် ပိဋကပါဠိတော်ကြီးများ အချို့ကိုလည်း အဋ္ဌကထာ၊ ဋီကာ တွဲဖက်၍ သင်ယူ တော်မူခဲ့လေသည်။

ပတ္တာ သုခိတာရာမေပိ၊ ပခုက္ကူနဂရေ သုဘော။
သုခံ ဝသာ အဘိဝုဍ္ဎတ္ထာ၊ ဂန္တွ သမုဂ္ဂကံ သုခီ။

## ဒုတိယအကြိမ် သိမ်ထပ်ရဟန်းခံ

တဖန် ရဟန်းသိက္ခာ သုံးဝါအရတွင် ပခုက္ကူမြို့ ကုန်သည်ကြီး ဘိုးကတိုး၊ မယ်မင်းခင်တို့က သာသနာ့အမွေ ရပါစေရန် ရည်သန်၍ ရှမ်းပါးရကွာ စုံလင်စွာဖြင့် ပခုက္ကူမြို့ ရွှေကူတိုက် ခဏ္ဍသိမ်တော်၌ ပြစ်ကိုင်းဦးကျောင်း ဆရာတော် အရှင်သုနန္ဒ အမှူးရှိသော ဆရာတော် သံဃာတော် ၂၅-ပါး တို့၏ ချီးမြှောက်မှုကြောင့် ဒုတိယအကြိမ် ရဟန်းပဉ္စင်းအဖြစ်သို့ ရောက်တော်မူပြန်သည်။

## မန္တလေးမြို့ ပညာသင်ကြွတော်မူခြင်း

ရဟန်းသိက္ခာ ခြောက်ဝါအရတွင် မန္တလေးမြို့ ကြွတော်မူ၍ မန္တလေးမြို့ အနောက်ပြင် စကုတိုက် "ပဒုမာလင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ် တော်ရ ဆရာတော်ဘုရားကြီး အရှင်ပဒုမကျောင်း၌ သီတင်းသုံးလျက် ဖော်ပြ ပါ "ပဒုမာလင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဘုရားကြီး အရှင်ပဒုမ၊ "ဇနိန္ဒာ ဘိဓဇ ဓိပတိ သိရိပဝရ မဟာဓမ္မရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မေဃဝတီ ဆရာတော် အရှင်ဇနိန္ဒ၊ "နာဂိန္ဒာ ဘိဓဇ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုးကောင်းဆရာတော် ဘုရားကြီး အရှင်နာဂိန္ဒတို့၏အထံတွင် သုတ္တန်၊ ဝိနည်း၊ အဘိဓမ္မာ ပါဠိတော် အဋ္ဌကထာ နှင့်ဝါကျမ်းများနှင့်တကွ ယမိုက် ပဋ္ဌာန်း အစရှိသော အဘိဓမ္မာ ညဝါကျမ်းများ၊ သဒ္ဒါ ဗျာဦ အစရှိသော လောကီသဒ္ဒါကျမ်း၊ ဆန်းကျမ်း တို့ကို သုံးနှစ် သုံးဝါကြာမျှ မနားမနေ တအားဖွေလျက် သင်ယူတော်မူခဲ့လေ သည်။

## ပဲကတိုး တောရကျောင်း၊ သဖန်းတောကျောင်း၌ တရားအားထုတ်

ဆရာတော် ဦးခန်းကြီးလောင်းလျာ ရဟန်း အရှင်ဝိစာရသည် ဝိပဿနာ မူရအားသစ်ရန် သမ္မာဆန္ဒ ပြင်းပြလှသောကြောင့် ပဲကတိုးတောရကျောင်း၌ တဝါ၊ အင်းဝမြို့ သမန်းတောကျောင်း၌ တဝါ သီတင်းသုံးတော်မူ၍ ဝိပဿနာ အလုပ်ကိုလည်း ကြိုးကုတ်အားသစ်တော်မူခဲ့လေသည်။

ဆရာတော်လောင်းလျာ ငယ်စဉ်ကပင်-

> "ရဟန်းကိစ္စ၊ နှစ်ခုရဌ်၊ လုံ့လအားသည်း၊ ဟိတ်ဟန်နည်း၍၊ ပစ္စည်းမသို၊ စိတ်မတို၊ ခင်ပျိုကြီးပွားကြောင်း"

ယူသောလင်္ကာနှင့် ကိုက်ညီစွာ ကျင့်ကြံတော်မူသည့် ပညာရှိသူတော်ကောင်း ဖြစ်တော်မူပေသည်။

## မြင်းသည်ရွာ သိမ်ကုန်းတောရကျောင်း၌ သီတင်းသုံးခြင်း

ရင်းပြင် ဂန္ထဓုရကိုလည်း လုံး၀ လက်မလွှတ်လိုသဖြင့် စကုတိုက် "ပဒုမာ လင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်သော အင်း၀မြို့ ၀ံတာဘူးဦးအပိုင် မြင်းသည်ရွာ သိမ်ကုန်းတောရ ကျောင်းဆရာတော် လဇ္ဇီပေသလ သိက္ခာကာမ ပိဋကတ္တယဆောက ပိဋကတ္တယ ကောဝိဒဂုဏ်နှင့် ပြည့်စုံသော ငှမ စာချတံဆိပ်တော်ရ အရှင်ကေသရာဘိ၀ံသ ထံတော်၌လည်း သီတင်းသုံးတော်မူ၍ ဂန္ထဓုရ၊ ၀ိပဿနာဓုရ နှစ်ရပ်ကို အပတ် တကုတ် အားထုတ်ကြိုးပမ်းတော် မူခဲ့လေသည်။

## သိမ်ကုန်း ဆရာတော်ဘုရားကြီး၏ ဩ၀ါဒ

ဆရာတော် ဦးပခန်းလောင်းလျာ ရဟန်းတော် အရှင်၀ိစာရ သိမ်ကုန်း ဆရာတော် အရှင်ကေသရာဘိ၀ံသထံ၌ သီတင်းသုံး၍ ဂန္ထဓုရ၊ ၀ိပဿနာဓုရ နှစ်ပါး ကြိုးစားအားသစ်စဉ် သိမ်ကုန်းဆရာတော်ဘုရားကြီး အရှင်ကေသရာ ဘိ၀ံသက-

> "ငါ့ရှင်၀ိစာရ....ငါ့ရှင်၀ိစာရသည် စာပေကျမ်းဂန် တတ်သိကျွမ်း ကျင်သူဖြစ်သည်။ တောရကျောင်းမှာနေလျှင် ပဋိပတ္တိအလုပ်တခုသာ လျှင် ပြုလုပ်ကျင့်ကြံသဖြင့် ငါ့ရှင် တကိုယ်တည်းသာ အကျိုးရှိမည်၊ သည်တော့အများအကျိုးရှိအောင် ရတနာပုံ မန္တလေးမြို့၌ နေထိုင်၍ စာပေပို့ချလျှင် ပို၍ သာသနာအကျိုးများပါသည်။ အများသံဃာ များအတွက်ပို၍ အကျိုးများပါသည်။ မန္တလေးမှာနေပြီး စာပေချပို့ သာသနာပြုပါလေ"

ဟု ဩ၀ါဒပေးတော်မူသည်။

## ဒက္ခိဏာရာမဘုရားကြီးတိုက် ရောက်ပြီ

ဖော်ပြပါအတိုင်း သိမ်ကုန်းဆရာတော်ဘုရားကြီး မိန့်ကြားတော်မူချက်ကို ဦးထိပ်ရွက်ပန်ဆင်ကာ ရဟန်းသိက္ခာ ၁၂-ဝါရ အရှင်ဝိစာရသည် ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ကြွရောက်တော်မူ၍ ဒက္ခိဏာရာမဘုရား ကြီးတိုက်ကြီး၏ စတုတ္ထမြောက် အာရာမာဓိပတိသံဃနာယကဆရာတော် ဖြစ်တော်မူသော ဆရာတော်ဘုရားကြီး အရှင်အာစာရာတိဝံသ မဟာထေရ်ထံ ရောက်ရှိ၍ ဆက်လက်ပညာသင်ကြားတော်မူသည်။

## ပခန်းဆရာတော် (ဦးပခန်းကြီး)ဟု တွင်ခြင်း

ဒက္ခိဏာရာမဆရာတော်ဘုရားကြီး အရှင်အာစာရနှင့် အရှင်ဝိစာရတို့သည် ရှေးယခင်ကပင် ရေစက်ပါလာသူများ ဖြစ်ဟန်တူပါသည်။ ဆရာတော်ကြီးသည် အရှင်ဝိစာရကို ဘွဲ့ကိုပင်မခေါ်နိုင်လောက်အောင် ခင်မင်ရင်းနှီးသည်။ သို့ဖြစ်၍ ဆရာတော်ကြီး အရှင်အာစာရကား အရှင်ဝိစာရကို ဖွားမြင် ချက်တော်ကြွေရာ နယ်မြေကိုစွဲ၍ "ပခန်းကြီး" "ပခန်းကြီး"ဟု ခေါ်တော်မူလေ့ရှိသည်။ သို့နှင့် အများကပါ "ပခန်းဘုန်းကြီး၊ ပခန်းဆရာတော်၊ပခန်းကြီးဆရာတော်၊ ဦးပခန်းကြီး" ဟူ၍ ခေါ်ဝေါ်ကြကုန်၏။

အာစာရထေရသေဋ္ဌေန၊ ပခန်းကြီး ဝစနံ သုတံ။
ပဋိစ္စ ဦးပခန်းကြီးတိ၊ နာမံ သုပတ္ထဋံ ဘဝေ။

## ဆရာတော်ဦးပခန်း စာပေချပို့တော်မူခြင်း

ဆရာတော်ဘုရားကြီး အရှင်အာစာရမဟာထေရ်၏ အလုပ်အကျွေးဖြစ်သော မြင်းခြံခရိုင် နွားထိုးကြီးမြို့အပိုင် ဆူဖြူကုန်းရွာမှ ရှင်ပဏ္ဍဝသည် ဦးပခန်းအထံ နေ့စာဝါတခု၊ ညစာဝါတခုချပို့ပေးပါရန် လျှောက်ထားသဖြင့် ဦးပခန်းကြီးက ဂန္ထာဘရဏကျမ်းကို ဝါကျသွား ဝါကျလာ အဖြာဖြာ အထွေထွေ၊အနုသန္ဓေအမျိုးမျိုး၊ ကျမ်းရိုးအသွယ်သွယ်၊အဓိပ္ပာယအဖြာဖြာ၊ ဥပနာပဋ္ဌက၊ ဥပနာဆက္က၊ ဂန္ထန္တရအဝဝတို့နှင့်တကွ အာစရိယမုဋ္ဌိအာစရိယလဒ္ဓေါပဒေသ၊ သဒ္ဒဝိနိစ္ဆယ၊ အတ္ထဝိနိစ္ဆယ၊ အဓိပ္ပါယဝိနိစ္ဆယတို့ကို ပြောဆိုပြသ ပို့ချတော်မူသည်ကို ဆရာတော်ဘုရားကြီး အရှင်အာစာရမဟာထေရ် ကြားသိတော်မူသဖြင့် ဆရာတော်ဘုရားကြီး အရှင်အာစာရအား များစွာ အသိအမှတ်ပြုတော်မူသည်။ ရှင်ပဏ္ဍဝကိုလည်း ဦးပခန်းကြီးအား စိတ်ချမ်းသာအောင် ဝတ်ကြီးဝတ်ငယ် ပြုစုစေတော်မူသည်။

## ထပ်မံ ပညာသင်ကြားတော်မူခြင်း

ဆရာတော် ဦးပခန်းကြီးသည် "သုဇာတာဘိဓဇဓိပတိပဝရမဟာဓမ္မရာဇာ ဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုးကားသာသနာပိုင်ဆရာတော် အရှင်သုဇာတ၊ "ပဏ္ဍိတဓဇသိရီပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ မိုင်းခိုင်ဆရာတော် အရှင်ပဏ္ဍိတ၊ ဒက္ခိဏာရာမာဓိပတိ အရှင်အာစာရမဟာထေရ်၊ စာချအကျော် ဆရာတော် ဦးရန်ကုန်တို့ အထံ၌လည်း ထပ်မံ ကျမ်းဂန်အမျိုးမျိုးနှင့် ဖြတ်ထုံးများကို သင်ယူတော်မူခဲ့လေသည်။

## အရှင်အာစာရမဟာထေရ်က များစွာချီးမြှောက်

ဆရာတော် အရှင်အာစာရမဟာထေရ်မြတ်ကြီးက မိမိထံသို့ နိုင်ငံအရပ်ရပ်မှ မေးမြန်းလျှောက်ထားသော သုတ္တန်၊ ဝိနည်း၊ အဘိဓမ္မာဆိုင်ရာ အဆုံးအဖြတ်အရပ်ရပ်ကို မိမိကိုယ်စားပြု၍ ဆရာတော် ဦးပခန်းကြီးအား ဖြေဆိုစေတော်မူ၍ ဓမ္မာနုဂ္ဂဟဖြင့်လည်း များစွာ ချီးမြှောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက်အတွင်း ကျောင်းများ အလှူခံရခြင်း

ယင်းသို့ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ သာသနာ့ဝန် ထမ်းဆောင်စဉ်အတွင်း မန္တလေးမြို့ တောင်ပြင် ကျွန်းလုံးဥသျှောင်ခေါ် ကျောက်ဆစ်တန်းရပ်နေ နိဗ္ဗာန်ကုန်သည်ကြီး ဆရာဆိုင်-ဇနီး ဒေါ်ချစ်၊ သားကိုအောင်ဘ၊ ကိုအောင်ထွန်းတို့ ဆောက်လုပ်လှူဒါန်းသည့် ကျွန်းကျောင်းကြီးကို အလှူခံရရှိတော်မူခဲ့လေသည်။ ၎င်းပြင် ဖော်ပြပါ ကျောင်းဒါယကာ ဒါယိကာမတို့က ပင့်လှူဒါန်းသည့် အုတ်ကျောင်းကြီးကိုလည်း ဒုတိယအကြိမ် အလှူခံရရှိတော်မူသည်။ ၎င်းပြင် မန္တလေးမြို့ အောင်နန်းရိပ်သာ ဂုဏ်တန်ရပ် သစ်တောဝန်၊ မြို့တော်ဝန်၊ ငွေခွန်ဝန်မင်းကြီး မဟာမင်းကျော်စည်သူ၏ မြေးကုန်သည်ပွဲစားကြီး ပရိယတ္တိသာသနဟိတ အသင်းလူကြီး ဦးမြ-ဒေါ်ချစ်စုတို့ ဆောက်လုပ်လှူဒါန်းသည့် ကျွန်းကျောင်းကြီးကိုလည်း တတိယအကြိမ် အလှူခံရရှိတော်မူခဲ့လေသည်။

## ပခန်းကျောင်းဟု အမည်တွင်

ဖော်ပြပါကျောင်းများကို ပခန်းကျောင်းဟု အမည်တပ်တော်မူ၍ ယင်းကျောင်းများပေါ်၌ သီတင်းသုံးတော်မူ၍ ပါဠိ အဋ္ဌကထာ၊ ဋီကာ ကျမ်းစာပို့ချ ဂန္ထဓုရကို နေ့ညမအား ချပို့တော်မူ၍ ပရိယတ္တိ သာသနာတော်ကို များ

စွာ ချီးမြှောက်တော်မူခဲ့လေသည်။ ယင်းစာပေကျမ်းဂန် အတန်တန်ကို အားအန်ကြိုးကုတ် အားထုတ်ချုပ်ဆိုတော်မူ၍ ပရိယတ္တိသာသနဟိတ အသင်း၏ ''ပရိယတ္တိသာသနဟိတ မဟာစရိယ (မူလစာချ)'' အဖြစ်ဖြင့် ကိုးကွယ်ခြင်းကိုလည်း ခံယူတော်မူရသည်။

## ဒက္ခိဏာရာမတိုက်၌ ၃၆-နှစ် သီတင်းသုံး

ဆရာတော် ဦးပန်းကြီးသည် ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ၃၆-နှစ်၊ ၃၆-ဝါ ကာလပတ်လုံး သီတင်းသုံးတော်မူ၍ စာပေချပို့ ကျမ်းစာပြုစုတော်မူခဲ့ရာ၊ ဆရာတော်မရှိတော့သော်လည်း စာချဆရာတော်တပါးအဖြစ် ယနေ့တိုင် ဂုဏ်သတင်းလှိုင်လျက် ရှိပေသည်။

## ပခုက္ကူမြို့သို့ ကြွရောက်သီတင်းသုံးတော်မူခြင်း

ပခုက္ကူမြို့ ဂုဏ်ကိုတန်းရပ်နေ ဘုရားဒါယကာကြီး ဦးလယ်ဆွဲ(ဘိုးလယ်ဆွဲ) ဘုရားဒါယိကာမကြီး ဒေါ်မင်းဂုဏ၊ သားကိုဘိုဇေ၊ ကိုဘိုးဘော၊ ကျောင်းဒါယကာကြီး ဦးပေါ်သင်း၊ ကျောင်းဒါယိကာမကြီး ဒေါ်လုကြွယ်၊ ညီမဒေါ်လှသွယ်၊ ဒေါ်လှနွယ်တို့သည် သံသရာဝဋ်ဒုက္ခမှ မြန်မကြာ ထွက်မြောက်လိုကြ၍ သက္ကရာဇ် ၁၂၀၉-ခုနှစ်တွင် ပခုက္ကူမြို့ အနောက်ပိုင်းတွင် ခုနစ်ဆင့်၊ ခြောက်ခန်းတိုက်ကြီး တည်ဆောက်ကြပြီးလျှင် ''သာသနဝိဟုလာရာမ မန္တလေးကျောင်းတိုက်''ဟု သမုတ်ကြပြီးလျှင် ဖော်ပြပါ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ စာပေချပို့ ရှင်ပျော်ပျို့သော ဆရာတော် ဦးပန်းကြီးကိုပင့်၍ လှူဒါန်းကြကုန်၏။

တဖန် ၁၂၈၆-ခုနှစ်တွင် အသောကာရုံ လေးထပ်ကျောင်းတော်ကြီး စတင်တည်ဆောက်ရာ ၁၃၀၀-ပြည့်နှစ်တွင် ပြီးစီးသဖြင့် ကျောင်းရေစက်ချကျောင်းလွှတ်သဘင်ပွဲတွင် ပင့်သံဃာ ၁၆၀-ကျော်ပင့်၍ ဆွမ်းသင်္ကန်း စသည် လှူဒါန်း၍ ဆွေမျိုးမိတ်သင်္ဂဟ စုံလင်စွာတို့ဖြင့် ဆရာတော် ဦးပန်းကြီးနှင့် သံဃာတော်မြတ်တို့ ခုရနှစ်ပါး ပွဲများအားသစ် ကြီးပမ်းရန် လှူဒါန်းကြကုန်၏၊ ဖော်ပြပါ အသောကာရုံ ကျောင်းတော်ကြီးကား ကျောင်းဦးပြာသာဒ်နှင့်တကွ အရှေ့အနောက် ၁၅၃-ပေရှိ၍ တောင်မြောက် ၅၉-ပေရှိပြီး ကြီးမားခမ်းနားလှသော ကျောင်းကြီးဖြစ်လေသည်[၁]။

---

၁။ ပခုက္ကူသာသနာဝင်၊ ၉၄-ကြည့်။

## ဆက်လက် စာပေချီးပို့တော်မူခြင်း

ဦးပန်းကြီး ဆရာတော်ဘုရားကြီးသည် ပခုက္ကူမြို့ သာသနဝိပုလာရာမသို့ ရောက်ရှိသီတင်းသုံးရာ ၁၂၈၉-ခုနှစ်ကာစ၌ သက်ဆုံးတိုင် စာပေချီးပို့ သာသနာပြုတော်မူ၍ များစွာ အောင်မြင်တော်မူသည်။

## ကျမ်းဂန်များစွာကို ပြုစုတော်မူခြင်း

ဆရာတော်ကား စာပေချီးပို့ရုံသာမက ကျမ်းဂန်များစွာတို့ကို ပြုစုစီရင်တော်မူခဲ့လေသည်။

၎င်းတို့မှာ-

၁။ ကာရန္တာဝိဒိဘာဝနီကျမ်း၊
၂။ ဗျဥ္ဇနဗုဒ္ဓါဒိ ဒီပနီကျမ်း၊
၃။ ကပ္ပ ဝိနိစ္ဆယကျမ်း၊
၄။ ဥဒ္ဒိဿစေတနာဝိနိစ္ဆယကျမ်း၊
၅။ ဇီဝိတပရိက္ခာရ အင်္ဂပရိက္ခာရ ဝိနိစ္ဆယကျမ်း၊
၆။ နိပ္ဖန္နရုပ ဝိနိစ္ဆယကျမ်း၊
၇။ လောကဝဇ္ဇ ပဏ္ဏတ္တိဝဇ္ဇ ဝိနိစ္ဆယကျမ်း၊
၈။ မနောဒွါရေ အနာပတ္တိ ဝိနိစ္ဆယကျမ်း၊
၉။ ဗုဒ္ဓပူဇာ ပကာသနီကျမ်း၊
၁၀။ ဧယျဓမ္မ ဝိနိစ္ဆယကျမ်း၊
၁၁။ ဒေသနာဂါမြာပတ္တိ ဝုဋ္ဌာန ဝိနိစ္ဆယကျမ်း၊
၁၂။ သီလဂန္တနုရဟာနံ ဝိနိစ္ဆယကျမ်း၊
၁၃။ ဥဒကုက္ခေပသိမာ ဝိနိစ္ဆယကျမ်း၊
၁၄။ ကမ္မဝါစာ ဝိခသာမန ဝိနိစ္ဆယကျမ်း၊
၁၅။ ကစ္စည်းသဒ္ဒါကြီး နိဿယကျမ်း၊
၁၆။ ပရိတ်ကြီး နိဿယကျမ်း၊
၁၇။ လောကနီတိ နိဿယကျမ်း၊
၁၈။ လက္ခဏာတ္တယ ဒီပနီကျမ်း၊
၁၉။ သက္ကာယဒိဋ္ဌိ ဝိနိစ္ဆယကျမ်း၊
၂၀။ စတုသစ္စ ဝိနိစ္ဆယကျမ်း၊
၂၁။ သံဃဘေဒက ဝိနိစ္ဆယကျမ်း၊
၂၂။ ဇီဝိတိန္ဒြိယ ဝိနိစ္ဆယကျမ်း၊

၂၃။ သံဃဝိဝါဒါ ဓိကရဏ ဝိနိစ္ဆယကျမ်း၊
၂၄။ အာပတ္တာ ဓိကရဏ ဝိနိစ္ဆယကျမ်း၊
စသည်တို့ဖြစ်ကုန်၏။

## ဗျဉ္ဇန ဗုဒ္ဓါဒိ ဒီပနီကျမ်း

ဖော်ပြပါကျမ်းများအနက် ဗျဉ္ဇန ဗုဒ္ဓါဒိ ဒီပနီကျမ်းကို ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ ယောဇနာ၊ ဂဏ္ဌိစသော ကျမ်းဂန်တို့မှ ထုတ်နုတ်တော်မူ၍ အာစရိယ ဝါဒ အမျိုးမျိုးကိုပြလျက် ပခုက္ကူမြို့ သာသနဝံသာလင်္ကာရာမတိုက် သိမ်သမုတ်အပြီးတွင် စီရင်ရေးသားတော်မူသည်။

ကျမ်းဦး၌—

ဗုဒ္ဓံ ဇာနမဟံ နတွာ၊ ဇာနိတွာ သုဘာဏတ္တာယ။
ဘာသိဿံ နယမာဒါယ၊ ဗျဉ္ဇန ဗုဒ္ဓါ ဒီပနိံ။

အဟံ၊ ကျောကဝေါဟာ ပညတ်ငါသည်။ ဝါ၊ ငါဟု သမုတ်ပေါင်းနာမ်ရုပ်သည်။ ဇာနံ-ဝိဇာနန္တံ၊ ဗျဉ္ဇန ဗုဒ္ဓိ ဠာန်ရိုက်ား ပယတနစသောအရာ အဖြာဖြာကို ကမ္မဝါစာ ဟာနမရှိ သတိရှေးရှု ရွတ်ဖတ်မှု၌ တခုမကျန် မဖောက်မပြန် ဟုတ်မှန်တိုင်း သိတတ်သော ပစ္စေက ဗုဒ္ဓါ သာဝကတို့ထက် ဆထက်လွန်ကျူး အထူးသဖြင့် သိတော်မူတတ်သော။ ဗုဒ္ဓံ၊ မြတ်စွာဘုရားကို။ ဝါ၊ သစ္စာ ၄-ပါး မြတ်ဓမ္မကို မိမိသိတတ် သူတပါးတို့ကို သိစေတော်မူတတ်သော သုံးလောကနတ်ဘုရားမြတ်ကို။ နတွာ=နမာမိ၊ အထူးသဖြင့် ရှိခိုးပါ၏။ နတွာ၊ အထူးသဖြင့် ရှိခိုးပြီး၍။ ဇာနိတွာ၊ အက္ခရပရိဟီန ပဒပရိဟီန ဒုရုတ္တာရက္ခရ ဒုရုတ္တပဒ ကမ္မဝါစာပန အရေး ညစ်အကြေးမှ ကင်းဝေးစင်ကြယ်ခြင်းကို အလိုရှိသော ဓမ္မမာမက သဒ္ဓါသမ္ပန္န လဇ္ဇီပေသလ သိက္ခာကာမ သီလဝန္တ ပညဝန္တ ဝိနယဂရုက သပ္ပုရိသပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့သည် ဗျဉ္ဇန ဗုဒ္ဓိ ဌာန်ကရိုက်ား ပယတနစသော အရာအဖြာဖြာကို ကမ္မဝါစာ ဟာနမရှိ ရွတ်ဖတ်မှု၌ တခုမကျန် မဖောက်မပြန် ဟုတ်မှန်တိုင်း သိ၍။ သုဘာဏတ္တာယ၊ အက္ခရပရိဟီန ပဒပရိဟီန ဒုရုတ္တက္ခရ ဒုရုတ္တပဒ ကမ္မဝါစာပန်အရေး ညစ်အကြေးမှ ကင်းဝေးစင်ကြယ်ခြင်းကို အလိုရှိသော ဓမ္မမာမက သဒ္ဓါသမ္ပန္န လဇ္ဇီပေသလ သိက္ခာကာမ သီလဝန္တ ပညဝန္တ ဝိနယဂရုက သပ္ပုရိသပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့ကို ဗျဉ္ဇန ဗုဒ္ဓိ ဌာန် ကရိုက်ား ပယတနစသော အရာ

> အဖြာဖြာကို ကမ္ဘဝါစာ ဟာနမရှိ သတိဇရှုးရှု ရွတ်ဖတ်မှု၌ တခု မကျန် မဖောက်မပြန် ဟုတ်မှန်တိုင်း ကောင်းစွာရွတ်ဖတ်နိုင်စေခြင်းငှာ။ နံယံ၊ ပါဠိ အဋ္ဌကထာ ဋီကာ အနု မဓု လက်သန်း ဆန်းအလင်္ကာ ကျမ်းအဖြာဖြာ၌ လာသောနည်း ကျမ်းတတ်အကျော် ရှေးဆရာတော်ဘုရား ကြီးတို့၏ နည်းကို။ အာဒါယ၊ မယုတ်မလွန်ရ သေချာကျန အဖန်ဖန်ကြံဆသဖြင့် အသင့်ကိုသာ ကောင်းစွာယူ၍။ ဗျဉ္ဇနဗုဒ္ဓါဒိ ဒီပနိံ၊ ဗျဉ္ဇနဗုဒ္ဓိ အစရှိသည်ကို ပြရာပြကြောင်း ဖြစ်သောကျမ်းကို။ ဝါ၊ ဗျဉ္ဇနဗုဒ္ဓိ ဌာန်ကရိုဏ်း ပယတန မုဒ္ဓဇ ဒန္တဇ အက္ခရာတို့၏ ရွတ်ဖတ်ပုံအထူးထူးသောအရာ အဖြာဖြာကို ကောင်းကင်အလယ် လသာဖွယ်သို့ အလွယ်သိမြင်အောင် ထင်စွာပြရာပြကြောင်း ဖြစ်သောကြောင့် ဗျဉ္ဇနဗုဒ္ဓါဒိ ဒီပနီကျမ်းကို။ ဘာသိဿံ - ကထေဿာမိ၊ အတ္တုက္ကံသန ပရဝမ္ဘန ညစ်ကြေး မှုအမှေးမှ ဝေးစွာကင်းပ အက္ခရပရိဟီန ပဒပရိဟီန ဒုရုတ္တက္ခရ ဒုရုတ္တပဒ ကမ္မဝါစာပအရေး ညစ်အကြေးမှ ဝေးစွာကင်းပ အက္ခရပရိဟီန ပဒပဟီန ဒုရုတ္တက္ခရ ဒုရုတ္တပဒ ကမ္မဝါစာပနအရေး ညစ်အကြေးမှ ကင်းဝေးစင်ကြယ်ခြင်းကို အလိုရှိသော ဓမ္မမာမက သဒ္ဓါသမ္ပန္န လဇ္ဇီပေသလ သိက္ခာကာမ သီလဝန္တ ပညဝန္တ ဝိနယဂရုက သပ္ပုရိသပုဂ္ဂိုလ်မှန် ပုဂ္ဂိုလ်မြတ်တို့ အသိခက်သော ဗျဉ္ဇနဗုဒ္ဓိ စသောအချက်ကို လက်ပေါ်တင်ထား ပဏ္ဏမြားကို ပိုင်းခြားထင်ထင် ဟုတ်မှန်တိုင်း သိမြင်သကဲ့သို့ ပိုင်းခြားထင်ထင် ဟုတ်မှန်တိုင်းသိမြင်သဖြင့် ကျမ်းဂန်နှင့်သမ သဗ္ဗကမ္မဝါစာဟူသမျှကို ကျနသေချာ ကောင်းစွာ ရွတ်ဖတ်နိုင်ကြစေလိုသောဆန္ဒ ယောနိသောမနသိကာရဖြင့် ဖွင့်ပြဖော်ထုတ် မယုတ်မပို ပြဆိုပေအံ့။

ဟူ၍ ပဏာမ ပဋိညာဉ် စသည်ကို ဖော်ပြ၍ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ဖော်ပြပါ ဗျဉ္ဇနဗုဒ္ဓါဒိဒီပနီကျမ်းကို ခရစ်သက္ကရာဇ် ၁၉၃၇-ခုနှစ်တွင် မန္တလေးမြို့ ရတနာဒီပံပိဋကတ် ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့ရာ ဒီမိုင်းဆိုက် စာမျက်နှာ ၁၃၂-မျက်နှာရှိသည်။

## ကာရန္တာဒိ ဝိဘာဝိနီကျမ်း

ဆရာတော်ဘုရားကြီး ဦးပခန်းသည် ကာရန်၊ ဂိုဏ်း၊ လိင်၊ ပဒမာလာ-စသည်တို့ကို ဖော်ပြရာဖြစ်သော "ကာရန္တာဒိဝိဘာဝိနီကျမ်း" ကိုလည်း မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ သီတင်းသုံးတော်မူစဉ်က စီရင်ရေးသားတော်မူခဲ့သည်။

ယင်း ကာရန္တာဒိဝိဘာဝိနီ ကျမ်းတွင်—

၁။ နာမပဒမာလာကဏ္ဍ၊
၂။ အာချာတပဒမာလာကဏ္ဍ၊
၃။ ကိတကဏ္ဍ—

ဟူ၍ ပဓာနအားဖြင့် သုံးကဏ္ဍပါရှိရာ၊ နာမပဒမာလာကဏ္ဍ ကျမ်းဦး၌—

အန္တဂ္ဂဏလိင်္ဂ ဗုဒ္ဓံ၊ ဓမ္မံ သံဃဉ္စ ဝန္ဒိယ။
သုဗုဒ္ဓိ ညပကံ ကာယံ၊ ကာရန္တာဒိ ဝိဘာဝိနိံ။

အဟံ၊ ငါသည်။ အန္တဂ္ဂဏလိင်္ဂ-အန္တဂဏလိင် ဝိညူ၊ အဆုံးဖြစ်သော နိဗ္ဗာန်ကို ခပ်သိမ်းသောသူတို့ထက် အထူးသဖြင့် သိသကဲ့သို့ အဆုံးဖြစ်သော ကာရန်ကို ခပ်သိမ်းသော သူတို့ထက် အထူးသဖြင့် သိတော်မူတတ်၊ ပရမတ် ပညတ်အပေါင်းကို ခပ်သိမ်းသောသူတို့ထက် အထူးသဖြင့် သိသကဲ့သို့ ရုပ်ပြီးသဘောတူ သဒ္ဒါအပေါင်းကို ခပ်သိမ်းသောသူတို့ထက် အထူးသဖြင့် သိတော်မူတတ်၊ ပရမတ် ပညတ်ဖြစ်သော သဒ္ဒအတ္ထကို ခပ်သိမ်းသောသူတို့ထက် အထူးသဖြင့် သိသကဲ့သို့ ပရမတ် ပညတ်ဖြစ်သော သဒ္ဒလိင် အတ္ထလိင်ကို ခပ်သိမ်းသောသူတို့ထက် အထူးသဖြင့် သိတော်မူတတ်သော။ ဗုဒ္ဓဉ္စ၊ ပဉ္စဇ္ဈေယျာ မြတ်မွေ့တို့ ဆရာမရှိ ပကတိသိမြင် ဘုရားရှင်ကိုလည်းကောင်း။ အန္တဂ္ဂဏလိင်္ဂ-ဉာတဗ္ဗအန္တဂ္ဂဏလိင်္ဂ၊ သိအပ်သော အဆုံးဖြစ်သော နိဗ္ဗာန်၊ အပေါင်းဖြစ်သော မဂ်ဖိုလ်၊ ကွယ်ဝှက်သော လောကီ လောကုတ္တရာ တရားအနက်ကို သိစေတတ်သော ပရိယတ်ဟု ဆိုအပ်သော။ ဓမ္မဉ္စ၊ မဂ်ဖိုလ် ရှစ်တန် နိဗ္ဗာန် ပရိယတ် တရားမြတ်ကိုလည်းကောင်း။ အန္တဂ္ဂဏလိင်္ဂ-အန္တဂ္ဂဏလိင်ဝိညူ၊ အဆုံးဖြစ်သော နိဗ္ဗာန်ကို ပါရမီအားလျော်စွာ အထူးသဖြင့် သိသကဲ့သို့ အဆုံးဖြစ်သော ကာရန်ကို ပါရမီအားလျော်စွာ အထူးသဖြင့် သိတတ်၊ ပရမတ် ပညတ်အပေါင်းကို ပါရမီအားလျော်စွာ အထူးသဖြင့် သိသကဲ့သို့ ရုပ်ပြီး သဘောတူ သဒ္ဒါအပေါင်းကို ပါရမီအားလျော်စွာ အထူးသဖြင့် သိတတ်၊ ပရမတ် ပညတ်ဖြစ်သော သဒ္ဒ အတ္ထကို ပါရမီအားလျော်စွာ အထူးသဖြင့် သိတတ်သကဲ့သို့ ပရမတ် ပညတ်ဖြစ်သော သဒ္ဒလိင် အတ္ထလိင်ကို ပါရမီ အားလျော်စွာ အထူးသဖြင့် သိတတ်သော။ သံဃဉ္စ၊ အဗ္ဘာရိယ သာဝကအစစ် ဖြစ်ကြီးဖြစ်သော ဂုဏ်နှစ်သာရ ပြည့်စုံလှသော မြတ်သံဃာကိုလည်းကောင်း။ ဝန္ဒိယ-အဘိဝန္ဒိတွာ၊ အထူးသဖြင့် ရှိခိုးပြီး၊

၍၊ ကုလပုတ္တာနံ၊ သဒ္ဓါဆန္ဒ ပြည့်ကြွယ်ဝသော ကုလပုတ္တ စာသင်လု တို့အား။ ဝါ၊ တို့ကို။ ပိဋကတ္တယံ၊ ပိဋကတ်သုံးပုံကို။ ဝါ၊ ပါဠိ အဋ္ဌကထာ ဋီကာအရပ်ရပ် ကျမ်းဂန်မြတ်ကို။ သုဗုဒ္ဓိ၊ လက်ပေါ်တင် ထားပတ္တမြားကို မျက်ဝါးထင်ထင် ကောင်းစွာမြင်သကဲ့သို့ ဉာဏ်အား ထင်ထင် ကောင်းစွာ မြင်သိစေခြင်းငှာ။ ဉာပကံ၊ ကာရန်ဂိုဏ်းလိင် ပဒမာလာ စသည်တို့ကို မဖောက်မပြန် ဟုတ်မှန်တိုင်း သိစေတတ်သော။ ကာရကတ္တာဒိဝိဘာဝိနိံ၊ ကာရန် စသည်တို့ကို ထင်ရှားစွာ ဖော်ပြတတ် သော "ကာရကတ္တာဒိဝိဘာဝိနီကျမ်း" ကို။ ဝါ၊ ကာရန် ဂိုဏ်း လိင် ပဒမာလာ စသည်တို့ကို မထင်ရှားရာ၌ ထင်ရှားအောင် ဖော်ပြရာ ဖော်ပြကြောင်း ဖြစ်သောကြောင့် ကာရကတ္တာဒိ ဝိဘာဝိနီ အမည်ရှိ သော ကျမ်းကို။ ကသံ-ကရိဿာမိ၊ ရှုပသိဒ္ဓိ ကာယံ ကတွာ မောဂ္ဂလ္လာန ဗာလာဝတာရ သဒ္ဒနီတိ ဂန္ထေ နိဿာယ အဝသေသ ထိုထိုဂန္ထတို့ကို လျစ်လျူမပြု အဖန်ဖန်ရှု၍ ဝေငှသချာ ရေးပြုပါအံ့။

ဟူသော ဂါထာပါဌ်ြ နိဿယဖြင့် ပဏာမ၊ ပဋိညာဉ် စသည်ဖော်ပြလျက် ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။

အာချာတ ပဒမာလာကျမ်းဦး၌လည်း—

ဗုဒ္ဓံ ဓမ္မဝရာချာတံ၊ သွာချာတဉ္စ သုဗောဓကံ။
ဟုတွာ ကရိဿ မာချာတံ၊ ပဒမာလံ သနိစ္ဆယံ။

အဟံ၊ ငါသည်။ ဓမ္မဝရာချာတံ၊ မင်္ဂဖိုလ်နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ် တန်ပိုင်းခြား မြတ်တရားကို ဟောကြားတော်မူတတ်ထသော။ သွာချာ တဉ္စ၊ ကောင်းစွာစေ့စပ် ဟောကြားအပ်ပြီးသော တရားတော်မြတ် ကိုလည်း။ ပဇာယ၊ ဗောဓနေယျ ဝေနေယျသတ္တဝါ အပေါင်းကို။ သုဗောဓကံ၊ဥဃ္ဃဋိတညူ ဝိပဉ္စိတညူ ပဒပရမ ဝေနေယျက ထိုက်မျှ လျော်စွာ ခွဲစိတ်ဖြာလျက် ကောင်းစွာသိစေတော်မူတတ်သော။ ဗုဒ္ဓံ၊ မြတ်စွာဘုရားကို။နတွာ-နမာမိ၊ရှိခိုးပါ၏။ နတွာ၊ ရှိခိုးပြီး၍။သနိစ္ဆယံ၊ အဆုံးအဖြတ်နှင့်တကွဖြစ်သော။ အာချာတံ၊ တိအစရှိသော အာချာတ် ပုဒ်တို့၏ ရုပ်ပြီးအစီအစဉ်ကို။ ကရိဿံ-ကရိဿာမိ၊ ပြုပေအံ့။

ဟူသော တဂါထာပါဌ်ြ နိဿယဖြင့် ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ရှင်းပြင် ကိတကဏ္ဍ ကျမ်းဦး၌သည်း-

သမ္မဗ္ဗုဒ္ဓရိယံ ဗုဒ္ဓံ၊ ဝန္ဒိတွာ သာဓနံ ကိတံ။
ပဒမာလဉ္စ ဘာသိဿံ၊ ကိတပ္ပိမေ သန္နိစ္ဆယံ။

အဟံ၊ ငါသည်။ မမ္ဗုဒ္ဓရိယံ၊ ဆယ်ပါးသောတရား ရှစ်ယောက်သော အရိယာပုဂ္ဂိုလ်အပေါင်းနှင့်တကွ ဖြစ်တော်မူတတ်ထသော။ ကိတံ၊ ဝေနေယျသတ္တဝါတို့၏ ယုံမှားခြင်းကို ပယ်ဖျောက်တော်မူတတ်ထသော။ သာဓနံ၊ ဝေနေယျသတ္တဝါတို့သည် အလိုရှိအပ်သော နိဗ္ဗာန်တည်းဟူသော အကျိုးကို ပြီးစေတော်မူတတ်ထသော။ ဗုဒ္ဓံ၊မြတ်စွာဘုရားကို။ ဝန္ဒိတွာ-ဝန္ဒာမိ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။ကိတပ္ပိမေ၊ ကိတ်ပစ္စည်း အပိုင်းအခြားကို စီရင်ရာ ဖြစ်တော်မူသောကျမ်း၌။ သန္နိစ္ဆယံ၊ အဆုံးအဖြတ်နှင့်တကွ ဖြစ်သော။ ကိတဉ္စ၊ ကိတကိတ်၊ ကိစ္စကိတ်၊ ကိတကိစ္စ ကိဘ်ကိုသည်းကောင်း။ သာဓနဥ္စ၊ ကတ္တုကမ္မ စသော ခုနစ်ပါးသော သာဓနကိုလည်းကောင်း။ ပဒမာလဥ္စ၊ ပုဒ်စဉ်ကိုလည်းကောင်း။ ဘာသိဿံ-ကထေဿာမိ၊ ဆိုပေအံ့။

ဟူသော တဂါထာပါဠိ၌ နိဿယဖြင့်ပင် ဂန္ထာရမ္ဘပြုတော်မူ၍ ကျမ်းကို စီရင်တော်မူခဲ့သည်။ယင်းကာရန္တာဒိ ဝိဘာဝိနီကျမ်းကြီးကို သက္ကရာဇ် ၁၂၈၁-ခုနှစ်က မန္တလေးမြို့ ရတနာဒီပံ ပိဋကတ်ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် စာမျက်နှာ ၄၄၃-ရှိသည်။

## ပခုက္ကူမြို့ သာသနဝိပုလာရာမတိုက်၌ သိမ်သမုတ်တော်မူခြင်း

ဆရာတော်သည် နောက်ဆုံး သီတင်းသုံးရာဖြစ်သော ပခုက္ကူမြို့ သာသနဝိပုလာရာမ မန္တလေးကျောင်းတိုက်အတွင်း၌ သိဿာနုသိဿ တပည့်အဝဝ တို့အား စာတွေ့မျက်မြင် ဒိဋ္ဌထင်လောက်အောင် နှုတ်ပုံ ဘစ၍ သမုတ်ပုံသို့ ကျအောင် နည်းနာနယ လက်ထပ်ပြ၍ ဂနသေချာ သံဃာပေါင်းများစွာ တို့ဖြင့် သိမ်သမုဘ်တော်မူခဲ့လေသည်။

### ထိုထိုဒေသ သိမ်သမုတ်ကြွ

ထိုသိုအရပ်ဒေသတို့မှ သိမ်သမုဘ်ရန် ပင့်လျှောက်လျှင် မပယ်မလှန် အပင်ပန်းခံ၍ နည်းမှန်လမ်းကောင်း ရှေးဆရာတို့၏ ထုံးဟောင်းကို မှီငြမ်းတခု လက်ကိုင်ပြု၍ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ ယောဇနာ၊ ဂဏ္ဌိ အထပ်ထပ် ကြည့်ရှုပြီးလျှင် သံသယကုက္ကုစ္စ ကင်းစင်ပလောက်အောင် ဆောင်ရွက်ခွင့် သမုဘ်တော်မူခဲ့လေသည်။

## ဝိနယဂရုက သိက္ခာကာမဂုဏ်နှင့် ပြည့်စုံတော်မူခြင်း

ဆရာတော်သည် ဝိနယဂရုက သိက္ခာကာမ ဂုဏ်နှင့်လည်း လွန်စွာပြည့်စုံတော်မူသည်။ အနာမာသအာကပ္ပိယ အသပြာများကို ကိုင်ထိရန်မဆိုထားဘိ ထိုခေတ်ကသုံး စွဲသည့် မူးပဲ စသည်ကိုပင် နားမလည်ဟု အဆိုရှိသည်။

## ဝေဒနာစွဲကပ်၍ အချက် ၅-ချက်မှာကြား

သက္ကရာဇ် ၁၃၀၂-ခုနှစ် တပို့တွဲလတွင် သည်းထန်စွာ ဝေဒနာစွဲကပ်လာလေသည်။ ဆရာတော်သည် ယင်းဝေဒနာမှ ထနိုင်မည်မဟုတ် ဟု သေချာမိမိသိတော်မူသည်။ သို့ဖြစ်၍အောက်ပါအချက်ငါးချက်ကို ဖြည်းဖြေးလေးလေး မှာကြား မိန့်ဆိုတော်မူခဲ့လေသည်။

၁။ တပည့်တို့ ငါမနေရ၊ သေရဖို့ သေချာသည်၊ ငါသေလျှင် ငါ၏ ရုပ်ဟောင်း ဥတုလောင်းကို စာချစာတတ် နေ့ရက်ရှည်ကြာ မပျက်စေခြင်းအကျိုးငှာ ၂၁-ရက်ထက်ပို၍ မထားရ၊ အမြန်သင်္ဂြိုဟ်ရမည်။

၂။ အထက်အောက် မြို့ရွာမှတပည့်အများတို့ ဆင်းရဲဒုက္ခမှ ကင်းလွတ်စေခြင်းအကျိုးငှာ မည်သူ့ထံမျှ အကြောင်းမကြားရ၊ အကျဉ်းသင်္ဂြိုဟ်ရမည်။

၃။ မြို့ရောတောပါ ဒါယကာ ဒါယိကာမတို့ ဆင်းရဲလှသည်၊ ရဟန်းရှင် လူ မည်သူတဦးတယောက်ထံမှ အကူမယူရ၊ အနည်းငယ်မျှ ကုန်စေ၍ သင်္ဂြိုဟ်ရမည်။

၄။ မီးထွန်း ဆွမ်းချပွဲကျင်းပ၍ နှစ်စဉ်ပူကြသဖြင့် စာသင်စာချ ပျက်စီး၍ ဗုဒ္ဓသာသနာ ယုတ်လျော့ရာ၏၊ သို့ဖြစ်၍ ငါ၏အရိုးကို စေတီမတည်ရ၊ ပြာကျအောင်သင်္ဂြိုဟ်ရမည်။

၅။ ကိစ္စအဝဝ ဒုက္ခအထွေထွေ မဖြစ်စေခြင်းငှာ သုဒိတာရာမ မြောက်ကျောင်းတိုက်က (ရှင်ကေသရ) ၏အလောင်းနှင့် တပေါင်းတည်း သင်္ဂြိုဟ်ရမည်။

ဆရာတော်အား သတိသမ္ပဇဉ် ထာဝစဉ် ယှဉ်တော်မူ၏။ ယင်းတို့မှာထားတော်မူပြီးနောက် မကြာမီ သက္ကရာဇ် ၁၃၀၂-ခု တပို့တွဲလဆုတ် ၆-ရက်နေ့တွင် ဘဝနတ်ထံ စံဝင်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

အနိစ္စာ မေ ပဉ္စက္ခန္ဓာ၊ အနိစ္စာယ မရိဿန္တိ။
မရဏန္တံ ဂမိဿာန၊ ဣမံ ကာယံ ခိပိဿန္တိ။

မေ၊ ငါ၏။ ပဉ္စက္ခန္ဓာ၊ ခန္ဓာငါးပါး ရုပ်နာမ်တရားတို့သည်။ အနိစ္စာ၊ ဖြစ်ပြီး၍ ထင်ရှားမရှိကုန်ခြင်းကြောင့် အမြဲမရှိကုန်စွတကား။ အနိစ္စာယ၊ အမြဲမရှိခြင်းကြောင့်။ မရိဿန္တိ၊ တဘဝကွင် အကျုံးဝင်သော သက်ရှင်မြတ်ကို သေကြရကုန်လတ္တံ့။ မရဏန္တံ၊ စုတိပြတ်ကြေ သေလွန်ခြင်း၏အဆုံးသို့။ ဂမိဿာန၊ မုန်စွာ မဖောက်ရောက်ကြကုန်၍။ ဝါ၊ မုန်စွာ ရောက်ကြကုန်ခြင်းကြောင့်။ ဣမံ ကာယံ၊ ခန္ဓာကိုယ် ရုပ် ဤအကောင်ပုပ်ကို။ ခိပိဿန္တိ၊ အသက်ရှင်ကာ ဘယ်ရောဂါဖြင့် ဘယ်ခါကာလ ဘယ်ဒေသ၌ လားရာဂတိ ဖြစ်မသိပဲ ရောက်မိရောက်ရန် သုသာန်တစ သင်းချိုင်းဝသို့ မုချမသွေ စွန့်ပစ်ကြရလေကုန်လတ္တံ့။

## သာဓုကီဠနသဘင်

ဆရာတော် ဦးသဒ္ဓမ္မ၊ ဆရာတော် ဦးဥတ္တရ၊ ဆရာတော် ဦးသာသန အစ ရှိသော တပည့်ကြီးတို့သည် ဆရာတော်မှာကြားသည့်အတိုင်း ၂၁-ရက် ထားကြကုန်၍ သာသနဝိပုလာရာမ မန္တလေးတိုက် မြောက်ဘက်၌ ကိုးခန်း ပတ်လည် ဥဒ္ဒိဿ်စံကျောင်းမဏ္ဍပ် ဆောက်လုပ်၍ တပေါင်းလဆန်း ၁၀-ရက် နေ့တွင် မဟာသုခိတာရာမဆရာတော်၏ အလောင်းတော်ကို ပိုဖဲကတ္တီပါတို့ ဖြင့် ခြယ်လှယ်စီမံအပ်သော ကြာကလပ်ဖြင့် စံကျောင်းမဏ္ဍပ်သို့ ပင့်ဆောင် ကြ၍ ယှဉ်ကျူး ပူဇော်ကြသည်။ တပေါင်းလဆန်း ၁၁-ရက်နေ့တွင် ဆရာတော်ဘုရားကြီး ဦးခန္တီ၏ အလောင်းတော်ကို ပိုဖဲကတ္တီပါတို့ဖြင့် တန်ဆာဆင်အပ်သော ကြာကလပ်ဖြင့် စံကျောင်းမဏ္ဍပ်သို့ ပင့်ဆောင်ကြ ကုန်၍ ယှဉ်ဖြင့် ပူဇော်ကြသည်။

ဝင်းပြင် သံဃာတော် ၂၀၀၀-ကျော်တို့အား သံဃဒါန ဆွမ်းလောင်း လှူခြင်း၊ တိုက်တွင်းရှိ အာဂန္တုက အာဝါသိက သံဃာ ၃၀၀-ကျော်တို့အား နံနက်ဆွမ်း၊ နေ့ဆွမ်း ကပ်လှူခြင်း၊ တပေါင်းလဆန်း ၁၂-ရက်နေ့တွင် အနီး-အဝေး လာလာသမျှသော ဒကာ ဒကာမအပေါင်းတို့အား စတုဒိသာ ထမင်းကျွေးမွေး လှူဒါန်းခြင်း၊ တပေါင်းလဆန်း ၁၂-ရက်နေ့တွင်

သံဃာတော် ၁၀၀-တို့အား အသီးသီး တပါးလျှင် ၂၀ိ တန်စီ လှူဒါန်းခြင်း၊ ယင်းသည့် တပေါင်းလဆန်း ၁၂-ရက်နေ့တွင် စံကျောင်းမဏ္ဍပ်၌ သရဏဂုံ တင်ပြီးလျှင် ဆရာတော်နှစ်ပါးတို့၏ ဥတုဇရုပ် အလောင်းတို့ကို အသီးသီး တလားဖြင့် သင်္ဂြိုဟ်ရာဌာနသို့ ပင့်ဆောင်ကြပြီးလျှင် နံ့သာထင်းဖြင့် အရိုးပြာ ကျ မီးသင်္ဂြိုဟ်ကြကုန်၏။

## သံဝေဂယူရန်

အစိရံ ဝတ ယံကာယော၊ ပထဝိံ အဓိသေဿတိ။
ဆုဒ္ဓေါ အပေတဝိညာဏော၊ နိရတ္ထံဝ ကလိင်္ဂရံ[၁]။

အယံကာယော၊အလျားတလံ အနံတထွာ ကေသာအစ ဒွတ္တိံသ အစု ဖြစ်သော ဤခန္ဓာကိုယ်သည်။ ဆုဒ္ဓေါ၊ တနေ့နေ့ကျမုချမလစ် စွန့်ပစ်အပ်သည် ဖြစ်၍။အပေတဝိညာဏော၊ ကင်းသော ဝိညာဉ်ရှိသည်ဖြစ်၍။ နိရတ္ထံ၊ အသုံး မကျ အသုံးမဝင်သော။ ကလိင်္ဂရံဣဝ၊ ထင်းနုပ် ထင်းဖွဲ့ ထင်းဆွေးကဲ့သို့။ အစိရံ၊မကြာမြင့်မီ။ ပထဝိံ၊ မြေ၌။ အဓိသေဿတိဝတ၊ ပုံသေမုချ အိပ်ရလိမ့် စွာ့တကား။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဂဏဝါစက စာချအကျော်

## ဆရာတော်အရှင်နန္ဒိယ (ကဗျာနန်)

ဆရာတော် အရှင်နန္ဒိယကား ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ထင်ရှားသည့် စာချဆရာတော်တပါး ဖြစ်တော်မူသည်။ အများသိအမည်မှာ "ကဗျာနန်" ဖြစ်သည်။ စာချလျှင် ကဗျာသင်္ကာရွတ်ပြီး စိတ်ပါလက်ပါ ရယ်ရယ်မောမော ဟာသနှောသ၍ စာပြောတတ်သဖြင့် ကဗျာနန်ဟု တွင်ခြင်းဖြစ်သည်။ ကဗျာ ဝါသနာရှင် စာသင်သားတို့ ဆရာတော်အား များစွာချစ်ခင် ကြည်ညိုကြ သည်။

---

၁။ ဓမ္မပဒ၊ ၁၉။ (ပူတိဂတ္တတိဿတ္ထေရဝတ္ထု)။



ဒက္ခိဏာရာမတိုက် ဂဏဝါစက စာချအကျော်
ဆရာတော်အရှင်နန္ဒိယ(ကဗျာနန်)

## ဖွားမြင်တော်မူခြင်း

ယင်းတော်မြို့ ဆားတောင်ရွာ၌ အဖ ဦးကြယ်–အမိ ဒေါ်မင်းဖုံတို့မှ သက္ကရာဇ် ၁၂၂၇–ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ဖိုးဆော် ဖြစ်သည်။ အရွယ်ရောက်သော် ရှင်သာမဏေဘဝတွင်၊ ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

## ဒက္ခိဏာရာမတိုက်ရောက်ရှိပညာသင်

ငယ်စဉ်ကပင် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိတော်မူ၍ ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် အာရာမာဓိပတိ သံဃပါမောက္ခ ဆရာတော်ဘုရားကြီး အရှင်အာစာရ မဟာထေရ်၊ ဆရာတော် ဦးရန်ကုန်ခေါ် အရှင်သုဇာတ မဟာထေရ် စသည်တို့ထံ ပညာသင်ကြား တတ်မြောက်တော်မူခဲ့လေသည်၊

ဆရာတော် အရှင်နန္ဒိယကား ပါဠိကဗျာ၊ မြန်မာကဗျာတို့ကို ဖွဲ့ဆိုမှု ကျွမ်းကျင်နိုင်နင်းတော်မူသည်။ ဘုရားရှင်လက်ထက်တော်က အရှင်ဝင်္ဂီသ ထေရ်အလား သူ့ခေတ်နှင့်သူ့အခါ ထူးခြားစွာ ပေါ်ထွန်းခဲ့သော ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။

## ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ မူလစာချ

ဆရာတော်သည် များစွာသော စာသင်သား ရဟန်းသာမဏေတို့အား ပရိယတ္တိကျမ်းစာ ပို့ချ၍ သမ္ဗုဒ္ဓမြတ်စွာ သာသနာရောင် တောက်ပြောင်ထိန်ဝန်း လင်းလက်အောင် ဆောင်ရွက်တော်မူသဖြင့် ပရိယတ္တိ သာသနဟိတ အသင်းကြီး၏ "ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (မူလစာချ)"အဖြစ်ဖြင့် ကိုးကွယ်ထောက်ပင့် လှူဒါန်းခြင်းကို ခံယူတော်မူသည်။

## ဆရာတော် ချပို့သည့် ကျမ်းစာများ

ဆရာတော်သည် များသောအားဖြင့် ကစ္စည်းသဒ္ဒါကြီး၊ ဝါစ္စဝါစက၊ ဝိဘတျတ္ထ၊ ကစ္စာယနသာရ၊ နျာသ၊ အလင်္ကာ–စသော ကျမ်းဂန်တို့ကို ချပို့တော်မူသည်ဟု သိရသည်။ ဆရာတော်သည် ကဗျာလင်္ကာ ဝေဝေဆာဆာ တို့ဖြင့် စာပေချပို့တော်မူသဖြင့် ဆရာတော်ထံ စာဆိုစာလိုက်ကြသော ရဟန်း သာမဏေတို့ ပျင်းရိခြင်း မရှိကြကုန်။

## ကျမ်းဂန်ပြုစု ရေးသားတော်မူခြင်း

အရှင်နန္ဒိယ မဟာထေရ်ခေါ် "ကဗျာနန်" ဆရာတော်သည် ကျမ်းဂန်များကိုလည်း ပြုစု ရေးသားတော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ သဒ္ဒကာဝေယျာမဥ္ဇရီကျမ်း၊

၂။ သဒ္ဒကာဝေယျာမဉ္ဇရီ အဖြေ ဝိသဇ္ဇနာကျမ်း၊

၃။ နတ်လမ်းညွှန်ကျမ်း စသည်တို့ဖြစ်ကုန်၏။

ဖော်ပြပါ ကျမ်းများတွင် သဒ္ဒကာဝေယျာမဥ္ဇရီကျမ်းမှာ ၁၂၀၆-ခုနှစ် တန်ဆောင်မုန်းလတွင် အပြီးရေးသားတော်မူခဲ့သည့်ကျမ်း ဖြစ်သည်။ ယင်းကျမ်းကို ၁၂၀၆-ခုနှစ် ပြာသိုလတွင် ဆရာတော်၏တပည့်ဖြစ်သော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မစိုးရိမ်တိုက် နာယကဆရာတော် အရှင်သောမာဘိသိရီက ကြီးကြပ်၍ မန္တလေးမြို့ ယိုးဒယားဈေး တောင်ဘက် ရှေးရိုးမြန်မာစာပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့လေသည်။

ဖော်ပြပါကျမ်း နိဒါန်း၌—

"ဘယလာဘ၊ ကုလစသည်၊ ပြီပြီလွတ်ကင်း၊ စိတ်ရှင်းစင်စစ်၊ ကုသိုလ်ဖြစ်ဘု၊ အားသစ်ဖွဲ့နှောင်၊ ဤစာစောင်ကား၊ အောင်မြင်ဗိဇ၊ စာချမျိုးစေ့၊ ပြကတေ့လုံလောက်၊ ကျိုးမြော်ထောက်က၊ ကျောက်မြက်ဖိုးဟန်၊ မဟာဂ္ဃဟု၊ ပြည်တန်ပတ္တမြား၊ ကဲ့အလားသို့၊ ပျို့ထွားနှုန်နယ်၊ သောတုငယ်တို့၊ စိတ်ဝယ်မြတ်နိုး၊ ကြိုးကြိုးပမ်းပမ်း၊ ဉာဏ်သဘာ်လှမ်း၍၊ စမ်းသပ်ကြည့်ရှု၊ လေ့လာပြုက၊ ခက်စုခက်ရာ၊ ကျမ်းသဒ္ဒါ၌၊ ပါရဂူမြောက်၊ တဲယောက်ပုဂ္ဂိုလ်၊ ၎ုကြီးဆို၍၊ မြင့်မိုရ်တမျှ၊ လေးကျွန်းဝလျက်၊ အက္ခရနှင့်၊ ပဒကောသလ်၊ ဉာဏ်နှစ်ဉာဏ် ဖြင့်၊ သုံးတန်ပိဋကတ်၊ ပရိယတ်နှင့်၊ နှံ့စပ်အင္ဂဏထာ၊ ဋီကာအနု၊ မခုအာဘော်၊ ဖြေဖျော်သိမြင်၊ မငြိုငြင်ပဲ၊ ဖြန်းဖြန်းကဲ့က၊ ဖောက်လွှဲဖောက်ပြန်၊ မိစ္ဆာဉာဏ်ကို၊ တွန်းလှန်သဖြင့်လျှင်၊ ကျင့်စဉ်စည်းကမ်း၊ နည်းလမ်းတည့်မတ်၊ ပဋိပတ်ကြောင့်၊ ကူးခတ်မနှေး၊ ပဋိဝေးမှာ၊ ဆိုက်ရောက်ရာကို၊ သူငါကစ၊ သိကြသောတွက်၊ ကျယ်ပြွက်ဘူး၊ နှစ်သက်လေ့လာ၊ ဤကျမ်းစာ၌၊ ဩဇာရသ၊ ထွက်သမျှကို၊ အရလွယ်ကူ၊ ဉာဏ်တခြူဖြင့်၊ ယူလိမ့်ကိုသာ၊ မျှော်သင့်ပါ၏၊ ကဗျာအတွင်း၊ စကားကျဉ်းလည်း၊ ထင်လင်းသို့သာ၊ ဖြစ်ဖို့ရာကို၊ အာဂတ

သမဏ၊ နာမကွန့်ဖြိုး၊ မစိုးရိမ်ကျော်၊ ဆရာတော်က၊ ထင်ပေါ်စိမ့်
လျှင်၊ စကားပြင်နှင့်၊ စီစဉ်အချိုး၊ အမျိုးမျိုးကို၊ အကိုးပါငါ၊
သာဓကပါ၊ ပ-ထာရဟန်နှင့်၊ ဆိုင်ရာသွင်းလျက်၊ ဖြေရှင်းလိမ့်မည်၊
မကြာမီပ၊ ကေန္တကို၊ ခုကတင်ကူး၊ နိဒါန်းကျူး''

ဟူသော ကေပိုဒ် လင်္ကာဖြင့် ကျမ်းစာနှင့် စပ်သိမှတ်ဖွယ်ကို ဖော်ပြထား၏။

ဆရာတော်သည် ကျမ်းဦး၌—

''ကျမ်းပြုနှင့်သတ္တ နှစ်ရပ်နှစ်ဝ အန္တရာယ်။
သမံအတူ စံယူလို နှင်းရမှာဖြင့် ဆံတူမျိုး ရန်မူမြင်း ကင်းစေကွယ်။
ခံမင်တွယ် ဂုဏ်ကြွယ်တဲ့ တိရတန။ ။
ကာယရယ် ဝါစာနှင့် မနသာ ကြည်ညိုသည့်အတိုင်းကိုလ။
ဂါရဝမှိုခို မယိုင်းပါဘု ကိုင်းရှိုင်ညွှတ်ခ''

ဟူသော လေးချိုးဖြင့် ရတနတ္တယ ပဏာမပြုတော်မူခဲ့လေသည်။

ရင်းပြင်—

''ပဏာမပုဗ္ဗတဲ့ကြိယာ ရွေးထုံးစံ ပဝေဏီပ ပြီးလို့တခါ။ ကျမ်းသဒ္ဒါ
စွမ်းရာသည်ပိုး။
ကစားရှယ်မျှားသူ ငယ်ရှင်ကလေးတွေ့ဖို့ နားလည်ရန် လျှင်မနှေး
အောင်ပ ရေးမည်အချိုး''

ဟူသော လေးချိုးဖြင့် ပဋိညာဉ် ပြုတော်မူခဲ့လေသည်။

## ကဗျာပေါင်း ၄၁၃-ပုဒ် အပိုင်း ၈-ပိုင်း

ဆရာတော် အရှင်နန္ဒိယ မဟာထေရ်သည် ဖော်ပြပါ သဒ္ဒကာဝေယျ မဥ္ဇရီကျမ်း၌ ကဗျာပုဒ်ပေါင်း ၄၁၃-ပုဒ်တို့ဖြင့် တန်ဆာဆင်၍ ရေးသားတော်မူခဲ့လေသည်။ ယင်း သဒ္ဒကာဝေယျမဥ္ဇရီကို အရဆောင်နိုင်လျှင် ဆရာတော်ကဲ့သို့ပင် ကဗျာနိုင်နင်းသူ ဖြစ်နိုင်ပေသည်။ ယင်းကျမ်း၌—

(၁) သန္ဓိကဗျာအချိုး
(၂) နာမ်ကဗျာအချိုး
(၃) ကာရကကဗျာအချိုး

(၄) သမာသ်ကဗျာအချိုး
(၅) တဒ္ဓိတ်ကဗျာအချိုး
(၆) အာချာတ်ကဗျာအချိုး
(၇) ကိတ်ကဗျာအချိုး
(၈) ပကိဏ္ဏကကဗျာအချိုး

အားဖြင့် ၈-ပိုင်း ၈-ဌာန ခွဲ၍ စီစဉ်တော်မူခဲ့လေသည်[၁]။

## ဆရာတော်ဦးဗုဓ်ဘွဲ့လေးချိုး

ဆရာတော်သည် ညောင်ကန်ဆရာတော် ဦးဗုဓ်ကို အောက်ပါလေးချိုး ကဗျာဖြင့် ဖွဲ့ဆိုချီးကျူးတော်မူခဲ့လေသည်။

"ဦးဗုဓ် ဦးဗုဓ်နှင့် ဒူ၊တုပ်လောက် ပုဂ္ဂိုလ်။ ဘာဂဝါမတိ ပါဠိ အဋ္ဌကထာနှင့် ထိုထိုဋီကာ သူနှံ့စပ်ကျမ်'တတ်ရှေ့ကိုယ်။တိုသူငါ မှီခို၊ ကြည်ညိုဘို့အနှင့်၊ ဘုရားရှိလျှင်လ၊ အများတပည့်တွင် တေဒဂ်၊ လက်ရှိရသင့်[၂]"

ဟူ၍ ဖြစ်သည်။

မိမိ၏ ဇာတိချက်ကြွေ မွေးရပ်မြေကိုလည်း —

"ဤကျမ်းပြု ကဗျာစရိ၊ ပဝတ္တိမန်းမြေ၊ ဇာတိမှီ လွမ်းမပြေ၊ စခန်း ခြေတာကျ။ ဆားချက်လို့ ဆားတောင်ခေါ်၊ မြို့ယင်းတော် ရှေ့လက် ဂါမ[၃]"

ဟူ၍ စပ်ဆိုတော်မူခဲ့လေသည်။

ဇင်းပြင် ကျမ်းပြုရာ အချိန်ကာလစသည်ကိုလည်း—

"ထောင့်နှစ်ရာ့ ရှစ်ဆယ်၊ စွန်းခြောက်ခု၊ ဥတု ဝသန္တ၊ သရဒ လမြတ်ဝယ်၊ ဤယခုစာစောင်ငယ်၊ ကြာပေါင်ကွယ်စီကုံး။ သံတိ

---

၁။ ဆရာတော်ရေးစဉ်က စုပေါင်းရေးသားခဲ့ရာ ဓိုးရိုင်ဆရာတော် အရှင် သောမာဘိသီရိက ၈-ပိုင်း ၈-ဌာန စီစဉ်ခဲ့သည်ဟု သိရ၏။
၂။ သဒ္ဒကာရဝေယျမဥ္စရီ ၃၃၀-မှဒ်။
၃။ သဒ္ဒကာရဝေယျမဥ္စရီ။ ၄၁၁-မှဒ်။

> ကပ်ကြတော့၊ ပိဋကတ်မကွယ်အောင်၊ အနွယ်ဆောင်စာသင်သားတော့
> ဟု၊ အများက နေ့ဲ ပြုပ်မွစိုရ်ဆင်၍၊ မပျုငြ လိုအင်ပြေ့၊ချမ်းမြေ့
> ပြီ ဆုံး”

ဟူသော ကဗျာဖြင့် ဖွဲ့ဆိုတော်မူခဲ့လေသည်။

ဖော်ပြပါ သဒ္ဒကာဝေယျမဉ္ဇရီကျမ်းမှာ ကရောင်း ၁၆-ချိုးဆိုက်ဖြင့် စာမျက်နှာ ၁၀၄-ရှိလေသည်။

## သဒ္ဒကာဝေယျမဉ္ဇရီ အဖြေဝိသဇ္ဇနာကျမ်း

ဆရာတော်သည် ဖော်ပြပါ သဒ္ဒကာဝေယျမဉ္ဇရီကဗျာကျမ်း၏ အဖြေကျမ်းကိုလည်း “သဒ္ဒကာဝေယျမဉ္ဇရီအဖြေဝိသဇ္ဇနာကျမ်း” ဟူသော အမည်ဖြင့် စီရင်ရေးသားတော်မူခဲ့လေသည်။

ယင်းသဒ္ဒကာဝေယျမဉ္ဇရီ အဖြေဝိသဇ္ဇနာကျမ်းဦး၌—

> နိရုတ္တိဘေဒ ဒေသကံ၊ သတ္ထာ ဒေဝမနုဿာနံ။
> နတွာ နာထံ အဿပ္ပဟံ၊ သဒ္ဓမ္မံ ဗုဒ္ဓ သေဝိတံ။
> ပုညက္ခေတ္တံ ဇနာနဉ္စ၊ နိရင်္ဂဏံ ဂဏုတ္တမံ။
> စေဒနာဒိ ပရိဝါရံ၊ ကရိဿံ သဒ္ဒမဉ္ဇရိံ။

အဟံ၊ ငါသည်။ နိရုတ္တိဘေဒဒေသကံ၊ သဒ္ဒါအပြားကို ဟောကြားတော်မူတတ်ထသော။ ဒေဝမနုဿာနံ၊ နတ်လူပြဟ္မာ သတ္တဝါတို့၏။ သတ္ထာ၊ ဆရာဖြစ်တော်မူသော[၁]။ နာထံ၊ မြတ်စွာဘုရားကို။ နတွာ-နမာမိ၊ ရှိခိုးပါ၏။ နတွာ၊ ရှိခိုးဦး၍။ အဿပ္ပဟံ၊ ကိလေသာကို ပယ်ဖြတ်တတ်သော။ ဗုဒ္ဓသေဝိတံ၊ မြတ်စွာဘုရားသည် ဂါရဝ သေဝန ဘာဝနာသေဝနအားဖြင့် မှီဝဲတော်မူအပ်သော။ သဒ္ဓမ္မဉ္စ၊ မဂ်လေးတန် ဖိုလ်လေးတန် နိဗ္ဗာန်ပရိယတ္တိတည်းဟူသော ဆယ်ပါးသော သူတော်ကောင်းတရားတော်ကိုလည်း။ နတွာ-နမာမိ၊ ရှိခိုးပါ၏။ နတွာ၊ ရှိခိုးဦး၍။ ဇနာနံ၊ ကုသိုလ်ကောင်းမှုကို အလိုရှိကုန်

---

၁။ မူရင်းအတိုင်း ဖော်ပြသည်။ (သတ္ထာ-သတ္ထာရံ၊ ဆရာဖြစ်တော်မူထသော-ဟု ပြင်ပေးရာ၏)။

> သောသူတို့၏။ ပုညာကွေတ္တံ၊ ကုသိုလ်ကောင်းမှုတည်းဟူသော မျိုးစေ့
> စိုက်ပျိုးကြဲချရာ လယ်ယာမြေကောင်းသဖွယ် ဖြစ်တော်မူသော။ နိရင်္ဂဏံ၊
> ကိလေသာ တည်းဟူသော အညစ်အကြေး မရှိထသော။ ဥတ္တမံ၊
> မြတ်သော၊ ဂဏာဥ္ဇ၊ မဂ္ဂဋ္ဌာန်လေးယောက် ဖလဋ္ဌာန်လေးယောက်ဟု
> ဆိုအပ်သော ရှစ်ယောက်သော ပရမတ္ထ သံဃာတော်မြတ်အပေါင်းကို
> လည်း။ နတွာ-နမာမိ ရှိခိုးပါ၏။ နတွာ၊ ရှိခိုး၍။ စောဒနာဒီပရိ
> ဝါရံ၊ စောဒနာအစရှိသည်တို့ဖြင့် ခြံရံအပ်သော။ ဝါ၊ အမေးအဖြေ
> တို့ဖြင့် ခြံရံအပ်သော၊ သဥပမံ၊ ဥပမာနှင့်တကွဖြစ်သော။ ဝါ၊
> ဥပမာကောဒရရှိသော။ သဒ္ဒမဥ္ဇရိံ၊ သဒ္ဒကာဝေယျမဥ္ဇရိအမည်ရှိသော
> (သဒ္ဒကာဝေယျာဥ္ဇရိ အဖြေဝိသဇ္ဇနာ) ကျမ်းကို။ ကရိဿံ၊ ပြုပေအံ့။

ဟူသော နှစ်ဂါထာ ပါဠိနိဿယဖြင့် ရတနတ္တယပဏာမ ကရဏပ္ပကာရ၊ ပဋိညာဉ်တို့ကို ပြုတော်မူခဲ့သည်။ ယင်း သဒ္ဒကာဝေယျမဥ္ဇရိ အဖြေဝိဇ္ဇနာကျမ်း၌ မှတ်သားဖွယ် ရယ်စရာ စကားပုံစကားညှပ်တို့ များစွာပါရှိလေသည်။ ဖော်ပြပါ သဒ္ဒကာဝေယျမဥ္ဇရိကျမ်းကို ၁၂၈၈-ခုနှစ်က မန္တလေးမြို့ ၁၆-၁၇၊ (၈၀) လမ်း မန္တလာဝတီ ပိဋကတ်ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့ရာ ဒီမိုင်းဆိုက် စာမျက်နှာ ၄၄၇-ရှိလေသည်။

## ဆရာတော်၏ ပညာရှိတပည့်များ

ဆရာတော်ကား မပြတ်ထာဝရ စာပေချပို့တော်မူသည်။ သို့ဖြစ်၍ ရဟန်းသာမဏေ ကသင်္ဘသားတို့ များပြားများစွာ တပည့်ခံပညာသင်ယူကြရာ၊ ယင်းတပည့်များအနက် ပညာရှိ တပည့်တွေ များစွာ ပါဝင်ကုန်၏။

၎င်းတို့ကား-

၁။ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မစိုးရိမ်တိုက် နာယက ဆရာတော်အရှင်သောမာဘိသီရိ။

၂။ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဥက္ကံသာဘိဝံသ (ဦးကြယ်) ရွှေဘုန်းရှိန်ကျောင်း ဒက္ခိဏာရာမတိုက် မန္တလေး။

၃။ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နာရဒ သာသနဇောတိကာရုံကျောင်း ဒက္ခိဏာရာမတိုက် မန္တလေး။

၄။ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒမဥ္ဇူ ချမ်းသာကြီးတိုက် အနောက်ပြင် မန္တလေး။

၅။ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နန္ဒိသေန မဟာနန္ဒိ သေနာရာမတိုက်၊ တောင်ပြင် မန္တလေး။
၆။ အရှင်ကုမ္ဘဒ္ဓေဘာသာ သောတာပန်ရွာ စစ်ကိုင်းမြို့၊

စသည်တို့ကား ဆရာတော် အရှင်နန္ဒိယ၏ ပညာရှိ တပည့်တို့ ဖြစ်ကုန်၏။

## အရှင်နန္ဒမဥ္ဇူ၏ အလင်္ကာရတ္ထမေဒနီ

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ချမ်းသာကြီး ဆရာတော် အရှင်နန္ဒ မဥ္ဇူသည် အလင်္ကာရတ္ထ မေဒနီကျမ်းကို ပြုစုရာ၌ ဖော်ပြပါ ကဗျာနန်းဆရာ တော် အရှင်နန္ဒိယ၏ နည်းနာနိဿယကိုသည်း မှီး၍ ပြုစုတော်မူခဲ့သည်။ ဆရာတော် အရှင်နန္ဒိယ၏ ပြယုဂ် ကဗျာလင်္ကာများကို ထည့်သွင်းဖော်ပြ၍ စီရင်တော်မူခဲ့လေသည်။ ယင်းသို့ဖြစ်ကြောင်း အလင်္ကာရတ္ထမေဒနီ ကျမ်းဦး၌ "ဂုရုမူလိကာ၊ ကျောက်ထီးတန္တု အလေးပြုအပ်သော ဆရာမြတ်လျှင် အကြောင်းရင်း ရှိသော။ ဝါ-ရွှေပြည်မန္တလာ ဒက္ခိဏာ၌ သညာမြည်ဟီး ဘုရားကြီးတိုက် သမိုက်နာမံ ကဗျာနန်းဓါ ဆရာတော်၏ ပြယုဂ်ကဗျာ ပါရှိ သော"ဟု ဖော်ပြပါရှိလေသည်[၁]။

## မြခြေကျင်း ဒေါ်ငွေမှိုင်က ဆွမ်းဝတ်တည်

ဆရာတော်သည် နာမည်ကျော် မြခြေကျင်းဒေါ်ငွေမှိုင်အား သာသနာ ရေးဘွဲ့၊ ဘာသာရေးဘွဲ့စသည့် သီချင်းကဗျာများကို ရေးသား ချီးမြှင့်တော် မူသည်။ သို့ဖြစ်၍ ဒေါ်ငွေမှိုင်က ဆရာတော်အား များစွာ သဒ္ဓါရှန်းစို ကြည်ညိုသဖြင့် ဆွမ်းဝတ်တည်၍ ဒါနပြုခဲ့လေသည်။

## ဘဝနတ်ထံပျံလွန်တော်မူမြင်း

ဆရာတော်သည် တကုတ်ကုတ် ပြုလုပ်ခဲ့သော စာပေ လုပ်ငန်းဒဏ်ရာ ဒဏ်ချက်ကြောင့် မည့ှာမထောက် စွဲကပ် ရောက်ရှိလာသော ဆီးရောဂါ ဝေဒနာ နှိပ်စက်ခြင်းကို ခံစားတော်မူရကား သက်တော် ၇၁-နှစ်ရှိရာ သက္ကရာဇ် ၁၂၉၇-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော် မူခဲ့လေသည်။ အလောင်းကို ဇာတိရပ်ရွာ ပင့်ဆောင် သင်္ဂြိုဟ်ကြကုန်၏။

---

၁။ အလင်္ကာရတ္ထ မေဒနီ။ ၃-နှာ

### သံဝေဂယူရန်

အာသီဝိသာ ကုပိတာ ဥဂ္ဂတေဇာ၊
ဍံသန္တိ မာရေန္တိပိ တေ မနုဿေ။
န မစ္စုနော ဥံသိတု မုဿဟန္တိ ၁။

ဥဂ္ဂတေဇာ၊ စွမ်းပကား ထက်မြက်သည့် အဆိပ်ဟူသော တန်ခိုးရှိကြကုန်သော။ အာသီဝိသာ၊ မြွေပွေး မြွေဟောက် ကြောက်စရာစားစား မြွေများတို့သည်။ ကုပိတာ၊ ဒေါသအမျက် ခြောင်းခြောင်းထွက်ကုန်သည်ဖြစ်၍။ မနုဿေ၊ လူတို့ကို။ ဍံသန္တိ၊ ကိုက်ထိုက်သူ မထိုက်သူပါ သတ်မမူ ဂရုမစိုက် ကိုက်ကြကုန်၏။ မာရေန္တိပိ၊ သနားကင်းလတ် သတ်လည်းသတ်ကြကုန်၏။ တေ၊ ထိုအဆိပ်ပြင်းစွာမြွေသတ္တဝါတို့သည်။ မစ္စုနော၊ သေမင်းကိုမူကား။ ဍံသိတုံ၊ ကိုက်သတ်ခြင်းငှာ။ နဥဿဟန္တိ၊ ကောင်မုချ မစွမ်းနိုင်ကြကုန်။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော်

### အရှင်ဇာဂရာဘိဝံသ

ဆရာတော် အရှင်ဇာဂရာဘိဝံသသည် သာသနာဝင် သာသနာ့သမိုင်းတွင် မမေ့ပျောက်စကောင်းသည့် ပရိယတ္တိသာသနာ့ဝန်ဆောင်၊ ပဋိပတ္တိသာသနာ့ဝန်ဆောင်ကောင်း ဆရာတော်တပါးဖြစ်သည်။

### ဖွားမြင်တော်မူခြင်း ရှင် ရဟန်းပြုခြင်း

မိတ္ထီလာမြို့နယ် ကလိန်ဒိုင်ရွာ၌ သက္ကရာဇ် ၁၂၂၉-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ ယယ်မည် မောင်ဒေါင်းစက်ဖြစ်သည်။ နံတော် အင်္ဂါသားဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်း ပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

---

၁။ ဇာ၊ ၁၊ ၃၅၆။ (အယောဃရဇာတ်)။



ဧကဒွိဏာရာမတိုက် စာချအကျော် ဆရာတော်အရှင်ရာဇာဂရာဘိဝံသ

## ပညာသင်ကြားတတ်မြောက် စာပေချပို့ခြင်း

ဒက္ခိဏာရာမတိုက်သို့ ငယ်စဉ်ကပင် ရောက်ရှိသီတင်းသုံးတော်မူ၍ ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် သံဃမဟာနာယကဆရာတော် အရှင်အာစာရာဘိဝံသနှင့် **စာချအကျော်** ဆရာတော်ဦးရန်ကုန် စသည်တို့ထံတွင် ပိဋကအခြေပြု ကျမ်းစာများနှင့် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းကြီးများကို သင်ယူတော်မူခဲ့လေသည်။ စာပေကျမ်းဂန် တတ်မြောက်ပြီးနောက် ရောက်ရှိလာသော **စာသင်သား** ရဟန်း သာမဏေတို့အား—

"စာပြောပုံ ခုနစ်နည်းကိုဖြင့်၊ သိပ်သည်းသေခွ၊ မှာခဲ့ပေအံ့၊
မှတ်လေနောက်သား၊ ကျမ်းစကားမှာ၊ ရှေးဖျားအတက်၊ မိန့်မြွက်
သံညွှင်း၊ လိုရင်းကိုကောက်၊ တို့နောက်မပျက်၊ ပုဒ်စိပ်ထွက်လော့၊
အချက်ကျကျ၊ ပိဏ္ဍတ္ထကို၊ အရကောက်ယူ၊ ပုဒ်ဟူသမျှ၊ စိပ်ဖွင့်ပြ၍၊
အဝယဝ၊ အတ္ထထွေပြား၊ အနက်များကို၊ ခွဲခြားဝေဖန်၊ တတန်
ဝိနိစ္ဆယ၊ ဆုံးဖြတ်ချထား၊ ယင်းစကားကို၊ မြဲမြံလိုမူ၊ ကျမ်းကိုရှုကာ၊
နည်းနာစုံလင်၊ ပုံပြင်ဝတ္ထု၊ ရှေးသုံးပြုသည့်၊ တခုခုကို၊ ကိုယ်၏သက်
သေ၊ဥပဒေသ၊ရှာဖွေပြသော့၊မပေါ့တံထွာ၊ဓမ္မတာတည့်၊ပညာရှိများ၊
ပြောကြားစဉ်လာ၊ ခုနစ်ဖြာကို၊ ယထာက္ကမ၊ နည်းလည်းကျအောင်၊
ပြောကြားသင်မှ၊ သဘာဝနှင့်၊ ဓမ္မအခြေ၊ ပေါ်လေသည်ချည်း၊
ထိုနည်းတူစွာ၊ အလင်္ကာဟု၊ မြန်မာမှုလည်း၊ သိပ်သည်းကျန၊ ပြော
သင်ကြသည်၊ စာချစာပြော၊ ဆရာ့သဘောတည်း။"

ဟူသည်နှင့်အညီ လိုရင်းကောက်၊ ပုဒ်စိပ်ထွက်၊ ပိဏ္ဍတ္ထကောက်ယူ၊ ပုဒ်ဟူသမျှ အစိပ်ဖွင့်ပြ ဝေဖန်ခြင်း အစရှိသော စာပြောပုံခုနစ်နည်းကို ပိုင်ပိုင်ကြီး ပြောဆိုချပို့တော်မူခဲ့လေသည်။

## ကျောင်းမဆံ့အောင် စာလိုက်တွေများလှ

ယင်းသို့ မန္တလေးနည်း သိပ်သည်းပိုင်နိုင်စွာ ပြောဆိုချပို့နိုင်သဖြင့် စာလိုက်သံဃာ ရဟန်း သာမဏေများစွာတို့ ဆရာတော်ထံ ရောက်ရှိချဉ်းကပ် စာပေလိုက်နာ သင်ယူကြရာ ကျောင်းမဆံ့အောင် များလှသည်။ ဆရာတော်ကား စိတ်ရှည်လက်ရှည် ကရုဏာစိရရှိ မေတ္တာစေတနာအပြည့်အဝဖြင့် စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။

## ပဋိပတ်ဘက် လှည့်တော်မူခြင်း

တိဏ္ဏံ အညတရံ ယာမံ၊
ပဋိဇဂ္ဂေယျ ပဏ္ဍိတော ၁။

ပဏ္ဍိတော၊ ပညာရှိသူ မှန်ငေ့မူကား။ တိဏ္ဏံ၊ အရွယ်သုံးပါးတို့တွင်။ အညတရံ ယာမံ၊ တပါးပါးသော အရွယ်၌။ ပဋိဇဂ္ဂေယျ၊ ဘာဝသမ္ပတ္တိ အစီးအပွားကို အားထုတ်သုတ်သင်ရာ၏။

ဟူသည်နှင့်အညီ ဆရာတော်သည် တတိယအရွယ်တွင်း ချင်းနှင်းစလောက်တွင် စစ်ကိုင်းတောင်ရိုး မင်္ဂလာစေတီချောင်တို့ တောဝင်တော်မူ၍ မိမိ သံသရာ နောင်ရေးအတွက် ဂန္ထဓုရကို စွန့်လွှတ်တော်မူပြီး ဝိပဿနာဓုရအလုပ် ကို အားထုတ်ကြိုးပမ်းတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ ဝိပဿနာဓုရ (ဝါသဓုရ)ဖြင့် မွေ့လျော်စဉ် ဘက်တော် ၇၀– ခန့်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။ ဆရာတော်သည် နောင်လာ နောက်သား ပရိယတ္တိဝန်ဆောင်ရဟန်းတို့ကို "ပရိယတ္တိအလုပ်ကိုလည်း ပြုလုပ် တော်မူကြပါ။ ပဋိပတ္တိအလုပ်ကိုလည်း မမေ့မလျော့ မဒေါ်မဆ ပြုလုပ်တော် မူကြပါ" ဟု ပြောဆိုညွှန်ကြားသည့်အလား စံပြပြုလုပ်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ပရိယတ် ပဋိပတ်၊ နှစ်ဝဓုရ၊ ကြိုးလုံ့လဖြင့်၊ နေ့ညရှင်ပျော်၊ ထေရ်တို့သော်လျှင်၊ အရှင်သေမင်း၊ သူ့လက်တွင်းသို့၊ သက်ဆင်း လျောကျ၊ ရောက်တုံရ၏၊ မုချမသွေ၊ စို့တတွေလည်း၊ သေဘေးဒုက္ခ၊ တွေ့ကြုံရမည်—

ခန္ဓာ အနိစ္စပါတကား။
ခန္ဓာ ဒုက္ခပါတကား။
ခန္ဓာ အနတ္တပါတကား။

---

၁။ ဓမ္မပဒ၊ ၃၇။

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်
## အရှင်ဥေယျာဘိဝံသ

ဆရာတော်သည် ဒက္ခိဏာရာမဘုရားကြီးတိုက် တိုက်သစ်ကျောင်း၌ သီတင်းသုံး၍ စာပေပို့ချခဲ့သော မဟာထေရ်မြတ် ဖြစ်တော်မူသည်။

ရမည်းသင်းခရိုင် ဝါးတီးမြို့တွင် သက္ကရာဇ် ၁၂၃၁-ခုနှစ် ပြာသိုလဆုတ် ၁-ရက် အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။ ၁၂၅၃-ခုနှစ် နယုန်လဆန်း ၁၃-ရက်နေ့ နံနက် ၉-နာရီတွင် "ဝိသုဒ္ဓသီလာစာရကဝိဓဇမဟာဓမ္မရာဇာ ဓိရာဇဂုရု" ဟူသော ပဌမတံဆိပ်တော်၊ "ဝိသုဒ္ဓသီလာစာရကဝိဓဇသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဒုတိယတံဆိပ်တော်၊ "ဝိသုဒ္ဓသီလာစာရ သိရီပဝရဓမ္မ သေနာပတိ မဟာသံဃရာဇာ" ဟူသော တတိယဘွဲ့တံဆိပ်တော် အားဖြင့် ဘွဲ့တံဆိပ်တော်သုံးထပ်ရ တောင်ခွင်သာသနာပိုင်ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ကာရကသုံးဆယ်တော် ၃၀-ကျော်နှင့်တကွ တောင်ခွင် မင်းကြီးတိုက် ခဏ္ဍသိမ်အပြင်၌ ရဟန်းဘာဝဒုလ္လဘကို ရရှိတော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက်ရောက်ခြင်း စာပေလေ့လာခြင်း

၁၂၅၄-ခုနှစ်တွင် ဒက္ခိဏာရာမဘုရားကြီးတိုက် နယားကျောင်းဆရာတော် ဦးဝိလာသထံတွင် သီတင်းသုံး၍ ဆရာတော် ဦးရန်ကုန်ထံ၌ သဒ္ဒါကြီး၊ ကျော်သ၊ သဒ္ဒတ္ထဘေဒစိန္တာ၊ သမ္ဗန္ဓစိန္တာ၊ သဒ္ဒဝုတ္တိကျမ်းများကို သင်ယူဆည်းပူးလေ့လာ တော်မူခဲ့သည်။ ဦးဇာဂရထံ၌မူ ဝိနည်းအဋ္ဌကထာအားလုံးကို သင်ယူခဲ့သည်။ ၁၂၆၀-၁၂၆၂-ခုနှစ်များတွင် မိုးတားသာသနာပိုင်ဆရာတော်ထံ၌ ဋီကာကျော်၊ မဏိမဉ္ဇူ၊ ကာခါအဋ္ဌကထာများကို သင်ယူ ဆည်းပူးတော်မူခဲ့သည်။ ၁၂၆၂-ခုနှစ်တွင် ပခန်းကြီးမြို့နယ် နေရင်းမင်းရွာ မဏိရတနာပုံကျောင်း တိုက်၌ ညဝါအကျော် ဆရာတော် ဦးပညာထံ၌ ယမိုက်၊ ပဋ္ဌာန်း-ညဝါကျမ်း များကို ဆိုဝါဖြင့် သင်ယူခဲ့သည်။

### ရန်ကုန် ဟင်္သာတမြို့တို့၌ စာပေပို့ချခြင်း

၁၂၆၉-ခုနှစ်များတွင် ရန်ကုန်မြို့ ပုဇွန်တောင် ဘုရားဖြူကျောင်းတိုက် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယကျောင်း၌ သီတင်းသုံး၍ စာပေပို့ချတော်မူခဲ့ သည်။ တဖန် ၁၂၇၇-ခုနှစ်မှစ၍ ဟင်္သာတခရိုင် စပါးစုရွာ တဲကြီးကုန်း ကျောင်း၌ ဆယ်နှစ်ကြာမျှ စာပေပို့ချတော်မူသည်။

## ဒက္ခိဏာရာမဥ္ စာချခြင်း လုပ်ဆောင်ချက်များ

ရှင်းနောက်ဘုရ်မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် တိုက်သစ်ကျောင်း၌ သီတင်းသုံး၍ စာလိုက်သံဃာများစွာတို့အား စာပေပို့ချတော်သည်။ ၁၂၈၆-ခုနှစ်မှစ၍ ပရိယတ္တိသာသနဟိတအသင်းကြီး၏ "ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)" ဘွဲ့ဖြင့် ချီးကျူးဂုဏ်ပြုခြင်း ဆွမ်းဆံတော်ဆောက်ပံ့လှူဒါန်းခြင်းကိုလည်း ခံယူရသည်။ သုဓမ္မာဝင်ဆရာတော်တာဝန်၊ နိုင်ငံတော်သြဝါဒါစရိယတာဝန်ကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။

ကျမ်းပြုစုမှု၌ ဝါသနာပါသည်ဖြစ်၍—

၁။ စိတ္တာနိဂ္ဂဟကျမ်း၊

၂။ ဗြဟ္မဝိဟာရကျမ်း—

စသော ကျမ်းငယ်များကိုလည်း ပြုစုတော်မူခဲ့သည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဖော်ပြပါ ဓမ္မာစရိယ ဂဏဝါစက ဂန္ထကာရကဂုဏ်တို့နှင့် ကုံလုံလောက်င ပြည့်ဝတော်မူသော ဒက္ခိဏာရာမသာသနာ့ဝန်ဆောင် သက်တော်ရှည် ဆရာတော်ဘုရားကြီး အရှင်ဥဇ္ဇောတာဘိဝံသသည် သက်တော် ၈၂-နှစ်ရှိရာ သက္ကရာဇ် ၁၃၂၅-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဒဟရာ စ မဟန္တာ စ၊ ယေ ဗာလာ ယေ စ ပဏ္ဍိတာ။
သဗ္ဗေ မစ္စုဝသံ ယန္တိ၊ သဗ္ဗေ မစ္စုပရာယဏာ [၁]။

ယေ ဒဟရာ စ၊ အကြင်အသက်အရွယ် နုနယ်ငယ်လျှသူတို့သည် လည်းကောင်း။ ယေ မဟန္တာ စ၊ အကြင် ဇရာထန်သည်း ကြီးရင့်အိုမင်းသူတို့သည်လည်းကောင်း။ ယေ ဗာလာ စ၊ အကြင် အသိပညာမကာပ် သူမိုက် သတ္တဝါတို့သည် လည်းကောင်း။ ယေ ပဏ္ဍိတာ စ၊ အကြင် ကဝိဇာဝိန် ပညာရှင် သုခမိန်တို့သည်လည်းကောင်း။ သန္တိ၊

---

၁။ သုတ္တနိပါဘ။ ၃၇၁-သလ္လသုတ်။

ပညာဘ်အနေ ထင်ရှားရှိကြပေကုန်၏။ သမ္ဗေ၊ ဖော်ပြခဲ့သော အလုံးစုံ ကုန်သော။ဟော၊ထိုယ်သူကြီးသူမိုက်သူ ပညာရှိသူတို့သည်။မစ္စုဝသံ၊ ယုဘ်မာခင်းစင်း သေမင်း၏အလိုနိုင်ငံသို့။ ယန္တိ၊ မလိုက်ချင်လဲ လွဲမရ ပါ လိုက်ပါကြရကုန်၏။ သဗ္ဗေ၊ သတ္တဝါအနန္တ ဟူသမျှ တို့သည်။ မစ္စုပရာယဏာ၊ သေမင်းလျှင် လည်းလျောင်းရာ ရှိကြကုန်၏။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

### အရှင်မဟာနာရဒ

ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ အရှင်မဟာနာရဒ အမည်ရှိသော ဂဏ ဝါစက စာချဆရာတော် တပါး ပေါ်ထွန်းခဲ့ဘူးသည်။ထိုစဉ်က အသက်သိက္ခာ ငယ်သော စာချဆရာတော်ဘပါး ဖြစ်သော သာသန ဇောတိကာ၏ ဆရာတော် အရှင်နာရဒ [၁] ကို ထောက်၍ အရှင်မဟာနာရဒဟု တွင်သည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

မိတ္ထီလာမြို့နယ်၌ ၁၂၁၅-ခု ပတ်ဝန်းကျင်တွင် ဖွားမြင်တော်မူခဲ့လေ သည်။ နံဘော် စနေသားဖြစ်သည်၊ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

### စာပေသင်ကြား တတ်မြောက်ခြင်း စာပေချပို့ခြင်း

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိကာ ဒက္ခိဏာရာမတိုက် စတုတ္ထ မြောက် သံဃမဟာနာယက အရှင်အာစာရာဘိဝံသနှင့် ဆရာတော် ဦးရင်ကုန် တို့ထံ နေ့ဝါ ညဝါ ကျမ်းစာများကို သင်ကြားတတ်မြောက်တော်မူခဲ့လေ

---

၁။ ဒက္ခိဏာရာမတိုက် စာချ အကျော် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်နာရဒ မဟာထေရ် ကြည့်။

သည်။ စာပေတတ်မြောက်ပြီးနောက် ရောက်ရှိလာသော စာသင်သား ရဟန်း သာမဏေတို့အား ကုမ်းစာမျိုးစုံ ချပို့၍ ပရိယတ္တိ သာသနာကို ချီးမြှောက်တော်မူခဲ့လေသည်။

## တောထွက် ပဋိပတ်ကျင့်

ဒက္ခိဏာရာမတိုက်၌ နှစ်ပေါင်းများစွာ ဂန္ထဓုရ အလုပ်ဖြင့် သာသနာတော်ကို ချီးမြှောက်တော်မူပြီး အသက်အရွယ် ထောက်လာရာအခါတွင် တရားသံဝေဂရသဖြင့် လယ်တွင်းပျက်ခရိုင် တောတောင်ဝင်၍ ပဋိပတ် အလုပ်ကို ကြိုးကုတ်တော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ ရွှေသွားနောက်လိုက် သိုက်မြိုက်မလို ကြံချိုပုံမှီး တယောက်ထီးတည်း တရားအားထုတ်စဉ် အဖျားရောဂါဖြင့် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

မအိုပါရန်၊ အာမခံ၊ ကောန်မရှိပြီ။
မနာပါရန်၊ အာမခံ၊ ကောန်မရှိပြီ။
မသေပါရန်၊ အာမခံ၊ ကောန်မရှိပြီ။
မိမိပုံစု၊ အကုသိုလ်ကံ၊ ကျိုးမသန်အောင်၊ ကြံဆောင်ပြုမူ၊ စွမ်းနိုင်သူ၊ ဘယ်သူမရှိပြီ။

---

ဒက္ခိဏာရာမဘုရားကြီးတိုက် စာချအကျော်
အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ
ဆရာတော် အရှင်နာရဒ မဟာထေရ်

ဆရာတော် အရှင်နာရဒ မဟာထေရ်သည် အလွန်လျှော် ကျော်စောကိတ္တိရှိသည့် စ ချကောင်း၊ စာချမှန်သော ဆရာတော် ဖြစ်တော်မူသည်။



ဒက္ခိဏာရာမတိုက် စာချအကျော် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်အရှင်နာရဒး

## ဖွားမြင်တော်မူခြင်း

မန္တလေးမြို့ အရှေ့ပြင် နန်းတော် အရှေ့ဘက် ရတနာနဒီမြစ်အနီး မင်္ဂလာ ဥယျာဉ်ရပ်၌ အဖ မြန်မာသမားတော်ကြီး ဦးအောင်သာ-အမိ ဆရာကတော် ဒေါ်ပို[1] တို့မှ သက္ကရာဇ် ၁၂၅၀-ပြည့်နှစ် ပဌမ ဝါဆိုလပြည့်ကျော် ၁-ရက် စနေနေ့တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။ ဆရာတော်ကား သားဦး ရတနာဖြစ်သည်။ ငယ်မည် မောင်ဘိုးသန့် ဖြစ်သည်။ "သားဦးစနေ မီးလိုမွှေ" ဟူသည့် လောကီ ဆိုရိုးစကားနှင့်အညီ စနေသား သားဦးပိုင်ရှင် မိဘတို့ ဒုက္ခ တွေ့တတ်သည်ဟူ၍ လောကလူသား တချို့တို့ ယုံကြည်ကြသည်။

ဆရာတော်လောင်းလျာ ဖွားမြင်ပြီး မကြာမီ ဆရာတော်လောင်းလျာ၏ မိဘတို့ ကွဲကွာကြသည်။ ဆရာတော်လောင်းလျာ၏ ဖခင် သမားတော်ကြီး ဦးအောင်သာသည် မန္တလေးမြို့၌ မနေတော့ဘဲ အင်းစိန်ခရိုင် ဥက္ကံမြို့သို့ သွား ရောက်ပြီး အိမ်ထောင်အသစ်ထူလျက် နေထိုင်ခဲ့လေသည်။

## မန္တလေးမြို့တောင်ပြင်၌ အေးချမ်းစွာနေထိုင်ခြင်း

ဆရာတော်လောင်းလျာ၏ မိခင်ကြီး ဒေါ်ပိုကား တခုလပ် တလင်ကွာ ဖြစ်ရရှာ၏၊ အားကိုးရာမဲ့ခဲ့လေပြီ။ သို့ဖြစ်၍ အဂ္ဂမဟာပဏ္ဍိတ စာချအကျော် လောင်းလျာ လူမမယ် ဖတဆိုးသားကလေးနှင့် အတူ ဆွေမျိုး မိတ်သင်္ဂဟ များရှိရာ မန္တလေးမြို့တောင်ပြင် မဟာမြတ်မုနိဘုရားကြီး အနီး ရွှေဘုန်းရှိန် ရပ်သို့ ပြောင်းရွှေ့နေထိုင်ခဲ့လေသည်။ မိခင်ကြီး ဒေါ်ပိုကား အိုးသစ် အိမ် သစ် မထူတော့ဘဲ အေးချမ်းစွာ နေထိုင်ခဲ့လေသည်၊ အကယ်၍ အိုးသစ် အိမ်သစ် ထူခဲ့လျှင် ဆရာတော်လောင်းလျာ လူလားမြောက်လျှင် ဘယ် လောက် အခြေခက်မည်နည်း။ ဆရာတော်လောင်းလျာ၏ မြင့်မားထက်မြက် သော ဘုန်းကံပါရမီက တားမြစ်ခြင်းကြောင့် ဖြင့်တန်ရာသည်။

## ဒေါ်ရှင်က ငင်ငင်မင်မင် ယုယုယယပြုစုခြင်း

မိခင်ကြီး ဒေါ်ပိုသည် ဥယျာဉ်ချုပ်းသို့ မည်းမခေါင် ကြီးပြင်းအောင် မောင်ဘိုးသန့်ကို နို့ချိုတိုက်ကျွေး မွေးပြုခဲ့လေရာ မိုးဦးပေါက်သစ် မျှစ်စို့

---

၁။ ဒေါ်အို ဟုလည်းခေါ်သည်။ ဒေါ်အုံးမေ ဟုလည်း အမည်ရှိသည်။ ဆရာ တော်ကိုယ်တိုင် ရေး အတ္ထုပ္ပတ္တိကျမ်း၌ ဒေါ်ပိုဖြစ်သည်။

အလား ထွားထွားကျိုင်းကျိုင်း ဖြူဖြူဝဝ ရှိလေပြီ။ သို့ဖြစ်ရာ ဆရာတော် လောင်းလျာကို မြင်သူတိုင်း လိုလိုပင် ခင်မင်ကြသည်။ အထူးသဖြင့် "ပုဗ္ဗေဝ သန္နိဝါသေန ပစ္စုပ္ပန္နဟိတေနဝါ" စသည်နှင့်အညီ အိမ်နီးချင်း ဖြစ်သော ဒေါ်မှင်အမည်ရှိသော အဒေါ်ကြီးကား အများတကာထက်ပို၍ မောင်ဘိုး သန့်ကို ခင်မင်ခဲ့လေသည်၊ ယင်းသို့ခင်မင်သဖြင့် ဒေါ်ပုံရှိလျက်နှင့်ပင် သား အမှတ်ဖြင့် တောင်းယူမွေးမြူလေတော့သည်။

တခါတရံတွင် မိခင်ရင်း ဒေါ်ပုံထက်ပင် မွေးစားမိခင် ဒေါ်ရှင်က သာလွန်စွာ ယုယပိုက်ထွေး ကျွေးမွေးသုတ်သင်ခဲ့လေသည်၊ နီးကပ်သော ဘဝက မိခင်ဖြစ်ကောင်းဖြစ်ခဲ့ဟန် တူပါသည်။

## ရွှေဇလုံ (ရွှေခွက်)ဖြင့် ထမင်းစားခြင်း

ဆရာတော်လောင်းလျာသူငယ် မောင်ဘိုးသန့်သည် ရုတ်တရက် စိတ်ကူး ပေါက်လာပြီး "ရွှေဇလုံ (ရွှေခွက်)ဖြင့် ထမင်းစားချင်သည်" ဟု ပူဆာလေ တော့သည်။ ထိုအခါ မိခင်ကြီးဒေါ်ပုံမှာ စိတ်မရှည်သဖြင့် သားငယ်အား မာန်မဲလေတော့သည်၊ ယင်းသို့ မာန်မဲသော်လည်း အလျှော့မပေးပဲ ပူဆာမြဲ ပူဆာလေသည်၊ မိခင်ကြီး ဒေါ်ပုံကလည်း မာန်မဲ ကြိမ်းမောင်းမြဲ ကြိမ်း မောင်းလေ၏။

ထိုအခါ ဒေါ်ရှင်က "မပုံ ဒီလိုမလုပ်ပါနဲ့၊ မမာန်ပါနဲ့၊ ကလေး စိတ် ဆင်းရဲအောင် မလုပ်ပါနဲ့၊ ငါ့သားအလိုရှိသည့်အတိုင်း ရွှေဇလုံ(ရွှေခွက်)ကို ကျွန်မလုပ်ပေးပါ့မယ်"ဆိုပြီး သားငယ်ကိုယည်း "သားသားမငိုနဲ့၊ သားငယ် လိုချင်တဲ့ ရွှေဇလုံ(ရွှေခွက်) ချက်ချင်း လုပ်ပေးမယ်၊ သားငယ် ဆန္ဒအတိုင်း ရွှေဇလုံ(ရွှေခွက်)နဲ့ ထမင်းစားရပါလိမ့်မယ်" ဟု ချော့မော့ ပြောဆိုပြီး ချက်ချင်းပင် ငှက်ပျောစေးရှာ၍ ဇလုံမှာသုတ်၍ ရွှေချပြီးလျှင် ပေးလေ သည်။ သားငယ်အား ရွှေဇလုံ(ရွှေခွက်)ဖြင့် နေ့စဉ်ထမင်း ကျွေးလေသည်၊ နောက်တွင် အမြဲတမ်း ရွှေဇလုံ(ရွှေခွက်)ဖြင့် ထမင်းစားနိုင်ရန် ဇလုံနှစ်ချပ်၊ သုံးချပ် သစ်စေးသားရိုးကိုင်လျက် ရွှေချစေပြီး အိမ်မှာ အမြဲထားလေသည်၊ မောင်ဘိုးသန့်ကား ရွှေဇလုံ(ရွှေခွက်) အလဲအလှယ်ဖြင့် ထမင်းစားရလေ သည်။

သုဝဏ္ဏဘာဇနေနေဝ၊ ဒါရကော ပရိဘုဉ္စသာ။
သုမေဓော ပုညဝါသော ဟိ၊ ထေနကိုရော သုဇာတိမာ။

ရွှေကျောင်းပေါ် ရွှေကုလားထိုင်ဖြင့် စာချပည့်အတိတ်နိမိတ်

ယင်းသို့ငယ်စဉ်က ရွှေဇလုံ (ရွှေခွက်)ဖြင့် ထမင်းစားလိုခြင်းကား သက်တော်ကြီး၍ လူလားမြောက်၍ ရဟန်းဖြစ်ပြီး ရွှေရောင်တောက် နေသော ကျောင်းပေါ် သီတင်းသုံးပြီး ရွှေကုလားထိုင် ထိုင်လျက် စာပေပရိယတ်ကို ချပို့မည့်နိမိတ်ကောင်းပင် ဖြစ်လေတော့သည်။

ဘုန်းကြီးလုပ်၍ ကစားခြင်း

မောင်ဘိုးသန့်သည် ငယ်စဉ်က အခြားကလေးများနှင့် ကစားသည်၊ အခြားသူငယ်များက ပွဲစား၊ ကုန်သည်လုပ်၍ ကစားသည်၊ တချို့ကလေးများက စစ်သား စစ်ဗိုလ်လုပ်၍ ကစားသည်။ ဆရာတော် လောင်းလျာကား ဘုန်းကြီး လုပ်၍ကစားသည်၊ ဤသည်ကား ကြီးလျှင် ရဟန်းပြု၍ သာသနာ့ဝန် အားသွန်ကြိုးပမ်းထမ်းရွက်မည် လက္ခဏာဖြစ်သည်။

ကျောင်းနေပညာသင်ကြားခြင်း

မိခင်ရင်း ဒေါ်ပုံနှင့် မွေးစားမိခင် ဒေါ်ရှင်တို့၏ ယုယပိုက်ထွေး မွေးမြူမှုကြောင့် ဘေးမပြု ရန်မသန်း ချမ်းသာစွာ ကြီးပြင်းလာခဲ့သော မောင်ဘိုးသန့်သည် သက်တော် ခုနစ်နှစ်သားအရွယ်တွင် မိခင်နှစ်ဦး တိုင်ပင်ကြကာ ဒက္ခိဏာရာမဘုရားကြီးတိုက် အပြင်ထပ် ပင်းသာကျောင်း ဆရာတော်ဦးတေဇထံ အပ်နှံ၍ ပညာသင်ကြားစေကြကုန်၏၊ ဆရာတော်လောင်းလျာ မောင်ဘိုးသန့်သည် ဆရာတော် ဦးတေဇထံတွင် ပရိတ်ကြီး၊ နမက္ကာရ၊ လောကနီတိ အစရှိသော ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။

သာမဏေဝတ် သာသနာ့ဝန်ထမ်းဆောင်ခြင်း

သက်တော် ဆယ်နှစ်သား အရွယ်တွင် မောင်ဘိုးသန့်သည် မွေးသမိခင် ကျေးဇူးရှင် ဒေါ်ပုံက သာမဏေတို့၏ အသုံးအဆောင် ပရိက္ခရာ စုံလင်စွာဖြင့် သာသနာ့ဘောင်သို့ သွတ်သွင်းချီးမြှင့်ခဲ့လေသည်၊ ထဖန်သမားတော်ဖခင်ကြီး

ဦးအောင်သာသည်လည်း မိခင်က ရှင်ပြုကြောင်းကြား၍ အောက်ရပ်ဌာနီ ဥက္ကံမြို့မှ မန္တလေးသို့လာ၍ သားငယ်ကို မူလနေခဲ့သာ မန္တလေးမြို့အရှေ့ပြင် မင်္ဂလာဥယျာဉ်ရပ်၌ ကြီးကျယ်ခမ်းနားစွာ ထပ်မံရှင်ပြုခဲ့လေသည်။ ဆရာတော် လောင်းလျာသည် မိခင် ဖခင်တို့၏ နှစ်ကြိမ် ချီးမြှောက်အပ်သော ပဗ္ဗဇ္ဇာနုဂ္ဂဟဖြင့် သာသနာ့ဘောင်ရောက် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်၊ သာမဏေဘွဲ့တော် ''ရှင်နာရဒ'' ဖြစ်လေသည်။

တနေ့တွင် အရှေ့ပြင်သို့ ဆွမ်းကျွေးဆွမ်းကပ် ပင့်လျှောက်သဖြင့် ကြွလေရာ အပြန်တွင် မိမိရှင်ပြုရာ ခြံသို့ ကြွရောက်ကြည့်ရှုတော်မူပြီး ဤနေရာကား မဏ္ဍပ်ဆောက်သောနေရာ၊ ဤနေရာကား ချက်ကြသည့်နေရာ၊ ဤနေရာကား ပွဲခံသောနေရာ စသည်ဖြင့် ရှေးဖြစ်ဟောင်း အောက်မေ့ဖွယ်တို့ကိုမိန့်ကြားတော်မူခဲ့ဘူးလေသည်။

## ဒုတိယပင်းသာဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဦးခန္တိမေ့

ဆရာတော် ဦးခန္တိမေ့သည် ဆရာတော် ဦးတေဇ ပျံလွန်တော်မူသဖြင့် ပင်းသာကျောင်းကို ဆက်လက်ဆက်ခံရသဖြင့် ဒုတိယ ပင်းသာဆရာတော်ဟု ထင်ရှားသည်၊ နောက်တွင် ပင်းသာဆရာတော် ဟုပင် ထင်ရှားသည်၊ ၁၃၀၆-ခုနှစ်မှစ၍ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ သတ္တမမြောက် သံဃနာယကဘာဝန်ကို သက်ဆုံးတိုင် ဆောင်ရွက်တော်မူခဲ့လေသည်၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူခဲ့လေသည်၊ ၁၃၀၉-ခုနှစ်တွင် ပျံလွန်တော်မူသည် [၁]။

## ပင်းသာဆရာတော် အရှင်ခန္တိမေ့ထံ ပညာသင်ကြားခြင်း

ဆရာတော်လောင်းလျာ ရှင်နာရဒသည် ဖော်ပြပါ အဂ္ဂမဟာပဏ္ဍိတ ပင်းသာဆရာတော်ထံတွင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဋီကာကျော်၊ ကစ္စာယနဝိဘာဝနီ အဋ္ဌကထာ စသည့်ပိဋကတ်အခြေခံကျမ်းစာများနှင့် ပိဋကပါဠိတော်၊ အဋ္ဌကထာကြီးများအထိ သင်ယူတော်မူခဲ့လေသည်။ ရှင်နာရဒသည် သာမဏေဘဝမှာပင် ပိဋကတ်စာပေ၌ ကျွမ်းကျင်သည့် ပုဂ္ဂိုလ်ဖြစ်ခဲ့လေသည်။

---

၁။ ဒက္ခိဏာရာမတိုက် သံဃနာယက အဂ္ဂမဟာပဏ္ဍိတ ပင်းသာဆရာတော် အရှင်ခန္တိမေ့-ကြည့်။

## စိတ်မဝေခွဲနိုင်ချိန်

အဂ္ဂမဟာပဏ္ဍိတ၊ ဂဏဝါစက စာချအကျော် လောင်းလျာ ရှင်နာရဒ သည် သက်တော် ၁၉-နှစ်လွန်မြောက်၍ ၂၀အတွင်းသို့ ချဉ်းနင်းဝင်ရောက် ခဲ့လေပြီ။ လူ့ဘောင်ပြန်သွားရကောင်းမည်လော၊ သို့မဟုတ် ရဟန်းပြုရ ကောင်းမည်လောဟု သိုလော သိုလေ ဖြစ်နေသည်။ စိတ်မဝေခွဲနိုင်ဖြစ်သည်။ ပခက်ယေဉ်အလား စိတ်ခေတ်နှစ်ဘက်သွားလျက် ရှိနေ၏။

## ရဟန်းအဖြစ်သို့ ရောက်တော်မူခြင်း

ယင်းပခက်ယေဉ်အလား စိတ်ခေတ်နှစ်ဘက်သွား၍ နေသော သာမဏေ ရှင်နာရဒကို ဆရာတော် ဦးခန္တီမွေက ဆွမ်းကျွေးရှိ၍ သံဃာပင့်ရန် ဘုရား ကြီးတိုက်အတွင်းထပ်သို့ စေလွှတ်လိုက်လေ၏၊ ရှင်နာရဒသည် တကျောင်းဆင်း တကျောင်းတက်လျက် ဦးခန္တီမွေ့အမိန့်အတိုင်း ဆွမ်းစားပင့်ရသည်။ ယင်းသို့ ပင့်ယင်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်အတွင်းထပ် အနောက်ဘက်တန်း အုပ် တိုက်ကျောင်းကြီးသို့ ရောက်သွားလသည်။ ထိုကျောင်းကား သကျသီဟဆန် ထောက်ရ စာချအကျော် ဆရာတော် ဦးဇာဂရကြီး သီတင်းသုံးရာကျောင်း ဖြစ်လေသည်။

ဆရာတော်ကြီး ရှေ့မှောက်ရောက်၍ ဆွမ်းစားပင့်လျှောက်သောအခါ ဆရာတော်ကြီးက ''ကိုရင် မင်းဘယ်သူလဲ''ဟု မေးမြန်းတော်မူရာ ''ဆရာတော် ဘုရား....တပည့်တော်ကား ပင်းသာဆရာတော်၏တပည့် ရှင်နာရဒ ဖြစ်ပါ ကြောင်းပါဘုရား''ဟု လျှောက်ထားလေ၏။ ထိုအခါ ဆရာတော် ဦးဇာဂရကြီးက ''ကိုရင် မင်းအသက် ဘယ်လောက်ရှိပြီလဲ''ဟု မေးတော်မူ မူပြန်ရာ ''ဆရာတော် တပည့်တော်အသက် ၂၀-ထဲရောက်ပါပြီ၊ ရဟန်းခံ နိုင်တဲ့အရွယ်ရောက်ပါပြီ''ဟု လျှောက်ထားလေရာ၊ ဆရာတော်က ဆက်လက်၍ ''မင်းရဟန်းဒါယကာနဲ့ပြီလား''ဟု မေးမြန်းလေ၏၊ ထိုအခါ ရှင်နာရဒက ''ဆရာတော်ဘုရား ရဟန်းဒါယကာ မရှိသေးပါကြောင်း၊ သို့ရွာတွင် မိခင်ကြီး က ရဟန်းခံမည်ဖြစ်ကြောင်း'' လျှောက်ထားလေသည်။

နောက် မျှားမကြာမီ ပင်းသာဆရာတော် ဦးခန္တီမွေက ရှင်နာရဒ အား ဆွမ်းကျွေးရှိ၍ ဆွမ်းစားလိုက်ခဲ့ရန် အမိန့်ရှိရာ ရှင်နာရဒသည် အရှင် ခန္တီမွေ၏ နောက်တော်ပါးမှ ဖဝါးမကွာ လိုက်ပါခဲ့လေသည်။ အမှန်မှာ ထိုဆွမ်းစားကား အရှင်နာရဒ၏ ရဟန်းခံဆွမ်းစားပင် ဖြစ်လေသည်။

ဆရာတော် ဦးခန္တိမမွသည် ဆရာတော် ဦးဇာဂရကြီးနှင့် လူကြီးချင်း တိုင်ပင်ညီညွတ်၍ ဆရာတော် ဦးဇာဂရကြီး၏ ကျောင်းဒါယကာ ကျောင်း ဒါယိကာမများဖြစ်ကြသော ရှမ်းပွဲရပ် ပွဲစားကြီး ဦးသဲ-ပွဲကတော် ဒေါ်လှိုင် နှင့် သမီးများဖြစ်ကြသော ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့ကို ရဟန်းဒါယကာ ရဟန်းဒါယိကာမများအဖြစ် ခံယူစေ၍ရှင်နာရဒ၏ရဟန်းခံပွဲကို ရှင်နာရဒအား ကြိုတင်အသိမပေးပဲ ရဟန်းခံမည့်နေ့တွင်မှ ဆွမ်းစားသွားမည့်အဟန်ဖြင့် ရဟန်း ခံပေးလိုက်ခြင်းဖြစ်လေသည်။ လူထွက်ရခကောင်းမည်လော၊ ရဟန်းပြုရကောင်း မည်လောဟု ယောင်ပုခက်အလား စိတ်ခေတ်နှစ်ဘက် သွားနေမှန်း သိသဖြင့် ဆရာတော် ဦးခန္တိမမွနှင့် ဆရာတော် ဦးဇာဂရကြီးတို့ တိုင်ပင်၍ ပိရိစွာ စီစဉ်လိုက်ခြင်းဖြစ်လေသည်။

ဤသို့လျှင် ကျေးဇူးရှင် ဆရာသခင်တို့၏ လိမ္မာပါးနပ်စွာ စီစဉ်မှုဖြင့် စာချ အကျော် ဆရာတော်လောင်းလျာ ရှင်နာရဒသည် သက္ကရာဇ် ၁၂၆၉ ခုနှစ် နတ်တော်လဆန်း ၁၁-ရက် တနင်္ဂနွေနေ့တွင် ပွဲစားကြီး ဦးသဲ-ပွဲကတော် ဒေါ်လှိုင်၊ သမီး ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပု-တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ဒက္ခိဏာ ရာမတိုက် စတုတ္ထမြောက် သံဃမဟာနာယက ဂဏာပါမောက္ခဆရာတော်ဘုရား ကြီး အရှင်အာစာရ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ဒက္ခိဏာရာမ ဘုရားကြီး တိုက် ခဏ္ဍသိမ်တော်၌ လောကိယသမ္ပဒါတို့ထက် လွန်ကျူးထူးမြတ်သော ရဟန်းဘဝ ဒုလ္လဘကို ရတော်မူခဲ့လေသည်။

ဥပဇ္ဈာယံ ကရိတွာန၊ အာစာရံ သွာစာရံ ဝိဒုံ။
ဒုလ္လဘံ အလဘိ ဓိရော၊ ဒုလ္လဘေ ဗုဒ္ဓသာသနေ။

### ဆက်လက်၍ ပညာသင်ကြားတော်မူခြင်း

ဆရာတော် လောင်းလျာ ရဟန်းတော် အရှင်နာရဒသည် ဆရာရင်း ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ပင်းသာဆရာတော် ဦးခန္တိမမွအထံ၌ ဝိနည်းငါးကျမ်း ပါဠိတော် အဋ္ဌကထာ၊ မမ္ဘသင်္ဂဏီပါဠိတော် အဋ္ဌကထာများကို စာဆိုသူအဖြစ် သင်ယူတော်မူခဲ့လေသည်။ ရဟန်းတော် အရှင်နာရဒသည် ရဟန်းငယ် ပဉ္စင်းငယ် ဘဝကပင်လျှင် ဝိနည်းလည်း နိုင်သူ ဖြစ်ခဲ့လေသည်။ အဘိဓမ္မာလည်း ပိုင်သူဖြစ်ခဲ့လေသည်။

## ညောင်ကန်တိုက် စာချအကျော် ဆရာတော် ဦးဣန္ဒာဝုဓ

ဆရာတော် ဦးဣန္ဒာဝုဓသည် ညောင်ကန်တိုက်၌ သီတင်းသုံး၍ စာချပို့တော်မူသည့် စာချအကျော် ဆရာတော်ဖြစ်တော်မူသည်။ စာဝါမရွေး နိုင်နင်းသည့် ဂဏဝါစက စာချအရင့်သမား ပုဂ္ဂိုလ်ဖြစ်တော်မူသည်။ တောင်တွင်းကြီးမြို့နယ် ထန်းပင်ကုန်းရွာ ဇာတိဖြစ်သည်။ သက်တော် ၆၇-နှစ်ရှိရာ ၁၃၀၆-ခုနှစ်တွင် ပျံလွန်တော်မူသည် [၁]။

## ဦးဣန္ဒာဝုဓထံ ဆိုဝါဖြင့် သင်ယူခြင်း

ရဟန်းတော် အရှင်နာရဒသည် ဖော်ပြပါ ညောင်ကန်တိုက် ဂဏဝါစက စာချအကျော် ဆရာတော် ဦးဣန္ဒာဝုဓထံ၌လည်း သမ္မောဟဝိနောဒနီ အဋ္ဌကထာနှင့် မူလဋီကာကျမ်းကြီးတို့ကို ဝါဆိုဖြင့် သင်ယူတော်မူခဲ့လေသည်။ အရှင်နာဒရသည် စာလိုက်သံဃာတော် ၃၀၀-ကျော် ၄၀၀-ခန့်အလယ်တွင် ကြည်လင်ပြတ်သားသော အသံဖြင့် ကြောက်ရွံ့ခြင်းကင်း ရဲတင်းနိုင်နင်းစွာ စာဆိုခဲ့လေသည်။ ထိုစဉ်က ''စာလိုက်သံဃာများစွာတို့က အလွန်စာတော်သည့်ပုဂ္ဂိုလ်ပဲ၊ နောင်တခေတ် ယခုစာချနေတော်မူသော ဆရာတော်လို စာချကောင်းဖြစ်လိမ့်မည်''ဟု ချီးကျူးစကား မြွက်ကြားကြသည်။

အဟော ဗျတ္တော နာရဒေါ ဟိ၊ ဂန္ထေသု ကောဝိဒေါ ဝိဒ္ဒါ။
အာဂါမိကာလေ ထေရော၊ ဝါစကော ဟိ ဘဝိဿတိ။
ဣတိ ဥဂ္ဃောသယီ သံဃော၊ တုဋ္ဌဟဋ္ဌော အနေကဓာ။

## အခြားပညာကျော်ပုဂ္ဂိုလ်များထံ သင်ယူခဲ့ခြင်း

ရဟန်းတော် အရှင်နာရဒသည် နောင်တခေတ်တွင် တစ်ခေါ် စလောက်ကျော်ပေါက်ပြသည့် ဂဏဝါစကစာချကောင်းလုပ်ရန် ရည်ရွယ်သူဖြစ်သဖြင့် ပိဋကတ်ဆိုင်ရာ နေ့ဝါ ညဝါကျမ်းစာများကို—

၁။ ဘုရားကြီးတိုက် စတုတ္ထဆရာတော် ဦးအာစာရ၊
၂။ စာချအကျော် ဆရာတော် ဦးရန်ကုန်၊

---

၁။ အကျယ် ညောင်ကန်သာသနာဝင်၊ ဆရာတော် အရှင်ဣန္ဒာဝုဓ-ကြည့်။

၃။ စာချအကျော် ဆရာတော် ဦးဇာဂရကြီး၊
၄။ မိုးတား သာသနာပိုင် ဆရာတော် ဦးသုဇာတ၊
၅။ ရွှေရေးဆောင် ဆရာတော် ဦးကြယ်ခေါ် အရှင်အာဒိစ္စရံသီ-

အစရှိသော စာချအကျော် ဆရာတော်များ၏ အထံ၌လည်း မဟာသာဟ ဇွဲလုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

ရဟန်း ၅-ဝါအတွင်း ပိဋကတ် ၃-ပုံ တတ်မြောက်ခြင်း

ယင်းသို့ဖြင့် ကျမ်းဂန်တတ်သိ ပညာရှိ ဂဏဝါစကစာချဆရာတော်တို့အထံ ပိဋကတ်ကို သင်ယူခဲ့လေရာ အရှင်နာရဒသည် ရဟန်း သိက္ခာ ငါးဝါအတွင်း ပိဋကတ် အခြေခံ ကျမ်းစာများနှင့်တကွ ဝိနည်းငါးကျမ်း ပါဠိတော် အဋ္ဌကထာ ဋီကာ၊ သုတ် သုံးကျမ်း ပါဠိတော် အဋ္ဌကထာ ဋီကာ၊ အဘိဓမ္မာ ခုနစ်ကျမ်း ပါဠိတော် အဋ္ဌကထာ ဋီကာတို့ကို သင်ယူ လေ့လာကြည့်ရှု တတ်မြောက်တော်မူခဲ့လေသည်။

ပဉ္စဝဿန္တရေယေဝ၊ နာရဒေါ ဝါစကော သုဓီ။
ပါရဂါမီ ပေဋကဿ၊ ဒက္ခော ဗဟုဿုတော ဟိ သော။

ကဗျာလင်္ကာကို လေ့လာတော်မူခြင်း

ရဟန်းတော်အရှင်နာရဒသည် ကဗျာလင်္ကာ အရေးအသားလည်း ဝါသနာ ပါသည်။သို့ဖြစ်၍ ကဗျာလင်္ကာ ရေးသားစပ်ဆိုမှု၌ ကျော်စောကိတ္တိ ရှိတော်မူ သော ကဗျာနန်းခေါ် ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော် ဦးနန္ဒိယ အထံ၌ ကဗျာလင်္ကာ စပ်ဆို ရေးသားနည်း ကို လေ့လာတော်မူလေသည်။

ရဟန်းတော် အရှင်နာရဒကား—

သာဘာဝိကီစ ပဋိဘာ၊ သုတဉ္စ ဗဟုနိမ္မလံ။
အမန္ဒော စာဘိယောဂေါယံ၊ ဟေတု ဟောတိဟ ဗန္ဓနေ။

ဟူသည်နှင့်အညီ—

(၁) သန္ဓေပါ ဉာဏ်ပညာရှိခြင်း၊
(၂) အညစ်အကြေး ကင်းသော ဗဟုသုတနှင့် ပြည့်စုံခြင်း၊
(၃) မဆုတ်မနစ် အားသစ်ကြိုးပမ်းခြင်း—

ဟူသော အကြောင်းခြင်းရာ သုံးပါးနှင့် ပြည့်စုံသူဖြစ်ရကား ကဗျာလင်္ကာ စပ်ဆို ရေးသားမှု၌လည်း ကျွမ်းကျင် တတ်မြောက်တော်မူလေသည်။

## စာပေကျမ်းဂန် စတင်ပို့ချခြင်း

သာသနာ့နတော်၌ စာချ ပုဂ္ဂိုလ် အကျော်အမော် ဖြစ်ရန် မလွယ်ကူချေ၊ အသက်ကြီးမှ စာချလျှင်လည်း စာချအရာ မကျော်စောနိုင်တော့ချေ။ စာ မကြည့် ပေမကြည့် ဖြစ်ကတတ်ဆန်း ဆွဲချရုံဖြင့်လည်း စာချ ပုဂ္ဂိုလ်ကောင်း မဖြစ်နိုင်ပါချေ။ ငယ်ငယ်ရွယ်ရွယ်က စာပေချပို့မှ အလေ့အကျင့် များများ ရပြီး စာချကောင်းဖြစ်နိုင်သည်။ ဆိုင်ရာပါဠိတော် အဋ္ဌကထာ၊ သဒ္ဒါဆိုင်ရာ၊ ဝါကျဆိုင်ရာ၊ အဘိဓာန်ဆိုင်ရာ၊ အရကောက်ဆိုင်ရာ၊ နိယံဆိုင်ရာ ကျမ်း များစွာကိုလည်း ကြိုးကြိုးပမ်းပမ်း ကြည့်ရှုနိုင်ပါမှ စာချကောင်းဖြစ်နိုင်သည်။

ရဟန်းတော် အရှင်နာရဒကား ရဟန်းသိက္ခာ လေးဝါကစ၍ ဆရာရင်း ပင်းသာဆရာတော် ဦးခန္တိဓမ္မ၏ အမိန့်အရ စာချပို့လှာရာ ထေရ်ကြီး ဖြစ်သောအခါ စာပေချပို့မှု၌ အလေ့အကျင့် ရချင်တိုင်း ရနေ၍ ထိပ်တန်း စာချကောင်း ဖြစ်တော်မူခဲ့လေသည်။ ၎င်းပြင် မပျင်းမရိ သဒ္ဒါဆိုင်ရာ၊ ဝါကျဆိုင်ရာ၊ အဘိဓာန်ဆိုင်ရာ၊ အရကောက်ဆိုင်ရာ-စသည့် ကျမ်းဂန်ဟူသမျှ ၌ ထာဝစဉ် ချထားအပ်သော မျက်သုံးအစုံရှိလေရာ တခေတ်တယောက် တစ်ခေါ်လောက်သည့် ဂဏဝါစက စာချကောင်းအဖြစ်သို့ ကေန်မဖောက် ရောက်တော်မူခဲ့လေသည်။ စာချစကမူ စာလည်း-ချလိုက်သေးသည်။ သင် ယူမြဲ ဆိုမြဲ စာဝါကိုလည်း အပျက်အကွက်မရှိ သင်ယူတော်မူခဲ့သည်။ ဆိုတော် မူခဲ့သည်။ ယင်းသို့ စာချ၊ စာဆို နှစ်ရပ်လုံးကို ပြုလုပ်တော်မူခဲ့သည်မှာ ရဟန်း သိက္ခာ ငါးဝါရသည်အထိ ဖြစ်၏။

## စာချအလုပ် စောက်ချလုပ်ပြီ

ရဟန်းသိက္ခာ ငါးဝါ ရရှိပြီးသည့်နောက်တွင်ကား စာလိုက် စာဆိုခြင်း မပြုတော့ပဲ စာပေကျမ်းဂန် အရပ်ရပ်တို့ကို ကဲပိုသော ဆန္ဒ-စိတ္တ-ဝီရိယ-ဝီမံသ ဖြင့် တကျမ်းပြီး တကျမ်း ဆက်တိုက် ချပို့တော်မူခဲ့လေသည်။ စာချရာ၌လည်း အဘိဓာန်၊ သဒ္ဒါ၊ အလင်္ကာ၊ တောဒည်း၊ နည်းနယမျိုးစုံကို ပြောကြား တော်မူ၍ ပုဒ်နေ-ပုဒ်ထား-ပုဒ်သွား-ပုဒ်လာ-ပုဒ်မှာ-ပုဒ်ထပ်-အရပ်ရပ်ကို ရှင်း လင်း သုတ်သင်တော်မူ၍လည်းကောင်း၊ နေတ္တိနည်း၊ ဉာသ်နည်း၊ တက်နည်း၊

ထွက်နည်း–စသည်မကျန် နည်းအတန်တန်ကို မကျန်ရအောင် ပြောကြားတော်မူ၍လည်းကောင်း ချပို့တော်မူခဲ့လေသည်။

သို့ဖြစ်၍ ဆရာတော် အရှင်နာရဒထံ စာတက်ဘူးသော ဉာဏ်ကောင်း ဝီရိယရှိသူ တပည့်မှန်လျှင် ကျမ်းဂန်ဇာတ် စာချကောင်း ပုဂ္ဂိုလ်ချည်းဖြစ်လေသည်။

## နာမည်ကျော် စာချဖြစ်ပြီ

ယင်းသို့ နေ့ညမလစ် အားသစ်ကြိုးပမ်း၍ စာပေကျမ်းဂန် အတန်တန်ကို ချပို့တော်မူခဲ့ရာ ရဟန်းသိက္ခာ ဆယ်ဝါ အရလောက်မှစ၍ နာမည်ကျော် စာချ ဂဏာပါစကအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။ ထိုစဉ်က စာပေချပို့မှု အရာတွင် လွန်စွာ ကျော်စောတော်မူသည့် စာချဆရာတော် အများအပြားပင် စာပေချပို့တော်မူလျက်ရှိကြရာ ထိုအကြားမှ ထင်ရှားသော စာချဖြစ်ရန် မလွယ်ကူပါချေ။ အရှင်နာရဒကား ယင်း မလွယ်ကူသည့် အရာကို ကောင်းစွာလှလှ ရရှိခဲ့လေပြီ။

## သာသနံဇောတိကာရုံ တိုက်ကျောင်းကြီး အလှူခံရပြီ

ဆရာတော်အရှင်နာရဒကား ပင်းသာကျောင်းပေါ်မှာ စာချတော်မူသည်၊ စာလိုက်သံဃာတွေကား တနေ့တခြား များလာသည်။ ပင်းသာကျောင်းပေါ်မှာ သံဃာတွေ မဆံ့တော့ချေ။ သို့ဖြစ်၍ တချို့ စာလိုက်သံဃာတော်များ မြေကြီးပေါ်မှာ ရေသနုတ်ခင်း စာလိုက်ရသည်။ တနေ့တွင် ရဟန်း ဒါယကာကြီး ဦးသဲနှင့် သမီးများ ဖြစ်ကြသော ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့ မိမိတို့ ဦးပဉ္စင်း စာပေချပို့သည်ကို လာရောက်ကြည်ညိုကြရာ စာလိုက်သံဃာတွေ မြေကြီးမှာ စာလိုက်ကြရသည်ကို တွေ့မြင်သဖြင့် စာလိုက်သံဃာများစွာတို့ကို ဖူးမြင်ရ၍ သဒ္ဓါဇောဝင် ကြည်လင်ကြသည်။ သို့ရာတွင် မြေပေါ်တွင်ထိုင်၍ ဆင်းဆင်းရဲရဲ စာလိုက်ရသည်ကို မြင်ရခြင်းအတွက် စိတ်စက်မရွှင်ပျနိုင်ကြချေ။

သို့ဖြစ်၍ ဖခင်နှင့် သမီး သုံးဦးတို့ အိမ်ပြန်ရောက်သည်တွင် ကြည်နူးလှသော သဒ္ဓါတရားဖြင့် ကျောင်းဆောက် လှူဒါန်းရန် တိုင်ပင်ကြပြီး ပင်းသာဆရာတော်ထံ လာရောက်၍ မိမိတို့ ဦးပဉ္စင်းအား ကျောင်းဆောက်တင်လှူလိုပါကြောင်း လျှောက်ထားလေရာ ပင်းသာဆရာတော်က ပင်းသာကျောင်း၏

အရှေ့တောင်ယွန်းယွန်း နေရာကို ညွှန်ကြားတော်မူသည်။ ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့သည် ပင်းသားဆရာတော် ညွှန်ကြားသည့် နေရာမှာပင် နှစ်ခန်း သုံးခန်းရှိ ဆင်ဝင်အလွတ်၊ ငါးခန်း လေးခန်းရှိ ခန့်ညားထည်ဝါလှသော နှစ်ထပ်ဘိုက် အုတ်ကျောင်းတော်ကြီးကို ဆောက်လုပ်၍ ၁၂၈၃-ခုနှစ်တွင် ရဟန်းတော် အရှင်နာရဒအား ရေစက်သွန်းချ တင်လှူကြလေသည်။ ကျောင်း တော်ကြီး၏ နာမည်ကိုလည်း ဘုရားဇိနေ၁် သာသနာတော်ကို ထွန်းလင်း စေမည့် ပဝတ္တိနိမိတ်ကို အစွဲပြု၍ ''သာသနဇောတိကာရုံ အုတ်ကျောင်း''ဟူ ကမ္ပည်းတပ်လေသည်။

## ဆရာတော်ကျိန်းစက်သည့်ခုတင် ပျားစွဲခြင်း

သာသနဇောတိကာရုံ ကျောင်းတော်ကြီးကို အလှူခံပြီး မကြာမီ ဆရာ တော် ကျိန်းစက်ရာခုတင်တွင် ပျားစွဲနေသည်။ ယင်းပျားစွဲသည့်အကြောင်းကို ကြားသိကြရသော ကျောင်းအမကြီး ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့သည် ဆရာ တော်အတွက် များစွာ စိုးရိမ်မကင်းဖြစ်ကြသဖြင့် မန္တလေးမြို့ ဗေဒင်အကျော် ပုဏ္ဏားတော်ပညာရှိ ဦးကဝိထံ သွားရောက်မေးမြန်းကြကုန်၏။

ထိုအခါ ဦးကဝိက တွက်ချက်ပြီးလျှင် ''ဆရာတော် ကျိန်းစက်ရာခုတင် တွင် ပျားစွဲသောနိမိတ်သည် ကောင်းသောနိမိတ်ဖြစ်ကြောင်း၊ ပျားစွဲရာခုတင် ၌ ကျိန်းစက်သောပုဂ္ဂိုလ်ထံ ပျားပန်းခတ်မျှ စာသင်သားသံဃာတို့ လာရောက် ဆည်းကပ်ကြမည့် အတိတ်နိမိတ်ဖြစ်ကြောင်း၊ ဤဆရာတော်ကား ဘုရား မြတ်စွာ သာသနာတော်၌ အလွန်လျှင် ကျော်စောထင်ရှားသည့် ပုဂ္ဂိုလ်ဖြစ် မည့်အကြောင်း'' များကို ဟောလိုက်ရာ ကျောင်းအမကြီး ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့ လွန်စွာမှ စိတ်သက်သာရ ကြကုန်၏။ စိတ်ချမ်းသာကြကုန်၏။

ဆရာကြီး ဦးကဝိ၏ ဟောကိန်းမှာ မှန်လှပေ၏၊ ဆရာတော်ထံ တပည့် တပန်း ရဟန်းသာမဏေများစွာတို့ တပည့်ခံ စာပေသင်ယူကြကုန်၏။ ဆရာ တော်ထံ စာဆိုစာလိုက်ခဲ့သည့် တပည့်တပန်းရဟန်းသာမဏေတို့ကို အဘယ်သူ ဂဏန်းချ၍ မှန်းဆပိုင်ပိုင် ရေတွက်နိုင်ပါအံ့နည်း။

## ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (မူလစာချ)

ဖော်ပြပါ ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့၏ သာသနာပြုကောင်းမှု သာသန ဇောတိကာရုံ တိုက်ကျောင်းသစ်ပေါ် ပြောင်းရွှေ့ သီတင်းသုံးစာချ၍ တနှစ် ခန့်ရှိသောအခါတွင် ပရိယတ္တိသာသနဟိတ အသင်းကြီး၏ ''ပရိယတ္တိသာသန

ဟိတ ဓမ္မာစရိယ (မူလစာချ)” အဖြစ်ဖြင့် ကိုးကွယ်ဆည်းကပ် ထောက်ပံ့ လှူဒါန်းခြင်းကို ခံယူတော်မူရလေသည်။

**စာတတ်၊ စာကုန်၊ စာပြော ၃-ပါး**

“စာတတ်ငါးခုန်၊ စာကုန်မန်ကျည်းတော၊ စာပြောသဲအင်း” ဟူ၍ သာသနာတော်၌ ဆိုရိုးရှိသည်။

၁။ ခုဒ္ဒကပါဌ်ဋီကာပါဌ်၊ ကာရိကာ နိဿယသစ်-စသော ကျမ်းပေါင်းများစွာတို့ကို ပြုစီရင်တော်မူခဲ့သော “အာဒိစ္စဝံသာဘိဓဇ မဟာဓမ္မရာဇဂုရု” ဘွဲ့တံဆိပ်တော်ရ ပဌမငါးခုန်ဆရာတော်ဘုရားကြီးထား စာပေကျမ်းဂန် တတ်မြောက်လှသူဟု သာသနာတော်တွင် အလွန်လျှင် ကျော်စောသည်။

၂။ “သိရိဂုဏာဘိလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု” ဘွဲ့တံဆိပ်တော်ရမန်ကျည်းတောဆရာတော်အရှင်သာသနဇောတကား ပိဋကသုံးပုံ ပါဠိတော် အဋ္ဌကထာ ဋီကာတို့ကို တကျမ်းပြီးတကျမ်း လှည့်လည်၍ အထပ်ထပ် အခေါက်ခေါက် ချပို့ကြည့်ရှု မပြတ် ပရိစယပြုသဖြင့် မကြည့်ဘူးသည့် စာပေမရှိသလောက်အောင် ကျမ်းဂန်နှံ့စပ်သဖြင့် “စာကုန်မန်ကျည်းတော”ဟု ဥဒါန်းတွင်ခဲ့လေသည်။

၃။ “သူရိယဝံသာဘိ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု” ဘွဲ့တံဆိပ်တော်ရ သဲအင်းသာသနာပိုင်ဆရာတော်ဘုရားကြီး အရှင်သူရိယကား ပုဒ်စစ်၊ ပါဌ်စစ်၊ ဝါကျခွဲ၊ ဉာသ်ကောက်၊နေတ္တိကောက်၊ စုဒ်စောဒနာ၊သံဝဏ္ဏနာအာဘော်မှစ၍ စာပြောကောင်းလှသဖြင့် “စာပြောသဲအင်း”ဟူ၍ စကာပုံဆင်းသက် ကျော်စောခဲ့လေသည်။

ဆရာတော် အရှင်နာရဒ၏ စာပြောနည်းသည်လည်း ဒက္ခိဏာရာမဘုရားကြီးတိုက် စာချအကျော်အမော်တို့ အစဉ်အဆက် လက်စွဲပြုခဲ့သည့် သဲအင်းစာပြောနည်းပင် ဖြစ်လေသည်။

ဝါစိတံ သဲအင်းသေရေန၊ ဝါစနာမဂ္ဂ မုတ္တမံ။
ဝါစယီ ထေရသေဋ္ဌောပိ၊ နာရဒေါ နရပုဂ်ဝေါ။

## လက်စွဲကျမ်းစာများ

မည်သည့် စာချဂဏဝါစကပုဂ္ဂိုလ်များအား မဆို ထာဝရလက်စွဲပြုသည့် ကျမ်းများ အသီးသီး ရှိကြသည်။

၁။ အချို့က သဒ္ဒနီတိ၊ အဘိဓာန် စသည်ကို လက်စွဲပြု၏။

၂။ အချို့က သဒ္ဒ ကြီး၊ ရူပသိဒ္ဓိ၊ မောဂ္ဂလ္လာန် စသည်ကို နှုတ်ငုံ ဆောင်၍ ချပို့၏။

၃။ အချို့က ခါတွတ္ထသင်္ဂြိုဟ်၊ ဘေဒစိန္တာ၊ ကစ္စာယနသာရ စသည်ကို လက်စွဲပြု၍ ချပို့၏။

၄။ အချို့က ရွှေရေးဆောင်နိယံ စသည် အာဂုံဆောင်ပြီး ဝါကျ အကြောင်း ကရားရေလွှတ် တတွတ်တွတ်ပြော၏။

၅။ ဆရာတော် အရှင်နာရဒကား (၁) ပါစိတျာဒိ ယောဇနာ၊ (၂) ဆရာတော် ဦးသုဘဗုဒ္ဓိ၏ ပါရာဇိကဏ်ဂဏ္ဌိသစ်၊ (၃) မောင်းထောင်ဆရာတော် အရှင်ဝဿဝဏ္ဏ၏ သမ္မန္တစိန္တာဂဏ္ဌိသစ်၊ (၄) ဘုရားကြီးနိယံ၊ (၅)ဆရာတော် ဦးရန်ကုန်နိယံ။

စသည်တို့ကို လက်စွဲပြု၍ စာသင်သားတို့ ပီတိပွားအောင် စာပေချပို့တော် မူခဲ့လေသည်။

## ပြည်တွင်းပြည်ပ ဆရာတော်များ လာရောက်ကြည်ညို

ဆရာတော်ကား စာချကောင်းရှိသာမက စာချလည်းမှန်သဖြင့် စာလိုက် ရဟန်းသာမဏေတို့ လွန်စွာ နှစ်မြို့ကြသည်၊ မန္တလေးမြို့ လေးပြင် လေးရပ် နှင့် အနီးအနားမြို့ရွာများမှလည်း လာရောက်လိုက်နာသင်ယူကြရာ စာလိုက် သံဃာတွေ သာသနဇောတိကာရုံ တိုက်ကြီးနှင့် မဆံ့ချေ၊ တချို့ စာသင် သားများ လှေကားမှာ နေရာရကြသည်၊ ဆဋ္ဌသံဂါယနာခေတ်က မြန်မာပြည် ရောက်ရှိလာကြသော သီဟိုဠ်၊ ယိုးဒယားနိုင်ငံစသည်တို့မှ ပဏ္ဍိတ်တွဲချပညာရှိ ရဟန်းသံဃာတော် များစွာတို့ပင် ဆရာတော် စာချစဉ် ကြွရောက်ကြည်ညို ကြည့်ရှုလေ့လာကြသည်။

## ပရိတ်ရွတ် ဆွမ်းစဉ်မလိုက် စာပေစူးစိုက်ချပို့

ဆရာတော်၏သဒ္ဓါ၊စေတနာ၊ ဝီရိယကား အံ့ဩလောက်သည်။ ပရိတ်ရွတ်၊ ဆွမ်းစဉ်မလိုက်ပဲ စာဝါကို စူးစူးစိုက်စိုက် ချပို့တော်မူသည်။ မလိုက်ပြန်တော့လည်း တချို့ဒကာ ဒကာမတွေက ဆွမ်းသီးခြား ပို့လှူကြသည်။ အလှူဝတ္ထု လှူရန်များပို့လှူကြသည်၊ ဆရာတော်ကား ပစ္စည်းဝတ္ထုများကိုလည်း များများမထား၊ လှူဒါန်းတော်မူသည်၊ ဆရာတော်ကား အောင်မြင်သည့် ထိပ်တန်းစာချပုဂ္ဂိုလ်ကျော် ဖြစ်တော်မူသည်။

## ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခြင်း

ဆရာတော်ကား ကျမ်းစာချပို့မှု၌သာ ထူးချွန်သည် မဟုတ်သေး၊ ကျမ်းစာရေးသားမှု၌လည်း ထူးချွန်သူ ဖြစ်သဖြင့် စာပေကျမ်းဂန်များစွာ တို့ကိုလည်း ပြုစီရင်တော်မူခဲ့လေသည်။

ရင်းတို့မှာ-

၁။ ဓာတုကထာမပါဠိကျမ်း၊
၂။ ဓာတုကထာမနိဿယကျမ်း၊
၃။ ဝိဂ္ဂဟာနယကျမ်း၊
၄။ အလင်္ကာအရကောက်ကျမ်း၊
၅။ နေတ္တိအရကောက်ကျမ်း၊
၆။ တက်နည်းထွက်နည်းနိဿယည်းကျမ်း၊
၇။ နာမဂ္ဂဏ္ဍဒီပနီကျမ်း၊
၈။ ကထိနဝိနိစ္ဆယကျမ်း၊

စသည်တို့ဖြစ်ကုန်၏။

## ဓာတုကထာမပါဠိနှင့် ဓာတုကထာမနိဿယကျမ်း

ဖော်ပြပါကျမ်းများအနက် ဓာတုကထာမပါဠိနိဿယကျမ်းမှာ ဓာတ်နက်ကို ဥဒါဟရဏ်တို့နှင့် တန်ဆာဆင်၍ ပါဠိမြန်မာပြန် နိဿယဖြင့် ရေးသားစီရင် တော်မူခဲ့လေသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဒက္ခိဏာရာမ ဘုရားကြီးတိုက် အတွင်း သီတင်းသုံးတော်မူကြကုန်သော စာချကျောင်းထိုင်ဆရာတော် ၆၀ ကျော်တို့သည် မဟာမြတ်မုနိ ဘုရားကြီးနှင့် ဒက္ခိဏာရာမ သံဃာရာမ်ဗိမာန် တော်ကြီးကို အသက်ပေး ကာကွယ်စောင့်ရှောက်၍ မတိမ်းမရှောင်ပဲ သီတင်း

သုံးတော်မူကြကုန်၏။ ဆရာတော်အရှင်နာရဒသည်လည်း ဗိုးကြား၊ စက်သေနတ်ကြားမှာပင် စာပေကျမ်းဂန်ချဉ်းကပ်ထိုယင်း ကြွေမပျက် သီတင်းသုံးတော်မူခဲ့လေသည်။ ယင်းသို့ သီတင်းသုံးတော်မူယင်း ဤမည်သော ဓာတုကထာမပါဠိနိဿယကို ရေးသား စီရင်တော်မူခဲ့လေသည်။

ကျမ်းဦး၌-

သကလဓာတုဉေယျကံ၊ ဥဒ္ဒေသ ဒေသကံ ဗုဒ္ဓံ။
နမဿိတွာန သာဒရံ၊ ကဿံ ဓာတုကထာ မဟံ။

ဟူသော ဂါထာဖြင့် ပဏာမ ပဋိညာဉ်ပြု၍ ဓာတုကထာမပါဠိကျမ်းကို စီရင်တော်မူခဲ့လေသည်။

ကျမ်း၏အဆုံး၌လည်း-

နာနာရတန သံပုဏ္ဏေ၊ ရတနာပုဉ္ဇ နာမကေ။
သာစုနိဝါသနေ ဂါမေ၊ ရွှေဘုန်းရှိန် ဣတိ အဝှယေ။

အစရှိသော ငါးဂါထာဖြင့် ပြည့်စုံစွာ သမိုင်းကြောင်း ဖော်ပြ၍ နိဂုံးအုပ်တော်မူခဲ့လေသည်။

ဓာတုကထာမနိဿယကျမ်းကိုလည်း ဖော်ပြပါ ဓာတုကထာမပါဠိလာ ပဏာမ ပဋိညာဉ် ဂါထာကို-

အဟံ၊ ရုပ်နာမ် နှစ်ဝ သမူဟကို ဂါဟစွဲကာ ငါဟုခေါ်ဆို ကိုယ်ဟု သမုတ် အကျွန်ုပ်သည်။ သကလဓာတုဉေယျကံ၊ ခပ်သိမ်းဉဿုံ အလုံးစုံသောဓာတ်ဟူသမျှကို တစမကျန် ထိုးထွင်းဉာဏ်ဖြင့် ဟုတ်မှန်စွာ သိတော်မူတတ်ထသော။ ဝါ၊ ပထဝီစသော မဟာဘူတဓာတ်၊ အာကာသဓာတ်၊ ဝိညာဏဓာတ်၊ ဝါတပိတ္တကဖဟူသော သရီရသာဓာရဏဓာတ်၊ မိသမေဒစသောသရီရဓာတ်၊ ကညရဇဥပဓာတ်၊ ရွှေငွေ ကြေးနီစသောဝိနိဇဓာတ်၊ သံကြေးဝါခဲပြာ-စသောပဓာနဓာတ်၊ မုတ္တမဏိစသော ရတနာဓာတ်၊ စက္ခုစသော ပရမတ္ထဓာတ်၊ ဘူကရစသော ဗျာကရဏဓာတ် ဤသို့အစရှိသော များစွာစုံပုံ ဓာတ်မျိုးစုံကို အကုန်အစင် သိမြင်တော်မူဘတ် ထသော။ ဝါ၊ သက်မဲ့ သက်ရှိကြွင်းမရှိသော ဓာတ်မျိုးစုံကို အကုန်အစင် သိမြင်တော်မူတတ်

ခြင်းကြောင့်သကလခာတုဥဿယျက အမည်တော်ရထသော။ ဥဒ္ဒေသ ဒေကကံ အကျဥ်းအားဖြင့်လည်း ဟောတော်မူတတ်သော။ ဝါ၊ ဝေနေယျအားလျော်စွာ အကျဥ်းဖြစ်သော ဒေသနာကို ဟောကြား တော်မူတတ်သော။ ဝါ၊ ဥဒ္ဒေသထား၍ ဟောကြားတော် မူတတ် သော။ဗုဒ္ဓ၊ သိအပ်သော ဥေယျဓမ္မ ဟူသမျှကို အကုန်အစင် သိမြင် တော်မူသော မြတ်စွာဘုရားကို။ ဝါ၊ သဗ္ဗညုတဉာဏ်ရှိတော်မူသော မြတ်စွာဘုရားကို။ ဝါ၊ မောဟ တည်းဟူသော အိပ်ပျော်ခြင်းမှ နိုး တော်မူတတ်သော မြတ်စွာဘုရားကို။ သာဒရံ၊ ရိုသေလေးမြတ်စွာ။ ဝါ၊ အရိုအသေပြု၍။ ဝါ၊ ရိုသေမြတ်နိုးခြင်းရှိသည်ဖြစ်၍။နမဿိတွာန၊ နမာမိ၊ကာယဝစီ မနောချီ၍ သုံးလီဒွါရ ပဏာမဖြင့် ကြည်ဆွသဒ္ဓါရှိခိုး ပါ၏။ နမဿိတွာန၊ ကာယဝစီ မနောချီ၍ သုံးလီဒွါရ ပဏာမဖြင့် ကြည်ဆွသွတ်နူးရှိခိုးဦး၍။ ဓာတုက္ကမံ၊ ဓာတုက္ကမကို။ ဝါ၊ ဓာတ်အစဉ် ကို။ ဝါ၊ အကာရာဒိ ကကာရာဒိစသည်ဖြင့် ဘူဝါဒိဂဏ်က-စသော ဓာတ်အစဉ် ရှိသော ကျမ်းကို။ ဝါ၊ ဓာတ်အစဉ်ကို ပြတတ်သော ကြောင့် ဓာတုက္ကမ အမည်ရှိသော ကျမ်းကို။ကဿံ၊ သာသနာတော် အကျိုး ရှယ်ကိုးပြီးကာ ရေးသားပါအံ့။

ဟူ၍ အနက် ယောဇနာတော်မူပြီး ဆက်လက်ရေးသား စီရင်တော်မူခဲ့ လေသည်။ ဓာတုက္ကမပါဠိနှင့် ဓာတုက္ကမနိဿယကို ဒုတိယကမ္ဘာစစ် ပြီးစက နှစ်အုပ်တွဲ တပေါင်းတည်း ရိုက်နှိပ်ခဲ့ရာ၊ ဓာတုက္ကမပါဠိမှာ ရှိုင်ဆိုက် ၁၄- မျက်နှာရှိ၍ ဓာတုက္ကမနိဿယမှာ ရှိုင်ဆိုက် ၁၇၃-မျက်နှာ ရှိလေသည်။

## ဝိဂ္ဂဟနယကျမ်း

ဆရာတော်သည် ပဒဝိဂ္ဂဟအရာ၌ ပရိယတ္တိ သာသနာတော်ကို ထမ်းရွက် တော်မူကြသော စာသင် စာချတို့ အလက်ာအရ ကောက်ကျမ်း၊ နေတ္တိအရ ကောက်ကျမ် တို့နှင့် တပေါင်းတည်းနည်းနာနယရစိမ့်သော ဌာ ဉာဉ်ကောက်၊ အာဘော်၊ သံဝဏ္ဏနာ စသည့် နည်းမျိုးစုံတို့ဖြင့် တန်ဆာဆင်တော်မူ၍ ''ဝိဂ္ဂဟနယကျမ်း'' ကိုလည်း စီရင်တော်မူခဲ့လေသည်။

ယင်းဝိဂ္ဂဟနယကျမ်းကို ၁၃၁၂-ခုနှစ်က ဆရာတော်၏ တပည့်ကြီးတပါး ဖြစ်တော်မူသော ရှမ်းပြည် ညောင်ရွှေမြို့နယ် သာလေးတောင်ကျောင်း အင်းတိန်ဂိုဏ်းထောက်ဆရာတော် အရှင်နေမိန္ဒာဘိဝံသ၏ ကိုးပမ်းချက်အရ ပဌမအကြိမ် စာအုပ်အဖြစ် ရိုက်နှိပ်ထုတ်ဝေ မွေဒါန ပြုတော်မူခဲ့လေသည်၊

နောင်တွင်လည်း အကြိမ်ကြိမ် ရိုက်နှိပ်ထုတ်ဝေခဲ့ရာ သာသနာတွင် များစွာ ထင်ရှားသည့် ကျမ်းစာကောင်းတကျမ်းအဖြစ် တည်ရှိလေသည်။

ကျမ်းဦးဂါထာကား-

ဝိသုဒ္ဓဂုဏာဂေဟာဏံ၊ ဝန္ဒိတွာ ရတနတ္တယံ။
လိခိဿံ ဝိဂ္ဂဟာနယံ၊ သောတုဇနာန မတ္ထကံ။

ဖြစ်သည်။ ယင်းဝိဂ္ဂဟာနယကျမ်းသည် ရှိုင်ဆိုက် စာမျက်နှာ ၁၄၈-မျက်နှာ ရှိသည်။

## အလင်္ကာအရကောက်ကျမ်း

စာချ၊ စာသင်၊ စာပွဲဝင်တို့ အလင်္ကာနည်းကို ကိုင်တွယ် လေ့လာရာ၌ ရဲရဲတင်းတင်း နိုင်နင်း တတ်မြောက်စေခြင်းအကျိုးငှာ အလင်္ကာအရကောက် ကျမ်းကိုလည်း စီရင်ရေးသားတော်မူခဲ့လေသည်။

ဆရာတော်သည် ယင်း အလင်္ကာအရကောက်ကျမ်းဦး၌—

ကရိတွာ ဗုဒ္ဓတ္တကရေ၊ ဝေဒယိ ဝိမုတ္တိရသံ။
ဝန္ဒိယ ဝိမုတ္တိဒံ၊ ကဿံ အလင်္ကာရနယံ။

ယောဗုဒ္ဓေါ၊ အကြင်မြတ်စွာဘုရားသည်။ ဗုဒ္ဓတ္တကရေ၊ ဘုရား အဖြစ်ကို ပြုတတ်ကုန်သော။ ဓမ္မေ၊ ပါရမီဆယ်ပါး အပြားသုံးဆယ် စွန့်ခြင်းကြီးငါးပါး စရိယသုံးပါး စသည်တို့ကို။ ကရိတွာ၊ ပြုကျင့် တော်မူပြီး၍။ ဝါ၊ ပြုကျင့်တော်မူသောကြောင့်။ ဝိမုတ္တိရသံ၊ အရ ဟတ္တဖိုလ်တည်းဟူသော ဝိမုတ္တိရသကို။ ဝေဒယိ - ပဋိသံဝေဒယိ၊ ခံစားသုံးဆောင်တော်မူပြီ။ ဝိမုတ္တိဒံ၊ အရဟတ္တဖိုလ် တည်း ဟူသော ဝိမုတ္တိရသကို ပေးတော်မူတတ်သော။ တံဗုဒ္ဓံ၊ ထိုမြတ်စွာ ဘုရားကို။ ဝန္ဒိယ-ဝန္ဒာမိ၊ ရိုသေစွာရှိခိုးပါ၏။ ဝန္ဒိသ၊ ရှိခိုးပြီး၍။ အလင်္ကာရနယံ၊ အလင်္ကာအရကောက်နည်းကို။ အဟံ၊ ငါသည်။ ကဿံ၊ ရေးသားပေအံ့။

ဟူသော တဂါထာပါဌ် နိဿယဖြင့် ပဏာမ၊ ပဋိညာဉ် ပြုတော်မူခဲ့လေသည်။ ယင်း အလင်္ကာ အရကောက်ကျမ်းမှာ ရှိုင်ဆိုက် စာမျက်နှာ ၅၈-မျက်နှာ ရှိလေသည်။

## နေတ္တိအရကောက်ကျမ်း

ဆရာတော်သည် နေတ္တိအရကောက်ကျမ်းကိုလည်း ဆက်လက်၍ ရေးသား စီရင်တော်မူခဲ့လေသည်။ ကျမ်းဦး၌ "နမော ကရောမိ ဗုဒ္ဓဿ" ဟူ၍ တိုတို ကျဉ်းကျဉ်း ဘုရားရှိခိုး၍ ကျမ်းစာကို စီရင်တော်မူခဲ့လေသည်။

ကျမ်းစာအဆုံး၌—

"ရှေးရှေး၌ ထင်ပေါ်ကျော်ကြားသော ဆရာတော်ဘုရားကြီးတို့ သည် စီရင်တော်မူကြသော နေတ္တိဟာရတ္ထ အရကောက် တို့သည် အကယ်၍ကား ရှိပါကုန်ငြားသော်လည်း အချို့ကား ကျယ်လွန်း သဖြင့် အချို့ကား ကျဉ်းလွန်းသဖြင့် နေတ္တိကောက်နည်းကို လိုလား တောင့်တကြသော အမျိုးကောင်းသားတို့၏ ဉာဏ်ကျက်စားရာ မရကြ ကုန်၍ လျှောက်ထား တောင်းပန်ကြခြင်းကို အရင်းမူသဖြင့် နေတ္တိပါဠိ တော်နှင့် ၎င်းအဋ္ဌကထာ ဋီကာများကိုလည်းကောင်း၊ နေတ္တိဟာရတ္ထ များကိုလည်းကောင်း၊ မှီငြမ်းပြု၍ မကျဉ်းမကျယ် ရေးသားစီရင်အပ် သော နေတ္တိဟာရ ပုံစံပြ ကောက်နည်းအား ဤတွင်ပြီးပြီ"

ဟူ၍ ဖော်ပြခဲ့လေသည်။ ၎င်း နေတ္တိအရကောက် ကျမ်းမှာလည်း ရှိုင်ဆိုက် စာမျက်နှာ ၄၂-မျက်နှာရှိသည်။

## ကျမ်းသုံးကျမ်း နိဂုံးကေပိုဒ် လင်္ကာဖြင့် နိဂုံးအုပ်

ဖော်ပြပါဝိဂ္ဂဟနယ၊ အလင်္ကာအရကောက်၊ နေတ္တိအရကောက်-ဟူသော ကျမ်း သုံးကျမ်းကို တအုပ်တည်း စီရင်တော်မူ၍ အောက်ပါ ကေပိုဒ် လင်္ကာ ဖြင့် ပြည့်စုံစွာ နိဂုံးအုပ်တော်မူခဲ့လေသည်။

## နိဂုံး ကေပိုဒ် လင်္ကာ

ဇယတု။ ။အောင်ကြောင်းမင်္ဂလာ၊ အောင်စေရာတည်း၊ အောင် ချာဗောဓိ၊ အပရာဇိတ်ထက်၊ မာရ်ရိပလံ၊ များသေနံကို၊ တွန်းလှန်ပယ် ဖြုတ်၊ သဗ္ဗညုတ်ကို၊ စိုးအုပ်ပြီးခါ၊ မဟာဇေယျ၊ အပ္ပမေယျဟု၊ လောကထွဋ်တင်၊ အောင်ပွဲဝင်သား၊ မြတ်ဘုရား၏၊ သုံးပါးသာသနာ၊ ရောင်အဝါလည်း၊ ဖြာဖြာတောက်ထွန်း၊ နေအဝန်းသို့၊ လေးကျွန်း ကျက်သရေ၊ တက်ဖြိုးဝေ၍၊ ထွေထွေရတနာ၊ စုဝေးရာတည်း၊ ရတနာ

ပုဠ္ဌ၊ ဘွဲ့ထူးသလျက်၊ ရာဇဌာနီ၊ မင်းနေပြည်တွင်၊ ကြည်ရှင်သဒ္ဓါ၊ သမ္မာဆန္ဒော၊ မြှက်သဘောဖြင့်၊ မနောပဏိဓိ၊ ရှိသည့်လူအပေါင်း၊ သူတော်ကောင်းတို့၊ ကိန်းအောင်းမွေသိမ်၊ ရွှေဘုန်းရှိန်ဟု၊ ဂုဏ်သိရ် လျှင်လျှပ်၊ ရှမ်းပွဲချပ်၌၊ ဆည်းကပ်ရတနာ၊ ဝိသာခါသို့၊ သဒ္ဓါသီလ၊ သုတစာဂီ၊ ပါရမီကို၊ တရှည်ဆည်းပူး၊ ဂုဏ်ရေင်မြူးသား၊ လူ အများတို့၊ ဥတ်တွားရှိသော၊ လေးထွေသမ္ပဒါ၊ ပြည့်စုံပါကြ၊ကျောင်း အမကြီး၊ သိရိဂုဏ်ဟီး၍၊ အံ့ချီးလောက်ပေ၊ ဒေါ်ဒေါ်မေနှင့်၊ သုံး ထွေသုခ၊ ပြည့်ဝလောက်လုံ၊ မဒုံဟု၊ ကြည်ယုံပေါင်းစု၊ မမပုတို့၊ သုံးလူ့မြတ်စွာ၊ သာသနာရောင်၊ လင်းပြောင်စိမ့်ငှာ၊ အဓတာကြ ငှန်း၊ နိဗ္ဗာန်နန်းကို၊ ရည်မှန်းစွဲချုပ်၊ ဆောက်လုပ်ပြီးခါ၊ လှူဒါန်း ပါသား၊ မဟာဏ္ဍ္ဍက၊ ဗွိဘုမ္မတည်း၊ သာသနဇောတိကာရုံ၊ မွေး ထုံသညာ၊ ဝိဟာရာ၌၊ ယာပထညီ၊ တရားမှီလျက်၊ သုံးလီပိဋကတ်၊ ပရိယတ်ကို၊ မပြတ်သင်ကြား၊ စာသင်သားတို့၊ ပျားသို့ပမာ၊ ဝိုင်းဝန်း ပါသား၊ မဟာထေရ၊ ပါကဋဖြင့်၊ နာမကျော်ထင်၊ အသျှင်နာရဒ၊ ဘဒ္ဒန္တသည်။ သာသနာ့အကျိုး၊ မျှော်ကိုးတောင့်တ၊ သောတုလှတို့၊ သုခဂဟဏ်၊ ဝိဂ္ဂဟံပြုနည်း၊ နိဿယည်းတည့်၊ သိပ်သည်းသေချာ၊ အလင်္ကာနှင့်၊ တဖြာနေတ္တိ၊ ကျမ်းစုံညှိ၍၊ နှိုင်းညှိရွေးကောက်၊ အရ ကောက်နည်း၊ ထုံးဖြင့်ပြည်းကို၊ ကမ္ပည်းစာပိုဒ်၊ စီစဉ်လိုက်သည်၊ နှစ်ခြိုက်လွယ်ကူ၊ ကောက်ခါယူ၍၊ ကြည်ဖြူနှလုံး၊ စွဲကားကျုံးလျက်၊ သုံးဆောင်နိုင်ကြပါစေကုန်သတည်း။

၍သည်လျှင် ဝိဂ္ဂဟနယ၊ အလင်္ကာအရကောက်၊ နေတ္တိအရကောက်သုံး ကျမ်းတွဲ နိဂုံးလာ နိဂုံးကေပိုဒ်လင်္ကာ ဖြစ်လေသည်။

## တက်နည်း ထွက်နည်း နိဿယည်းကျမ်း

ဆရာတော်သည် "တက်နည်း ထွက်နည်း နိဿယည်းကျမ်း" ကိုလည်း စစ်ကိုင်းတောင်ရိုး ကျစွာချောင်ဆရာတော် ဦးဝိဇယ၏ တောင်းပန်မှုကြောင့် ဝါကျအင်္ဂါ၊ ဝါကျအပြား၊ ဝါကျလက္ခဏာ၊ တက်နည်း ထွက်နည်း၊ တက် နည်းအပြား၊အနုသန္ဓေတက်နည်းသရုပ် ပုစ္ဆာတက်နည်း သရုပ်၊ အဘိယာစက တက်နည်းသရုပ်၊ စောဒနာတက်နည်း သရုပ်၊ ထွက်နည်းအပြား၊ အနုသန္ဓေ ထွက်နည်း ၁၂-ပါး၊ ပုစ္ဆာထွက်နည်း ၁၂-ပါး၊ အဘိယာစကထွက်နည်း ၁၂-ပါး၊ စောဒနာ ထွက်နည်း ၁၂-ပါး၊ဝိတ္ထာရသခေ်ပတက်ဟန် ထွက်ဟန်၊ တရဏဖလဝါကျ တက်ဟန်ထွက်ဟန်၊ သာမည ဝါကျတက်ဟန်၊ အန္ဓယဗျတိ

ရေကာဝါကျတက်ဟန်၊ ဝါကျာရမ္ဘဝါကျတက်ဟန်၊ ဒွိကရဏဝါကျတက်ဟန်၊ တပ္ပါကရဏဝါကျတက်ဟန်၊ ပက္ခန္တရဝါကျတက်ဟန်၊ သမ္ဘာဝနာနှင့် ဂရဟာဝါကျတက်ဟန်၊ ၃၇-ပါးသော ထွက်နည်း လက္ခဏာ၊ သာမညသဒ္ဒါ ထွက်နည်း လက္ခဏာ၊ ပညတ်ထွက်နည်း လက္ခဏာ၊ ပရမတ်ထွက်နည်း လက္ခဏာ၊ အာဘော်ဝါကျ တက်နည်းထွက်နည်း၊ တင်၍ဖြေနည်း၊ ဦနစောဒနာ၊ အညစောဒနာ၊ အဓိကစောဒနာတင်ဟန်၊ အာဘောဂကို နိဂ္ဂဟ ပဂ္ဂဟပြုတက်ဟန်၊ ငါးကျမ်းဆရာဘောင်၏ အဋ္ဌကထာ အာဘော်ဂါကျ တက်ဟန်ထွက်ဟန်၊ သမ္ဘာဝနာဝါကျထုတ်ပုံ၊ သံဝဏ္ဏနာဖွင့်နည်းသုံးမျိုး၊ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ၊ အနု၊ မဓု၊ လက်သန်း၊ သံဝဏ္ဏနာဖွင့်နည်း၊ ထွက်နည်း ငါးမျိုး စသည်တို့ဖြင့် တန်ဆာဆင်၍ ရေးသားစီရင်တော်မူခဲ့လေသည်။

ဆရာတော်သည် ကျမ်းဦး၌—

၁။ ဗုဒ္ဓံ ဓမ္မံ၊ နာရဒံ၊ သံဃံ နမာမိ။
၂။ တက်ထွက်နယံ၊ နိဿယံ၊ ခိပံ ကုဗ္ဗာမိ။
၃။ သောတာရာနံ၊ ယံဝါကျံ၊ ဟိတံ ဟေဟိတိ။

၁။ အဟံ၊ သာရမဲ့စွာ ခန္ဓာသမူဟ ပဉ္စကကို ငါဟုစွဲကာ ငါဟု ခေါ်ဆို ကိုယ်ဟုသမုတ် အကျွန်ုပ်သည်။ နာရဒံ၊ သတ္တဝါတို့၏ စိတ်နှလုံး၌ လွန်စွာရေးခြစ်တတ်သော ရာဂ-ဒေါသ-မောဟ-မာန-ဣဿာ-မစ္ဆရိယ-မက္ခ-ပလာသ-သောက-ဗျာပါဒ-စသော ကိလေသာရှိတော်မမူသော။ တနည်းကား- နာရဒံ၊ ကျွတ်ထိုက်သသူ လူအပေါင်းတို့အား ပဋိသမ္ဘိဒါလေးပါး အဘိညာဏ်ခြောက်ပါး-စသော တန်ဆာကို ပေးတော်မူတတ်သော။ ဗုဒ္ဓံ၊ သစ္စာလေးဝ ဉေယျငါးတန် ဟုတ်မှန် ထိုးထွင်း သိမြင်တော်မူခြင်းကြောင့် ဗုဒ္ဓမည်ငြား မြတ်ဘုရားကိုလည်း ကောင်း။ နာရဒံ၊ သဗ္ဗညုဘုရားသည် ဂေါစရသေဝန ဘာဝနာသေဝန အစွမ်းအားဖြင့် အောက်မေ့တော်မူအပ်သော သတ္တဝါတို့သည် အလိုရှိအပ်သော လူနတ်နိဗ္ဗာန် သုံးတန်သော ချမ်းသာပေးတတ်စွာသော။ ဓမ္မံ၊ မဂ်လေးဝ ဖိုလ်လေးတန် နိဗ္ဗာန်ပရိယတ် ဆယ်ပါးသောတရားတော်မြတ်ကိုလည်းကောင်း။ နာရဒံ၊ မဂ်၏ သမုစ္ဆေဒသတ္တိ ဖိုလ်၏ ပဋိပဿမ္ဘနသတ္တိဖြင့် ပယ်အပ်ပြီးသည်ဖြစ်၍ နုတ်ပယ်အပ်သော ရာဂစသော ကိလေသာမရှိသော။ တနည်းကား-နာရဒံ၊ လူနတ်ဗြဟ္မာ သတ္တဝါဝေနေယျတို့သည် ပုညက္ခေတ္တဖြင့် အလိုရှိအပ်သော ယောကျ်ား မြတ်အစုံဖြစ်၍ သတ္တဝါတို့၏ ဟိတသုခကို ပေးတော်မူတတ်သော။

သံဃသံ၊ ရှစ်ယောက်အရိယာ မြတ်သံဃာကိုလည်းကောင်း။ နမာမိ၊ သုံးတန်စေတနာ သုံးဖြာဒွါရ ပဏာမဖြင့် အရဟတာဒိ စသည်ဝှန့် ချောက် ဂုဏ်တော်လျှောက်ကို အောက်မေ့၍သာ သဒ္ဓါမြတ်နိုးလက် စုံမိုးလျက် ရှိခိုးပါ၏။ နမသိတွာ၊ ရှိခိုးပြီး၍၊ ဝါ၊ ကိုယ်နှုတ်စိတ်ဖြင့် ရတနာသုံးပါး၏ ဂုဏ်တော်ကျေးဇူးတော်ကို ညွှတ်ပြီး၍။

၂။ နိဿယံ၊ မှီရာဖြစ်သော။ တက်ထွက်နယံ၊ ပိဋကတ်သုံးပုံကျမ်း မျိုးစုံ၌ တက်နည်း ထွက်နည်းကို။ တနည်းကား- တက်ထွက်နယံ နိဿယံ၊တက်နည်း ထွက်နည်း နိဿယည်းကို။ ခိပံ-သံခိပေန၊ အကျဉ်း မလွန့် လိုရုံကွန့်လျက် အနက်အဓိပ္ပာယ် မကျယ်မျှား အကျဉ်းအား ဖြင့်။ ကုဗ္ဗာမိ၊ သာသနာတော်အကျိုး မျှော်ကိုးတောင့်တ ဆန္ဒသမာ မေတ္တာရှေ့ပြေး ရေးသားပေအံ့။

၃။ ယံ ယာဒိသံ၊ အကြင်သို့သဘောရှိသော။ ဝါကျံ၊ မြန်မာ စကားဝါကျသွားသည်။ သောတာရနံ၊ စာသင်ပျိုနု အခြေပြုတို့၏။ ဟိတံ၊ လောကုတ်လောကီ နှစ်လီသော အစီးအပွားသည်။ ဟေဟိတိ၊ မုချမသွေ ဖြစ်ပါပေအံ့။

ဟူသော သုံးဂါထာပါ၌ နိဿယဖြင့် ရတနတ္တယ ပဏာမ၊ပဋိညာဉ် ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ကျမ်း၏ အဆုံးနိဂုံး၌လည်း—

သော ဘာ ဇေ ဗ ယ တေ လာ အာ၊
ချ ဂျ ယျ လ သ ဇော ဘ ယု။
အဋ္ဌ၀ရာနိ မာနေ၀၊
ဝစန္တု နယဂ္ဂါဟကာ။

သောချ၊ ချမ်းသာခြင်း။ ဘာဂျ၊ ဘုန်းကြီးခြင်း။ ဇေယျ၊အောင် မြင်ခြင်း။ ဗလ၊ ခွန်အားကြီးခြင်း။ ယသ၊ ကျော်စောခြင်း။တေဇော၊ တန်ခိုးကြီးခြင်း။ လာဘ၊ လာဘ်များခြင်း။ အာယု၊ အသက်ရှည်ခြင်း၊ ဣမာနေ၀ အဋ္ဌ၀ရာနိ၊ ဤဆိုမြတ်ရှစ်ပါးတို့သည်ပင်လျှင်။ နယဂ္ဂါဟ ကာ- နယဂ္ဂါဟကာနံ၊ နည်းနာကျန ယူကြကုန်လျက် ပို့ချအံ့သင့်

ပညာရှင်ဖြစ်ကြကုန်သော။ တူမှုကံ၊ စာပေလိုက်စား အရှင်များတို့အား။ ဝစုန္တု၊ တနေ့တခြား ဒီဃရေလာသို့ တိုးပွားကြပါစေကုန်သတည်း။

ဟူသော ပဌမပါဒနှင့် ဒုတိယပါဒ တလုံးစီစပ်၍ ဖွဲ့အပ်သော အာသီသဂါထာပါဌ် နိဿယဖြင့်လည်းကောင်း။

အောင်ကြောင်းမင်္ဂလာ၊ အောင်စေရာတည်း၊ အောင်ချာဗောဓိ၊ အပရာဇိတ်ထက်၊ မာရိပလ်၊ များသေနံကို၊ တွန်းလှန်ပယ်ဖြုတ်၊ သဗ္ဗညုတ်ကို၊ စိုးအုပ်ပြီးကာ၊ မဟာဇေယျ၊ အပ္ပမေယျဟု၊ လောကထွဋ်တင်၊ အောင်ပွဲဝင်သား၊ မြတ်ဘုရား၏၊ သုံးပါးသာသနာ၊ ရောင်အဝါလည်း၊ ဖြာဖြာတောက်ထွန်း၊ နေအဝန်းသို့၊ လေးကျွန်းကျက်သရေ၊ တက်ဖြိုးဝေ၍၊ ထွေထွေရတနာ၊ စုဝေးရာတည်း၊ ရတနာပူရ၊ ဘွဲ့ထူးသလျက်၊ ရာဇဌာနီ၊ မင်းနေပြည်တွင်၊ ကြည်ရွှင်သဒ္ဓါ၊ သမ္မာဆန္ဒော၊ မြတ်သဘောဖြင့်၊ မနောပဏီဓိ၊ ရှိသည့်လူပေါင်း၊ သူတော်ကောင်းတို့၊ ကိန်းအောင်းဖမွှ သိမ်၊ ရွှေဘုန်းရှိန်ဟု၊ ဂုဏ်သိရ် လျှပ်လျှပ်၊ ရှမ်းပွဲချပ်၌၊ ဆည်းကပ်ရတနာ၊ ဝိသာခါသို့၊ သဒ္ဓါသီလ၊ သုတစာဂီ၊ ပါရမီကို၊ တာရှည်ဆည်းပူး၊ ဂုဏ်ရောင်မြူးသား၊ လူအများတို့၊ ဝတ်တွားရှိသော၊ လေးထွေသမ္ပဒါ၊ ပြည့်စုံပါကြ ကျောင်းအမကြီး၊ သိရိဂုဏ်ဟီး၍၊ အံ့ချီးလောက်ပေ၊ ဒေါ်ဒေါ်မေနှင့်၊ သုံးထွေသုခ၊ ပြည့်ဝလောက်လုံ၊ မမအုံဟု၊ ကြည်ယုံပေါင်းစု၊ မမပုတို့၊ သုံးလူ့မြတ်စွာ၊ သာသနာရောင်၊ လင်းပြောင်စိမ့်ငှာ၊ အမတော ကြွင်နန်း၊ နိဗ္ဗာန်နန်းကို၊ ရည်မှန်းစွဲချုပ်၊ ဆောင်လုပ်ပြီးကာ၊ လှူဒါန်းပါသား၊ မဟာဂ္ဂန္ထကာ၊ ဒွိဘုမ္မတည်း၊ သာသနဇောတိကာရုံ၊ မွေ့ထုံသညာ၊ ဝိဟာရာ၌၊ ယာဒထညီ၊ တရားမှီလျက်၊ သုံးလီပိဋကတ်၊ ပရိယတ်ကို၊ မပြတ်သင်ကြား၊ စာသင်များတို့၊ ပျားသို့ပမာ၊ ဝိုင်းဝန်းပါသား၊ မဟာထေရ၊ အဂ္ဂမဟာ၊ ပဏ္ဍိတာဟု၊ သညာတံဆိပ်၊ ခပ်နှိပ်ပါကဌ်၊ နာမကျော်ထင်၊ အသျှင်နာရဒ၊ ဘဒ္ဒန္တသည်၊ သာသနာ့အကျိုး၊ မျှော်ကိုးညီသန်၊ သမ္မာဆန်ဖြင့်၊ ဓမ္မက္ခန္ဓ၊ ပိဋကသုံးသွယ်၊ နိကာယ်ငါးရပ်၊ ပရိယတ်၌၊ ကုတ်ကုတ်ကြိုးပမ်း၊ တတ်စွမ်းအံ့ထွေ၊ ဉာဏ်ခြေရမှု၊ သိမ့်ဆည်းပူသား၊ သောတုတို့ဉာဏ်၊ ထက်သန်တိုးပွား၊ များကြပါစေ၊ ကျမ်းရိုးနေဟု၊ ဥပဒေသ၊ ဝါကျစည်းမျဉ်း အသွင်းအထုတ်၊ ပဒုဒ္ဓါရ၊ ပဒပဝေသော၊ နည်းထွေထွေဖြင့်၊ သောချာစုစည်း၊ တက်ထွက်နည်းဟု၊ ကမ္မည် စာပိုဒ်၊ စီစဉ်လိုက်သည်၊ နှစ်ခြိုက်လွယ်ကူ၊

ကောက်ကာယူ၍၊ ကြည်ဖြူနှလုံး ၊ စွဲကာကုံးလျက်၊ သုံးဆောင်နိုင်ကြပါစေကုန်သတည်း။

ဟူသော ဇေပိုဒ်လင်္ကာဖြင့် နိဂုံးအုပ်တော်မူခဲ့သည်။ ဖော်ပြပါ တက်နည်း ထွက်နည်း နိဿယည်းကျမ်းကို မန္တလေးမြို့ ရတနာဒီပံ ပိဋကတ်ပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် စာမျက်နှာ ၂၄၅-မျက်နှာ ရှိလေသည်။

## နာမဂဏ္ဌဒီပနီကျမ်း

ဆရာတော်သည် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော် ဆရာတော်တပါး ဖြစ်တော်မူသော ဆရာတော် ဦးရန်ကုန်၏ အဆိုအမိန့် နိယံများနှင့် ကစ္စည်းသဒ္ဒါကျမ်းကို အမိကထား မှီငြမ်းပြုတော်မူ၍ နာမဂဏ္ဌ ဒီပနီကျမ်းကိုလည်း ကြိုးပမ်းအားသစ် စီရင်တော်မူခဲ့လေသည်။

ကျမ်းဦး၌—

> နေရုပ္ပည့်ုံ ဟိတရော်၊ ဗုဒ္ဓဥ္စ မေ့ သုဇောဝိတံ။
> ဝန္ဒိယ ဂဏမုတ္တမံ၊ လိက္ခိဿာမိ နာမဂဏ္ဌံ။

ဟူသော ဂါထာဖြင့် ရတနတ္တယပဏာမ ပဋိညာဉ် ပြုတော်မူ၍ ကျမ်းစာကို စီရင်တော်မူခဲ့လေသည်။ ယင်း နာမဂဏ္ဌကျမ်းမှာ ရှိုင်ဆိုက် စာမျက်နှာ ၃၃-မျက်နှာရှိ ကျမ်းငယ်ဖြစ်လေသည်။

## နိဿယကျမ်းကြီးများ သုတ်သင်တော်မူခြင်း

ဆရာတော်သည် ပရိယတ္တိသာသနာတော် ကြီးပွားတိုးတက်ရေးကို လွန်စွာကြိုးပမ်း အားသစ်တော်မူခဲ့လေသည်။ စာပေကျမ်းဂန် ချပို့တော်မူခြင်း၊ ကျမ်းစာ ရေးသားတော်မူခြင်းတို့ဖြင့် ပရိယတ္တိသာသနာ ထွန်းကားရေးကို နေ့ညမအား ကြိုးစားတော်မူခဲ့သည်။ ၎င်းပြင် ကျော်အောင်စံထားမူ အဘိဓာန် နိဿယကြီးနှင့် ပိဋကတ်သုံးပုံ ပါဠိတော် နိဿယ အုပ်ရေ ၂၁-အုပ်တို့ကို အပတ်တကုတ် သုတ်သင် ပြင်ဆင်တော်မူ၍ ပုံနှိပ် ထုတ်ဝေစေတော်မူခဲ့လေသည်။ဆရာတော်ကား လွန်စွာထူးမြတ်သည့် ထိပ်တန်း ပရိယတ္တိ သာသနာ့ဝန်ဆောင် ပုဂ္ဂိုလ်ကြီး ဖြစ်တော်မူသည်။

## နိုင်ငံတော် ဝိနည်းဓိုရ်တာဝန်ကို ဆောင်ရွက်ခြင်း

မြန်မာနိုင်ငံတော် လွတ်လပ်ရေးရသောအခါ မြန်မာနိုင်ငံတော်အစိုးရသည် မြန်ပြည်တဝန်းလုံး၌ ဖြစ်ပေါ်လာသော ရဟန်းတော်တို့၏ မှုခင်းကိစ္စများကို လူရုံးများ၌ မဆုံးဖြတ်စေပဲ ရဟန်းတော်များရုံး၌သာလျှင် ဝိနည်းတော်နှင့်အညီ စိစစ်ဆုံးဖြတ်စေလိုသော စေတနာဖြင့် ၁၃၁၁-ခုနှစ်တွင် ဝိနိစ္ဆယဌာန အက်ဥပဒေကို ပြဋ္ဌာန်းအတည်ပြုပြီးလျှင် နိုင်ငံတော်၊ ခရိုင်၊ မြို့နယ်-အသီးသီးတို့တွင် မြို့နယ် ဝိနည်းဓိုရ်၊ ခရိုင်ဝိနည်းဓိုရ်၊ နိုင်ငံတော် ဝိနည်းဓိုရ်တို့ကို ခန့်ထားလေသည်။

ယင်းသို့ ခန့်ထားရာတွင် ဆရာတော်သည် မြန်မာနိုင်ငံ အထက်ပိုင်းဆိုင်ရာ နိုင်ငံတော် ဝိနည်းဓိုရ်ကပါးအဖြစ် ဆောင်ရွက်တော်မူရန် နိုင်ငံတော်အစိုးရ၏ လျှောက်ထား တောင်းပန်ချက်ကို နှစ်သက်ကြည်ဖြူ လက်ခံယူတော်မူကာ ၁၃၁၂-နှစ်မှစ၍ ဝိနိစ္ဆယ ဥပဒေဖျက်သိမ်းရာ ၁၃၂၆-ခုနှစ်တိုင်အောင် "နိုင်ငံတော် ဝိနည်းဓိုရ်" အဖြစ် ဆောင်ရွက်တော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခြင်း

ဆရာတော် အရှင်နာရဒမဟာထေရ်သည် ဖော်ပြခဲ့သည့်အတိုင်း ပရိယတ္တိ သာသနာတော်ထွန်းကားရန် စွမ်းစွမ်းတမံ ဆောင်ရွက်တော်မူခြင်း၊ သီလဝန္တ သိက္ခာကာမဖြစ်ခြင်း အစရှိသောဂုဏ်တို့ကြောင့် သက္ကရာဇ် ၁၃၁၃-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ ဆက်ကပ်လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

ထိုသည့် ၁၃၁၃-ခုနှစ်က ဆရာတော် အရှင်နာရဒနှင့်အတူ—

၁။ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ဆရာတော် အရှင်သုန္ဒရ[၁]၊
၂။ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ဆရာတော် အရှင်နန္ဒဝံသ၊
၃။ ညောင်လေးပင်မြို့ တောရကျောင်းတိုက်ဆရာတော် အရှင်အရိယ၊
၄။ စစ်ကိုင်းမြို့ စစ်ကိုင်းတောင်ရိုး အတိသုဒ္ဓါရုံချောင်ဆရာတော် အရှင်ဇောတိပါလ၊
၅။ ရန်ကုန်မြို့ သာသနရိပ်သာ မဟာစည်ဆရာတော် အရှင်သောဘန တို့လည်း အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို ရရှိတော်မူကြသည်။

---

၁။ အရှင်သုန္ဒရသည် ၁၃၂၂-ခုနှစ်တွင် အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။

## မဇ္ဈိမဒေသသို့ ဘုရားဖူးကြွခြင်း

ဗုဒ္ဓဘာသာဝင်တို့ တသက်တွင် တကြိမ်မျှဖြစ်စေ သွားရောက် ဖူးမျှော်ကြည်ညို သံဝေဂယူထိုက်သော ဌာနလေးခုရှိသည်။ ယင်းတို့ကား-

၁။ ဘုရားရှင် မီးရှူးသန့်စင်ဖွားမြင်တော်မူရာ လုမ္ဗိနီဥယျာဉ်တော်၊
၂။ ဘုရားအဖြစ်သို့ ရောက်တော်မူရာ မဟာဗောဓိ၊
၃။ ဓမ္မစကြာတရားတော် ဟောတော်မူရာဗာရာဏသီပြည် မိဂဒါဝုန်ဥယျာဉ်တော်၊
၄။ ပရိနိဗ္ဗာန် ဝင်စံတော်မူရာ ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်တော်တို့ ဖြစ်ကုန်၏။

ဇာတဉ္စ သမ္ဗောဓနဉ္စ၊ ဓမ္မစက္က ပဝတ္တနံ။
နိဗ္ဗာနဉ္စာတိ စတ္တာရိ၊ သံဝေဇနိယာနီတိ လက္ခယေ[၁]။

၁၃၁၄-ခုနှစ်တွင် အခြားရဟန်းတော် လေးပါး၊ မန္တလေးမြို့ ရှမ်းပွဲရပ်နေ ရွှေဘုန်းရှိန် ကုမ္ပဏီပိုင်ရှင် ကုန်သည်ကြီး ဦးဘသန်း-ဒေါ်အေးလှိုင်အိမ်သူ အိမ်သားများ နှင့်အတူ မဇ္ဈိမဒေသသို့ ကြွရောက်တော်မူ၍ ဗုဒ္ဓဂယာ၌ ဦးဘသန်း-ဒေါ်အေးလှိုင်တို့၏ ပဋ္ဌာန်းခံရှင်ပြုမင်္ဂလာကို ချီးမြှောက်တော်မူပြီး အခြားသံဝေဇနိယ၊ ပသာဒနီယဌာနများ ဖြစ်သည့် ဗာရာဏသီပြည် မိဂဒါဝုန်တော၊ ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်း ဥယျာဉ်တော်၊ ရာဇဂြိုဟ်မြို့ဟောင်း၊ ပဌမသံဂါယနာတင်ရာ သတ္တပဏ္ဏိလိုဏ်ဂူတော်၊ နာလန္ဒကျောင်းတော်၊ ဂိဇ္ဈကုဋ်တောင်၊ သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်၊ ပါဋလိပုတ်နန်းမြို့တော် စသည်တို့သို့ ကြွရောက်တော်မူ၍ ကြည့်ရှုလေ့လာဖူးမျှော် သံဝေဂယူ ကြည်ညိုတော်မူခဲ့လေသည်။

မဇ္ဈိမမှိ စ သော ဂန္တွာ၊ သံဝေဂဋ္ဌာန မုတ္တမေ။
သံဝေဂံ ဇနယိတွာန၊ ပူညံ အနပ္ပကံ ကရိ။

## မဟာမြတ်မုနိဘုရားကြီး ဩဝါဒါစရိယတာဝန်

မဟာမြတ်မုနိ ဘုရားကြီး ဘဏ္ဍာတော်ထိန်း အဖွဲ့၏ ဩဝါဒါစရိယတာဝန်ကိုလည်း ၁၃၁၆-ခုနှစ်မှစ၍ ၁၃၁၈—ခုနှစ်အထိ နှစ်နှစ်ဆောင်ရွက်

---

၁။ ထေရဂုဏ္ဏာ၊ ဝိလာသိနီ။ ၁၁၇။

တော်မူခဲ့လေသည်။ ၁၃၁၈-ခုနှစ်တွင်ကား နောက်တက်မည့် ဆရာတော်ကို အခွင့်ပေးသည့်အနေဖြင့် နုတ်ထွက်တော်မူသည်။

## ပရိယတ္တိ သာသနဟိတအသင်း ဩဝါဒါစရိယ တာဝန်

ဆရာတော်သည် ၁၃၁၀-ခုနှစ်မှစ၍ ဘဝနတ်ထံပျံလွန်တော်မူရာ ၁၃၂၇ ခုနှစ်အထိ မန္တလေးမြို့ ပရိယတ္တိသာသနဟိတ အသင်းကြီး၏ ဩဝါဒါစရိယ တာဝန်ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။ နှစ်ပေါင်းများစွာ ပရိယတ္တိ သာသနဟိတအသင်းမှ ကျင်းပပြုလုပ်သည့်သကျသီဟစာမေးပွဲ စာသင်တန်း၊ စာချတန်း တို့၌ ပုစ္ဆာထုတ်ဆင့် မေးမြန်းခြင်း စသည်ဖြင့် သာသနာ့ အကျိုး အသင်းအကျိုးကို သည်ပိုးဆောင်ရွက်တော် မူခဲ့လေသည်။

## ပါဠိတက္ကသိုလ် ကထိကအဖြစ် ပယ်မြစ်ခြင်း

မြန်မာနိုင်ငံတော် အစိုးရသည် ၁၃၁၂-ခုနှစ်တွင် ပရိယတ္တိ သာသနာ တော်တည်တံ့ခိုင်မြဲထူးကဲစွာ စည်ပင်ပြန့်ပွားရန် ရည်ရွယ်၍ "ပါဠိတက္ကသိုလ် နှင့် ဓမ္မာစရိယ အက်ဥပဒေ"ကို ပြဋ္ဌာန်းအတည်ပြုလေသည်၊ ထိုအခါ နိုင်ငံ တော်တွင် ကျောင်းတိုက်ပေါင်း များစွာတို့ ပါဠိတက္ကသိုလ် တည့်ထောင်ကြ လေရာ ဆရာတော်သီတင်းသုံးရာ ဒက္ခိဏာရာမ ဘုရားကြီးတိုက်သည် စာသင် သား သံဃာအများဆုံးရှိသည့် ပါဠိတက္ကသိုလ်ကြီး ဖြစ်လာလေသည်။

ထိုအခါ ဆရာတော်အား ပါဠိတက္ကသိုလ် ကထိကအဖြစ် ဆောင်ရွက်ပါ ရန် သံဃာတော်များက လျှောက်ထားရာ ဆရာတော်သည် ယင်းလျှောက် ထားချက်ကို လက်ခံတော် မမူပဲ ရိုးရိုးဂဏဝါစက စာချဖြစ်၍ သဒ္ဓါတရား သက်သက်ဖြင့်သာ စာပေချပို့ သာသနာပြုတော် မူခဲ့လေသည်။ ဆရာတော် သည် စာမေးပွဲကို ပဓာနထားဦးတည်၍ စာချမှုကို လိုလားတော် မမူပါ ချေ၊ ဆရာတော်ကား စင်ကြယ်မြင့်မားသည့် စိတ်မာတ်ပိုင်ရှင် သာသနာပြု ပုဂ္ဂိုလ်ကြီး ဖြစ်တော်မူပါသည်။

## ဆင္ဍသံဂါယနာတွင် ဆောင်ရွက်တော်မူခြင်း

ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင်လည်း မူလဝိသောဓက တာဝန်၊ ပဋိဝိသောဓက တာဝန်၊ ဩသာနသောဓက တာဝန်၊ ဆဋ္ဌသံဂီတိ ကာရက တာဝန်တို့ကို ဆောင်ရွက်တော်မူခဲ့လေသည်။ ဆဋ္ဌသံဂါယနာတင်စဉ်က ဒက္ခိ

ဏာရာမတိုက်မှ ပါဠိဇာတ် ပါဠိတော်ကို ပြင်ဆင်သုတ်သင်ရန် တာဝန်ကျ သည်။ ဆရာတော် အရှင်နာရဒအပါအဝင် မူလဝိသောဓက အဖွဲ့ဝင်ဆရာ တော်တို့သည် စာအုပ်စာတမ်း စုံလင်စွာရှိသည့် ဆရာတော်၏ သာသနဇော တိကာရုံ ကျောင်း၌ ပြင်ဆင်တော်မူကြသည်။

## တိုက်ကြီးနှစ်လုံး မိမိတွက် အလှူမခံပဲ ကျောင်းတိုက်အား လှူခြင်း

ဆရာတော်သည် အလွန်လျှော် အလိုသောဘ နည်းတော်မူသည်။ ကျောင်း အမကြီး ဒေါ်မေ၊ ဒေါ်အုံ၊ ဒေါ်ပုတို့သည် မိမိတို့မကွယ်လွန်မီ ကြိုတင်၍ ရှမ်းပွဲရပ်ရှိ မိမိတို့ပိုင် တိုက်နှစ်လုံးနှင့် ဂိုဒေါင်မြေတို့ကို ဆရာတော်အား ပုဂ္ဂလိကအဖြစ် လှူဒါန်းခဲ့ကြသည်။ ထိုတိုက်တို့ကို ငှား၍ရသော အကပ္ပိယ ဝတ္ထုဖြင့် ပစ္စည်းလေးပါး မပင်မပန်းပဲ သာသနာ့ဝန်ကို ထမ်းဆောင်နိုင်ရန် ရည်ရွယ်လျက် ယင်းသို့ လှူဒါန်းကြခြင်းဖြစ်သည်။ သို့ရာတွင် ဆရာတော်ကား ခင်တွယ်မက်မောတော် မမူပါချေ။ သို့ဖြစ်၍ ထိုတိုက်နှစ်လုံးနှင့် ဂိုဒေါင်မြေ တို့ကို ၁၃၁၂-ခုနှစ်တွင် မိမိသီတင်းသုံးရာ ဒက္ခိဏာရာမ ဘုရားကြီးတိုက်အား တိုက်တာပိုင်အဖြစ် အာလယပြတ် လှူဒါန်းတော်မူလိုက်လေသည်။

ဒက္ခိဏာရာမ ဘုရားကြီးတိုက် သမ္မုတိရ ဆရာတော်များအဖွဲ့ကလည်း ထိုတိုက်တာများမှရသော အကပ္ပိယဝတ္ထုတို့ကို တိုက်ကာသံဃာတော်များ ချမ်းသာရေးနှင့် တိုက်တာသာယာရေး ကိစ္စတို့၌ ထိရောက်စွာအသုံးပြုလေ့ သည်။ သံဃာတော်များ အသုံးပြုနေသည့် အခန်းပေါင်း ၃၀-ရှိ ရေလောင်း ကုဋီနှင့် တိုက်တွင်းရှိ လမ်းမီးတိုင်များမှာ ထိုတိုက်မှရရှိသည့် အကပ္ပိယဝတ္ထု ငွေကြောင့်ဖြစ်၏။ ၎င်းပြင် ဆရာတော်လှူဒါန်းသည့် တိုက်များမှ ဖြစ်ပေါ်လာ သော ဝတ္ထုကြေးငွေတို့ဖြင့် ဒက္ခိဏာရာမဘုရားကြီးတိုက် ခဏ္ဍသိမ်တော်ကို မွမ်းမံခြင်း၊ ပဌမ ဒက္ခိဏာရာမ ဆရာတော်ဘုရားကြီး၏ အရိုးစေတီ တံတိုင်းကို မွမ်းမံခြင်း၊ ဒက္ခိဏာရာမဘုရားကြီးတိုက် ကမ္ပည်းကျောက်စာဂူ စသည်ကို မွမ်းမံခြင်း စသည်တို့ကို ပြုတော်မူကြသည်။

## ပစ္စည်းမသိုသောဆရာတော်

ဆရာတော်ကား ပစ္စည်းပစ္စယ သိုမှီးခြင်း ရှိတော်မမူပါချေ။ ဝါဆိုလပြည့် ကျော် ၁-ရက်နေ့တွင် မွေးနေ့အထိမ်းအမှတ်အဖြစ် မိမိကျောင်းရှိ တပည့် တာန်း ရဟန်းသာမဏေ ၅၀-ကျော်တို့အား သင်္ကန်း၊ ထီး၊ ဖိနပ် စသော အသုံးအဆောင် ပစ္စည်းများကို လှူဒါန်းတော်မူ၍ လပြည့်ကျော် ၂-ရက်၊ ၃-ရက်နေ့များ၌ သံဃာတော် ၃၀၀-ကျော်တို့အား ဆက်ကပ် လှူဒါန်း

တော်မူသည်။ ရရာမျှ ပစ္စည်းဝတ္ထုတို့ကို အခါအားလျော်စွာ သင့်လျော်သော ရဟန်းသာမဏေအား လှူဒါန်းပေးစွန့်၍ မွေးနေ့တွင်မူကား အားလုံး လှူဒါန်းတော်မူသည်။ သို့ဖြစ်၍ ပျံလွန်တော်မူသောအခါ သင်္ကန်းအသစ် သုံးစုံမျှသာ ကျန်ရှိသည်ဟု သိရ၏။

ဆရာတော်ကား-

"ရဟန်းကိစ္စ၊ နှစ်ဝရဇ္ဇ၊ လုံ့လအားသည်း၊ ဟိတ်ဟန်နည်း၍၊ ပစ္စည်းမသိ စိတ်မတို၊ ခပ်ပျိုကြီးပွားကြောင်း"

ဟူသည့် ကြီးပွားကြောင်းလက္ခဏာနှင့်ကိုက်ညီသည့် ထိပ်တန်းသာသနာ့ဝန်ဆောင် ကောင်း စစ်မှန်လှပေ၏။

## ရှောင့်ရဲလွယ်သော ဆရာတော်

ဆရာတော်ကား အစားအသောက်၌လည်း ရှိရှိသမျှ ရှောင့်ရဲတော်မူသည်။ မနက်စောစောဆန်ပြုတ်ဘုဉ်းပေး၍ စာကြည့်တော်မူသည်။ စာချတော်မူသည်။ နေ့ဆွမ်းဘုဉ်းပေးရာ၌လည်း ရှိသမျှနှင့် ရှောင့်ရဲတော်မူသည်။ ဆားပေါ့သည်၊ ဆားငန်သည်၊ ပူသည်၊ အေးသည်-စသည်ဖြင့် မိန့်ကြားတော်မမူချေ။ ဤစာပြုသူသည် ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ နှစ်နှစ်ခန့်နေ၍ ပညာသင်ခဲ့ရာ ကြုံကြိုက်သဖြင့် ဆရာတော်နှင့်အတူ နံနက်ခင်း နေ့သယ် ဆန်ပြုတ်သောက် ဆွမ်းစားဘူးပါသည်။ ထိုစဉ်က မိမိမှာ အလွန်ငယ်နေသေးရာ ဆရာတော်နှင့်အတူ ဆွမ်းစားဖို့ ကြောက်ရွံ့ပါသည်။ ဆရာတော်က မကြောက်ရန် ဦးပဉ္ဇင်း ဆန်ပြုတ် ဝအောင်သောက်၊ ဆွမ်း အားရပါးရစားပါဟု မိန့်ကြားတော်မူသည်။

## သည်းညံ့ခန္တီပါရမီကို လက်ကိုင်ထားသောဆရာတော်

ဆရာတော်ကား သည်းညံ့ခန္တီပါရမီကို လက်ကိုင်ထားသည့် ပုဂ္ဂိုလ်မြတ်လည်း ဖြစ်တော်မူသည်။ ကိစ္စတခုပေါ်လာလျှင် ထာဝစဉ် အရှုံးဘက်ကချည်း နေလေ့ရှိသည်။ သည်းခံမှုနှင့် ပတ်သက်၍လည်း-

"မှားသည်ဖြစ်စေ၊ မှန်သည်ဖြစ်စေ၊ သည်းခံကြ၊ သံသရာကျတော့ အမှန်တွေ့လိမ့်မည်၊ ဒီဘဝအရှုံးပေးတော့ နောက်ဘဝ အနိုင်ရမှာပေါ့"

ဟု ဆုံးမတော်မူလေ့ရှိသည်။ အချမ်းအပူ ဒဏ်ရှိသည်ကို သည်းခံနိုင်ခြင်း၊ အမိ ဝါသန ခန္တီဂုဏ်နှင့်လည်း လောက်ကော်လုံ ပြည့်စုံတော်မူသည်။ သီးချိုးရောဂါ၊ အဆုတ်ရောဂါ နှိပ်စက်မှုကို ခံရသော်သည်း ပျံလွန်တော်မူသည်အထိ တခါ တလေမျှ ညည်းညူတော်မမူပဲ သည်းခံတော်မူသည်။

## သိမ်သမုတ်ကိစ္စအလေးထား

ဆရာတော်ကား သာရေး၊ နာရေး၊ ပရိတ်ရွတ် ဆွမ်းစဉ်တို့၌ စာဝါဖျက် ၍ လိုက်တော်မမူ။ သိမ်သမုတ်ကိစ္စများ ပင့်လျှောက်လာလျှင် ကြိုးစား၍ ကြွတော်မူသည်။ ၁၃၁၉-ခုနှစ်က စကိုင်းတောင်ရိုး ပဲစားချောင်သို့ သိမာ သမ္မုတိ ကံဆောင်ကြွရန် သိမ်ဒကာက ပင့်လျှောက်လေရာ ''နေကောင်းထိုင် သာရှိလျှင် လိုက်ပါချီးမြှင့်မည်''ဟု မိန့်တော်မူ၍ မိန့်တော်မူသည့်အတိုင်း လိုက်ပါ ချီးမြှင့်တော်မူသည်။ ယင်း သိမ်သမုတ် ပင့်လျှောက်လွှာ၏ ကျော ဖက်တွင်-

''သိမာ သမ္မုတိကံ၊ ဆောင်ရန်အရေး၊ ရှိပေသေး၏၊ လေးစား သမှု၊ အာရုံပြု၍၊ ဂရုစိုက်၊ လိုက်၍ပင့်ရှာ၊ လိုက်မှသာလျှင်၊ မြတ်စွာ ဗုဒ္ဓ၊ လိုတော်ကျလိမ့်၊ ထကြွသို့လာ၊ ရှိစေမပ်း''

ဟု ရုတ်တရက်လိုက်ဖြစ်အောင် မိမိကိုယ်ကို နှိုးဆော်သည့်အနေဖြင့် ရေးသား တော်မူခဲ့လေသည်။

## ဒကာ ဒကာမတို့အပေါ် မတွယ်တာမကပ်ငြိ

ဆရာတော်သည် ဒကာ ဒကာမများ အပေါ် တွယ်တာကပ်ငြိတော်မမူပါ ချေ။ ကိုယ့်ဒကာ ကိုယ့်ဒကာမဟူ၍ အမှတ်အသားထားတော်မမူချေ။ မိမိထံ မှောက် ရောက်လာသော ဒကာ ဒကာမများကိုသည်း ကြာရှည်ကြာမျော စကားပြောတော်မမူချေ။ အာလာပ သလ္လာပ သာမန်ပြောပြီး ကိုင်း သွားကြ တော့ဟု ပြန်လွှတ်တော်မူသည်။ မိမိကိုယ်တိုင်လည်း ဒကာ ဒကာမများအိမ် သွားရောက်လည်ပတ်ရိုး ရှိတော်မမူပါချေ။

## ဆရာတော်၏ ဩဝါဒ

ဆရာတော်သည် စကားနည်းသည်။ သိပ်မပြော၊ များများမပြော။ ပြော သမျှစကားမှာ မှတ်စရာချည်းဖြစ်သည်။ တပည့်တပန်း ရဟန်းသာမဏေတို့

အား တနှစ်ဟကြိမ်လောက်သာ ဩဝါဒပေးတော်မူသည်။ ဂါဆိုလဆုတ် ဂ-ရက်နေ့ကား ဆရာတော်၏ ဩဝါဒပေးရက်ဟု သတ်ပြုမိပါသည်။

> "ကိုယ်တော်တို့ သာသနာနှင့် ကြုံတို့ ခဲယဉ်းတယ်၊ ခုနှစ်ရက် ခုနှစ်လီ ငွေမိုးရွာနေတဲ့အခါ လျှပ်စီးလက်တာ တွေ့ရသလို ဘုရားသာသနာနှင့်တွေ့ဘို့ ခဲယဉ်းတယ်။ သို့ဖြစ်၍ ဘုရားမြတ်စွာ သာသနာနှင့် ကြုံတုန်း၊ သာသနာ့ဝန်ထမ်းဖြစ်တုန်း ဖေပါ့မနေကြနဲ့၊ စာပေပရိယတ္တိ ကြိုးစားကြ၊ ဂိုဏ်ဟာဝါစည် မျဉ်းလိုက်နေကြ၊ သိက္ခင်းသုံးဖော်အချင်းချင်း ညီရင်းအစ်ကိုအသွယ် ခင်ခင်မင်မင် နေထိုင်ကြ၊ မဟုတ်တဲ့ဟာ မလုပ်မိ အောင် ကြိုးစားကြ၊ သင်္ကေနကမ္မေန (ညာယိသတိ=မကောင်းမှု လုပ်မိလျှင် တနေ့ပေါ်မှာပဲ၊ မိမိအမှုကပင် မိမိကို စီရင်သွားမည်"

စသည်ဖြင့် တိုတိုကျဉ်းကျဉ်း လိုရင်းဩဝါဒ ပေးတော်မူလေ့ရှိသည်။

## တပည့်များအား သင်္ကန်း ထီး ဖိနပ် တောင်းရန် ဖိတ်ခြင်း

ဆရာတော်သည် ကျောင်းနေ ရဟန်းသာမဏေတပည့်တို့အား "သင်္ကန်း ထီး ဖိနပ် မရှိလျှင် အချိန်မရွေး မိမိထံ လာရောက်အလှူခံရမည်၊ မိမိအား မလျှောက်ရဲလျှင် မောင်သုမနကြီးထံ လျှောက်ထားတောင်းယူ အလှူခံကြ" စသည်ဖြင့်လည်း ဖိတ်ကြားတော်မူသည်။ ဦးသုမနကား ဆရာတော်၏ အရင်း အချာတပည့် ဖြစ်သည်။

## အရှင်ပုဏ္ဏထေရ်တမူ အလားတူ

ဆရာတော်ကား ဘုရားရှင် ရွှေလက်ထက်တော်က အရှင်ပုဏ္ဏထေရ်၏ ဂုဏ် တစိတ်တဒေသနှင့် တူလှချေ၏။ ပုဏ္ဏထေရ်သည် ကိုယ်တိုင်ကလည်း အလိုနည်း ၏။ တပည့်တို့အားလည်း အလိုနည်းခြင်း၏ ကျေးဇူးစကားကို ဟောကြား တော်မူ၏။

> ကိုယ်တိုင်ကလည်း ရောင့်ရဲ၏။ ရဟန်းတို့အားလည်း ရောင့်ရဲခြင်း ၏ ဂုဏ်ကျေးဇူးကို ဟောကြားတော်မူဘတ်သည်။
>
> ကိုယ်တိုင်ကလည်း ကင်းဆိတ်၏။ တပည့်တပန်းတို့အားလည်း ကင်း ဆိတ်ခြင်း၏ ကျေးဇူးစကားကို ဟောကြားတော်မူတတ်၏။
>
> မိမိကိုယ်တိုင်ကလည်း လုံ့လရှိ၏။

လို့ရှိခြင်း၏ အကျိုးကျေးဇူး ဂုဏ်အထူးကို ချီးကျူးဟောကြား တော်မူ၏။

ကိုယ်တိုင်ကလည်း အကျင့်သီလနှင့် ပြည့်စုံ၏။

တပည့်တို့အားလည်း အကျင့်သီလနှင့် ပြည့်စုံခြင်း၏ ကျေးဇူး စကားကို ဟောကြားတော်မူတတ်၏။

ကိုယ်တိုင်ကလည်း သမာဓိနှင့် ပြည့်စုံ၏။

သမာဓိနှင့် ပြည့်စုံခြင်း၏ ကျေးဇူးစကားကိုလည်း ဟောကြား တော်မူတတ်၏။

မိမိကိုယ်တိုင်ကလည်း ပညာနှင့် ပြည့်စုံတော်မူ၏။

ပညာနှင့်ပြည့်စုံခြင်း၏ အကျိုးကျေးဇူးကိုလည်း ဟောကြားတော် မူတတ်၏။

ငါးပြင် အရှင်ပုဏ္ဏသည် မိမိလည်း ဝိမုတ္တိ ဝိမုတ္တိဉာဏဒဿနဂုဏ် နှင့် ပြည့်စုံ၏။

ရဟန်းတို့အားလည်း ဝိမုတ္တိ ဝိမုတ္တိဉာဏဒဿန ဂုဏ်၏ အကျိုး ကျေးဇူးကို ဟောကြားတော်မူတတ်၏။

ဤသို့ စသည်တို့ကား မန္တာဏီ ပုဏ္ဏေးမ၏ သား အရှင်ပုဏ္ဏ၏ ဂုဏ်တို့ပေ တည်း။ ဆရာတော် အရှင်နာဂဒသည် ဖော်ပြပါ အရှင်ပုဏ္ဏ၏ ဂုဏ်တော် တစိတ်တဒေသနှင့်တူစွာ ကျင့်ဆောင်နိုင်သူ ပုဂ္ဂိုလ်မြတ်ပေတည်း။

## စာဝါများ ရပ်နားရပြီ

စာပေကျမ်းဂန် နည်းပို့မှု လုပ်ငန်း၌ စိတ်ဝင်စားသည်နှင့်အမျှ ယင်းစာပေ ကျမ်းဂန် ချပို့မှုလုပ်ငန်း၌ မွေ့လျော် ပျော်ပိုက် နှစ်ခြိုက်တော်မူသည်ဖြစ်ရာ စာပေချပို့၍ မောပန်းသည်ဟူ၍ မရှိသလောက်ပင် ဖြစ်ခဲ့လေသည်။ သို့ရာတွင် သက်တော် ၇၀-ကျော်လာသောအခါတွင်ကား ယခင်ကနှင့်မတူပဲ စာချပြီး သောအခါ ငေ်ပန်းနွမ်းနယ်လာသည်။ အားခွန်ဗလများလည်း ဆုတ်ယုတ်၍ လာခဲ့လေသည်၊ ပင်ကိုယ်က ဝဖြိုးဖြိုး ကိုယ်ကာယသည် ချုံးကျ၍ သွား လေ၏။ သို့ဖြစ်သော်လည်း ဆရာတော်သည် ရောဂါတခုခုကြောင့်ဟု မထင်ပဲ အသက်ကြီးရင့်၍လာသောကြောင့် ထိုသို့ဖြစ်သည်ဟု ထင်မှတ်တော်မူသည်၊

"တကယ်တော့ ခန္ဓာကိုယ် အိုလာပြီဆိုမှဖြင့် စက်အိုကြီးလိုပဲ၊ စက်များ ဝယ်ကာစ ဆင်ကာစ အလွန်လျှင် မောင်း၍ကောင်းသည်၊ အသုံးပြုလို့ကောင်းသည်။ အိုပြီဆိုမှဖြင့် မဟန်တော့ဘူး၊ ဟိုဟာချွတ်ယွင်း သည်ဟာချွတ်ယွင်း ဖြစ်လာလေသည်။ ခန္ဓာကိုယ်လည်း ဤနည်းနှင်နှင် ဖြစ်၏"

သဗ္ဗိရံ ဇိဏ္ဏသတ္တာနံ၊ ဇိဏ္ဏယန္တ သမူပမံ။
ဝိရဒ္ဓံ ဒုဗ္ဗလံစေဝ၊ ပလုဂ္ဂ နာသနတ္တိကံ။

သက်ဆိုင်ရာ ဒကာ ဒကာမတို့က ဆရာဝန်များနှင့် စမ်းသပ်ကြည့်လေရာ ဆရာတော်မှာ ဆီးချိုရောဂါ စွဲကပ်ကြောင်း သိရလေသည်။ ယင်း ဆီးချိုရောဂါကို ကုသ၍ သက်သာသလိုလိုရှိရာ အဆုတ်ရောဂါတမျိုး ထပ်၍ တိုးလာသဖြင့် သက္ကရာဇ် ၁၃၂၃-ခုနှစ်တွင် ချလက်စ သမ္မောဟ ဝိနောဒနီ စာဝါ ဉာဏဝိဘင်း အဖွင့် အရောက်တွင် ရပ်လိုက်ရလေပြီ။

## ၃-နှစ်ကျော်ကျော် အကုအသခံ

စာဝါကို မနားချင်ပဲနှင့် အာလယပြုတ် ရပ်နားလိုက်ပြီးနောက် တတ်ကျွမ်းနားလည်သော ဆရာဝန်ကြီးများ၏ အကုအသကို ခံယူတော်မူလျက် သီတင်းသုံးတော်မူသည်။ သင့်တော်သော ဆေးဝါး ဓာတ်စာများကို သုံးဆောင်ယင်းပင်လျှင် အဆုတ်ရောဂါ သက်သာသလိုလို ရှိသော်လည်း ခန္ဓာကိုယ်မှာ သိသိသာသာ ပိန်ချုံးလာလေသည်။ ယင်းသို့ ဆေးဝါး ဓာတ်စာ ဖာဖာထေးထေးနှင့် ခရီးနှင်ခဲ့ရာ သုံးနှစ်ကျော်ကျော် ကြာညောင်းခဲ့လေပြီ။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

၁၃၂၇-ခုနှစ် ဝါဆိုဦးမှစ၍ ဆီးချိုရောဂါ ဝေဒနာလည်း ပြန်၍တိုးတက်လာသည်။ အဆုတ်ရောဂါလည်း ပြန်၍ ထလာဟန်ရှိသည်။ တဖြည်းဖြည်း အစားအသောက်လည်း ပျက်လာလေသည်။ ဆရာတော်သည်—

"အပ္ပတ္တာ သာဒါ ဟောတာ၊ ဥတ္တာ သင်္ခါရ ဓမ္မတာ—
ကုသိုလ်ဓမ္မ၊ မြတ်ညာ၊ နိစ္စမမေ့ရာ။
ရုပ်နာမ်ဓမ္မ၊ သင်္ခါရတို့၊ ကိုယ်ကသည်ပုံ၊ ဖြစ်လိုတုံလဲ၊ မလွဲပုံသေ၊ မဖြစ်ချေဘူး"

ဟူသည်နှင့်အညီ မည်သို့မျှမတာ်နိုင်။ အပ္ပမာဒ ဓမ္မကိုသာ လက်ကိုင်ပြု၍ ရှုမှတ်ဆင်ခြင်နေကျ တရားဓမ္မကိုသာလျှင် ရှုမှတ်ဆင်ခြင်၍ နေဆဲဖြစ်စဉ် သက်တော် ၇၈-နှစ် သိက္ခာတော် ၅၈-ဝါ ရရှိရာ သက္ကရာဇ် ၁၃၂၇-ခုနှစ် သီတင်းကျွတ်လဆုတ် ၈-ရက်နေ့ ၂-နာရီ ၁၅-မိနစ် အချိန်တွင် ဘဝနယ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

မာယာကာရာ ရင်္ဂမဇ္ဈေ ကရောန္တာ။
မောဟေန္တိ စက္ခုနီ ဇနဿ တာဝဒေ။
န မစ္စုနော မောဟယိတုံ သဟန္တိ[၁]။

**မာယာကာရာ၊** မျက်လှည့်သည် မျက်လှည့်သမားတို့သည်။ **ရင်္ဂမဇ္ဈေ၊** လူများပေါ်ယယ် ပွဲသဘင်အလယ်၌။ **မာယံ၊** လိမ်ညာလှည့်ပတ် မျက်လှည့်အတတ်ကို။ **ကရောန္တာ၊** ပြုကြကုန်လျက်၊ **တာဝဒေ၊** ထိုသို့ လှည့်ပတ်ရာ ခဏကာလ၌၊ **ဇနဿ၊** ရောက်ရှိညီမူ လူအပေါင်း၏။ **စက္ခုနိ၊** မျက်စိတို့ကို။ **မောဟေန္တိ၊** တွေဝေစေနိုင်ကြကုန်၏။ **မစ္စုနော၊** ယုတ်မာစင်းစင်း သေမင်းအား။ **မောဟယိတုံ၊** တွေဝေမိန်း မောစေခြင်းငှာ။ **နသဟန္တိ၊** မစွမ်းနိုင်ကြကုန်။

## တိပိဋကဓရ အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိစိတ္တသာရာဘိဝံသက ထေရမနာစာတမ်းဖြင့်ပူဇော်

ဆရာတော် အရှင်နာရဒမဟာထေရ်၏ ကြွင်းကျန်ရစ်သော ဥတုဇရုပ် ကလာပ်ကို မန္တလေးမြို့ တောင်ပြင်ဘုရားကြီး ၄၅-တာကွင်းကြီး၌ ကြီးကျယ် ခမ်းနားသော သဘင်ကြီး ကျင်းပ၍ အန္တိမပူဇော်ပွဲသဘင် ဆင်ယင်ကျင်းပ ပူဇော်ခဲ့ကြကုန်၏။ ၁၃၂၇-ခုနှစ်၊ နတ်တော်လဆန်း ၅-ရက်နေ့တွင် ထိပြုတော်ဖွင့် အခမ်းအနား သဘင် ကျင်းပသည်။

ယင်းအခမ်းအနားတွင် ဝိသိဋ္ဌတိပိဋကဓရ မဟာတိပိဋကကောဝိဒ၊ တိပိဋက ဓရ ဓမ္မဘဏ္ဍာဂါရိက၊ အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိစိတ္တသာရာဘိဝံသက အောက် ဖော်ပြပါ "သံဝေဂပဏ္ဏနာ မဟာထေရုပ္ပတ္တိကထာ ထေရမနာစာတမ်း" ဖြင့် ရေးသားပေးပို့ပူဇော်တော်မူခဲ့ရာ၊ မန်းတက္ကသိုလ် ဦးဆန်းထွန်းက လျှောက်ဆို ဖတ်ကြားသည်။

---

၁။ ဇာ၊ ၁၊ ၃၅၆။ (အယောဃရဇာတ်)

## ဆရာတော် ဦးနာရဒထေရုပ္ပတ္တိ

### အဂ္ဂမဟာပဏ္ဍိတ

### ဆရာတော် ဦးနာရဒမထေရ်မြတ်၏

### ထီးဖြူတော်နှင့်အခမ်းအနားဖြင့် ဖတ်ကြားလျှောက်ဆိုသော

### သံဝေဂပဝတ္တနာ မဟာထေရုပ္ပတ္တိကထာ

### ထောမနာစာတမ်း

(နမော ဗုဒ္ဓါယ)

(သိဒ္ဓမ်) ရာဇိန်တကာတို့၏ မဟာစက္ကဝတ္တာဓိပတိ တြိဘုဝန အတုလဓမ္မရာဇာ သမ္ဗာရဂ္ဂိ ထွန်းလုံးညီသော မုနိသင်းကျစ် ဘုရား သယမ္ဘူဓမ္မရာဇ်သည် သက္ကရာဇ်မဟာ တဆုသုံးခု ရတုသဝန္တ ပစ္ဆိမ အာကြုံ ကဆုန်လပြည့်နေ့ဝယ် မြေမင်္ဂလာ သေဥ်အပရာဇ္ဇ ငါးဖြာသော မာရ်၏ တွင်းပေရန်ကို တွန်းလှန်ဖြိုခွင်း ဗောဓိပက္ခိယမေ့ ခုနစ်ချပ်မအောင် တပ်မဟော် ဖြန့်ခင်း၍ ခုနစ်သင်းဗောဇ္ဈင် ခေါ်မှတ်တွင်သား မယှဉ် နှိုင်းသာ အမြတ်ရကနာတို့နှင့်တကွ သဗ္ဗညုတ ဉာဏဥက္ကာ၌ အထွဋ်တပ် သော အနဟတ္တဖိုလ် ထီးဖြူကို သူ့ကျူနိုင် စိုးပိုင်ရှန်းဟင့် သွန်းသွန်း ဖွင့်လျက် ဘုံသုံးဆင့်ခရိုင် အလုံးဝယ် မင်းဆုံးကမ္ဘာ မဟာစက္ကဝတ် အထွဋ်တိုင်မြောက် ရောက်တော်မူခဲ့၍ လေးဆယ့်ငါးဝါ ကာလကြာ အောင် သတ္တဝါဗိုလ်ခြေ များဝေနေကို အောင်မြေသာခေါင် နိဗ္ဗာန် သောင်သို့ပို့ဆောင်ကာယ်မ ကျွတ်စေ၍ အဝသိဋ္ဌ နှောင်းကျန်ဝေနေ ယျတထွေတို့ မျက်မြေမပျောက် ကိုယ်တော်နောက်မှ ကောက်ကောက် လိုက်ပါ စိမ့်သောငှာ လျှင်မမ္မကန္ဒာပေါင်း ရှစ်သောင်းလေးထောင် များမြောင်ကိုယ်စား ဖြန့်ဖေသားဟု တရားအစု ထားခဲ့ပြုမှ အနုပါဒိ သေသ အမတဓိမာန် ဝေဇယန်ဟု နေရပ်ဘုန်ကွန်းပြောက် ဝင်ရောက် တော်မူပြတ်ရာတည်း။

ထိုလောက အတုလဓမ္မရာဇာ မဟာစက္ကဝတ် လောကနတ်လျှင် ပြည်မြှတ်ခေမင် အနုပါဒိသေသ အမတပိုဘ်ခွင် စိုးစံဝင်က အရှင် မဟာကဿပ သံသိန္နလျှင် ပဥ္စသံဂါယနာတင် ပွဲကြီးသဘင် ယင်ဘော်

မူသည်မှ အာဒိစ၍ မဇ္ဈိမတိုက်တခို သီဟိုဠ်မြန်မာ သာသနာဝံသ ထွန်းထင်ပလျက် ပဥ္စမသံဂါယနာတင် ဘဝရှင်မင်းတုန်းမင်းတရားနှင့် သားတော် မာန်အောင်ရတနာ စော်တော်ဒါယကာ သီပေါမင်း တရားလက်ထက်တိုင် အပြိုင်နေလ ထွန်းထိန်ပ၏သို့ ဓမ္မ ဝိနယသာ သာသနာနေဝန်း သရေရွှန်း၍ ဝေထွန်းတောက်ပြောင်ဆဲအခါ—

၁။ မဟာမောဂ္ဂလိပုတ္တတိဿအလျာ မိုးပြဘွာကဲ့ကို မိစ္ဆာရန် လေး သာသနာ့အညစ်အကြေးကို ဆေးကြောသုတ်သင် မြူမတင် အောင် စင်စေလိုသော မဟာဇ္ဈာသယဖြင့် သာသနသုဒ္ဓိကရ သာသန ဝုဒ္ဓိကရ ပဥ္စမသံဂါယနာတင် သာဘင်ဦးစီး အမှူးကြီး ဥက္ကဋ္ဌ ဒက္ခိဏာရာမ အဓိဝါသီ မဟာဂဏီ ထေရ်သံသိန္န "ဇာဂရောဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု"သွန်းထုခတ်နှိပ် မင်းလျှုလ်ပ်တု တံဆိပ်တော် မြတ် ဒေါင်းရိပ်ဖြင့် မှတ်အပ်သော မြတ်သောမဟာထေရ် သဟာဿ ရံသီ ဖလ်ခြည်နေဝန်း မစ္စတောင်သို့ ယွန်းပြီးနောက် ဝေရွှန်းဖြူလွ ဟိမရံသီ စန်းရောင်ခြည်ဖြင့် သသီဘုံမြတ် ယုန်ပြာသာဒ်သည် လောက ဓာတ်စက္ကဝါ ရွှေမျက်နှာမှ ခါမလင့်မိ တင့်တင့်စည်လျက် ဥဒည် ထွက်ပြူလာသည့်အလား ဘုရားမြတ်စွာ သာသနာနှစ် ၂၄၃၂-ကော ဇာသက္ကရာဇ် ၁၂၅၀-ပြည့်နှစ် ဝါဆိုလပြည့်ကျော် ၁-ရက် စနေ နေ့တွင် လောက်လွေ့ သရဏဂုံ ကိုယ်လုံးထုံလျက် ငါးပုံသီလ နိစ္စမချွတ် သူတော်ဝတ်ဖြင့် ဖြူဆွတ်ကျင့်ဂုဏ် ထက်ဝန်းကျင်ပြည့်စုံသော ရတနာ ပုံ မန္တလေးမြို့တော် အရှေ့ပြင် မင်္ဂလာဥယျာဉ်တော် ရပ်ကွက် ဘိသက္ကဝိဇ္ဇာ မြန်မာသမားတော်ကြီး အဖ (ဦးအောင်သာ) အမိ (ဒေါ်ပု)တို့မှ မကြုံဥပဒ် မအပ်အန္တရာယ် ရန်မျိုးပယ်သျက် သပ္ပါယ် လှစွာ ကျင့်သိက္ခာဖြင့် ဓမ္မာသနပလ္လင်ကမှ လုမ်းကြွသာညပ် ဓမ္မကထိက အရှင်ကဲ့သို့ သန့်စင်ဖွားမြောက်မှုတည်းဟူသော "ဥဘတောသုဇာတ အဘိဇစ္စ ကျေးဇူးဂုဏ်"နှင့် ပြည့်စုံထသော—

၂။ ဗောဓိဖူးညွှောက် ရှယ်ရောက်သော် ထွန်းတောက်သမ္မာ ဉာဏ် နေရာ၌ သာသန ပြု ဗဟုကာရ ပဂ္ဂသဝိသိဋ္ဌ ဖြစ်ခဲ့သည့်ပါတ်ကို နိဒါတ် ပြဆွယ် သိစိမ့်ရှယ်သကဲ့သို့ သူငယ်ဘဝ ယိုကာလ၌ ဒက္ခိဏာရာမ ကျောင်းတိုက်တော်၏အနီး ဖြူပည်းမျှားကြွယ် ထက်အောက်နယ်မှ ဆောင်းဝယ်ဖောက်ကား ကုန်သည်များတို့ အသွားအလာ စည်ကား စွာလျက် မဟာပါဠလိပုတ် ပြည်ပုရက်ကဲ့သို့ ကုန်ထုံပြေရာ ဉာ် နေရာဟု ကြွေကြော်ခိမ့်သဲ ဆောင်းသူဝယ်သူ ထိုထိုလူတို့ ပေးယူသံညံ မစဲသော ရှမ်းပွဲခေါ်မှတ် ရွှေဘုန်းနှိန် ထိုအရပ်၌ စန်နတ်ကွန့်

ကြွယ်အပေါင်း ဝန်းရံသကဲ့သို့ ဆွေပံ့မျိုးလယ် မညှိုးငယ်ပဲ သုံးဖွယ် ပြည့်နှက် ပြုစုသူ ကျူနှယ်ယှက်ကြ၍ တလက်မှတလက်ဝင် တရင်ခွင်မှ တရင်ခွင်သို့ ပြောင်းရွှင်ကူးသွား ထူးတခြားပင် ကြီးပွားလာရခြင်း တည်း ဟူသော "သုခေမိတ သုခပရိဘာဘဂုဏ်" နှင့်လည်း ပြည့်စုံစွာ ထသော—

၃။ ကျောင်းသားသူငယ် အရွယ်တော်မြောက် ရောက်လတ်သော အခါ ဒက္ခိဏာရာမ ဘုရားကြီးကျောင်းတိုက် အတွင်း "ပင်းသာ ကျောင်း" နေ "အရှင်တေဇာဘိဝံသ" ရာဇအပူဇော်ခံ မထေရ်ထံ၌ အခြေခံမူလ ဝဏ္ဏမာလာ သိက္ခာမဥ္စရီ ခေါ်တွင်ညီသည့် ထို၍သီးသီး သင်ပုန်းကြီးအစ မဂ်လသုတ်မြတ် အဇ္ဈတ္တဗာဟိရ တွင်းပအောင်ခြင်း ရွှေချိုင့်စာရင်း ရတနာ မဟာနမက္ကာရ ဤသို့စသည် ပါဒကကျမ်း ဂန် အဘန်တန်တို့ကို မြန်မြန်လည်းသင်ကြား မျာ များလည်းသင်ယူ သူမတူသော လုံ့လဖြင့် သင်ယူပြီးသမျှလည်း မမေ့ပျောက် ပညာ ပျံ့ပျူး သူငယ်ထူးဟု အံ့စမူး ဂုဏ်ရည်မြောက်ခဲ့၍ နောက်အချိန်ခါ ဒက္ခိဏာရာမာဓိပတိ ပဏ္ဍိတမဟာ ထိုပင်းသာကျောင်း ဆရာတော် အရှင်ခန္တီဝရ မထေရ်မြတ် စက်ရိပ်ငယ် သာဝတ္ထိအဖွဲ့ နှစ်ဆသုံးလေး သွယ် စလွယ်တော်သိုင်းခြုံ မဟာသာရဏဂုံနှင့်တကွ ဆယ်ပုံသီလ နိစ္စမြဲ ထွေ သာမဏေဘုံရောက်ချိန်း မြောက်တော်မူချက်အရ "ရှင်နာရဒ" သာမဏေ ဟူ၍ ဂရုဂဟိတ နာမယော့် ဘွဲ့မည်ကိုလက်ခံ ထို ဥပဇ္ဈာယ်မထေရ်မြတ် အထံ၌ နိဿယမပြတ် တပည့်ဝတ်ဖြင့် ပိဋကတ် အခြေခံ ကျမ်းဂန်အထူးထူးတို့ကို ဆည်းပူးလေ့လာ ရှိသေ့စွာ သင် ကြားခြင်းတည်းဟူသော "သက္ကစ္စသိပ္ပဂ္ဂဟဏဂုဏ်" နှင့်လည်း ပြည့်စုံ စွာထသော—

၄။ ပုဏ္ဏဝီသတိဝဿ အသက်အရွယ် နှစ်ဆယ်သို့ရောက် လာလ ဝယ် မူလဉပဇ္ဈာယ်ဆရာ သာသနာ တံခွန်ဆောက် ထေရ်ဘုန်း တောက်တို့ ချီးမြှောက်သမှု ကျေးဇူးပြုသဖြင့် ဉပသမ္ပဒဇာတ် မြတ် သောရဟန်းအဖြစ်သို့ ရောက်ရှိ၍ တိပိဋကသာဋ္ဌကထာ သဋီကာကို ရတနာပုံ မန္တလေး ရွှေမြို့တော် တောင်ပြင်ဝယ် ပဘက်ရ နေ အဆောင်ဆောင် ထွန်းပသကဲ့သို့ သာသနာ့ ကျက်သရေဆောင် ထိပ်ခေါင်တင်ချည်းဖြစ်တော်မူကြသည့်—

(က) ဒက္ခိဏာရာမဘုရားကြီးတိုက် စတုတ္ထနာယက ဆရာတော် ဘဒ္ဒန္တ အာစာရထေရ်၊

(ခ) ဘဒ္ဒန္တသုဇာတာဘိဝံသ ဘွဲ့ရအကျော် ဆရာတော် ဦးရန်ကုန်ထေရ်၊

(ဂ) ညောင်ကန်တိုက်အုပ်ဆရာတော် ဘဒ္ဒန္တကုဏ္ဍာဘိဝံသထေရ်၊

(ဃ) သံဃသမ္မတ မိုးတွားသာသနာပိုင် ဆရာတော်၊

(င) ရွှေရေးဆောင်တိုက် နာယက အရှင်အာဒိစ္စရံသီ ဘွဲ့ထူးချီသော ဆရာတော် ဦးကြည်၊

ဤဆရာတော် မထေရ်မြတ်တို့ထံ နိယံကပ်ဆည်း ကျင့်သိပ်သည်းလျက် ညံ့ဖြည်းမွှေ့မွှေ့ တရွေ့ရွေ့လျှင် တနေ့တထူး ကျေးဇူးခံ၍ ထွင် သင်သင်အံအံ ကြံကြံကြည့်ကြည့် ပညာကို ဖြည့်သဖြင့် ရေပြည့်သည့်အိုး ပုံတမျိုးမူ အိပ်နှိုးတင်ခတ် တုံ့ဆတ်မေးဖြေ ခွန်းတိုင်းချေနိုင်သည့် အခြေမြင့်ကြွယ် သမုဒ်ပြင်နှယ် အသိဉာဏ်ကျယ်ရကား ဆယ်ဝါအရ ထေရ်စာရင်းဝင်စ ကပင် စာချသာဘင် ပွဲကြီးယင်ခဲ့သဖြင့် ဃေးပြင်ဌာန် စာတော်ပို့ချသော သံဃာမထေရ် များကြွယ် စန်းကုန္ဒာတို့ အလယ်၌ သောကြာကြွယ် အလား သာသနာဝယ် ကျေးဇူးများ၍ ထင်ရှား ကျော်စောခြင်း တည်းဟူသော “ဒဟရ ကာလတော ပဘုတိ ကိတ္တိယသပတ္တဒ္ဓ” ကျေးဇူးဂုဏ်နှင့်လည်း ပြည့်စုံစွာထသော—

၅။ ရဟန်းသိက္ခာ ဆယ်ဝါအရ ထိုမှစ၍ ဇီဝပိုင်းခြား ခုနစ်ဆယ့်ငါး သိက္ခာအားဖြင့် ငါးပါးစွန်းကာယ် ဝါလေးဆယ်တိုင် နေ့ဝယ်နေ့လျောက် ညဥ့်ရောက်ညဥ့်တာ မလင့်ပါအောင် စာတော်ပို့ချတိမတ်သောဝိနိစ္ဆယနှင့်တကွ ကာလချိန်မှန် ပရိယတ္တိတာဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူခြင်း စာပေမှတပါး အခြားသော လောကီမှုတို့ကို ဂရုမမူ လျစ်လျူတော်ရှု စတုပ္ပစ္စယ အာမိသ၌လည်း ရသမျှနှင့်သာ မျှာတော်မူ တဏှာပူဇင် မြူမထင်ဟု လူရှင်တို့ မှတ်ယူကြလျက် အေးသည်ပူသည် လေးသည်ပေါ့သည် ပျော့သည် မာသည် ထိုဤစကား ပြောကြားမရှိ အရိယိဒ္ဓိပမာ အဆာမကျယ် မွေးမြူလွယ်၍ ယယ်စဉ်ကာလ ထိုခါကပင် အစပြုကာ သောမ္မဟဒယာ

ကြည်သာသော စိတ်နှလုံးရှိသဖြင့် မိမိကို သူတပါး အပြစ်တင်ပြော ကြားလည်း လားလားမျှ အမျက်မမူ သူ၏အပြစ်ကိုလည်း မမျှော်ငံ့ နူးညံ့သိမ်မွေ့သော စကားကိုသာ ပြောကြားတော်မူလေ့ရှိခြင်း တည်း ဟူသော "ပရိယတ္တိ ဝုဋ္ဍိ လောကာမိသာနုပေက္ခ စတုပစ္စယ သန္တောသ ဘုဘရတာ အဓိဝါသနခန္တိ ပရဝဇ္ဇာနာနုဿတိဂုဏ်" တို့ နှင့်တကွ "ဥက္ကဋ္ဌသခိလ သမ္မောဒဂုဏ်" နှင့်လည်း ပြည့်စုံစွာထသော—

၆။ ဖော်ပြပါ ဟေတုသမ္ပဒါ များစွာသော ဂုဏ်ကျေးဇူးတို့နှင့် တကွ သီတမြေထု မေရုသမာဓိနှိ ဝရဇိန်ပညာ လင်းလင်းဖြာသော ကြောင့် ၁၃၁၃-ခုနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် နိုင်ငံတော်ဝိနည်းဓိုရ်ဘွဲ့ပုံတော် ဆင္ဃ သံဂါယနာသြဿာနသောဓကဘွဲ့ပုံတော် တို့နှင့်တကွ (ဝိုင်၊ အမ်၊ ဘီ၊ အေ) အသင်းမှတဆင့် (ဘီ၊ အို၊ စီ) ဒါယကာ (ဦးမောင်ကြီး)က သာသနပကာရ သံဃကျေးဇူးရှင် ထေရ်သခင်တို့အား တမင်ဝိသေသ ရွေးချယ်၍လှူဒါန်းအပ်သော အလှူဒါနနှင့်တကွ ပရိယတ္တိသာသန ဟိတမည်လျှင်း ထိုအသင်း၏ လေးသင် ပစ္စယ လှူဒါနကို နိဗဒ္ဓ ခံယူရ ခြင်းတည်းဟူသော "ပုညမဟတ္တတာ ဖလသမ္ပဒါကျေးဇူးဂုဏ်" နှင့် လည်း ပြည့်စုံစွာထသော—

၇။ သက်တော် ခုနစ်ဆယ့်ငါး တိုင်လတ်ပြသော် ရှည်လျား ကာလ ပရိယတ္တိသာသနာ့ဝန်ကို အားသွန်ထမ်းဆောင်တော် မူခဲ့ရ သဖြင့် ကရဇကာယ ငြိမ်း အားတော်နွမ်း၍ မကျန်းမမာ ဖြစ်လတ် ခါ၌ ဆရာဝန်နှင့်ဘုပည့်များ စာပေကိုရပ်နားရန် တောင်းပန်လျှောက် ထားကြ၍ တရားနှလုံး ကျင့်သုံးတော်မူကာ သုံးနှစ်ကြာကာလ ဝါသ ဓုရတာဝန်ကို အားသွန်ကျင့်ဆောင်တော်မူခြင်း တည် ဟူသော "အတ္တ ဟိတ ပဋိပတ္တိ ဂတိဝိသေသ အပ္ပမာဒ ကျေးဇူးဂုဏ်" နှင့်လည်း ပြည့်စုံစွာထသော—

သံဃေပန အကျဉ်းချုပ်ဖော်ပြသည့် ဂုဏ်များဖြင့် ကျေးဇူးရှင် ဖြစ်တော်မူသော မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနဇောတိကာရုံအုတ်ကျောင်း၌ ကိန်းအောင်းမွေ့လျော် နေစံ ပျော်သော ဆရာတော် ဦးနာရဒ အဂ္ဂမဟာပဏ္ဍိတ သံဃပိဘာထေရ် မဟာသည်—

ဒဟရာစ မဟန္တာစ၊ ယေ ဗာလာ ယေစ ပဏ္ဍိတာ။
သဗ္ဗေ မစ္စုဝသံ ယန္တိ၊ သဗ္ဗေ မစ္စုပရာယဏာ။

"ပညာရှိသူ၊ မရှိသူဟု၊ ကြီးသူငယ်သူ၊ ဘယ်မဟူပဲ၊ ဗိုလ်လူခပင်း၊ ထိုတသင်းကား၊ သေမင်းနိုင်ငံ၊ လိုက်ရမှန်" ဟု-

ဓမ္မခန်ကသိုဏ်း လာရှိတိုင်းပင် သက်ပိုင်းခုနစ်ဆယ့်ရှစ် ရောက်လတ်သော ခါ ကောဇာသက္ကရာဇ် ၁၃၂၇-ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၈-ရက်နေ့ မွန်းလွဲ ၂-နာရီ ၁၅-မိနစ်အချိန်တွင် ခန္ဓာအိမ်ကရဇ ကိုယ်ကာယကို ကမ္မဇဥသွာ တဖြာဝိညာဏ ဇီဝိတဟု ဓမ္မသုံးပါး စွန့်တန်နားသဖြင့် များစွာသော ဟာသ္သသံသာ ဒါယကာတို့ကို ဥပေက္ခာပြု လျစ်လျူရှုဟ်သို့ ကိတ္တိဘောသဂုဏ်တော် သတင်းကျော်စောခြင်းမျှ အကြွင်းရသည်၏အဖြစ်သို့ စင်စစ် ရောက်တော်မူလေကသတည်း၊

မဟာပုဏ္ဏမီ ယုန်စန္ဒီသို့ ဂုဏ်ရည်လျှံပြည့် စံကာဝိဟု ပဏ္ဍိကသခင် ဘွဲ့ထူးနှင်အပ်သော အရှင်နာရဒ မြတ်ထေရ်၏ ဥတုသမုဋ္ဌာန် ကြွင်းကျန်သော ကလာပ်ရုပ်ကို "ပုထုဇ္ဇနှ သီသဝ ယော ပန ရေိနိဗ္ဗုတ ဘိက္ခုနော ဝိယ မဟန္တမ္ပိ သက္ကာရံ ကာတုံ ဝဋ္ဋတိယေဝ" (အံ၊ ဋ္ဌ၊ ၂၊ ၁၉၅-လာ) ပကိဏ္ဏက ဒေသနာ အဋ္ဌကထာ မိန့်မှာချက်နှင့် လိုက်ဖက်ညီထွေ သမသတ်ညီစေလျက် ပဥ္စဝဂ်ဖန်ပျိုး ပူဇော်ရိုးအစဉ်အလာ စကြာမန္ဓာတ်မင်းတို့၏ ပူဇော်ခြင်းအနှုန်းကဲ့သို့ ဘုန်းကံသခင် အရှင်တို့သာ ကျင်းပမြဲဓမ္မတာဖြင့် ဗြဟ္မာသကြား နတ်လေးပါးတို့ ခမ်းနားစုံလင် ပွဲကြီးသဘင် ခြိမ့်ခြိမ့်ယင်လျက် ကျည်းရှင်သွန်းမြှင့် ဖြူဝန်းတင့်အောင် ထွန်းဖွင့်ပူဇော်ရာ ကောဇာသက္ကရာဇ် ၁၃၂၇-ခုနှစ် နတ်တော်လဆန်း ၅-ရက်နေ့ ထီးဖြူကောင်ဖွင့် အခမ်းအနားသဘင် ခါဝယ် ပူဇာရဟ မြတ်ထေရ၏ အဏ္ဏဝန္တန်းတု ဂုဏ်တော်စုမှ ဥပလက္ခဏ နည်းညွှန်ပြလျက် သံခေပကထာ ထေရုပ္ပတ္တိဝဏ္ဏနာ ထောမနာဘွဲ့ညွှန်း ဤစာပန်းဖြင့် အနပ္ပကမ်းဂုဏ်သခင် ကျေးဇူးရှင်ကို အစဉ်ထာဝရ ရှိသေရင်းကူသိုလ်ဆန္ဒဖြင့် တိပိဋကဓိုရ် ထေရ်ပုဂ္ဂိုလ်လျှင် ကြည်ညိုလေးမြတ် ပူဇော်အပ်သည်ကို နတ်နတ်တကာ ဗြဟ္မာဗြဟ္မာနှင့် ကြွလာညီမူ ရှင်ရှင်လူတို့ ကြည်ဖြူနှုတ်ခွန်း ဗြဟ္မာမဟာဂုတ် ဘဝဂ်လုပ်အောင် လက်ခုပ်သံ အောင်ပတ္တနာဆုဖြင့် အောင်သာမု ညွှန်းတော်မူကြပါစေသတည်း။

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

### အရှင်သဒ္ဓမ္မာလင်္ကာရ

အရှင်သဒ္ဓမ္မာလင်္ကာရသည်လည်း ဒက္ခိဏာရာမတိုက်၌ ကျော်စောသည့် ဂဏာ ါစက စာချဆရာတော်တပါး ဖြစ်တော်မူသည်။

### ဖွာ မြင်တော်မူခြင်း

ပခုက္ကူခရိုင် ရေစကြိုမြို့နယ် နန္ဒားကိုင်းရွာ၌ ဘခင် ဒေမျိုးသမန်ကျော်ထင်သူကြီးမင်းဦးရွှေဘင်-အမိဒေါ် သိုက်တို့မှ သက္ကရာဇ် ၁၂၄၆-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။

### ရှင်ရဟန်းပြု ပညာသင်

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ နံတော် သောကြာသားဖြစ်ရာ ဥပဇ္ဈာယ် ဆရာတော်က အရှင်သဒ္ဓမ္မာလင်္ကာရဟု ဘွဲ့မည် မှည့်ခေါ်တော်မူသည်။ အသက်နုငယ် ငယ်လျစဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်၍ ဆရာတော် ဦးပခန်းကြီးခေါ် အရှင်ဝိစာရစသည်တို့ထံတွင် ပိဋကတ်အခြေခံ ကျမ်းစာများနှင့်တကွ ဝိနည်းဖြတ်ထုံး စသည်များကို သင်ယူဆည်းပူးတော် မူခဲ့လေသည်။

### အရပ်ပုပု ဉာဏ်ထက်မြက်

ဆရာတော်ကား အရပ်အမောင်းပုပု ခန္ဓာကိုယ်သေးသေး ဖြစ်၏။ သို့ရာတွင် ဉာဏ်ထက်မြက်သည်။ သာသနာပြုလိုစိတ်နှင့် ပြည့်စုံတော်မူသည်။ သက္ကတဘာသာ သီဟိုဠ်ဘာသာတို့ကိုလည်း လေ့လာတော်မူသည်။

### စာပေချပို့ သာသနာ့ဝန် ထမ်းဆောင်ခြင်း

ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ နေ့ဝါညဝါ ကျမ်းစာအမျိုးမျိုးတို့ကို ချပို့တော်မူ၍ သာသနာပြုတော်မူခဲ့လေသည်။ သံဃာတော်များစွာတို့ ဆရာတော်ထံ စာပေလိုက်နာ သင်ယူကြကုန်၏။ ဆရာတော် ဦးပခန်းကြီး၏ စာချနည်းကို စနစ်တကျ ရရှိတော်မူသည့် ဆရာတော် ဖြစ်သည်။

## ပခုက္ကူမြို့၌ စာချခြင်း

သက္ကရာဇ် ၁၂၈၉-ခုနှစ်တွင် ဆရာတော်ဘုရားကြီး ဦးပန်း ပခုက္ကူမြို့ အနောက်ပိုင်းတွင် သာသန ဝိပုလာရာမ မန္တလေးကျောင်းတိုက်ကြီးကို စတင် တည်ထောင်၍ စာပေချပို့တော်မူသောအခါ ဆရာတော် ဦးပန်းနှင့်အတူ ပခုက္ကူသို့ လိုက်ပါကြွရောက်တော်မူ၍ ပခုက္ကူမြို့ သာသနဝိပုလာရာမ မန္တလေး တိုက်၌ ပဓာနစာချဖြစ်၍ ရေသတ္တိဂဲ့ ဥာသနာကို များစွာချီးမြှောက်တော်မူခဲ့ လေသည်။

## တိုက်အုပ်မဟာနာယကတာဝန် ထမ်းဆောင်ခြင်း

ဆရာတော် အရှင်သဒ္ဓမ္မာလင်္ကာရသည် ဆရာတော်ဘုရားကြီး ဦးပန်း သက်တော်ထင်ရှားတော်မူစဉ် ပခုက္ကူမြို့ သာသနဝိပုလာရာမတိုက်၌ တိုက်အုပ် ဆရာတော်အဖြစ် ထမ်းဆောင်တော်မူ၍ ဆရာတော်ဦးပန်းကြီး ၁၃၀၂-ခု တွင် ပျံလွန်တော်မူသဖြင့် သာသနဝိပုလာရာမ တိုက်ကြီး၏ မဟာနာယက ဖြစ်၍ သာသနာကျိုးကို သည်ပိုးဆောင်ရွက်တော် မူခဲ့လေသည်။

## ကျမ်းစာပြုစုအားထုတ်မှု

ဆရာတော် အရှင်သဒ္ဓမ္မာလင်္ကာရသည် ကျမ်းစာများကိုလည်း ပြုစုစီရင် တော်မူခဲ့သည်။ ၎င်းတို့မှာ-

၁။ မာတိကာ ဝိသောဓနီ၊
၂။ မေဃဝုဋ္ဌိကာရီ သိမ်ဩဘာစာ-

စသည်တို့ဖြစ်ကုန်၏။

ယင်းနှစ်ကျမ်းအနက် မေဃဝုဋ္ဌိကာရီ သိမ်ဩဘာစာမှာ သက္ကရာဇ် ၁၂၉၇-ခုနှစ် သီတင်းကျွတ်လဆန်း ၈-ရက်နေ့ညတွင် ပခုက္ကူမြို့ သာသနဝိပုလာရာမ မန္တလေးတိုက်၌ သိမ်သမုတ်အပြီး ဖတ်ကြားရန် ရေးသားစီရင်တော်မူခဲ့သည့် သိမ်အောင်စာဖြစ်သည်။

ယင်း သိမ်ဩဘာစာကား သာမန်သိမ်အောင်စာ၊ သိမ်ဩဘာစာ မဟုတ် ချေ၊ သိမ်နှင့်စပ်သည့် မှတ်သားဖွယ်တို့ကို ကျမ်းစာမျိုးစုံ ချင်းနင်း၍ ရေး သားတော်မူသည့် သိမ်ဩဘာစာဖြစ်သည်။ စာမျက်နှာ ၂၈-မျက်နှာ ရှိ၏။ ယင်း သိမ်ဩဘာစာကို—

ယာသာ သေတာ ဒယာ ပညာ၊ နိဿီမာတိ ဝိဇမ္ဘိတိ။
ပရိဂ္ဂါဟေတု သမ္မာ သော၊ တိမိရဒွေကော ဒိဝါကရော။
ယထာ ဘာသိ နဘော စန္ဒော၊ ကပ္ပဒ္ဒုမော သုပါကဋော။
တထေဝါယံ ဘုဘာ သီမာ၊ သောဘမာနာ စိရံ ဌိတာ။

ဟူသော နှစ်ဂါထာဖြင့် အာသီသပုဗ္ဗက အာရမ္ဘပြု၍ ပြည့်စုံစွာရေးသားစီရင်တော်မူခဲ့လေသည်[၁]။

## ထာဝစဉ် စာဖြင့်ပျော်

ဆရာတော်ကား ထာဝစဉ်နိစ္စ ကျမ်းဂန္ထဖြင့် ပျော်မွေ့တော်မူသည့် ပရိယတ္တိဝန်ဆောင် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။ စာပေ ကျမ်းဂန်နှင့် စပ်သည့်အကြောင်းကိုသာ မိန့်ကြားတော်မူလေ့ ရှိသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ နိစ္စထာဝရ ကျမ်းဂန္ထဖြင့် မွေ့လျော်တော်မူသော ဒက္ခိဏာရာမထေရန္တယ်ဝင် အရှင်သဒ္ဓမ္မာလင်္ကာရသည် သက်တော် ၆၇ နှစ် သိက္ခာတော် ၄၇-ဝါ ရရှိရာ ၁၃၁၃-ခုနှစ် ဝါဆိုလဆုတ် ၁၂-ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

## သံဝေဂယူရန်

အာဒိစ္စသမေဝ ဟိ နရနာရိနံ၊
စလာစလံ ပါဏဘူနနာခ ဇီဝိတံ။
ပဋ္ဋာဝ ဝုတ္တာယ ဒုမောဝ ကူလဇော[၂]။

ဣဓ၊ လူပ်လူပ်ရွရွ သက်ရှင်ကြသည့် ဤဇီဝလောက၌။ ပါဏဘူနော- ပါဏဘူတာနံ၊ အမှန်စင်စစ် သတ္တဝါဖြစ်၍ ဖြစ်ကုန်သော။ နရနာရိနံ၊ ယောကျ်ား မိန်းမတို့၏။ ဇီဝိတံ၊ အသက်သမုတ်နာမ်နှင့်ရုပ်သည်။ စလာစလံ၊ အရှည်အစွဲ အမြဲမဟုတ် တုန်လှုပ်သည်သာ။

---

၁။ ဗျူဋ္ဌနမုဋ္ဌါဒိ ဒိပနီကျမ်းနှင့်တွဲ၍ ရိုက်နှိပ်ထားရာ ဒိမိုင်းဆိုဟ် စာမျက်နှာ ၂၀-မျက်နှာရှိသည်။
၂။ ဇာ၊ ၁။ ၃၅၅။ (အဋ္ဌယာဿရဇာတ်)။

ဓုတ္တသာ၊ နေ့စဉ်ရက်ဆက် သေရက်သောက်မူး သေသောက်ကြူး၏။ ပဍ္ဍေ၊ ခါးပတ်ပုဆိုးသည်။ စလောဘူ၀၊ ဟိုရောက်သည်သွား ရွေ ရှားတုန့်လှုပ်သကဲ့သို့ လည်းကောင်း။ ကူလဇင်းဒုမော၊ ကမ်းနား ပေါက်ပွား ကမ်းနားသစ်ပင်သည်။ စလာဗျူ၀၊ မြဲမြံသက်မနေ တုန် လှုပ်လေသကဲ့သို့လည်းကောင်း။ ဝေ ကြ သေနည်ယင်မူးသေသောက်ကြူး ပုဆိုးနှင့် ကမ်းနားသစ်ပင်အလား သာလျှင်။ သဏ္ဌာနံ၊ သံသရာ ဇာတ်ခုံ ကြုံလာဖြစ်သောသတ္တဝါတို့၏။ ဇီဝိတံ၊ အသက်ဇီဝိတ်သည်။ စလံ၊ အချိန်သမယ ကာလကြာရှည် မတည်မနေ တုန်လှုပ်လေ၏။



## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော် အရှင်ဥေယျဓမ္မ

ဆရာတော် အရှင်ဥေယျဓမ္မသည်လည်း ဒက္ခိဏာရာမ မဟာဝိဇ္ဇာလယ၌ ကျော်စောကိတ္တိရှိသည့် ဂဏဝါစက စာချဆရာတော်တပါးဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြု ပညာသင်

မိတ္ထီလာခရိုင် ကဖြူရွာ၌ အဖ ဦးမြိုင်-အမိ ဒေါ်ပိန်တို့မှ သက္ကရာဇ် ၁၂၅၃-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ဖိုးထင် ဖြစ်သည်။ အရွယ် ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဒက္ခိဏာရာမ ဝိဇ္ဇာလယကြီးသို့ ငယ်စဉ်ကပင် ရောက်ရှိ၍ ဒက္ခိဏာရာမ စတုတ္ထ ဆရာတော် အရှင်အာစာရာဘိဝံသ၊ဆရာတော် ဦးရန်ကုန်ခေါ် အရှင်သုဇာတာ ဘိဝံသတို့၏ အထံတွင်—

> "ညီညာထကြွ၊ ဆုံးမနာယူ၊ လာမူကြိုဆည်း၊ ထံနီးလုပ်ကျွေး၊
> သင်တွေးအံရွတ်၊ တပည့်ဝတ်၊ မချွတ်ငါးခုသာ"

ဟူသည်နှင့်အညီ တပည့်ဝတ်ငါးပါး ကျင့်ဆောင်လာ များစွာ စာတို့ကို အာစရိယမုဋ္ဌိမရှိအောင် သင်ယူတော်မူခဲ့လေသည်။

## အလယ်အုတ်တိုက်ကြီးပေါ်ဦး စာချ

ဂန္ထဝါစကေ ကျော်ပေါက်ပြသည့် ဒက္ခိဏာရာမ ပဝေဏီပါလက ထိပ်ထန်း စာချဆရာတော်ကြီးတို့ထံ၌ ပရိယတ္တိဝါစနာမဂ္ဂနည်းနယကို ရရှိတော်မူသော ဆရာတော် အရှင်ဥယျာသည် ဒက္ခိဏာရာမတိုက် အလယ်ကျောင်းကြီးပေါ်ဦး စာချပို့တော်မူရာ ရဟန်း သာမဏေများစွာတို့ ပျားပန်းခတ်မျှ စာပေ ကျင်းနှံ လိုက်နာသင်ယူကြကုန်၏။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ အစ္စာရဒ္ဓဝီရိယဖြင့် ဂန္ထန္တရအဝဝကို ချပို့စဉ် သက်တော် ၅၂-နှစ်၊ သိက္ခာတော် ၃၂-ဝါရရှိရာ ၁၃၀၅-ခု ဒက္ခိဏာရာမတိုက်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဝေဠံ ကုသလံ ဂန္ထေသု၊ မစ္စုရာဇာဘိမဒ္ဒတိ။

တယိဒံ မာဒိသံ သတ္တံ၊ ကထံ နာဘိဘဝိဿတိ။

ဝေဠံ၊ ဤသို့။ ဝါ၊ သို့ကာလောက်။ ဝါ၊ ဤဆိုခဲ့ပြီးသည့်အတိုင်း။ ဂန္ထေသု၊ ဂန္ထန္တရ အဝဝတို့၌။ ကုသလံ၊ ပါရင်ပေါက်ရောက် တတ်မြောက်လိမ္မာတော်မူသော စာချဆရာတော်ကို။ မစ္စုရာဇာ၊ ယုတ်မာ စင်းစင်း သေမင်းညစ်သည်။ အဘိမဒ္ဒတိ၊ ချေမှုန်းနှိပ်စက် တုံသေး၏။ တယိဒံမရဏံ၊ ထိုစုတိပြတ်ကြွေ သေလွန်ခြင်းသဘောသည်။ မာဒိသံ သတ္တံ၊ ဂုဏ်မပြည့်ကြွယ် ငါနှယ်သတ္တဝါကို။ ကထံနာဘိဘဝိဿတိ၊ အဘယ်မှာလျှင် မလွှမ်းမိုး မနှိပ်စက်ပဲ ရှိချေအံ့နည်း။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်ဝါသဝ

ဆရာတော် အရှင်ဝါသဝသည် ရုပ်ရည်ရူပကာယလည်း အလွန်ကောင်း၊ စာပြောလည်း အလွန်ကောင်းသည့် ဆရာတော်ဟု ထင်ရှားသည်။

### ဖွားမြင် ရှင်ရဟန်းပြု ပညာသင်

မိတ္ထီလာခရိုင် ကဖြူရွာ အဖ ဦးကုလား-အမိ ဒေါ်ခန်းတို့မှ သက္ကရာဇ် ၁၂၃၁-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ဝိုင်းဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် အရှင်ဝါသဝဖြစ်သည်။ ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် သံဃနာယကဆရာတော် အရှင်အာစာရ၊ ဆရာတော်ဦးရန်ကုန်၊ ဆရာတော်အရှင်နန္ဒိယ (ကဗျာနန်) စသည့်တို့ထံတွင် နေ့ဝါညဝါ ကျမ်းစာအမျိုးမျိုးကို သင်ယူတော်မူခဲ့လေသည်။

### စာချကျော်စောခြင်း

ဒက္ခိဏာရာမ ဘုရားကြီးတိုက် အဘွင်းဘပ်ရာဟုထော၀် မိုးကုတ်ကျောင်း၌ သီတင်းသုံး၍ စာပေချပို့ရာ စာသင်သား သံဃာတော်များစွာတို့ ဆရာတော်ထံ ချဉ်းကပ် ပညာသင်ကြားကြသည်။ အဘိဓာန်နည်း၊ သဒ္ဒါနည်း၊ အာလင်္ကာနည်း၊ ဆန်းနည်း၊ ဉာသ်ကောက်နည်း၊ နဠ္ဌကောက်နည်း၊ ထွက်နည်း၊ တက်နည်း-စသည့်နည်းအမျိုးမျိုးတို့ကို လှည့်ပြပြောဆို၍ စာချရာ စာလိုက်သံဃာတို့များစွာ စိတ်ဝင်စားတော်မူကြသည်။

### သုဓမ္မာဝင်ဆရာတော်ဖြစ်ခြင်း

ဆရာတော်သည် "ဝိသုဒ္ဓသီလာစာရကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"၊ "ဝိသုဒ္ဓသီလာစာရသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု"၊ "ဝိသုဒ္ဓသီလာစာရ သိရီပဝရ ဓမ္မသေနာပတိ မဟာသံဃရာဇာ"ဟူသော ဘွဲ့တံဆိပ်တော်သုံးထပ်ရတောင်ခွင်သာသနာပိုင် ဆရာတော်ဘုရားကြီး၏ သုဓမ္မာအဖွဲ့တွင် သုဓမ္မာဝင်ဆရာတော်တပါးဖြစ်၍ သာသနာရေးကိစ္စများကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။

### အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း

၁၂၇၅-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ နေ့သယ်တွင် စစ်ကိုင်းဟောင်ရှိ မူလပဗ္ဗတချောင်၌ သီတင်းသုံးတော်မူရာ သက်တော် ၇၀-ကျော်ခန့်တွင် ယင်းမူလပဗ္ဗတချောင်၌ပင် စုတိကမ္မဇရုပ် ချုပ်တော်မူသည်။ အဂ္ဂမဟာပဏ္ဍိတဆရာတော် ဦးကြွယ် စသည်တို့ကား အရှင်ဝါသာထံ စာသင်တပည့်များ ဖြစ်ကြကုန်၏။

### သံဝေဂယူရန်

စာချကောင်းလဲ၊ မှန်မလွဲ၊ သေပွဲဝင်ရသည်။
အဟောကောင်းလဲ မှန်မလွဲ၊ မမြဲသောရသည်။
နိဗ္ဗာန်အမတ၊ ရောက်လေကာ၊ မသေရတော့ပြီ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော်ဆရာတော်

## အရှင်ဝိမလာစာရ

ဆရာတော် အရှင်ဝိမလာစာရသည် ဒက္ခိဏာရာမတိုက်၌ အလွန်လျှင်ကျော်စောသည့် ပရိယတ္တိဝန်ဆောင် စာချဆရာတော်တပါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင်ရဟန်းပြု ပညာသင်

ပခုက္ကူခရိုင် ပခန်းကြီးမြို့နယ် ထန်းဘိုကျေးကန်ရွာ၌ သက္ကရာဇ် ၁၂၃၈-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ နံတော် ဗုဒ္ဓဟူးသားဖြစ်သည်၊ ဘွဲ့တော် အရှင်ဝိမလာစာရဖြစ်သည်။ ဆရာတော်ကား ဉာဏ် ဝီရိယနှင့် ပြည့်စုံသည့်ဆရာတော် ဖြစ်တော်မူသည်။ ဒက္ခိဏဝါသီ ဂဏဝါစက စာချပညာရှင်မထေရ်တို့ထံ ဂန္ထန္တရအာဝပကို သင်ယူတော်မူခဲ့ရာ ကျမ်းဂန်ဆရပ်ရပ်၌ ပါရင်ပေါက်ရောက် တတ်မြောက်တော်မူခဲ့လေသည်။

## စာချကျမ်းပြုခြင်း

ဇေကွိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ စာပေကျမ်းဂန်အရပ်ရပ်ကို ချပို့တော်မူရာ စာသင်သား ရဟန်းသာမဏေ ရာပေါင်းများစွာတို့ စာပေ ကျမ်းဂန် လိုက်နာသင်ယူကြကုန်၏။ ဇေကွိဏာရာမတိုက်၌ ဆရာတော် စာချ သီတင်းသုံးခဲ့ရာ ကျောင်းသည်ပင် "ဦးဝိမလ စာချကျောင်း"ဟု ထင်ရှား ခဲ့လေသည်။ နောင်တွင် မန္တလေး အနောက်ပြင် တောင်သမန်တိုက် ဆရာ တော်များ၏ ပင့်လျှောက်ချက်အရ တောင်သမန်တိုက်၌ သီတင်းသုံး၍ စာပေ ချပို့တော်မူခဲ့လေသည်။ ထိုအခါတွင်လည်း "တောင်သမန် ဦးဝိမလ"ဟု ထင်ရှားပြန်သည်။ ဆရာတော်ကား သုတ်၊ ဝိနည်း၊ အဘိဓမ္မာအားလုံး၌ နိုင်နင်းသည့်ဆရာတော် ဖြစ်တော်မူသည်။

၁။ အလင်္ကာဋီကာနိဿယသစ်၊
၂။ ရုပ်ဝိထိဆိုရိုး—

စသည့်ကျမ်းဂန်တို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်သည် အထိုင်များသဖြင့် အညောင်းမိကာ ဆီးရောဂါဝေဒနာ ကို ခံစားတော်မူရရှာသည်။ ယင်းဆီးရောဂါကို မတော်လှန် မတွန်းလှန်နိုင် သဖြင့် သက်တော် ၆၅-နှစ်ရှိရာ ၁၃၀၃-ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန် တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဒုက္ခာ ပုနဗ္ဘဝေါ နာမ၊
သရီရဿ စ ဘေဒနံ ¹။

ပုနဗ္ဘဝေါ နာမ၊ တဖန်ဘဝသစ်၌ ဖြစ်ရခြင်း မည်သည်လည်း။ ဒုက္ခော၊ အလွန်အားငင်းဆင်းရဲ လှချေ၏၊ သရီရဿ၊ ခန္ဓာကိုယ်ချုပ် အကောင်ပုပ်၏။ ဘေဒနံစ၊ ပျက်စီးခြင်းသည်လည်း။ ဝါ၊ ပျက်ပြုန်း ဆုံးရှုံး သေလွန်ရခြင်းသည်လည်း။ ဒုက္ခံ၊ အလွန်အမင်း ဆင်းရဲလှ ချေ၏။

---

¹။ ဗုဒ္ဓဝံသပါဠိ၊ ၃၁၄။ ပဒုက္ကုသာသနာဝင်၊ ၂၀၄-ကြည့်။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်သာသန

အရှင်သာသနသည် ဒက္ခိဏာရာမဘုရားကြီးတိုက် ဦးညွန့်အုတ်ကျောင်း၌ သီတင်းသုံးတော်မူကာ ကျမ်းစာကြီးငယ် သွယ်သွယ် ပို့ချ သာသနာပြုတော်မူသည့် မထေရ်မြတ် ဖြစ်တော်မူသည်။

## ဖွားမြင် ရှင်ရဟန်းပြုခြင်း

မင်းဘူးမြို့နယ် ရွာသာယာရွာ၌ အဖ ဦးစံလှ-အမိ ဒေါ်ပေတို့မှ သက္ကရာဇ် ၁၂၄၀-ပြည့်နှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန် အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူခဲ့လေသည်၊ ဥပဇ္ဈာယ်ဆရာတော်က "အရှင်သာသန"ဟု ဘွဲ့မည် မှည့်ခေါ်တော်မူသည်။

## အရှင်ဉာဏိန္ဒာသဘထံ ပညာသင်

အရှင်သာသနသည် အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကျော်ယောဇနာ ကျမ်းပြု အရှင်ဉာဏိန္ဒာသဘထံ ပိဋကတ်သုံးသွယ်နိကာယ်ငါးရပ် အခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။ ၎င်းပြင် သရက်မြို့ အုတ်ဖိုကျောင်းဆရာတော်ထံတွင်လည်း ဆက်လက်၍ ပညာသင်ကြား ဆည်းပူးတော် မူခဲ့လေသည်။

## သက်တော်ရှည် စကုဆရာတော်ထံ ဆက်လက်ပညာသင်

၎င်းနောက် "ပဏ္ဍဝံသာဘိသိရီဣာဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့ တံဆိပ်တော်ရ သက်တော်ရှည် စကုဆရာတော် ဘုရားကြီးအထံ၌သည်း ပါဠိတော် အဋ္ဌကထာကျမ်းကြီးများနှင့် တကွ သဒ္ဒါဘာ ဗျာကရဏ်းကျမ်းများကို သင်ယူတော်မူခဲ့လေသည်။ အရှင်သာသနသည် ဉာဏ်ပညာလည်း ထက်မြက်၊ ဝီရိယသည်း အလွန်ကဲသော ပုဂ္ဂိုလ်ဖြစ်ရာ ငယ်စဉ်ကပင် စာပေကျမ်းဂန် ကျွမ်းကျင် တတ်မြောက်တော်မူခဲ့လေသည်။

## ဒက္ခိဏာရာမတိုက် နေထိုင် ပညာဆက်လက်သင်

တဖန် ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိနေထိုင်တော်မူ၍ စာချ အကျော် ဆရာတော်ဦး ရန်ကုန်နှင့် သံဃနာယက တိုက်အုပ်ဆရာတော် ဘုရားကြီး အရှင်အာစာရောဘိဝံသတို့ထံ တွင်လည်း သဒ္ဒါဗျာကရဏ်း အချို့နှင့် ကျမ်းဂန်ကြီးများကို သင်ယူတော် မူခဲ့လေသည်။

## ပရိယတ္တိသာသနာဟိတဓမ္မာစရိယ (သီးခြားစာချ)

ပရိယတ္တိသာသနဟိတ အသင်းမှ ကျင်းပသည့် စာမေးပွဲများ ကိုလည်း နှစ်တန်းလုံး အပြီးတိုင် အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တသာသနာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဟူသော ဘွဲ့တံဆိပ် တော်ကိုလည်း သီးမျိုးစုံပဒေသာပင်နှင့်တကွ အလှူခံရရှိတော်မူခဲ့လေသည်၊ ၎င်းပြင် လစဉ်ထောက်ပံ့သည့် ဆွမ်းဆန်တော် ကိုလည်း အလှူခံ ရရှိတော် မူသည်။

## စာပေချပို့ သာသနာပြုခြင်း

ယင်းသို့ ဆရာအသီးသီးထံမှ နည်းနာနိဿယ စုံလင်စွာ ရရှိတတ်မြောက် ပြီးသည်ဖြစ်ရကား မိမိထံမှောက်သို့ ချဉ်းကပ်ရောက်ရှိလာသော စာသင်သား ရဟန်းသာမဏေများစွာ တို့အား စာပေကျမ်းဂန် ချပို့တော်မူ၍ ပရိယတ္တိ သာသနာတော် တည်းဟူသော ကန်ပေါင်ကန်သင်းကို ဆည်ဖို့တော်မူခဲ့လေ သည်။

## ကျမ်းဂန်များပြုစုတော်မူခြင်း

ဆရာတော် အရှင်သာသနသည် အသွန် အလုပ်လုပ်တော် မူသည်။ စာပေကျမ်းဂန်ချပို့ရုံမျှမက ကျမ်းဂန်များစွာ တို့ကိုလည်း ပြုစီရင်တော်မူခဲ့ လေသည်။

၎င်းတို့မှာ-

၁။ ကစ္စာယနဂဏ္ဌတ္ထဒီပနီကျမ်း၊
၂။ အဘိဓမ္မတ္ထဝိနိစ္ဆယကျမ်း၊
၃။ ကမ္မဋ္ဌာနဝိနိစ္ဆယကျမ်း၊
၄။ ဝိနယနိကာယကျမ်း၊
၅။ သုတ္တန္တနိကာယကျမ်းကျမ်း၊
၆။ သုတ္တတ္ထဂဏ္ဌက္ကမဒီပနီကျမ်း-

စသည်တို့ ဖြစ်ကုန်၏။

## သုတ္တတ္ထဂဏ္ဌက္ကမဒီပနီကျမ်း

ဖော်ပြပါ ကျမ်းများအနက် သုတ္တတ္ထဂဏ္ဌက္ကမဒီပနီကျမ်းမှာ သဒ္ဒနီတိ၊ ရူပ သိဒ္ဓိ၊ ဉာသ်၊ နိရုတ္တိသ-စသည်တို့မှ အဆီထုတ်၍ မဟာသာဟာ ဇွဲလုံ့လဖြင့်

အကောင်းဆုံးဖြစ်အောင် သုတ်နက်၊ ဂိုဏ်းစဉ်(နာမ်ဂိုဏ်း၊အာချာတ်ဂိုဏ်းစဉ်) ကိုဖော်ပြသည့် ကျမ်းဖြစ်လေသည်။

ဆရာတော်သည် ကျမ်းဦး၌—

၁။ ဗုဒ္ဓံ နတွာ နိရုတ္တိဉ္ဉ၊ ဓမ္မံ သံဃဉ္စ သေဝိတံ။
နိရင်္ဂဏမဟံ သံဃံ၊ တီဟိ ဒွါရေဟိ အာဒရံ။

၂။ သမ္ပုဏ္ဏံ သာရသုတ္တတ္ထ-ဂဏ္ဌက္ကမဒီပနိဟံ။
မန္ဒသောတူန မတ္ထာယ၊ ကဿံ ပသန္န စေတသာ။

၁။ အဟံ၊ ရုပ်ဝေဒနာ သညာ သင်္ခါရ ဝိညာဏဟု သာရမဲ့စွာ ငါဟုခေါ်ဆို ကိုယ်ဟုသမုတ် အကျွန်ုပ်သည်။ နိရုတ္တိံ၊ အက္ခရာပဒ သဒ္ဒါသံ့ အလုံးစုံကို ထုတ်ဆိုဟောပြတတ်သော။ ဗုဒ္ဓဉ္စ၊ ငါးဖြာဉေယျ ဟူသမျှကို ကရတင်ထား ပတ္တမြားသို့ ပိုင်းခြားထင်ထင် သိမြင်တော်မူ တတ်သော မြတ်စွာဘုရားကိုလည်းကောင်း။ သမ္ဗုဒ္ဓသေဝိတံ၊ မြတ်စွာ ဘုရားသည် ဂေါစရာသေဝန ဘာဝနာသေဝနအားဖြင့် မှီဝဲတော်မူ အပ်သော။ ဓမ္မဉ္စ၊ မဂ်လေးတန် ဖိုလ်လေးတန် နိဗ္ဗာန် ပရိယတ်အား ဖြင့် ဆယ်ပါးသော တရားတော်ကိုလည်းကောင်း။ နိရင်္ဂဏံ၊ အပါယ် လားကြောင်း မကောင်းမှု ကိလေသာမရှိသော။ သံဃဉ္စ၊ မဂ္ဂဋ္ဌာန် လေးယောက် ဖလဋ္ဌာန် လေးယောက်အားဖြင့် ရှစ်ယောက်သော အရိယာ သံဃာတော်ကိုလည်းကောင်း။ တီဟိဒွါရေဟိ၊ ကာယဉ္စတ်ညီ ဝစီမန သုံးဒွါရတို့ဖြင့်။ အာဒရံ၊ ရိုသေကျိုးနွံ ကောင်းမွန်စွာ။နတွာ- နမာမိ၊ ရှိခိုးပါ၏။ နတွာ၊ ရှိခိုးပြီး၍။

၂။ အဟံ၊ခန္ဓာပဉ္စက သမူဟကို ငါဟစွဲကာ ငါဟုခေါ်ဆို ကိုယ်ဟု သမုတ် အကျွန်ုပ်သည်။ မန္ဒသောတူနံ၊ အနက်နှင့်ဉာဏ် ဝေဖန်ပြန်လှန် နှစ်တန်နို့ငြား စာသင်သားတို့၏။ အတ္ထာယ၊ သဒ္ဒအရာ လိမ္မာတတ် မြောက်ကြွစေခြင်းအကျိုးငှာ။ သမ္ပုဏ္ဏံ၊ အတူထူးသော အဆုံး အဖြတ်တို့နှင့် ပြည့်စုံသော။ သာရ-သာရံ၊ သဒ္ဒါအရာ၌ အနှစ်သဖွယ် ဖြစ်သောသော။ သုတ္တတ္ထဂဏ္ဌက္ကမဒီပနိံ၊ သုတ်နက်အဓိပ္ပာယ် ဂိုဏ်းစဉ် တို့ကို ပြရာပြကြောင်း ဖြစ်သောကြောင့် သုတ္တတ္ထဂဏ္ဌက္ကမဒီပနီအမည် ရှိသောကျမ်းကို။ ဝါ၊ သုတ်နက် အဓိပ္ပာယ် နာမ်ဂိုဏ်း အာချာတ် ဂိုဏ်းစဉ်တို့ကိုပြရာပြကြောင်း ဖြစ်သောကြောင့် သုတ္တတ္ထဂဏ္ဌက္ကမဒီပနီ အမည်ရှိသောကျမ်းကို။ ပသန္နစေတသာ၊ အအိမ်မှ ထုတ်သစ်သော

ကြေးမုံမှန်အသွင် ကြည်လင်သော သဒ္ဓါစိတ်ဖြင့်။ ဝါ၊ မိုးတိမ်ဝမှ ထွက်သစ်စသော ဗျိုင်းအောက်အသွင် ကြည်လင်သော သဒ္ဓါစိတ်ဖြင့်။ ကာယံ၊ ပူဇေအံ့။

ဟူ၍ ရတနတ္တယပဋိညာဉ် ပြုတော်မူခဲ့သေသည်။

ဖော်ပြပါ သုတ္တဇတ္တဂဏ္ဌက္ကမဒီပနီ ကျမ်းကြီးကို ၁၂၉၁-ခုနှစ်က ရန်ကုန်မြို့ လသွစ္စလမ်း၊ သာသနဟိတ ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့လေသည်[၁]။ ယင်းကျမ်းကြီး၌ နာမ် ပဒမာလာ ဆုံးသည်အထိသာ ပါရှိလေသည်။ ရှိုင်ဆိုက် စာမျက်နှာ ၃၉၂-မျက်နှာ ရှိလေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ စာချကျမ်းပြု အလုပ်နှစ်ခု၌ ထာဝစဉ် စူးစိုက်တော်မူသော ဇက္ကိဏာရာမ ဘုရားကြီးတိုက်၏ ဝံသာလင်္ကာရ ဓမ္မာမ ဖြစ်တော်မူသော ဂဏဝါစက စာချအကျော် ဆရာတော် အရှင်သာသနသည် သက်တော် ၄၉-နှစ်၊ သိက္ခာတော် ၃၀-ရရှိရာ ၁၂၇၉-ခုနှစ်တွင် လေနာရောဂါဖြင့် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဓမ္မန္တရိ ဝေတ္တရဏိစ ဘောဇော၊
ဝိသာနိ ဟန္တွာန ဘုဇင်္ဂမာနံ။
သုယျန္တိ တေ ကာလကတာ တထေဝ[၂]။

ဓမ္မန္တရိ၊ ဓမ္မန္တရိ မည်ငြား သမားတော်သည်လည်းကောင်း။ ဝေတ္တရဏိစ၊ ဝေတ္တရဏိ မည်ငြား သမားတော်သည်လည်းကောင်း။ ဘောဇော၊ ဘောဇမည်ငြား သမားတော်သည်လည်းကောင်း။ ဘုဇင်္ဂမာနံ၊ မြွေတို့၏။ ဝိသာနိ၊ အဆိပ်တို့ကို၊ ဟန္တွာန၊ ပယ်ဖျောက်ကြကုန်၍။ သုယျန္တိ၊ ကောင်းစွာသွားနိုင်ကြကုန်၏။ တေ၊ ထိုသမားတော်အကျော် ဓမ္မန္တရိ ဝေတ္တရဏိ ဘောဇ ဆေးဆရာတို့သည်လည်း။ တထေဝ၊ ထိုရှေးနည်းအတူသာလျှင်။ မစ္စုနော ဒဋ္ဌဝိသံ၊ သေမင်းကိုက်အပ်သော အဆိပ်အနာကိုမူကား။ နှဟန္တိ၊ မပယ်မဖျောက်နိုင်ကြကုန်[၃]။

---

၁။ ထိုအခါ ကျမ်းပြုဆရာတော် အရှင်သာသန မရှိတော့ပြီ။
၂။ ဇာ၊ ၁၊ ၃၅၆။ အယောဃရဇာတ်၊
၃။ ရှေ့ဂါထာမှ မစ္စုနော ဒဋ္ဌဝိသံ နှဟန္တိ-လိုက်ပေးသည်။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်အာစာရ

ဖျာပုံမြို့ အဝပြန်ကျောင်းတိုက် အာရာမာဓိပတိသံဃနာယက ဆရာတော် အရှင်အာစာရသည် ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး စာပေသင် ကြားချပို့တော်မူခဲ့သည့်မထေရ်မြတ်ဖြစ်တော်မူသည်။

### ဖွားမြင် ရှင်ရဟန်းပြု

ဖျာပုံမြို့ သာစည်ရပ်နေ အဖ ဦးဘိုးချို-အမိ ဒေါ်သိန်းတို့မှ သက္ကရာဇ် ၁၂၅၇-ခုနှစ်တွင် မိးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။ နံတော် တနင်္ဂနွေ သားတည်း၊ ငယ်မည် မောင်အုန်းရွှေဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်း ပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ ဟံသာဝတီဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဥက္ကဋ္ဌာဘာ စသည်တို့ထံတွင် ဂန္ထဓုရအဝဝကို သင်ယူ တတ်မြောက်တော်မူခဲ့လေသည်။

### စာပေချပို့ သာသနာပြု

စာပေလေ့လာ ကျွမ်းကျင်သဖြင့် စာသင်သား ရဟန်းသာမဏေ တို့အား စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်၊ နောက်တွင် ဖျာပုံမြို့ အဝပြန် ကျောင်းတိုက်၌ အာရာမာဓိပတိသံဃနာယက ဖြစ်၍ စာသင်သား တို့အား စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။

ဘဒ္ဒန္တအာစာရော ထေရော၊ သုစာရော ဗုဒ္ဓသာသနေ။
ရတ္တိန္ဒိဝံ အာစရိတွာ၊ ဇိနသာသနဇောတကာ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်ဣန္ဒောဘာသ

စစ်ကိုင်းမြို့ ရတနာဒီပံကျောင်းတိုက်၌ စာပေချပို့ သာသနာပြုတော်မူသော စာချဆရာတော် အရှင်ဣန္ဒောဘာသ သည်လည်း ဒက္ခိဏာရာမတိုက်ထွက် ဆရာတော်ဖြစ်သည်။

## ဖွားမြင် ရှင် ရဟန်းပြုခြင်း

စစ်ကိုင်းမြို့ သောတာပန် ရွာနေ အဖ ဦးဖေ-အမိ ဒေါ်ငြိမ်း တို့မှ သက္ကရာဇ် ၁၂၅၉-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ နံတော် တနင်္ဂနွေသား ဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဘွဲ့တော် အရှင်ဣန္ဒောဘာသဖြစ်သည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

သက်တော် အရွယ် ငယ်စဉ်ကပင် ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ရောက်၍ "ပရိယတ္တိသာသနဟိတဓမ္မာစရိယ (မူလစာချ)" ဇမ္ဗူဒီပနန်းကျောင်း ဆရာတော် အရှင်နန္ဒိယစသည်တို့ထံတွင် သဒ္ဒါ ဗျာကရဏ်း အစရှိသော ကျမ်းဂန် အမျိုးမျိုးတို့ကို သင်ယူတော်မူခဲ့လေသည်။ ဒက္ခိဏာရာမတိုက်၌ သီတင်းသုံးစဉ် စာသင်သား ရဟန်းသာမဏေ တို့အားလည်း ပိဋကတ် အခြေခံ ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။

## စစ်ကိုင်းမြို့ရတနာဒီပံတိုက်၌ စာချ

နောင်တွင် မိမိ၏ ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော စစ်ကိုင်း မြို့သို့ပြန်ကြွတော်မူ၍ ရတနာဒီပံတိုက်၌ သီတင်းသုံး၍ မိခိုရောက်ရှိလာသော တပည့် တပန်း ရဟန်း သာမဏေ စာသင်သားတို့အား ကျမ်းစာပို့ချ သာမ္မာသမ္ဗုဒ္ဓ သာသနာတော်ကို မြင့်ရှည်မြားမြောင် တည်တံ့အောင် ဆောင်ရွက်တော် မူခဲ့လေသည်။

ဣန္ဒောဘာသော မဟာထေရော၊ ဣန္ဒတုလျ ပရက္ကမော၊
ပရိယတ္တိံ ဝါစေတွာန၊ လောကဂ္ဂ သာသနန္ဒရော။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်ပဏ္ဍိတ

အရှင်ပဏ္ဍိတ သည်လည်း ဒက္ခိဏာရာမတိုက်၌ ကျော်စောကိတ္တိရှိသည့် ဂန္ထဝါစကတပါးဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ဆရာတော်လောင်းလျာသည် အောက်ရပ်ဌာနီ သထုံခရိုင် ဘီးလင်းမြို့နယ် ဇာတိဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် အရှင်ပဏ္ဍိတဖြစ်သည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

သက်တော် အရွယ် နုနယ်ငယ်လျစဉ်က စ၍ ဒက္ခိဏာရာမတိုက်ကြီးသို့ ရောက်၍ ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် သံဃနာယက ဆရာတော်အရှင် အာစာရာဘိဝံသနှင့် ဆရာတော်ဦးရန်ကုန်-စသည်ထံတို့တွင် ပိဋကတ် အခြေခံ နေ့ဝါ ညဝါ ကျမ်းဂန်နှင့်တကွ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းကြီးတို့ကို သင်ယူတော်မူခဲ့လေသည်။

### စာပေချပို့သာသနာပြု

ဆရာတော်ကြီးများ၏ ချီးမြှောက်တော်မူချက်အရ ဂန္ထဝါစကဌာနန္တရသို့ ရောက်တော်မူ၍ ရောက်ရှိလာသော စာသင်သား ရဟန်းသာမဏေ တို့အား နေ့ဝါညဝါ ကျမ်းစာချပို့၍ ပရိယတ္တိ သာသနာတော် တည်းဟူသော ကန်ပေါင်ကန်သင်းကို ဆည်ဖို့တော်မူခဲ့လေသည်။

### ဘဝနတ်ထံပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချပို့ သာသနာပြုဆဲဖြစ်စဉ် ရုတ်တရက် ချက်တဖြုတ် စွဲကပ်ရောက်ရှိလာသော ပလိပ်ရောဂါဖြင့် မမျှော်လင့်ပဲ ပျံလွန်တော်မူခဲ့ရလေသည်။

### သံဝေဂယူရန်

မမျှော်လင့်ပဲ၊ ဖြုန်းကနဲ၊ ရောက်ဆဲနာဗျာဓိ။
မမျှော်လင့်ပဲ၊ ဖြုန်းကနဲ၊ အိုလဲအိုနိုင်၏။
မမျှော်လင့်ပဲ၊ ဖြုန်းကနဲ၊ ဖောက်လွဲသေနိုင်၏။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော် အရှင်ခန္တီဓမ္မာဘိဝံသ

ဆရာတော်သည် ဒက္ခိဏာရာမတိုက် ဦးပုဇကျောင်း၌ စာပေချပို့ သာသနာ့ဝန် ထမ်းဆောင်ခဲ့သော ပုဂ္ဂိုလ်မြတ်ဖြစ်လေသည်။

### ဖွားမြင် ရှင် ရဟန်းပြု

သက္ကရာဇ် ၁၂၅၉-ခုနှစ် ရမည်းသင်း ခရိုင် ပျော်ဘွယ်မြို့အပိုင် ရှမ်းစုကျေးရွာ၌ ဖွားမြင်ခဲ့သည်၊ ငယ်မည် မောင်အောင်ထင်ဖြစ်သည်၊ နံတော် တနင်းလာသားဖြစ်သည်။ ၁၂၇၉-ခုနှစ် ဝါဆိုလဆန်း ၁၂-ရက်နေ့တွင် ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်။

### ပညာသင် စာပေပို့ချ

ရပ်ရွာဆရာတော်ထံ၌ ၁၄-နှစ်သားတိုင်အောင် ပိဋကတ်အခြေပြု ကျမ်းစာများကို သင်ယူခဲ့သည်။ မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့ ရောက်၍ ဆရာတော် အရှင်နန္ဒိယ၊ ဆရာတော် ဦးခန္တီကြီးတို့ထံ ပရိယတ္တိဓမ္မကို သင်ယူတော်မူခဲ့လေသည်။ စာဝါကို မပြတ်မလပ် မှန်မှန်ကြိုးစားချပို့ခဲ့ရာ ၁၂၉၈-ခုနှစ်တွင် ပရိယတ္တိသာသနဟိတအသင်း၏ "ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)" အဖြစ်ဖြင့် ဆွမ်းဆန်တော် စသည်ဖြင့် ထောက်ပံ့လှူဒါန်းခြင်းကိုလည်း ခံယူတော်မူခဲ့ရသည်။ ဦးပုဇလေးကျောင်း၊ နောက်ဂုဏဝတီကျောင်းတို့၌ စာပေပို့ချ၍ ပရိယတ္တိသာသနာကို များစွာချီးမြှောက်တော်မူသည်။ ၁၃၁၀-ခုနှစ်ကျော်တွင် ပျံလွန်တော်မူသည်။

### သံဝေဂယူရန်

အဗလံ ဒုဗ္ဗလံ အာယု၊ ဗဟူဟိ သမ္ဘိန္ဓိ ဘဒ္ဒဝ။<br>တသ္မာ မုဟုတ္တန္တရေပိ၊ ဘဝေယျ မရဏံ ဟိ ခေါ။

ယသ္မာ၊ အကြင်ကြောင့်။ အာယု၊ အသက်သည်။ အဗလံ၊ ခွန်အားဗလ မရှိသည် လည်းကောင်း။ ဒုဗ္ဗလံ၊ အားနည်းသည်သည်းကောင်း။ ဗဟူဟိ၊ ထွက်သက်ဝင်သက် လေးချက်ဝှရိယာ တဖြာပူအေး လေးထွေဘုတ်မဟာ အစာအာဟာရ စသည်စုပေါင်း များစွာသော အကြောင်းတို့နှင့်။ သမ္ဘိန္ဓိ၊ စပ်သွယ်ပတ်သက် ဆက်စပ်သည်လည်းကောင်း။ ဘဒ္ဒဝ၊ ဖြစ်၏။ တသ္မာ၊ ထိုကြောင့်။ မုဟုတ္တန္တရေပိ၊ တမုဟုတ်ချက်တဖြုတ်တိုတောင်းသောကာလအတွင်း၌လည်း။ မရဏံ၊ စုတိပြတ်ကြွေ သေလွန်ခြင်းသည်။ ဘဝေယျ ဟိ ခေါ၊ ဖြစ်ရာသည်သာ။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်သီလဝံသ

ဆရာတော် အရှင်သီလဝံသသည် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချ အကျော် ဆရာတော်အဖြစ် ထင်ရှားသည့် မဟာထေရ်မြတ်ဘုရား ဖြစ်တော်မူသည်။

### ဖွားရာဇာတိ

ပခုက္ကူခရိုင် ပန်းစွာရွာ၌ အဖ ဦးစံမြင့်-အမိ ဒေါ်ပလုံ တို့မှ ၁၂၆၁-ခုနှစ် နတ်တော်လဆုတ် ၁၃-ရက် သောကြာနေ့တွင် ဖွားမြင်တော်မူသည်။ ငယ်နာမည် မောင်ဖိုးသော် ဖြစ်လေသည်။

### ပညာသင် သာမဏေဝတ် ရဟန်းပြု

ခုနစ်နှစ်သားအရွယ်တွင် ပန်းစွာရွာ ယွန်းကျောင်းဆရာတော် အရှင်စန္ဒာ လင်္ကာရ အထံ၌ ပညာသင်ကြားခဲ့၍ ၁၂-နှစ်သားအရွယ်တွင် သာမဏေဝတ် ခဲ့သည်။ သာမဏေဘွဲ့ ရှင်သီလဝံသဖြစ်သည်။ စစ်ကိုင်းခရိုင် ချောင်းဦးမြို့နယ် ကြက်သွန်ဈေးရွာ ဓမ္မိကာရာမတိုက် ဆရာတော် အရှင်ဉာဏ၊ မုံရွာခရိုင် ဆား လင်းကြီးမြို့နယ် ဆားထုံးရွာသစ် ပေပင်ကန်တောရကျောင်း ဆရာတော် အရှင်ပဏ္ဍိတတို့ထံ သာမဏေဝတ်နှင့် နေရာက်ရှိ ပညာသင်ကြားတော်မူခဲ့သည်။ သက်တော် ၁၆-နှစ်သားအရွယ်တွင် အစိုးရပဌမငယ်တန်း၊ ၁၇-နှစ်သားအရွယ် တွင် အစိုးရ ပဌမလတ်တန်း စာမေးပွဲတို့ကိုလည်း မဖြေဆိုအောင်မြင်တော် မူခဲ့သည်။ ၁၂၈၀-ပြည့်၌ ကဆုန်လဆန်း ၈-ရက်နေ့တွင် ဆားထုံးရွာ ပေပင်ကန်တောရဆရာတော် ဦးပဏ္ဍိတကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမ ဝိဇ္ဇာဃတနကြီးသို့

သက္ကရာဇ် ၁၂၈၁-ခုနှစ်တွင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမတိုက် ပေတောကျောင်း ဆရာတော် အရှင်ဝဏ္ဏထံ ရောက်ရှိတော်မူ၍ ဆရာတော် အရှင်ဝဏ္ဏနှင့် စာချဆရာတော် အရှင်ဝိမလတို့ထံတွင် စာပေကျမ်းဂန် များစွာ တို့ကို ဆိုဝါ လိုက်ဝါဖြင့် ကျနစွာ သင်ယူတော်မူခဲ့သည်။ ဆရာတော် အရှင် အာစာရ၊ ဆရာတော် ဦးကြည်၊ ဆရာတော် ဦးပခန်းတို့ထံ၌လည်း နည်းခံ တော်မူခဲ့သည်။

## ဘွဲ့ထူး ဂုဏ်ထူးများနှင့် ဆောင်ရွက်ချက်များ

၁၂၈၈-ခုနှစ်တွင် အစိုးရ ပဌမကြီးတန်းကို ဖြေဆို အောင်မြင်တော်မူသည်။ ၁၂၈၉ ခုနှစ်တွင် ''ပရိယတ္တိ ပဌမကျော်''ဘွဲ့၊ ၁၃၀၉-ခုနှစ်တွင် ''သာသနဓဇ သိရိပဝရ ဓမ္မာစရိယ''ဘွဲ့ ၁၃၈၈-ခုနှစ်တွင် ''ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (မူလစာချ)'' ဘွဲ့တို့ကိုလည်း ရရှိတော်မူခဲ့သည်။ ဆဋ္ဌသံဂါယနာတွင် မူလဝိသောဓက၊ ပဋိဝိသောဓက၊ သင်္ဂါယနာရက တာဝန်များကိုလည်း ဆောင်ရွက်တော်မူခဲ့သည်၊ ၁၃၀၅-ခုနှစ်တွင် ပေတော ကျောင်း ဆရာတော် အရှင်ဂဏ္ဏ ပျံလွန်တော်မူသဖြင့် ကျောင်းကို ဆက်လက် စောင့်ထိန်းခံယူရပြီး စာသင်သားများစွာတို့အား ကျောင်းထိုင် စာချအဖြစ် စာပေပဋိပတ္တိကို ချပို့တော်မူခဲ့သည်။ ပါဠိတက္ကသိုလ်တွင်လည်း ပါဠိတက္ကသိုလ် ကထိကအဖြစ် ပရိယတ္တိ သာသနာ့ဝန်ကို အားသွန် ကြိုးပမ်းတော်မူခဲ့သည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

၁၃၂၂-ခု တော်သလင်းလကစ၍ ဧလဖြတ်ရောဂါကို ခံစားရပြီး သက်သာလိုက် တိုးလာလိုက်နှင့် ရှင်းရှင်း ပျောက်သည်မရှိပဲ ၁၃၂၉-ခုနှစ် နှောင်းတန်ခူးလဆန်း ၉-ရက် ၁၂-နာရီ မိနစ် ၃၀-တွင် ဘဝနတ်ထံပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

သန္တေဇာတိ၊ တဖန်ငြိ၍၊ တြိဘုံသူ၊ အဆူဆူလျှင်၊ လူလူနတ်နတ်၊ မတ်မတ်မားမား၊ ဖြစ်ပြန်ငြာသော်၊ သုံးပါးအရှယ်၊ စလယ်အဆုံး၊ ရှုံမြဲထုံ ဖြင့်၊ အနှုန်းစဉ်စီ၊ သန္တေခါကာ၊ နာရီဆင့်ဆင့်၊ အဆင့်ဆင့်လျှင်၊ ရင့်မြဲမော်မြဲ၊ တသဲသဲတည့်၊ မစဲနေ့ည၊ တရွရွလျှင်၊ ခဏသန္တတိ၊ အဂ္ဂိဇရာ၊ နှစ်ဖြာလောင်မီး၊ ရှိန်ရှိန်ညီး၍၊ အကြီးအငယ်၊ အရွယ် ခြားနား၊ အစားစားလျှင်၊ အသွားတွင်တွင်၊ မစဲနိုင်၏၊ လေးအင် သေမှု၊ တခုခုလည်း၊ ဗဟုအန္တရာယ်၊ အသွယ်သွယ်နှင့်၊ နှိုးနှယ်ရိုး စည်း၊ တလုံးတည်းလျှင်၊ ကြီးကြီးငယ်ငယ်၊ အရွယ်မထောက်၊ အချိန် ရောက်က၊ ချုပ်ပျောက်ခန္ဓာ၊ မငြင်းသာသည်၊ ဇရာမရဏ၊ စွမ်း ရည်တည်း ။

---

၁။ လယ်တီဆရာတော်ဘုရားကြီး၏ ပဋိစ္စသမုပ္ပါဒ် အကျဉ်း၊ ဇာတိပစ္စယာ ဇရာမရဏ ကောဒသမဆောင်ပုဒ်၊

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်ပဏ္ဍဝ

ရန်ကုန်မြို့ တာမွေရပ် နန္ဒဝန်ကျောင်းတိုက်၌ စာပေချပို့ သာသနာပြုတော်မူခဲ့သော အရှင်ပဏ္ဍဝသည် ဒက္ခိဏာရာမတိုက် ဟံသာဝတီကျောင်း၌ ကြာမြင့်စွာ သီတင်းသုံး၍ စာပေသင်ကြား ချပို့ သာသနာပြုတော်မူခဲ့သည့် ဒက္ခိဏာရာမနေ့ဝင် သာသနာ့ဝန်ဆောင် ဆရာတော်ဘုရား ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

မြင်ကွန်းမြို့ အုန်းတဲရွာ၌ အဖ ဦးဆင့်-အမိ ဒေါ်အိုဇာတို့မှ သက္ကရာဇ် ၁၂၆၃-ခုနှစ်ဘွင်၊ မျက်နှာသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။ နံတော် ကြာသပတေးသား၊ ငယ်မည် မောင်ဘိုးဝင် ဖြစ်သည်။ ငယ်စဉ်ကပင် ရှင် ရဟန်းပြု သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ငယ်စဉ်ကပင် ဒက္ခိဏာရာမ ဝိဇ္ဇာလယတနကြီး အတွင်းရှိ ဟံသာဝတီကျောင်း ဆရာတော် အရှင်ဣန္ဒာသဘာဘိဝံသထံသို့ ရောက်ရှိ၍ ပဋ္ဌာကတ်အခြေခံ ကျမ်းစာများနှင့်တကွ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းကြီးများကိုပါ အာစရိယမုဋ္ဌိ ရရှိအောင် သင်ယူတော်မူခဲ့လေသည်။

### စာပေချပို့ သာသနာပြု

စာပေတတ်မြောက်ပြီးနောက် ဒက္ခိဏာရာမတိုက်၌ စာပေချပို့ သာသနာပြုတော်မူခဲ့သည်။ နောင်တွင် အရှင်ဗုဒ္ဓပိယ ဟူသော အမည်ဖြင့် ရန်ကုန်မြို့ တာမွေရပ် နန္ဒဝန်ကျောင်းတိုက်တွင် စာပေချပို့ သာသနာ ပြုတော်မူခဲ့လေသည်။

ပဏ္ဍဝထေရသဝှော ဟိ၊ ဒက္ခိဏာရာမ ဝံသိသော။
ဗဟဝေါ ဂန္ထေ ဂါဟေတွာ၊ သမ္ဗုဒ္ဓ သာသနန္တရော။

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချသရာတော်

### အရှင်အရိယဝံသ

အရှင်အရိယဝံသ မဟာထေရ်သည်လည်း ဒက္ခိဏာရာမအနွယ်ဝင် ထေရ် အရှင်တို့၏ ပရိယတ္တိကျမ်းဂန် ချရိုးပို့စဉ်ကို မပျက်မကိန်းအောင် ထိန်းသိမ်း စောင့်ရှောက်တော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြု

စစ်ကိုင်းခရိုင် မြောင်မြို့အပိုင် ရွှေတချောင်းရွာ၌ အဖ ဦးလူဆင်-အမိ ဒေါ်ငွေတို့မှ သက္ကရာဇ် ၁၂၆၃-ခုနှစ် ဘပေါင်းလဆုတ် ၇-ရက် တနင်္ဂနွေ နေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်အောင်ညွန့် ဖြစ်သည်။ အရွယ် ရောက်သော် သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၈၂-ခုနှစ် ကဆုန်လပြည့်နေ့တွင် မြောင် မြို့နယ် မြစ်သာရွာ ရွာရှေ့ကျောင်း ခဏ္ဍသိမ်တော်၌ ရွာရှေ့ကျောင်း ဆရာ တော် အရှင်ကေသရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### မန္တလေး ရောက်ရှိ ပညာသင်

အရွယ်တော် နုနယ်ငယ်လျ စဉ်မှ စ၍ မိတ်ကောင်းဆွေမွန် ရဟန်း တော်များ၏ လမ်းညွှန်မှုကြောင့် မန္တလေးမြို့ ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီး သို့ ရောက်ရှိ၍ ဒက္ခိဏာရာမတိုက် စတုတ္ထမြောက် နာယကဆရာတော် အရှင် အာစာရာဘိဝံသ၊ ပခန်းဆရာတော် အရှင်ဝိစာရ၊ စာချဆရာတော် အရှင် ဝိမလ၊ စာချဆရာတော် အရှင်နာရဒ၊ ဘုံကျော်တိုက် ဆရာတော် အရှင် ဃောသိတ-အစရှိသော ကျမ်းဂန်တတ် ဆရာတော်များထံ ပိဋကတ်အခြေပြု ကျမ်းစာများနှင့်တကွ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ကျမ်းကြီးများကို ထန်သည်းသော လုံ့လဥဿာဟဖြင့် သင်ယူတတ်မြောက်တော်မူခဲ့လေသည်။

### စာပေပို့ချ မူလစာချဖြစ်ခြင်း

ယင်းသို့ စာပေသင်ကြားတတ်မြောက်တော်မူပြီးနောက် စာလိုက်သံဃာ များစွာတို့အား စာပေချပို့တော်မူ၍ ပရိယတ္တိသာသနာ လင်းလက်အောင်

ဆောင်ရွက်တော်မူခဲ့လေသည်။ နောင်တွင် ဒက္ခိဏာရာမတိုက်အတွင်းရှိ တမွတ်တိုက်ကျောင်း၌ စာချပို့ သိတင်းသုံးခွင့်ကို ရရှိတော်မူခဲ့လေသည်။ ပရိယတ္တိသာသနဟိတ အသင်းကြီး၏ ၁၂၈၇-ခု တန်ဆောင်မုန်းလတွင် "ဘဒ္ဒန္တအရိယာဘိဝံသ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)" အဖြစ်ဖြင့် ဆုမ်းဆန်တော် ထောက်ပံ့လှူဒါန်းခြင်းကိုလည်း ခံယူတော်မူရသည်။

## ဝိနိစ္ဆယများ ပြုစီရင်တော်မူခြင်း

ဆရာတော်သည် ဝိနည်းအဆုံးအဖြတ်များ ဆုံးဖြတ်မှု၌လည်း လိမ္မာကျွမ်းကျင်တော်မူ၍ ဝိနယဝိနိစ္ဆယပေါင်းများစွာတို့ကိုလည်း ပြုစီရင်တော် မူခဲ့လေသည်။ ယင်း ဝိနိစ္ဆယများအနက် ဝိနည်းဆိုင်ရာ ပုစ္ဆာ ၂၇-ချက်ကို ဖြေရှင်းဆုံးဖြတ်ရာ "ဝိနယသံသယ ဆေဒနီကျမ်း" မှာ ထင်ရှားသော အဆုံးအဖြတ်ကျမ်းဖြစ်သည်။

၁၃၁၈-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၁-ရက်နေ့ နေ့စွဲဖြင့် ရှမ်းပြည်တောင်ပိုင်း ညောင်ရွှေမြို့နယ် အင်းလေးရွာ မြေနီကုန်းကျောင်းဆရာတော် အရှင်ဝရဇာသည် ဒက္ခိဏာရာမတိုက် သာသနဇောတိကာရုံကျောင်းဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒအား သံသယဖြစ်နေသော ဝိနည်းဆိုင်ရာ ပုစ္ဆာ ၂၇-ချက်ကို ဖြေဆိုဝိနိစ္ဆယ ရေးသားပေးပါရန် လျှောက်ထားခဲ့လေသည်။

ထိုအခါ သာသနဇောတိကာရုံဆရာတော် အရှင်နာရဒက "မိမိမှာ အသက်လဲ ကြီးနေသည့်ပြင် ကျန်းမာရေးလဲ အရနည်းနေသဖြင့် တမွတ်တိကျောင်းဆရာတော် အရှင်အရိယအား လျှောက်ထားပါရန် အရှင်ဝရဇာအား တိုက်တွန်းခဲ့သည်"။ ဆရာတော် အရှင်နာရဒကလည်း အရှင်အရိယအား ဆုံးဖြတ်ပေးရန် အမိန့်ရှိတော်မူသည်။

သို့နှင့် အရှင်အရိယဝံသက ပုစ္ဆာ ၂၇-ချက်ကို ဆုံးဖြတ် ဖြေဆို၍ "ဝိနယသံသယဆေဒနီကျမ်း" ကို စီရင်တော်မူရာ ဝိနယသံသယဆေဒနီကျမ်းဦး၌—

၁။ နာနာသံသယ ဆိန္ဒန္တံ၊ သမ္ဗုဒ္ဓံ အဘိဝန္ဒိယ။
သုဒုဒ္ဒသံ သဒ္ဓမ္မဥ္စ—ရိယသံဃံ နိရင်္ဂဏံ။

၂။ ပုဗ္ဗာစရိယ သီဟေ စ၊ ပရိယတ္တိဝိသာရဒေ။
နိဿယေ ဗဟုဿုတေနံ၊ အဘိဝန္ဒိယ သာဒရံ။

၃။ ဝရုဒ္ဓညာတိ သနာမေန၊ မဟာထေရေန ယာစိတော။
ကရိဿာမိ သမာသေန၊ ဝုရံ သံသယ ဆေဒနိံ။

၄။ သာသနေ ဂါရဝံ ကတွာ၊ သဒ္ဓမ္မဿာနုဇလာမတော။
မယာ ကတံ က္လမံ ဂန္ထံ၊ သမ္မာ စိန္တေန္တု သာဓဝေါ။

၅။ ပုနပ္ပုနံ ဝိစိန္တေတွာ၊ ယုတ္တံ စေ ဟောတိ ဂဏှန္တု။
နော စေ ယုတ္တံ မာဂဏှန္တု၊ သမ္မာသမ္ဗုဒ္ဓ သာသကာ။

ဟူသော ငါးဂါထာဖြင့် ရတနပ္ပယာဘာဏာမးပုဗ္ဗားစရိယ ပဏာမ၊အဘိယာစက၊ ပဋိညာဉ်၊ ဥဓယျာဇဉ်—စသည်တို့ကို ဖော်ပြ၍ စီရင်ဆုံးဖြတ်တော် မူခဲ့လေ တည်။

ကျမ်း၏ အဆုံး၌လည်း—

၁။ မြမ္မရဋ္ဌေ မနောရမ္မေ၊ မန္တလေး ဣတိ ပါကဋေ။
နဂရေ ဒက္ခိဏာရာမေ၊ နေကသောတူန ဂေါစရေ။

၂။ ဒေါ်ကြူ ဣတိ ဝိသုတာယ၊ ဒါယိကာယ သုကာရိတေ။
မဟာဂိဇ္ဈက အာဝါသေ၊ တမ္ပဝတီ သနာမကာ။

၃။ ဝသတာ ဗဟုသုတေန၊ မဟာထေရေန ဘိက္ခုနာ။
ဘဒ္ဒန္တ အရိယဝံသေန၊ ကတာ သံသယ ဆေဒနီ။

၄။ ပတ္တေ ဇယာလကေ ကောဇေ၊ ဇိနစက္ကေ အအာသရေ။
ဇုဏှပက္ခေ စိတ္တေယံ၊ အနာယာသေန နိဋ္ဌိတံ၊

၅။ သဒ္ဓမ္မော သုစိရံ ဌာတု၊ ရာဇာ ပါတု မဟီတလံ။
ကာလေ ဝဿတု ပဇ္ဇုန္နော၊ ဓမ္မေ တိဋ္ဌန္တု ပါဏိနော။

ဟူသော ငါးဂါထာဖြင့် နေရာဌာန ကျမ်းပြီးချိန်စသည်တို့ကို ဖော်ပြ၍ နိဂုံး အုပ်တော်မူခဲ့လေသည်။

## အခြားဆောင်ရွက်ချက်များ

ဆရာတော်သည်—

၁။ ဆဋ္ဌသံဂါယနာမဟာဓမ္မသဘင်ကြီးတွင် မူလဝိသောဓကတာဝန်၊
၂။ ဆဋ္ဌသံဂီတိကာရကတာဝန်၊

၃။ ဒက္ခိဏာရာမ ပါဠိတက္ကသိုလ် ကထိကတာဝန်၊

၄။ မန္တလေး ရွှေကျင်ဂိုဏ်း ဝိနည်းဓိုရ်ဘာဝန်–

စသည်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။

### ထူးခြားသော အရည်အခြင်းများ

ဆရာတော်ကား စာချလုပ်ငန်း၌ လွန်စွာ ကြိုးပမ်းတော်မူသည်။ စာဝါသနာပါသည်၊ ရဟန်းတော်များကိုလည်း အားပေးတော်မူလေ့ရှိသည်။ တပည့်တပန်းဖြူကိုလည်း ချီးမြှောက်တော်မူတတ်သည်။ သကျသီဟ စာမေးပွဲ ပုဏ္ဍားဥ၊ အစိုးရ စာမေးပွဲ စာချတန်းပုဏ္ဍား–စသည်တို့ကိုလည်း ခက်ခက်ခဲခဲ ထုတ်ဆင်တော်မူလေ့ရှိသည်။ ဤသည်ကား ဆရာတော်၏ ထူးခြားသော အရည်အခြင်းများ ဖြစ်ကုန်၏။

### ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချပို့ခြင်း၊ ဝိနိစ္ဆယရေးသားခြင်း–စသည်ဖြင့် သာသနာ့ တာဝန်ကို အားသွန်ခွန်စိုက် ဆောင်ရွက်ဆဲတွင် အဆုတ်ရောဂါ ကပ်ရောက် လာသဖြင့် ဇာတိရပ်ရွာ ပြန်ကြွ၍ အနားယူ အကုသခံနေစဉ် ၁၃၂၇–ခုနှစ် ပြာသိုလတွင် ပျံလွန်တော်မူခဲ့လေသည် [၁]။

### သံဝေဂယူရန်

ဟာ သံယောဂါ ဝိယောဂန္တာ၊ ဟာ စုတျန္တာစ ဇီဝိတာ။
ဟာ ဥပ္ပဇ္ဇန္တာစ ဘင်္ဂန္တာ၊ ဟာ သင်္ခါရာ န ဓမ္မတာ။

သံယောဂါ၊ ဆရာတပည့် မိဘနှင့်သား အစထား၍ များလှဖုံဖုံ လောကဓာတ်တိုက်ဘုံဝယ် ကြုံကြိုက်စပ်နွှဲ ယှဉ်တွဲပေါင်းဆုံခြင်းဟူသမျှ တို့သည်။ ဟာ ဝိယောဂန္တာ၊ တနေ့မတွေ့တနေ့တွေ့က ဆွေ့ဆွေ့ လိုက်ခုံ အူသည်းတုန်မျှ မကြုံချင်ပဲ စိတ်မရဲလည်း သူကွဲကိုယ်ကွဲ ဤနှစ်ကွဲတွင်မှ နက်နဲဆင်ခြင် အဆုံးထင်သည် ဟင်....ကြောက်ဖွယ် ကောင်းလှချည့်တကား။ ဇီဝိတာစ၊ အသက်ဝိညာဉ် ရှင်ရခြင်းဟူသမျှ တို့သည်လည်း။ ဟာ စုတျန္တာ၊ စုတိပြတ်ကြွေ သေရခြင်းလျှင် အဆုံး

---

[၁] စစ်ကိုင်းသာသနာဝင်။ ၂၄၂။ ၂၄၄။ လည်းကြည့်။

ထင်သည် ဟင်... စိတ်ပျက်ဖွယ် ကောင်းလှချည့်တကား။ ဥပုန္နာစ၊ သက်မဲ့သက်ရှိ သူဇာတိဖြင့် ဖြစ်ဘိသမျှ သင်္ခါရစာရင်းဝင် များဖြင့် သောင်းသောင်း သင်္ခါရာတရားအပေါင်းတို့သည်လည်း၊ ဟာဘက်န္တာ၊ ငါ့ကိုယ်ငါ့ဟာ ငါ့ဉစ္စာဟု သညာဖောက်လွဲ ပညာမဲ့၍ စွဲမည့်နှလုံး ကြံစည်တုန့်ဝယ် ပျက်ပြုန်းကုန်စင် အဆုံးထင်သည် ဟင်....သနားဖွယ် ကောင်းလှချည့်တကား။ သင်္ခါရာနံ၊ အတွင်းအပ နှစ်ပသန္တာန် ကြွင်း မကျန်သား ရုပ်နာမ်ခမ္ဘ သင်္ခါရတရားတို့၏။ မမြဲတာ၊ ဖြစ်လျှင်ပျက်မြဲ ဆိုလျှင်ကွဲသည့် လှဲမရပါ မမြဲတာလေမ်းရှိ ကြီ သည်။ ဟာ၊ စေ့ အနိစ္စာ သင်္ခါရာ၊ စေ့ အဒ္ဓုဝါ သင်္ခါရာ၊ စေ့ အနဿာသိကာ သင်္ခါရာဟု ပညာ နှင့်ယှဉ်တွဲ သတိစွဲက မြဲလည်းမမြဲနိုင် ခိုင်လည်းမခိုင်မာ သက်သာရာ လည်း ရှာမရသည့်ပြင်ပြင် လင်းလင်းထင်သည် ဟင်... ရှုံဖွယ်ကောင်း လှချည့်တကား ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်ပညိန္ဒ

အရှင်ပညိန္ဒသည်လည်း စာပေနေပို့မှု၌ ဝါသနာထုံတော်မူသည့် ဒက္ခိဏာ ရာမန္တယ်ဝင် ဆရာတော်တပါး ဖြစ်တော်မူသည်။

### ဖွား မြင် ရှင် ရဟန်းပြုခြင်း

တောင်တွင်ကြီးမြို့ ညောင်ကိုင်းရွာ၌ အဖ ဦးရွှေကိုင်း-အမိ ဒေါ်စံမိုဘို့မှ သက္ကရာဇ် ၁၂၆၅-ခုနှစ်တွင် ဖွားမြင်တော်မူသည့်နှမောင် သေားကြာသားဖြစ် ၏။ ငယ်မည်မောင်သိုင်းဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသ နာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်ကြီးသို့ ရောက်ရှိ၍ ဟံသာဝတီဆရာတော် အရှင်ဥက္ကဋ္ဌသဘာဝဘိဝံသ-စသည်တို့ထံတွင် ပညာသင်ကြား တက်မြောက် တော်မူခဲ့လေသည်။

### စာပေချုပ်ို သာသနာပြုခြင်း

ဒက္ခိဏာရာမတိုက်၌ စာပေချုပ်ို သီတင်းသုံးတော်မူခဲ့သည်။ နောင်တွင် အောင်မြေရွှေဘုံတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူ၍ ရောက်ရှိချဉ်းကပ်လာသော တပည့်တပန်း ရဟန်း သာမဏေ စာသင်သားတို့အား စာပေချုပ်ို၍ ပရိယတ္တိသာသနာကို ချီးမြှောက်တော်မူခဲ့သည်။ ယင်းသို့ စာပေချုပ်ိုစဉ် ဒုတိယကမ္ဘာစစ်အတွင်း ဂျပန်တို့ ကျောင်းတိုက်ကို မီးတိုက်ဖျက်ဆီးသဖြင့် ဒန်းတပင်ကျွန်းရွာသို့ ရွှေ့ပြောင်း သီတင်းသုံးတော်မူခဲ့လေသည်။

ဘဒ္ဒန္တပညိန္ဒော ထေရော၊ ပညာယ ကိစ္စကာရကော။
ပညာပါရမိတုဒ္ဓိယာ၊ သာသနံ ကိစ္စကာရကော။

---

### ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်ပဒုမ

ဆရာတော် အရှင် ပဒုမသည် ဒက္ခိဏာရာမတိုက် တိုက်သစ်ကျောင်း၌ သီတင်းသုံး၍ မန္တလေးနည်း၊ ပခုက္ကူနည်းတို့ဖြင့် စာပေချုပ်ို သာသနာပြုတော်မူသည်၊ သာသနာ့ဝန်ဆောင် ဆရာတော်ဖြစ်တော်မူသည်။

### ဖွားမြင်ရှင် ရဟန်းပြုခြင်း

ဆရာတော်သည် အောက်ရပ်ဌာနီ ဟသ်ာတခရိုင် ဇာတိဖြစ်၍ သက္ကရာဇ် ၁၂၆၅-ခုနှစ်တွင် ဖွားမြင်တော်မူသည်၊ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူလေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၈၅-ခုနှစ် တပေါင်းလဆုတ် ၂-ရက်နေ့တွင် ဟသ်ာတခရိုင် ရေကြည်ကုန်းရွာ ရေကြည်ကုန်းကျောင်းဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ပညာသင်ကြားတော်မူခြင်း

ဟသ်ာတမြို့ အတွင်းပတ္တမြားတိုက်၌ပိဋကတ် အခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့ပြီးလျှင် ပခုက္ကူမြို့မဟာဝိသုတာရာမတိုက်၌ သုံးနှစ်ခန့် သီတင်းသုံး



ဒက္ခိဏာရာမတိုက် ဂဏဝါစက စာချအကျော် ဆရာတော်အရှင်ဥက္ကံသာဘိဝံသ

တော်မူ၍ အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာ စသည့်တို့ထံတွင် ပိဋကတ် ကျမ်းဂန် ပါဠိတော်အဋ္ဌကထာတို့ကို သင်ယူတော်မူသည်၊ မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ မန္တလေး စာချနည်းကို သင်ယူလေ့လာတော်မူခဲ့သည်။ အမရပူရ မင်္ဂလာတိုက်ဟောင်း အဂ္ဂမဟာ ပဏ္ဍိတဆရာတော်အရှင်ဝိမလထံ၌လည်း အဘိဓမ္မာ ညဝါများကို သင်ယူတော် မူခဲ့လေသည်။

## စာပေချပို့ သာသနာပြုတော်မူခြင်း

စာပေကျမ်းဂန် ကျွမ်းကျင်တတ်မြောက် ပြီးနောက် ဒက္ခိဏာရာမတိုက် တိုက်သစ်ကျောင်း၌ပင် ဆက်လက် သီတင်းသုံးတော်မူသော စာငယ် စာကြီး အသီးသီးတို့ကို ချပို့၍ သာသနာပြုတော်မူသည်။ ဆရာတော်ကား ရွှင်ရွှင် လန်းလန်း ရှိခါ ဟာသနှော၍ စာပေပို့ချတော်မူလေ့ရှိသည်။

ဘဒ္ဒန္တပဒုမော ထေရော၊ ပိဋကေသု သုကောဝိဒေါ။
ပေဋကေဝ ါစ ဟိဘွာန၊ သမ္ဗုဒ္ဓသာသနန္တရော။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဂဏဝါစက စာချအကျော်

## ဆရာတော် အရှင်ဥက္ကံသာဘိဝံသ

ဆရာတော် အရှင်ဥက္ကံသသည် ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ ကျက်သရေ ဆောင် ထိပ်ဘန်း ဂဏဝါစက စာချဆရာတော် ဖြစ်တော်မူသည်၊ ဝိနိစ္ဆယ ဖြတ်ထုံးစသည် ရေးသားဆုံးဖြတ်ရာ၌လည်း လွန်စွာ ကျွမ်းကျင်တော်မူသည်။

## ဖွားမြင်တော်မူခြင်း

ရမည်းသင်း မြောက်လက် အုတ်ဖိုရွာ၌ မြန်မာသမားတော်ကြီး ဦးစံခိုင်- အမိ ဆရာကတော် ဒေါ်အိမ်မင်းတို့မှ သက္ကရာဇ် ၁၂၆၉-ခုနှစ် ပြာသိုလဆန်း ၂-ရက်နေ့ညဉ့် ၃-ချက်တီးကျော် တနင်္ဂနွေနေ့အခါ မီးရှုးသန့်စင် ဖွားမြင် တော်မူခဲ့လေသည်။

## ထူးခြားချက်များ

ဆရာတော်လောင်းလျာ ပဋိသန္ဓေနေစဉ်က လည်းကောင်း၊ ဖွားမြင်ပြီးသူ ဘဝ၌ လည်းကောင်း ထူးခြားမှုတွေများလှ၏။ ယင်းသို့ထူးခြားသည့် တိတ် နိမိတ်တွေကြောင့် ဆရာတော်သည် ခက်ခဲသည့် သာသနာ့ရေးရာ များကို ထူးခြားစွာ ဆောင်ရွက်တော်မူနိုင်ခဲ့လေသည်။

ဆရာတော်လောင်းလျာ စွဲလာ သန္ဓေ တည်နေတော်မူမည့် နေ့၌ "မိုးဝ ကောင်းကင်မှ ရွှေနန်းပြာသာဒ် သုံးဆောင် အိမ်ဦး၌ကျလာ၍၊ အိမ်ဦး၌ပါ လာသော ကိုယ်ရောင်ကိုယ်ဝါ တောက်ပသည့် နတ်သားသည် မယ်တော် ဆရာကတော် ဒေါ်အိမ်မင်း၏ ရင်ခွင်၌ လက်ဝယ်ဖွဲ့ခွေ ထိုင်နေသည်" ဟု ဖခင်သမားတော်ကြီး ဦးစံခိုင်တွင် အိပ်မက် မြင်မက်သေသည်။

ဆရာတော်လောင်းလျာသည် မယ်တော်ဝမ်းကြားတိုက်၌ ခုနစ်လ စွဲပိုက် ကိန်းဝပ်သန္ဓေ ယူတော်မူခဲ့ပြီး ဘေးမဲ့ ရန်မသီ ချမ်းအေးစွာ ဖွားမြင် တော်မူခဲ့လေသည်။ ဖွားမြင်တော်မူပြီး ခုနစ်လသား အရွယ်တွင် အခြား နှစ်နှစ်သား သုံးနှစ်သား သူငယ်များနှင့်အတူ ပြေးလွှားကစားနိုင်လေသည်၊ ဤသို့စသည်ဖြင့် ထူးခြားချက်တွေ အပြည့်အနှက်ဖြင့် လူ့လောကသို့ ရောက် လာတော်မူခဲ့လေသည်။

## ကိုယ်နေ ကိုယ်ဟန် ပုံသဏ္ဌာန်

ဤစာပြုသူသည် ဤအတ္တုပ္ပတ္တိသခင် အရှင်ဥက္ကံသမဟာထေရ်ထံ နှစ်နှစ် ခန့်နေထိုင်၍ ကိုယ်တိုင်ဆိုဝါဖြင့် စာပေကျမ်းဂန်များကို သင်ယူခဲ့ရာ ဆရာ တော်၏ကိုယ်နေကိုယ်ဟန် ပုံသဏ္ဌာန်မှစ၍ ဆရာတော်၏ အလုပ်အကိုင်ဆောင် ရွက်ချက်ဘိုးကို သိရှိခိုပ်စာ မိခဲ့လေသည်။ ဆရာတော်ထံမှ ခွါခဲ့သော်လည်း ဆရာတော်နှင့်အဆက်အသွယ် မပြတ်ချေ၊ သီဟိုဠ်ကျွန်း၌ ငါးနှစ်ရာသီကြာမြင့် ခဲ့သော်လည်း ဆရာတော်က စာဖြင့် နည်းကောင်းလမ်းမှန် ညွှန်ပြတော်မူ သည်၊ ဤမန္တလေးသာသနာဝင်ကျမ်း ရေးရန် လေ့လာနေစဉ် မန္တလေးဝိဇ္ဇာ နှင့် သိပ္ပံဘက္ကသိုလ်မှ ရခဲ့ပင့်သဖြင့် လာရောက်၍ မဟာဝိဇ္ဇာ စာတမ်းများ စစ်ဆေးစဉ် စသည်တို့၌ ဆရာတော်၏ ကျောင်းမှာ မိမိ၏ ကျောင်းပမာ ချမ်းသာစွာနေထိုင်၍ မိမိအလုပ်ကိစ္စများကို ပြုလုပ်ခဲ့သည်၊ သို့ဖြစ်၍ ဆရာ တော်နှင့်စပ်၍ သိမှတ်ရာများ လွယ်ကူစွာ သိရှိနိုင်ခဲ့လေသည်၊

ဆရာတော်ကား ကိုယ်ပေါက်ကိုယ်ရှောက် အလွန်ကောင်းသည်။ မနိမ့် မမြင့် မဆူမကြုံ အပုံကြီးတင့်တယ်တော်မူလှပေသည်။ အဆင်းတော်မှာလည်း ဝါဝါဝင်းဝင်း ထိန်ပြေ ဖူးမြင်၍ ကျက်သရေရှိလှပေသည်။ ကိုယ်ရေအသားတော်

များမှာလည်း နှုးညှံ့သိမ်မွေ့ လှပေသည်၊ "ပညာလို၍ မေးမြန်းလေ့ကြောင့် သိမ်မွေ့ကိုယ်ရေဉာဏ်မိုးမွေ၏" ဟူသည်နှင့်အညီ ယင်းသို့ ကိုယ်ရေးအသွားညှံ့ထွားသိမ်းမွေ့သဖြင့် လွန်စွာ ဉာဏ်ထက်မြက်တော်မူခြင်း ဖြစ်သည်။ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ကျမ်းစာခဲရပ်တို့ကို အဘောသဘောပေါက်အောင် ကြံ၍ဆင်ခြင်ဉာဏ် သက်ဝင်နိုင်ခြင်း ဖြစ်လေသည်။

## ကျောင်းမအပ်ခင် ဖခင်က သွန်သင်ဆုံးမ

ဆရာတော်ကား "ပုဗ္ဗေကတပုညတာစက်"နှင့် ထက်ကြပ်မကွာ ကောင်းစွာပြည့်စုံသည့် ပုဂ္ဂိုလ်တူ ဖြစ်သည်။ ယင်းသို့ဖြစ်သဖြင့် လောကဓမ္မ နှစ်ဌာနနှင့်စုံလင်သည့် သပ္ပုရိသဂိုဏ်းဝင် ဖခင်နှင့် ကြုံရသည်၊ ဆုံရသည်။ ဖခင်ကြီးဦးစံခိုင်က ကျောင်းမအပ်ခင် အေးအေး ဆေးဆေး အောက်ပါ အတိုင်း သွန်သင်ဆုံးမ နည်းလမ်းပြလေသည်။

> "လူလေး လူလေးကို ကျောင်းတို့ပို့တော့မယ်၊ ကျောင်းမှာစွဲစွဲမြဲမြဲနေပြီး ပညာတတ်အောင်သင်ရမယ်၊ 'ပညာမတတ်၊ လျပ်ပေါ်လှ၊ သူများနောက်လိုက်သာ' ဆိုတဲ့ အတိုင်း ပညာမတတ်တော့ အရာရာအရေးရေးမတွေးခေါ် မဆင်ခြင်တတ် သဖြင့် လျပ်ပေါ်သူ ဖြစ်လိမ့်မယ်၊ သူများနောက်လိုက် ဖြစ်လိမ့်မယ်။ ငါ့သား အကိုတ် နိမိတ်ထူးခြားစွာဖြင့် လူဖြစ်လာသူဖြစ်တယ်။ ငါ့သားမထင်ပေါ် မကျော်စောပဲနှင့် မသောရဘူး၊သို့ရာတွင် ဂုဏ်နှင့်ဘုန်းညီမှ ကောင်းတယ်။ ဒါကြောင့် ပညာကြိုးစားသင်ပါ။ ကြိုးစားသင်လျက် မတတ်မူကားငါ့သား အပြစ်မဟုတ်။ မကြိုးစား မသင်ကြား၍ မတတ်လျှင်ကား ငါ့သားအပြစ်ဖြစ်ပေတယ်"

စသည်ဖြင့် အနည်းနည်း အဖုံဖုံစုံသင်စွာ ဩဝါဒပေးခဲ့လေသည်။ တကယ့်ကို အဖကောင်းတဲ့ သားကောင်းရတနာပါတည်း။

## အရှင်အာစိဏ္ဏထံ စတင် ပညာသင်

ယင်းသို့ တသက်လုံး မမေ့မပျောက်နိုင်လောက်အောင် ဆုံးမစကားများပြောကြားပြီး ထန်းတောကျောင်း ဆရာတော် အရှင်အာစိဏ္ဏ မဟာထေရ်ထံ အပ်နှံသဖြင့် သူငယ်တို့တတ်အပ်ရာရာ အတတ်ပညာ အဝဝကို အရှင်အာစိဏ္ဏထံတွင် သင်ယူတော်မူခဲ့လေသည်။ ထိုအခါ ဆရာတော်သောင်းလျှာမှာ သက်တော် ခြောက်နှစ်မျှသာ ရှိသေးသည်။

## သာမဏေဝတ် သာသနာ့ဝန် ထမ်းဆောင်

သက်တော် ဆယ်နှစ်ရှိရာ သက္ကရာဇ် ၁၂၇၉-ခုနှစ်တွင် မိဘတို့က ပဗ္ဗဇ္ဇ မင်္ဂလာသဘင် ဆင်ယင်ကျင်းပ၍ သာသနာတွင်းသို့ သွတ်သွင် ချီးမြှင့်ကြသဖြင့် အဆိုပါ ဆရာတော် အရှင်အာစိဏ္ဏ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဝတ် သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့လေသည်။ ဘွဲ့မည် ရှင်ဥက္ကံသ ဖြစ်သည်၊ ရွှေရည်ဝင်းဥပြီး နုနယ်ညှို့ထွာသော ခန္ဓာကိုယ် ရူပကာယကို ရဟန္တာပုဂ္ဂိုလ်မြတ် ပုဂ္ဂိုလ်မွန်တို့၏ တံခွန်ဖြစ်သော သင်္ကန်းဖြင့် ဝတ်ရုံထားသဖြင့် အလွန်လျှင် လှပတင့်တယ် ကျက်သရေရှိလှလေသည်။

## ချပ်မိန်ညို ဝတ်ဆင်ထားသည့် ပင်းသားလိုလှပ

တိုင်းစွန်ပြည်နား သူပုန် သကာန် သူခိုး တန္လေတို့ကို နှိမ်နင်း စစ်ထွက်မည့် ချပ်မိန်ညို(စစ်ဝတ်စုံ) ဝတ်ထားသည့် ရေ မြေပိုင်စိုး မင်းမျိုး သတို့သားပမာ မာရ်နတ်၏ စစ်သည် သုံးထောင်ဝတ် ကိလေသာတို့ကို တိုက်ထုတ်ရန် ကြံစည်ရည်စူး၍ ဘုရားရှင်ပေးသည့် သင်္ကန်းကို ဝတ်ရုံထားသည်မှာ အလွန်ကို လှပ ကျက်သရေ ရှိလှပေလည်။

မာရသေန ဝိဃာတာယ၊ သုစိဝရဓရော သုစိ။
သန္နဒ္ဓကဝစော ယုဒ္ဓေ၊ ခတ္တိယော ဝိယ သောဘတိ။

## မိဘနှစ်ဦး ကြည်နူးဝမ်းမြောက်

ဦးစံခိုင်-ဒေါ်အိမ်မင်း ဟူသော မိဘနှစ်ဦးတို့သည် မိမိတို့ထက် အထက် တန်းကျရုံမျှမက လေးကျွန်းသနင်း စကြာမင်းကပင် ဦးတင်ထိုက်၊ ဦးချထိုက်၊ ရှိခိုးထိုက်အောင် အကျင့်သီလ ဆယ်ဝနှင့် ပြည့်စုံသော မိမိတို့၏ သားလှ ရှင်သေး သာမဏေကို ဖူးမြင်ကြရသည့်အတွက် လွန်စွာဝမ်းမြောက် ရွှင်ပျ ကြကုန်၏။

### အတိဇာတ သားထူး

လောကမှာ သားသုံးမျိုးရှိသည်။ ယင်း သားသုံးမျိုးကား—

၁။ အတိဇာတသား=မိဘတို့ထက် သီလ သမာဓိ ပညာ ဂုဏ်ရည် သာလွန်သောသား။

၂။ အနုဇာတသား=မိဘတို့နှင့် သီလ သမာဓိ ပညာ ဂုဏ်ရည် တူသောသား။

၃။ အဝဇာတသား=မိဘတို့အောက် သီလ သမာဓိ ပညာ ညံ့ဖျင်းသော မိစ္ဆာဇီဝဖြင့် အသက်မွေးသော သားမိုက်—

အားဖြင့် ၃-မျိုးဖြစ်သည်။ ဂန္ထကာရကဂဏဝါစက စာချအကျော် လောင်းလျာ ရှင်ဥက္ကံသကား မိဘတို့ထက် သီလ သမာဓိ ပညာ ဂုဏ်ရည်သာ၍လွန် မွန်မြတ်သော သားထူး သားမြတ် မုချဆတ်ဆက် ဖြစ်လေပြီ။

"အဖကောင်းသား၊ ခံရများ၏၊ သားကောင်းအဖ၊ ဖြစ်ခဲ့ရှင့်၊ သားလှမောင်သိ၊ အတိအန္န၊ ခေါ်ပြုအဝ၊ ဇာတသုံးဖြာ၊ ကျမ်းဋ္ဌလာသား၊ မာတာပိတာ၊ မိနှင့်ဖထက်၊ သီလသမာ၊ ပညာကျင့်မူ၊ လွန်တူယုတ်ထ၊ သားသုံးဂတည်း၊ ပါပသမုတ်၊ ကလိယုဂ်ဌ၊ ဆုတ်ကပ်ဖွားသည့်၊ နောက်သားတကာ၊ အဝဇာဖြင့်၊ အလိမ္မာကို၊ မလိုဆည်းပူး၊ လေလွင့်ရှူး၍၊ အမူးအမော်၊ အပျော်သောက်ပြု၊ ကစားမှုဖြင့်၊ မိုက်တုမိုက်ထ၊ လွန်များကြလိမ့်"[၁]

## လွန်ကျော်ကြားလှ ဒက္ခိဏာရာမ

မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်ကား စာပေအရာ ကျော်ကြားလှသည်။တိုက်တော်တည်ရာသက္ကရာဇ်၁၂၀၉-ခုနှစ်မှစ၍ သပ္ပညဂိုဏ်းဝင်ပညာရှင်ပဏ္ဍိတ်တို့ဖြင့် တခါတရံမျှ မဆိတ်သည့် ထိုင်ထိပ်ကျစာသင်တိုက်ကြီးဖြစ်သည်။ အတိုးတက်ဆုံး အချိန် ဒီဂရီအမြင့်မားဆုံး အချိန်က သံဃာတော် ၁၃၀၀-ခန့်အထိ ရှိဘူးကြောင်း သိရသည်။ မန္တလေးမြို့ မပ်းတုန်းမင်း သီပေါမင်းလက်ထက်က သံဃာတော် ၁၀၀၀-ကျော်ရှိ ကျောင်းတိုက်ကြီး ဧလ တိုက်အနက် နံပါတ်တစ်က လိုက်သောကျောင်းတိုက် ဖြစ်သည်။ သို့ဖြစ်၍ ရှင်ချစ်မြတ်စွာ သာသနာတော်၌ အကျော်အမော် ပညာရှိ လုပ်မည့်သူဘိုင်းလိုလို ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ရောက်ရှိ ပညာသင်ရမြဲ ဖြစ်လေသည်။

ဒက္ခိဏာရာမ အာရာမော၊ ပါကဋ္ဌော မြန်မာ့ဘူတလေ။
အနေကေဟိ သပ္ပညေဟိ၊ သံဝဍ္ဎော ဝိသုတော ဟိ ခေါ၊

---

၁။ မဃဒေဝလင်္ကာသစ်။

## ရှင်ဥက္ကံသ ဒက္ခိဏာရာမ ရောက်ပြီ

ပုဗ္ဗေကတပုညစက်နှင့် ထက်ကြွင်းမကွာ ပြည့်စုံပါသော သာမဏေ ရှင်ဥက္ကံသသည် သက်တော် ၁၄-နှစ်ရှိရာ ၁၂၈၂-ခုနှစ်တွင် ဂဏဝါစက အရှင်ဉာဏ (နောက် ရတနာပုံကျောင်း ဆရာတော်)နှင့် အတူလိုက်ပါလာရာ ဖော်ပြပါ တိပိဋကတ်ပါရင် ပညာရှင်တို့ စုံလင်လှသော မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပခန်းဆရာတော်ဘုရားကြီး အရှင်ဝိစာရ ထံတော်မှောက်သို့ ရောက်ရှိတော်မူခဲ့လေသည်။

## အရှင်ဉာဏထံ ပညာသင်

အရှင်ဉာဏထံတွင် ပိဋကသုံးပုံ၏ အခြေခံဖြစ်သော သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပုဒ်စစ်၊ သဒ္ဒါစစ်၊ သံပဏ္ဏနာ၊ နည်းလေးဆယ်၊ ဝီထိလက်ရိုး၊ မာတိကာ-အစရှိသော နေ့ဝါ ညဝါ ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။ ရံခါ ကြိုးကြား ပခန်းဆရာတော်ဘုရားကြီး အရှင်ဝိစာရ ထံတော်၌လည်း စာပေဗဟုသုတများကို ဆည်းပူးတော်မူခဲ့လေသည်။

## ပခန်းဆရာတော်ကြီးထံ ဆက်လက်ပညာသင်

ပခန်းဆရာတော် အရှင်ဝိစာရကား စာပေကျမ်းကျင်မှုနှင့် စပ်၍ တနိုင်ငံလုံး၊ တသာသနာလုံး အုပ်ဖိုး ကျောင်းစာတော်မူသည့် ဂဏဝါစက ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်[၁]။ အရှင်ဥက္ကံသသည် သက်တော် ၁၆-နှစ်အရွယ် မှစ၍ ဖော်ပြပါ ပခန်းဆရာတော်ဘုရားကြီးထံ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ တို့ကို လေ့လာရသည်။ ရံခါ ညဉ့်အချိန်တွင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ တို့ကို ဖတ်၍ ဆရာတော်အား ဆိုလိုရင်းကို လျှောက်ထားရသည်။ ဆရာတော်ကြီး ဦးပခန်းကလည်း ရှင်ဥက္ကံသအား အလိုလိုက် ဦးစားပေးတော်မူသည်။ ဆရာတော် ဦးပခန်း အထံတွင် အဋ္ဌကထာရိုး၊ ဋီကာရိုး၊ စုဒ်ဒေဒနာ၊ အဘိဓာန်၊ သံဝဏ္ဏနာ နယတို့ကို ထောက်ပြု၍ သင်ယူတော်မူရလေသည်။

## နှင့်လက်ထဲ ငါတို့နည်းတွေ ထားခဲ့မည်

ဆရာတော်ကြီး ဦးပခန်းက စာချပေးယင်း "ဥက္ကံသ....မင်း စာပေကြိုးစားရမယ်၊ ပိဋက သုံးသွယ် နိကာယ်ငါးဝ ကျမ်းဂန္ထ၌ မပေါ့မဆလေလင့်။

---

၁။ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဂဏဝါစက စာချအကျော် ဆရာတော် ဦးပခန်း ကြည့်။

ငါတို့မရှိသည့်နောက် နှင့်လက်ထဲမှာ ငါတို့နည်းတွေ ထားခဲ့မယ်။ နှင်ကြီးလျှင် ငါနှယ်အလား များစွာသော စာသင်သား သောတုဇနတို့အား သုဒ္ဓသ သုဂမ္ဘီရ ကျမ်းဂန်တို့ကို ချပို့ကာ သမ္မာသမ္ဗုဒ္ဓ အတုလာဉာဏ်ရှင် ငါ့မာရ်အောင် သာသနာကို တောက်ပြောင် ထိန်ဝင်း လင်းအောင် ဆောင်ရွက်ရမည်'' ဟု မကြာမကြာ မိန့်ကြားတော်မူလေ့ရှိသည်။

ယင်းသို့ဖြင့် ဆရာတော်ကြီး ဦးပခန်းအထံတွင်လည်း—

"ညီညာထကြွ၊ ဆုမွန်နာယူ၊ လာမူကြိုဆည်း၊ ထံနီးလုပ်ကျွေး၊
သင်တွေးအံရွတ်၊ တပည့်ဝတ်၊ မချွတ်ငါးခုသာ"

ဟူသည်နှင့်အညီ တပည့်ဝတ်ငါးပါး ကျင့်ဆောင်၍ သင်သင့်သင်ထိုက်သော ကျမ်းဂန်သိပ္ပ အဝဝကို သင်ယူတော်မူခဲ့ရာ သာမဏေဝတ်ဖြင့် ပိဋကတ်၌ ကျွမ်းကျင်သူအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။

သာမဏေရော သမာနော၊ ဂန္ထေသု ကုသလော ဝိဒ္ဓါ။
သိက္ခိတွာ မဟုဿာဟေန၊ ဥက္ကံသော ဥက္ကံသော ဓိမာ။

## ရဟန်းဘဝ ဒုလ္လဘသို့ ရောက်ခြင်း

သက်တော် ၂၀-ပြည့်မြောက်၍ ၁၂၇၉-ခုနှစ် နယုန်လဆန်း ၁၂-ရက် စနေနေ့ နံနက် ၁၂-ဖဝါး၊စက်နာရီ ၇ နာရီ မိနစ် ၃၀-အချိန်တွင် မိဘနှစ်ပါး တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ပခန်းဆရာတော်ဘုရားကြီး အရှင်ဝိစာရမဟာထေရ်ကို ဥပဇ္ဈာယ်ပြုကာ နှစ်ဖျာနှစ်ဆယ် ခုနှစ်သွယ်ဟု ကိုယ်ဝယ်ဆင်မြန်း ဝန်ကြီးသည့် ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူခဲ့လေသည်။

ဥပဇ္ဈာယံ ကရိတွာန၊ ဝိစာရံ ဝိစာရံ ဝိဒုံ။
ဒုလ္လဘံ အလံကိ ဓိရော၊ ဒုလ္လဘော ဗုဒ္ဓသာသနေ။

## ကမ္မဝါဆရာတော်များ

ဆရာတော် အရှင်ဥက္ကံသ ရဟန်းခံစဉ်က "ပရိယတ္တိသာသနဟိတ ဓမ္မာ စရိယ'' ဘွဲ့တံဆိပ်တော်ရချည်း ဖြစ်တော်မူကြ၍ ဂဏဝါစကာ စာချအကျော် ဖြစ်တော်မူကြသော ဆရာတော်အရှင်သာသနမဟာထေရ်၊ ရွှေရေးဆောင် ဆရာတော်ဘုရားကြီး အရှင်အာဒိစ္စရံသီဘွဲ့ထူးချီသော ဆရာတော်ဦးကြည်၊

ညောင်ကန်ဆရာတော်ဘုရားကြီး အရှင်ဇဗ္ဗုဒ္ဓါဝုဓ - အစရှိသော မထေရ်မြတ်ကြီးတို့သည် ကမ္မဝါစာ ရွတ်ဖတ်၍ ချီးမြှောက်တော်မူကြကုန်၏။

## ဆက်လက်ပညာသင်ကြားတော်မူခြင်း

ရဟန်းဖြစ်ပြီးနောက် ရဟန်းသိက္ခာ ခုနစ်ဝါရသည်အထိ မန္တလေးမြို့တောင်ပြင် ရွှေရေးဆောင်ဆရာတော်ဘုရားကြီး ဦးကြည်၊ ညောင်ကန်ဆရာတော်ဘုရားကြီး အရှင်ဇဗ္ဗုဒ္ဓါဝုဓ၊ ဒက္ခိဏာရာမဘုရားကြီးတိုက် စာချအကျော်အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒါဘိဝံသ၊ အသောကာရာမတိုက် စာချဆရာတော် အရှင်တေဇနိယာဘိဝံသ[၁] အစရှိသော ဆရာတော်တို့ထံ၌လည်း ပရိယတ္တိစာပေရင့်သန်ကြီးထွားအောင် သင်ယူဆည်းပူးတော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာထံ ဆက်လက်ပညာသင်ယူ

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ဆရာတော် အရှင်ပညာမဟာထေရ်သည် အလွန့်လွန် စာပေကျမ်းဂန်နိုင်သည်ဟု ကျော်စောကိတ္တိရှိလေသည်။ မြင်းခြံခရိုင် တောင်ဆင်းနယ်၊ ခွေးပြုတ်ရွာ၌ အဖ ဦးပြော-အမိဒေါ်မင်းဂုဏ်တို့မှ သက္ကရာဇ် ၁၂၄၀-ပြည့်နှစ် ကဆုန်လဆန်း ၂-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ပေါ်ညာဏ်ဖြစ်သည်။အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ထသာရမဟာထေရ်၊ မန္တလေးမြို့အရှေ့ပြင် ခင်မကန်တိုက်ဆရာတော် အရှင်အရိယဝံသ၊ တောင်ပြင် ရွှေရေးဆောင်ဆရာတော် ဦးကြည်စသည်တို့ထံတွင် ပညာသင်ကြား တတ်မြောက်တော်မူခဲ့လေသည်။ ၁၂၇၆-ခုနှစ် ရေစကြိုဆရာတော်ဘုရားကြီး အရှင်ဂန္ထသာရ မဟာထေရ် ပျံလွန်တော်မူသဖြင့် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီး၏ အဓိပတိမဟာနာယကဖြစ်၍ ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ်ကို ချပို့၍ သာသနာပြုရာ အလွန်လျှင် အောင်မြင်လေသည်။ သံဃာတော် ၁၀၀၀ (တထောင်) ခန့် ဆရာတော်ထံ မှီခိုရောက်ရှိ ပညာသင်ကြားကြကုန်၏။

ဆရာတော်သည် သီမာဝိနိစ္ဆယ၊ မင်္ဂလာဒီပနီနိစ္ဆယ၊ မင်္ဂလသုတ္တနိဿယသစ်၊ ဋီကာကျော်နိဿယသစ်၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာ နိဿယသစ်၊ ကင်္ခါဋီကာသစ် နိဿယသစ်၊ ဝိနိစ္ဆယအမျိုးမျိုးစသည် ကျမ်းဂန်အရပ်ရပ်တို့ကို

---

၁။ နောင်တွင် အဂ္ဂမဟာပဏ္ဍိတ ပြည်မြို့ဇောတိကာရုံဆရာတော်အဖြစ် ထင်ရှားသည်။ မန္တလေးသာသနာဝင် ပဌမတွဲ၊ အသောကာရာမသာသနာဝင်ကြည့်။

လည်း၊ ပြုစီရင်တော်မူခဲ့လေသည်။ ၁၂၉၇-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ သက်တော် ၆၉ နှစ် သိက္ခာတော် ၄၉-ဝါ ရရှိ၍ ၁၃၀၀-ခုနှစ် တော်သလင်းလဆုတ် ၆-ရက်နေ့ နံနက် ၂-နာရီ မိနစ် ၄၀—အချိန်တွင် ပျံလွန်တော်မူသည်။

ဆရာတော်လောင်းလျာ ရဟန်းတော် အရှင်ဥက္ကံသသည် ရဟန်း သိက္ခာ ခုနစ်ဝါရပြီးနောက် ဖော်ပြပါ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ပညာမဟာထေရ်ထံ ရောက်ရှိတော်မူ၍ ပိဋကတ်ကျမ်းဂန် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ လိုက်နာဆည်းပူး လေ့လာတော်မူခဲ့လေသည်။

## ညအခါဝတ်ပြုရာမှ အရည်အချင်း သိတော်မူ

ထိုစဉ်က အရှင်ဥက္ကံသမှာ ရဟန်းသိက္ခာ ရှစ်ဝါ ကိုးဝါခန့်သာ ရှိသေးသည်။ ညဝတ်ပြုသွားရာ ဆရာတော် အရှင်ပညာက "ဘယ်ရပ် ဘယ်ဒေသက ဘယ်ဆရာသမား၏ တပည့်ဖြစ်သနည်း" စသည်ဖြင့် မေးမြန်းပြီး စာဝါ အကြောင်းစပ်မိသဖြင့် ကီးခေါက်ကြည့်ရာမှ အရှင်ဥက္ကံသ၏ အရည်အချင်းကို ဆရာတော် အရှင်ပညာ ထေရ်မဟာ ကောင်းစွာ သိတော်မူလေသည်။

## ဆရာတော် အရှင်ပညာက များစွာချီးကျူး

ထို့နောက်တွင် ဆရာတော် အရှင်ပညာ မဟာထေရ်က ဝိနိစ္ဆယရေးစရာ ရှိလျှင် အရှင်ဥက္ကံသကို ခေါ်စေတော်မူ၍ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ ကို ကြည့်ရှုစေတော်မူ၍ ဆိုလိုရင်း အဓိပ္ပာယ်၊ ဘုရားရှင် ဟောတော်မူလိုရင်း၊ အဋ္ဌကထာဆရာ အာဘော်၊ ဋီကာဆရာ အာဘော်တို့ကို မေးတော်မူ၍ အရှင်ဥက္ကံသက ဖြေဆိုသည်တွင် ဆရာတော် အရှင်ပညာ များစွာသဘောကျ ကျေနပ်တော်မူသဖြင့် "ဟယ် ဥက္ကံသ....နှင့် အဋ္ဌကထာရိပ် ဋီကာရိပ် မြင်တဲ့ ဦးပဥ္စင်းပဲ"စသည်ဖြင့် ချီးမြှောက် မိန့်ကြားတော်မူလေ့ ရှိတော်မူသည်။

ပညာထေရေန ထေရမိတ-ဝစနမ္ပိ ပဋိဂ္ဂဟိ။
ဥက္ကံသော ဥက္ကံသေနေဝ၊ ဉာဏေန သံယုတော သုဓီ။

ရံခါ ဆရာတော် နေမကောင်း ထိုင်မသာ ရှိလျှင် ဆရာတော်ကိုယ်စား ဆရာတော် အမိန့်အရ အဆုံးအဖြတ်များ ရေးသား၍ ဆရာတော် အရှင် ပညာ လက်တော်ရောက် အပ်နှင်းတော်မူရလေသည်။

---

၁။ ပခုက္ကူသာသနာဝင်၊ ၅၇-၆၀။ မဟာဝိသုတာရာမ နိကာယ သာသနာဝင်။ ၂၂၁-၂၄၃။ မဟာထေရုပ္ပလလိတတွင်လည်းကြည့်။

## ပခုက္ကူနေလျှင် စာချမပြောက်မည်

ရဟန်းတော် အရှင်ဥက္ကံသသည် ပခုက္ကူမြို့ မဟာဝိသုတာရာမ ဝိဇ္ဇာယနတိုက်ကြီး၌ သုံးနှစ်ခန့် သီတင်းသုံးတော်မူ၍ ကျေနပ်လောက်အောင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများကို လိုက်နာ လေ့လာကြည့်ရှုပြီး ရေစကြိုမြို့နယ် လှေကုတ်ရွာသို့ ပြောင်းရွှေ့လိုသဖြင့် ဆရာတော် အရှင်ပညာကို လျှောက်ထားရာ "ဦးပဥ္စင်း မင်း သည်မှာ နေမည်ဆိုလျှင် ဂဏဝါစကာ စာချမပြောက်မည်၊ နေနိုင်ပါမည်လော" ဟု ဆရာတော် အရှင်ပညာက မေးမြန်းရာ "ဆရာတော် တပည့်တော်မှာ ဆက်လက်၍ ပညာဆည်းပူးဖို့ လိုပါသေးသည်၊ သည်းခံတော်မူပါ ဘုရား" ဟု ယဉ်ကျေးသိမ်မွေ့စွာ လျှောက်ထားခဲ့လေသည်။

## လှေကုတ် အရှင်ကေတုမာလာထံ ပညာသင်

ထိုစဉ်က ရေစကြိုမြို့နယ် လှေကုတ်ရွာ အရှေ့ကျောင်းက ယခုလက်ရှိ ပုံစံမျိုးမဟုတ်ပါချေ၊ ယခု အခြေအနေနှင့်ကား ကွာခြားလှချေ၏။ ထိုစဉ်က လှေကုတ်ရွာ အရှေ့ကျောင်းကား ရဟန်းသာမဏေ ၂၀-ကျော် ၃၀-ခန့် သီတင်းသုံးတော်မူကြ၍ ပရိယတ္တိ ကန့်ပေါင်ကန်သင်းကို ဆည့်ဖို့ရာ ပရိယတ္တိ စာသင်ကျောင်းတိုက် ဖြစ်လေသည်။ ယင်းကျောင်း၌ သံဃာတော် အရှင်မြတ်တွေ ဘုရားဟော မမွက္ခန် ကျမ်းစာတွေကို သာယာစွာ ရင့်ကျူး၍ ရှင်မြူးတော်မူကြသည်။ ထိုစဉ်က ယင်းကျောင်း နာယက ဆရာတော်မှာ အရှင်ကေတုမာလာ ဖြစ်သည်။

အရှင်ကေတုမာလာကား -

- "စာတတ်လက္ခဏာ ရှိလိုပါမူ မြန်မာအာဂုံ ရှိစေ" ဟူသည်နှင့် အညီ ရတု ရကန် ချောင်း မော်ကွန်းမှစ၍ မြန်မာစာပေ အရအမိများသည့် ပုဂ္ဂိုလ်လည်းဖြစ်သည်။
- "သဒ္ဒါအရ ဆန်းဂိုဏ်းကျကိုလည်း သိစေ" ဟူသည်နှင့်အညီ ကစ္စည်း သဒ္ဒါကြီး၊ ချာသ၊ ရူပသိဒ္ဓိ၊ သဒ္ဒနီတိ စသည် သဒ္ဒါနည်း၊ နယနည်းလှပြီး ဝုတ္တောဒယဆန်းလာ စနစ်နှင့် တပြေးတည်း ဂါထာသီကုံးနည်းကိုလည်း ပိုင်နိုင်သည်။
- "ဉာယ်ကားခြောက်ခါ၊ နောက်သို့သာ၊ ဋီကာတက်သက်၊ စကားထွက်လိုလည်း သိစေ" ဟူသည်နှင့်အညီ—

သမ္ဘိန္ဒာစ ပဒတ္ထေ၊ ပဒတ္ထော ပဒဝိဂ္ဂဟော။
စောဒနာ ပရိဟာရေစ၊ ဆဗ္ဗိဓာ ဂါထာဝဏ္ဏနာ[၁]။

ဟူသည့် ဂါထာလာအတိုင်း-(၁) သမ္ဗန္ဓသံဝဏ္ဏနာ၊ (၂) ပဒစိန္တာ သံဝဏ္ဏနာ၊ (၃) ပဒတ္ထသံဝဏ္ဏနာ၊ (၄) ပဒဝိဂ္ဂဟ သံဝဏ္ဏနာ၊ (၅) စောဒနာသံဝဏ္ဏနာ၊ (၆) ပရိဟာရ သံဝဏ္ဏနာ ဟူသော ဉာဏ်နည်း ခြောက်ပါး၊ဋီကာရိပ် စကားထွက်ကို လက်ထပ်မိခိုသိသည့် ကျမ်းဂန်တတ် ပုဂ္ဂိုလ်လည်းဖြစ်သည်။

- ''သချပ်သဒ္ဒါ ဇော့ဝီထိလည်းမိန်စ'' ဟူသည်နှင့်အညီ အဘိဓမ္မာ နည်းနာနယ အခဲအလက် အငုပ်ဖြစ်သည့် သချပ်သဒ္ဒါ ဇောဝီထိ မှစ၍ ပစ္စည်း၊ ပစ္စယုပ္ပန်၊ ပစ္စနီက်ထုတ်နည်း ပဋ္ဌာန်းကိုလည်း နည်းရ တတ်သိသည့် ဆရာတော်မြတ်လည်းဖြစ်သည်။

- ''သရုပ်သဒ္ဒါ လက်ာနယ နေတ္တိမှသည်း ရှိစေ'' ဟူသည်နှင့် အညီ အလင်္ကာနည်း၊ နေတ္တိနည်း စသည်များကိုလည်း အားရကျေနပ် လောက်အောင် တတ်သိသည့် ဝိညူဂိုဏ်းဝင် ပညာရှင်လည်းဖြစ်သည်။

- ''ဂန္ထန္တရကျမ်းထိုမျှလည်း မှတ်လေ''ဟူသည်နှင့်အညီ အလင်္ကာရမနေ စာပေကျမ်းဂန် အမျိုးမျိုးကို လေ့လာ ကြည့်ရှုနေသူ ဖြစ်ရကား ဂန္ထန္တရ ဗဟုသုတ လောက်ကျုံလို ပြည့်စုံသူလည်းဖြစ်သည်။

- ''ဟိ စ ပန နိပါတလည်း ကျစေ''ဟူသည်နှင့်အညီ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့၌ ဟိ စ ပန စသည် နိပါတ်ထားရခြင်း၏ အကြောင်း ကိုလည်း ကောင်းကောင်းကြီး တတ်သိသည့် ပုဂ္ဂိုလ်လည်းဖြစ်သည်။

- ''မုချဖလူ ကာရကူဟု လွယ်ကူမကြာ ဥပစာလည်း ရစေ''ဟူသည်နှင့် အညီ မုချတ္ထယူနည်း၊ ဥပစာရတ္ထ ယူနည်းကိုလည်း သဘောကျသည့် ပုဂ္ဂိုလ် ဖြစ်သည်။ ကာရကူပစာ၊ ဖလူပစာ၊ သဒိသူပစာ၊ ဌာနူပစာ၊ ဌာန်ျူပစာ၊ ဂုဏူပစာ၊ ကေဒေသူပစာ၊ သမီပူပစာ၊ တဒ္ဓမ္မူပစာ၊ ဘေဒူပစာ ဟူသော ၁၀-ပါးပြာဥပစာကို ဆရာနည်းကျရသူလည်း ဖြစ်သည်။

---

၁။ ဆဗ္ဗိဓသုတ္တဝဏ္ဏနာ။

- ''စုဒ်နှင့်အာဘော် ပုဒ်မြော်ထောက်ထားရစေ'' ဟူသည်နှင့် အညီ စောဒနာ၊ သောဓနာ ထုတ်နည်းတို့ကိုလည်း နည်းနာနယ လက်ဆုပ် ရသိသူလည်း ဖြစ်သည်။

- ''အမြဲမြင် အဘင်သိ မိဓါကျမ်းရိုးနေ''ဟူသည်နှင့်အညီ ကျမ်းရိုးကို မိထားသူလည်း ဖြစ်သည်။

- ''အနက်ခြောက်ပါ၊ ကဘွာငါးဖြင့် သုံးတန်ပါဠိ သဘောသိက မိဓါ ကျမ်းရိုးနေ'' ဟူသည်နှင့် လျော်ညီစွာ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာသဘောကို သိမှီသူလည်း ဖြစ်သည်။

သို့ဖြစ်၍ အရှင်ဥက္ကံသသည် ဖော်ပြပါ လေ့ကုတ်ရွာ၌ ရှစ်လခန့် သီတင်းသုံးတော်မူ၍ အရှင်ဆောတုမာလာထံတွင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့၌ ဟိ စ ပန စသည် နိပါတ်ထားနည်းကို သင်ယူ လေ့လာတော်မူခဲ့လေသည်။

### ကွမ်းရွာမင်းကျောင်း အရှင်စက္ကိန္ဒထံ ဆက်လက်နည်းခံ

ရှေးယခင်က မိုးလေဝသမှန် လူတွေစီးပွားရေး ကောင်းသဖြင့် အညာဒေသတော်မြို့ တောရွာများမှာ စာသင်တိုက်တွေနှင့် သာသနာ့ ကျက်သရေကို အမျိုးမျိုးဖွင့်ဆိုနိုင်ခဲ့ကြသည်။ ယခုမူ သည်လိုမဟုတ်တော့ချေ၊ ယခင်ကနှင့် မတူပါတော့ချေ။ ပခုက္ကူအရှေ့ဘက် နှစ်မိုင်ခန့်အကွာ ကွမ်းရွာဟု ခေါ်သောရွာကြီး ဟည်ရှိသည်။ ရှေးဟန့်တစ် တန်ခိုးကြီးဘုရားကြောင့် ရာဇဝင်ကျမ်းများ၌ပင် ထင်ရှားသည့်ရွာဖြစ်သည်။ ဖော်ပြပါ ကွမ်းရွာ၌ မင်းကျောင်းတိုက်သည် ယခင်က စာသင်တိုက် ဖြစ်၏။ ဖော်ပြပါ မင်းကျောင်းတိုက်၌ ၁၂၂၆-ခုနှစ် ခန့်တွင် ဖွားမြင်တော်မူ၍ သက်တော် ၆၄-နှစ်၊ ဝါတော် ၇၄-ဝါအရ ၁၃၂၀ပြည့်နှစ် ကဆုန်လဆန်း ၈-ရက်နေ့တွင် ပျံလွန်တော်မူသော ဆရာတော် အရှင်စက္ကိန္ဒသည် စာပေချပို့၍ သာသနာပြုတော် မူခဲ့ရာ များစွာအောင်မြင်သည်။ ယင်းဆရာတော် အရှင်စက္ကိန္ဒကား ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရ ရေစကြို၌ သီကင်းသုံးစဉ်က တပည့်ခံခဲ့ဘူးသည်။ ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရ၏ တပည့်ဦးလည်း ဖြစ်သည်။ နေတ္တိအလွန်နိုင်သည်ဟု ကျော်စောသည်။

အရှင်ဥက္ကံသသည် ဖော်ပြပါ ကွမ်းရွာမင်းကျောင်း ဆရာတော်ဘုရားကြီး အရှင်စက္ကိန္ဒထံ၌လည်း နေတ္တိကျမ်းကို ဆရာတော်ကြီးထံ၌ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ တွဲဖက်၍ သင်ယူခဲ့သည်မှာ သုံးနှစ်ခန့်ကြာသည်ဟု သိရသည်။

နေတ္တိကျမ်း သင်ယူပြီးနောက် ငါးနှစ်ခန့် ဆက်လက် သီတင်းသုံးတော်မူ၍ ရဟန်းသာမဏေ စာသင်သားတို့အား စာပေပို့ချတော်မူခဲ့လေသည်။

တောရကျောင်း၌ သီတင်းသုံး ခြင်း

ထို့နောက် ဂျပန်ခေတ်တွင် ဇာတိဌာနေ မွေ့ရာ်မြေသို့ ပြန်ကြွတော်မူ၍ သပိတ်တလုံး သင်္ကန်းသုံးထည်ဖြင့် နှစ်နှစ် ကာလပတ်လုံး တောရကျောင်း၌ သီတင်းသုံးတော်မူ၍ ပဋိပတ်အလုပ်ကို တက်စွမ်းသမျှ အားထုတ်တော်မူ၍ ဘုရားသဗ္ဗညု၏ရှေ့စိတ်တော်ကို နှစ်သက်စေတော်မူခဲ့လေသည်။

နတ်သိကြား့တို့ မရနိုင်သောချမ်းသာ

ပွက်ပွက်ညံနေသည့် မြို့သံ ရွာသံတို့မှ လုံးဝ ကင်းဆိတ်သည့် အတွက် တောကျောင်းမှာပျော် ရဟန်းတော်သာ ဘုရားဖိနှော် အချီ့မွှမ်း ခံရသည့် အပြင် ထက်ညာပျော်လတ် အနက်နက်တို့မရနိုင်သည့် ချမ်းသာသုခကိုရရှိသူ ဖြစ်ကြောင်း ကျမ်းပြုလိမ္မာ အရှင်မဟာဗုဒ္ဓဃောသက

ပဝိဝိတ္တော အသံသဋ္ဌော၊ ပန္တသေနာသနေ ရတော။
အာရာဓယန္တော နာထဿ၊ ဝနဝါသေန မာနသံ။
ဧကော အရညေ နိဝသံ၊ ယံ သုခံ လဘတေ ယတိ။
ရသံ တဿ နဝိန္ဒန္တိ၊ အပိ ဒေဝါ သဣန္ဒကာ ၁။

ပဝိဝိတ္တော၊ မြို့သံရွာသံ မဆူညံသဖြင့် ကေနမုချ ဆိတ်ငြိမ်လှ ပေသော။အသံသဋ္ဌော၊အပေါက်ပေါက် အဝဝရှုပ်ထွေးလှသည့် လူ့ လောကနှင့် မရောနှောသော။ ပန္တသေနာသနေ၊ ရေယဉ် ဖြတ်သန်း တောတန်းမြိုင်သို စိမ်းစိုသာမော အစွန်အဖျားကျသော တောရ ကျောင်း၌။ ရတော၊ ရှုပ်တော်ဟောကြား တရားမမေ့ မွေ့လျော် သော၊။ ဝနဝါသေန၊ သပိတ်တလုံး သင်္ကန်းသုံးဖြင့် ထုံးဟောင်း မသွေ တောရ နေခြင်းဖြင့်၊ နာထဿ၊ ဝေနေယအပေါင်း အစဉ် ကောင်းရန် နိစ္စကျင့်ကြံတော်မူ ဘုရားသဗ္ဗညု၏။ မာနသံ၊ထာဝရ အေးကြည်ရွှင်နှလုံးရည်တော်ကို၊ အာရာဓယန္တော၊ နှစ်သက်စေတတ် သော။ယတိ၊ သာသနာ့ဝန်ထမ်း ရဟန်းတော်သည်။ အရညေ၊ ဂုနိုင်

---

၁။ ဝိသုဒ္ဓိ၊ ၁။ ၇၁။ ဓုတင်္ဂနိဒ္ဒေသ၊

အလယ် တင့်တယ်သာမော တောရကျောင်း၌။ ကောဝ၊ အပေါင်း အဖော်မနိုး တယောက်ထီးတည်း။ နိဝသံ-နိဗသန္တော၊ အရှင်မဟာ ကာဿပလိမ်း မှီငြမ်းသည့် တရတည်နေသည် ဖြစ်၍။ ယံသုခံရသံ၊ အကြင်ဝိဒေဝကသုခ အရသာကို။လဘာဘော၊ ပုံသေမှုချရ၏။ တဿ၊ ထို အရညဝါသီတောရမှီသော ယောဂီရဟန်း၏။တံသုခံရသံ၊ ထိုဝိဝေက သုခအရသာကို။သဉ္ဇုန္တကာ၊ စတုမဟာ ဝတီ သာပျော်ပါး သိကြား နှင့်ပဉ္စကူဖြစ်ကုန်သော။ ဒေဝါအပိ၊ ထက်ခွင်ပျော်လတ် နတ်တို့သည် လည်း။ နပိဒ္ဓန္တိ၊ မချကောင်မခံစားကြရကုန်။

## အရှင်ကောဏ္ဍညထံ သက္ကတ သိဟိုဠ် လေ့လာဆည်းပူး

ယင်းသို့ နှစ်နှစ်ခန့်တောရကျောင်း၌ သီတင်းသုံးတော်မူပြီး ပျော်ဘွယ်မြို့ အနောက်ဘက် ၃၂-မိုင်ခန့်ကွာသော မန်ကျည်းကုန်းရွာကျောင်း ဘာသန္တရ ကောဝိဒ အရှင်ကောဏ္ဍညထံတော်၌ သက္ကတ၊ သိဟိုဠ်ဗဟုသုတများကိုဆည်းပူး တော်မူခဲ့သည်။ ယင်းသို့ဆည်းပူးတော်မူစဉ် ဝိနည်းအဋ္ဌကထာ၊ ဋီကာ တို့ကို ကူညီချုပ်ဆိုတော်မူခဲ့လေသည်။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပြန်လည်သီတင်းသုံး

ဒုတိယကမ္ဘာစစ်မီးငြိမ်းခဲ့ပြီးနောက် တိုင်းပြည်မြို့ရွာ သာယာပြီးဖြစ်သဖြင့် ဘူမိနက်သန် အောင်မြေမှန်သော မိခင်ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပခန်း ကျောင်းသို့ ပြန်လည်ကြွရောက် သီတင်းသုံးတော်မူ၍ စာဝါအခမ်းခမ်းကို ကြိုးပမ်းနိစ္စချပို့တော်မူခဲ့လေသည်၊

## အမရပူရဆရာတော်ဟု ထင်ရှားခြင်း

၁၃၁၁-ခုနှစ် လောက်တွင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် အတွင်းထပ် အရှေ့တောင်ထောင့်ရှိ အသင်းကျောင်းကိုခံယူရပြီး ထိုကျောင်း၌သီတင်းသုံး၍ စာပေချပို့စဉ် အမရပူရမြို့မှ ကျောင်းအမကြီး ဒေါ်ကြင်မိသားစုတို့က ယင်း အသင်းကျောင်းကို ပြင်ဆင် ဆောက်လုပ်၍ အမရပူရကျောင်းဟု ကမ္ပည်း တပ်ကာ လှူဒါန်းခဲ့လေသည်။ ဆရာတော်အရှင်ဥက္ကံသ ဖော်ပြပါအမရပူရ ကျောင်း၌ သီတင်းသုံး၍ စာပေချတော်မူသဖြင့် အမရပူရ ဆရာတော်ဟု ထင်ရှားလေသည်။

အမရပူရေ ဝသိတ္ဝာန၊ ဝါစယီ ထေရကုဥ္စရော။
အမရပူရဆရာတော်တိ၊ တေနေ့ဝ သမညာ ဘဝိ။

## ကျမ်းစုံချပို့တော်မူခြင်း

ဆရာတော်ကား ကျမ်းစုံနိုင်သည်ချည်း ဖြစ်၏။ သို့ဖြစ်၍ ဘော်ဒစိန္တာ၊ ကစ္စာယနသာရ စသော ကျမ်းစာများမှစ၍ ဝိနည်း အဋ္ဌကထာကြီး စသည့် စာဝါကြီးများကိုများစွာသော စာလိုက်သံဃာတော်တို့အား ချပေးတော်မူခဲ့လေသည်။

## ပရိယတ္တိသာသနဟိတ မူလဓမ္မာစရိယ

ယင်းသို့စာလိုက်သံဃာများစွာတို့ကို စာပေချ သာသနာပြုတော်မူသဖြင့် ၁၃၁၁-ခုနှစ်လောက်မှစ၍ ပရိယတ္တိသာသနဟိတ အသင်းကြီး၏ "ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (မူလစာချ)" အဖြစ်ဖြင့် ကိုးကွယ် ထောက်ပံ့ လှူဒါန်းခြင်းကိုလည်း ခံယူတော်မူခဲ့လေသည်။

## ပါဠိတက္ကသိုလ်ကထိက

ပါဠိတက္ကသိုလ်ခေတ်တလျှောက်တွင် အကြီးဆုံးသော ဒက္ခိဏာရာမ ပါဠိ တက္ကသိုလ်၏ ကထိကဖြစ်၍ စာချချပို့ ပြုတော်မူခဲ့သည်သာမက ဓမ္မာစရိယတန်း ဆိုင်ရာ ကျမ်းရင်းပုစ္ဆာနှင့် ပါဠိဂုဏ်ထူးပုစ္ဆာများကို ထုတ်ဆင့်၍ အစိုးရအား ချီးမြှင့်တော်မူရလေသည်။ ဆရာတော်သည် ပရိယတ္တိ သာသနဟိတအသင်း စာမေးပွဲ၏ ကျော်ကြားသော ပုစ္ဆကဆရာတော်လည်း ဖြစ်တော်မူသည်။

## ဆဋ္ဌသံဂါယနာ စာတော်မူများပြင်ဆင်

ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီး ကျင်းပစဉ်ကလည်း ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ သံဂါယနာသုံးတန် လုံးကွင်း ပါဝင်၍ ကျမ်းစာများစွာ တို့ကို မူလဝိသောဓက၊ ပဋိဝိသောဓက ဩသာနသောဓကဖြစ်၍ ကျမ်းဂန်များ စွာတို့ကို ပြင်ဆင်သုတ်သင်တော်မူခဲ့လေသည်။

## ဝိနိစ္ဆယများစွာတို့ကို ပြုစီရင်တော်မူခြင်း

ဆရာတော်သည် ယင်းသို့ စာပေချပို့ခြင်း၊ ကျမ်းစာများ သုတ်သင်ခြင်း စသည့်အလုပ်ကိစ္စတွေကြား၌ပင် အရပ်ရပ်မှ မေးလျှောက်အပ်သော အမေး ပုစ္ဆာများကို ယုတ္တိအာဂုံ ခိုင်လုံစွာ ပြုတော်မူလျက် အဆုံးအဖြတ် ဝိမတိစ္ဆေဒနီ ကထာများစွာတို့ကိုလည်း ဆုံးဖြတ် စီရင်တော်မူခဲ့လေသည်။

ယင်းအဆုံးအဖြတ်များမှာ—

၁။ သံမူဋ္ဌ ဆေဒနီကထာ။
၂။ ကထိန ဝိမတိစ္ဆေဒနီ။
၃။ သိမာဝိမတိစ္ဆေဒနီ။
၄။ ပရိဝါသ ဝိမတိစ္ဆေဒနီ။
၅။ ဥပသမ္ပဒကမ္မ ဝိမတိစ္ဆေဒနီ။
၆။ ကမ္မဝါစာ ဝိမတိစ္ဆေဒနီ။
၇။ တာဝကာလိက ဝိမတိစ္ဆေဒနီ။
၈။ ဥဿာဝနန္တိက ဝိမတိစ္ဆေဒနီ။
၉။ ကေသိမ နာနူပစာရာဒိ ဝိမတိစ္ဆေဒနီ။
၁၀။ ကေသိမ နာနာဝိဟာရာဒိ ဝိမတိစ္ဆေဒနီ။
၁၁။ ဝိဿာသဂ္ဂါဒိ ဝိမတိစ္ဆေဒနီ။
၁၂။ စေဒနာဒိ တိသန္တက ဝိမတိစ္ဆေဒနီ။
၁၃။ ဘိက္ခုနီဒူသက သာမဏေရ ဝိမတိစ္ဆေဒနီ။
၁၄။ နေဝသုဒ္ဓ နာသုဒ္ဓါဒိ ဝိမတိစ္ဆေဒနီ။
၁၅။ သိက္ခာပစ္စက္ခာတတာဒိ ဝိမတိစ္ဆေဒနီ။
၁၆။ နီလကဟာပဏာဒိ ဝိမတိစ္ဆေဒနီ။
၁၇။ သုံကဿာတသာဒိ ဝိမတိစ္ဆေဒနီ။
၁၈။ ဥပနိက္ခိတ္တဘာဏ္ဍ ဝိမတိစ္ဆေဒနီ။
၁၉။ ဒါယဇ္ဇာဒိ ဝိမတိစ္ဆေဒနီ။
၂၀။ ရူပိယဒါယာဒ ဝိမတိစ္ဆေဒနီ။
၂၁။ သံဃဘေဒကမ္မ ဝိမတိစ္ဆေဒနီ။
၂၂။ သကအတ္တုပ္ပတ္တိကဏ္ဍ ဝိမတိစ္ဆေဒနီ။
၂၃။ စိတ္တသညာဒိဇာနန ဝိမတိစ္ဆေဒနီ။
၂၄။ မဇ္ဈေ စေတိယသိမာဒိ ဝိမတိစ္ဆေဒနီ။
၂၅။ မဟာသန္တကဝိဟာရာဒိ ဝိမတိစ္ဆေဒနီ။
၂၆။ မာနတ္တာဒိ ဝိမတိစ္ဆေဒနီ။

စသည်တို့ ဖြစ်ကုန်၏။

## သံမူဋ္ဌဆေဒနီကထာ

ဖော်ပြပါ အဆုံးအဖြတ်ကထာများအနက် "သံမူဋ္ဌဆေဒနီကထာ"မှာ ၁၃၁၂-ခုနှစ် ဂဆုန်လကအပြီးတိုင် ဆုံးဖြတ်ရေးသားခဲ့သော အဆုံးအဖြတ်

ဖြစ်သည်။ ယင်းအဆုံးအဖြတ် သံမူဋ္ဌဆေဒနီကာထာမှာ "သံဃိကဝိဟာရ ဗိုသန္တက ရက္ခက ဝိနိစ္ဆယ"စသောတမ်းကို ပြန်လည်ချေပသည့် အဆုံးအဖြတ် ဖြစ်လေသည်။

ယင်းအဆုံးအဖြတ်ကျမ်းဦး၌--

၁။ မိစ္ဆာဝါဒတိမဒ္ဒန္တံ၊ နမဿိတွာ တထာဂတံ။
သမ္ဗောဟမံသကံ ဓမ္မံ၊ ဂဏုတ္တမံ အနေဇကံ။

၂။ သိရသာဟံ ဘိဝန္ဒိတွာ၊ တိက္ခာဂမ္ဘီရဉာဏိကော။
ယထာဘူတံ နိစ္ဆိနန္တေ၊ သာသနဿ ဇေယူပမေ။

၃။ ပုဗ္ဗာစရိယသီဟောစ၊ ဒက္ခိဏာရာမဝါသိနော။
ကရိဿာမိ သမာသေန၊ သံမူဋ္ဌဆေဒနီကထံ။

စသော ၁၃-ဂါထာဖြင့် ဂန္ထာရမ္ဘပြု၍ စီရင်ဆုံးဖြတ်တော် မူခဲ့လေသည်။

အဆုံးအဖြတ် ကျမ်းစာအဆုံး၌လည်း--

၁။ သီလာဒိဂုဏယုတ္တေန၊ ဂဏဝါစက ဘိက္ခုနာ။
ဥက္ကံသနာမကေန၊ ဒက္ခိဏာရာမ ဝါသိနာ။

၂။ ပါဠိအဋ္ဌကထာဒီဟိ၊ သမာဒါယ သုနိစ္ဆိတာ။
သုနိဋ္ဌိတာ အကိစ္ဆေန၊ သံမူဋ္ဌ ဆေဒနီကထာ။

၃။ ဣမိနာ ကတပုညေန၊ သမတ္တောဟံ အသစ္စကံ။
မိစ္ဆာဝါဒံ ဝိနာသေတုံ၊ ဘဝေယျံ ဇာတိဇာတိယံ။

ဟု နိဂုံးအုပ်တော်မူခဲ့လေသည်။ ယင်း သံမူဋ္ဌဆေဒနီကထာမှာ မန္တလေးမြို့ ပိဋကတ်တော်ပြန့်ပွားရေး ပုံနှိပ်တိုက်၌ရိုက်၍ ကရောင်း ၁၆-ချိုးဆိုက် ၉၄-မျက်နှာ ရှိလေသည်။

## ဝိမတိစ္ဆေဒနီကျမ်း

အထက်ဖော်ပြပါ (၁)မှစ၍ (၂၆)နံပါတ်အထိ ဖော်ပြအပ်သော ဝိမတိစ္ဆေဒနီကထာများအနက် (၂)နံပါတ်မှစ၍ (၂၆)နံပါတ်အထိဝိမတိစ္ဆေ ဒနီ (အဆုံးအဖြတ်)များကို "ဝိမတိစ္ဆေဒနီကျမ်း"အမည်ဖြင့် ၁၃၃၉-ခုနှစ် တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် သာသနာရေး ဦးစီး ဌာနက ပုံနှိပ်ထုတ်ဝေခဲ့လေသည်။

ဆရာတော်သည် ဖော်ပြပါ ဝိမတိစ္ဆေဒနီကျမ်းဦး၌–

၁။ တိက္ကကဒ်ံ တိလောကဂ္ဂံ၊ ဗုဒ္ဓံ သံဃမာဟစ္စသကံ။
ဓမ္မံ သံဃဥ္စ သီလာဒိ-ဂုဏောဃောတံ အဟံ နမေ။

၂။ ဝိနယေ ဝိမတိံ ဆေတွာ၊ သိက္ခာကာမာန ဘိက္ခုနံ။
ဟိတတ္ထာယ ကရိဿာမိ၊ ဝိမတိစ္ဆေဒနီကထံ။

ဟူသော နှစ်ဂါထာ၊ နှစ်ဂါထာနိဿယဖြင့် ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။ ယင်းကျမ်းမှာ မဂ္ဂဇင်းဆိုက်ဖြင့် ၂၆၃-မျက်နှာ ရှိလေသည်။

## ပါစိတျာဒိယောဇနာ ဦးစီးသုတ်သင်

ဆရာတော်သည် ဗုဒ္ဓသာသနာအဖွဲ့ (နောက် သာသနာရေးဦးစီးဌာန)၏ လျှောက်ထားချက်အရ ပါစိတျာဒိယောဇနာ ကျမ်းကြီးကိုလည်း ဦးစီးသုတ်သင် တည်းဖြတ်တော်မူခဲ့လေသည်။ ဆရာတော် ဦးစီးသုတ်သင် တည်းဖြတ်ပေးသောစာမူကို သက္ကရာဇ် ၁၃၃၄-ခုနှစ်က ရိုက်နှိပ်ထုတ်ဝေခဲ့လေသည်။ ဆရာတော်ကား စာပေလုပ်ငန်းအရာတွင် ဘက်စုံ ကျွမ်းကျင်တတ်မြောက်တော်မူသည့် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။

## ပိဋကတ်ကျမ်းညွှန်းကြီးများကို ဦးစီးရေးသားခြင်း

ဆရာတော်သည် ပရိယတ္တိသာသနာတော် စည်ကားပြန့်ပွားရေးကို ဆန္ဒကဲပို အလိုရှိတော်မူသည်။ သို့ဖြစ်၍ ၁၃၂၈-ခုနှစ် တန်ခူးလပြည့်ကျော် ၂-ရက်နေ့မှစ၍ ဦးလှမောင် အုပ်ချုပ်ရေးအရာရှိချုပ်[၁] စသူတို့နှင့် စည်းဝေးဆွေးနွေး၍ အဖွဲ့ဝင်ဆရာတော် ၁၄-ပါး ပါဝင်သော ကျမ်းပြုအဖွဲ့ကို ဖွဲ့စည်းတော်မူ၍ အဘိဓါန်ပဒကျမ်းညွှန်းကျမ်း ကြီးကို ကြီးမားသော ဆန္ဒ စိတ္တ ဝီရိယ ဝီမံသည်တို့ကို ဦးဆောင်ကာ ရေးသားပြုစုတော်မူခဲ့လေသည်။

---

၁။ ဦးလှမောင်သည် နောင်တွင် ညွှန်ကြားရေးမှူးချုပ်၊ သာသနာရေး ဦးစီးဌာန အတူးအရာရှိ၊ ဝန်ထမ်းရွေးချယ် လေ့ကျင့်ရေးအဖွဲ့ဝင်၊ နိုင်ငံတော်ကောင်စီဝင်ဖြစ်၍ တိုင်းပြည်တာဝန် သာသနာ့တာဝန်ကို ထမ်းဆောင်သူဖြစ်သည်။

## အဝဂ် တိပိဋကပါဠိမြန်မာ အဘိဓာန် ကျမ်းကြီးများ ဦးစီးပြု

ပါဠိပဒပိဋကတ် ကျမ်းညွှန်းကျမ်းကြီးကို ဦးစီးပြုစုပြီးနောက် အဝဂ် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီးများကိုလည်း ဦးစီး၍ပြုစုတော်မူခဲ့လေသည်[၁]။

## သာရေးနာရေးကိစ္စ မလွှဲသာမှလိုက် စာပေဉ္စူးစိုက်

ဆရာတော်ကား ဆွမ်းစားပရိတ်ရွတ် သာရေးနာရေးကိစ္စများကို အလွန်မလွှဲသာမှ ဆယ်ခါ၊ တခါလောက်သာ လိုက်တတ်သည်။ စာချစာကြည့် ပျက်မည်ကို အလွန်စိုးရွံ့တော်မူသည်။ ဝီရိယဆန္ဒဓာတ် အလွန်အမင်း ပြင်းပြတော်မူလေသည်။

## အကျဉ်းမျှ မှတ်တမ်းတင်ခြင်း

ဤကား ဆရာတော်အရှင်ဥက္ကံသနှင့် စပ်၍ အကျဉ်းမျှ မှတ်တမ်းတင်ခြင်း ဖြစ်သည်။ အပြည့်အစုံ မှတ်တမ်းတင်ရလျှင်ကား ကျမ်းစာကြီးတဆောင်တဖွဲ့ ပြုရမည်ဖြစ်သည်။

ဥက္ကံသထေရ သေဋ္ဌဿ၊ ကာရိယာနိ ဗဟူနိ ဟိ။
ဒက္ခိဏာရာမဝံသမှိ၊ မုခမတ္တ နိဒဿနံ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်မေဓိယာဘိဝံသ

ဆရာတော် အရှင်မေဓိယာဘိဝံသသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်၏ ဂဏဝါစက စာချအကျော် ဆရာတော် ဖြစ်တော်မူသည်။

## ဖွားမြင်ခြင်း ပညာသင်ကြားခြင်း

ရမည်းသင်းမြို့နယ် (ရမည်းသင်းမြို့ မြောက်ဘက်)အုတ်ဖိုရွာ၌ အဖ သမားတော်ကြီး ဦးစံခိုင်-အမိ ဒေါ်အိမ်မင်းတို့မှ သက္ကရာဇ် ၁၂၇၃-ခုနှစ် ဂဆုန်

---

၁။ ဒက္ခိဏာရာမ ကျမ်းညွှန်းနှင့် အဘိဓာန်အဖွဲ့လည်းကြည့်။

လဆန်း ၄-ရက် ကြာသပတေးနေ့ညနေ ၄-ချက်တီးကျော် အချိန်[၁]တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်မြသန်းဖြစ်သည်။ ဆရာတော်လောင်းလျာသည် တဟိယမြေ့က် သားရတနာဖြစ်သည်။ ၁၁-နှစ်သားအရွယ်တွင် ထန်းတောဆရာတော် အရှင်အာစိဏ္ဏထံ မိဘတို့ အပ်နှံသဖြင့် စတင် ပညာသင်ကြားတော်မူသည်။

## ရှင် ရဟန်းအဖြစ်သို့ ရောက်ခြင်း

၁၅-နှစ်သားအရွယ်တွင် မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ထန်းတောဆရာတော်ထံတွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀ ပြည့်မြောက်ရာ ၁၂၉၃-ခုနှစ် ကဆုန်လဆုတ် ၂-ရက်နေ့ နံနက် ၇-နာရီ မိနစ် ၂၀-အချိန်တွင် သိမ်ကုန်းမဏ္ဍလသိမ်တွင် ဆူးတပ်တောင်ကျောင်း ဆရာတော် အရှင်အဂ္ဂဝံသမဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

သက်တော် ၁၆-နှစ်အရောက် ၁၂၈၈-ခုနှစ် ဝါဆိုလတွင် နောင်တော် ဦးဇောတိပါလကို အမှီပြု၍ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက် အလယ်အုတ်ကျောင်းကြီး၌ စာပေအဝဝ ကျမ်းဂန်ကို နိစ္စကြီးကုဟ် အားထုတ်ချပို့ သီတင်းသုံးတော်မူသော အရှင်သဒ္ဓမ္မမဟာထေရ်ထံ ရောက်ရှိ၍ ပညာသင်ကြားခွင့်ကို ရရှိတော်မူခဲ့လေသည်။ သာမဏေအဖြစ်ဖြင့် အရှင်သဒ္ဓမ္မမဟာထေရ်နှင့် ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)များ ဖြစ်တော်မူကြသော ဒက္ခိဏာရာမ အလယ်အုတ်ကျောင်းကြီး ဆရာတော် အရှင်ဥ္ယျ၊ သာသနဇောတိကာရုံဆရာတော် အရှင်နာရဒ[၂]၊ အမရသာကာရာမတိုက် စာချဆရာတော် အရှင်တေဇနိယ[၃] စသော မထေရ်တို့ထံ ကစ္စည်းသဒ္ဒါကြီး၊ သဒ္ဒါငယ်၊ ရူပသိဒ္ဓိ၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ အဘိဓမ္မတ္ထသင်္ဂြိုဟ်၊ ဋီကာကျော်၊ မာတိကာ၊ ဓာတုကထာ အစရှောက်-စသော ပိဋကတ်အခြေခံ ကျမ်းဂန်များကို သင်ယူတော်မူခဲ့သည်။

---

၁။ စက် ၇-နာရီ ၄၅-မိနစ်အချိန်တွင်။

၂။ ဆရာတော် အရှင်နာရဒသည် ၁၃၁၇-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။ သာသနာဝင်ဘွဲ့တံဆိပ်တော်များသမိုင်း နှာ ၇၀-ကြည့်။

၃။ ၎င်းဆရာတော်သည် နောင်တွင် ပြည်မြို့ ဇောတိကာရုံကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ ဆရာတော်အဖြစ် ထင်ရှားသည်။ မန္တလေးသာသနာဝင် ၁။ ၃၇၃-ကြည့်။

ရဟန်းဖြစ်ပြီးနောက်တွင် ဖော်ပြပါ ဆရာတော်များနှင့် ပရိယတ္တိ သာသနဟိတ မဟာစရိယ (မူလစာချ) ဘုံကျော်တိုက် ဒေါင်းကျောင်းဆရာတော် အရှင်ဃောသိတ-စသော စာချအကျော် ဆရာတော်များထံ ယမိုက်၊ ပဋ္ဌာန်း၊ ပါဂိုတော်၊ အဌကထာ၊ ဋီကာ-စသော ကျမ်းအသွယ်သွယ်ကို သင်ယူတော်မူခဲ့သည်။

## စာမေးပွဲများ ဖြေဆိုအောင်မြင်တော်မူခြင်း

ဆရာတော်လောင်းလျာသည် ဖော်ပြခဲ့သည့်အတိုင်း ကြီးမားသော ဝီရိယဖြင့် ကျမ်းဂန်အရင်ရပ်ကို သင်ယူတော်မူပြီး စာမေးပွဲများကို ဝင်ရောက်ဖြေဆိုရာ ရဟန်းသိက္ခာ တဝါအရတွင် အမျိုးသားစာမေးပွဲ အငယ်တန်း၊ နှစ်ဝါအရတွင် အစိုးရ ပဌမငယ်တန်း၊ သုံးဝါအရတွင် အစိုးရ ပဌမလတ်တန်း၊ လေးဝါအရတွင် ပရိယတ္တိ သာသနဟိတသကျသီဟ စာသင်တန်း၊ ငါးဝါအရတွင် ပရိယတ္တိ သာသနဟိတ စာချတန်း သီလက္ခန္ဓအဌကထာ နှင့် အဌသာလိနီအဌကထာတို့ကို ဖြေဆိုအောင်မြင်တော်မူခဲ့လေသည်။

## သီးခြားသကျသီဟစာချဘွဲ့ အလှူခံရရှိတော်မူခြင်း

ရဟန်းသိက္ခာ ခြောက်ဝါအရတွင် ပရိယတ္တိသာသနဟိတအသင်း စာမေးပွဲ စာချတန်းတွင် ပါရာဇိကဏ် အဌကထာကို ဖြေဆိုအောင်မြင်သဖြင့် "ဘဒ္ဒန္တ မေဓိယာဘိဝံသ ပရိယတ္တိ သာသနဟိတ မဟာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူလေသည်။

## စာချအကျော် ဆရာတော်ဖြစ်ခြင်း

ဆရာတော်သည် ဒက္ခိဏာရာမတိုက်အတွင်း နယားကျောင်း၌ သီတင်းသုံး၍ စာပေကျမ်းဂန်ချပို့ရာ များစွာသော စာသင်သား ရဟန်း သာမဏေတို့၏ ပညာသင်ကြား မှီခိုရာ စာချအကျော် ဆရာတော်ဖြစ်တော်မူသည်။

## သာသနာ့ကျိုး သည်ပိုးဆောင်ရွက်တော်မူခြင်း

ဆဌသံဂါယနာ မဟာသဘင်ကြီးတွင်—

၁။ မူလဝိသောဓကတာဝန်၊
၂။ ပဋိဝိသောဓကတာဝန်၊
၃။ သြသာနသောဓကတာဝန်၊

၄။ ဆဋ္ဌသံဂီတိကာရကဟာဝန်၊
၅။ ပါဠိတက္ကသိုလ်ခေတ်တွင် ပါဠိတက္ကသိုလ် ကထိကတာဝန်—

စသည်တို့ကို ဆောင်ရွက်တော်မူခဲ့လေသည်။

### တိပိဋက အဘိဓာန်ကျမ်းနှင့် ပါဠိမြန်မာကျမ်းညွှန်းတွင် ပါဝင်

အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ ဦးဆောင်ပြုသည့် အဂ-ဝဂ် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်း ပြုအဖွဲ့တွင် ပါဝင်၍ တိပိဋက ပါဠိမြန်မာကျမ်းညွှန်းကျမ်းတို့ကို ပြုစုရေးသားတော် မူခဲ့လေသည်၊

### ပိဋကဝိသောဓနီကျမ်း ပြုစုခြင်း

ဆရာတော်သည် ဆဋ္ဌသံဂါယနာတင် ပိဋကတ်တော်များကို ထပ်မံ သုတ်သင်သည့်အနေဖြင့် "ပိဋကဝိသောဓနီကျမ်း" ကိုလည်း ပြုစီရင်တော်မူ လေသည်။

ကျမ်းဦး၌—

၁။ ဖုဋ္ဌော ယေန လောကေမှိ၊ စိတ္တံ ယဿ နကမ္ပတိ။
အသောကံ ဝိရဇံ ခေမံ၊ သော သမ္ဗုဒ္ဓေါ ပုနာတု မံ ဇိနော။

၂။ အစ္စုတ္တံ စ ဗဟိဒ္ဓါ စ၊ ဒွိဓာ မာရံ အနုတ္တရံ။
သဗ္ဗာဘိဘူ ဇိနိ ဇိနော၊ ဟောတု မေ ဇယမင်္ဂလံ။

၃။ ဒေဝပုတ္တံ ကိလေသံ စ၊ အဘိသင်္ခါရမာရကံ။
ခန္ဓံ မစ္စုံ ဇိနိ ဇိနော၊ ဟောတု မေ ဇယမင်္ဂလံ။

၄။ ခန္ဓမာရံ ကိလေသံ စ၊ အဘိသင်္ခါရမာရကံ။
ဒေဝပုတ္တံ ဇိနိ ဇိနော၊ ဟောတု မေ ဇယမင်္ဂလံ။

၅။ မစ္စုမာရံ ကိလေသံ စ၊ ဒေဝပုတ္တံ အသာတကံ။
ဘူရိပညော ဇိနိ ဇိနော၊ ဟောတု မေ ဇယမင်္ဂလံ။

၆။ ရာဂါဒိကေ ကိလေသေ စ၊ မာရသေနံ အနပ္ပကံ။
ပုထုပညော ဇိနိ ဇိနော၊ ဟောတု မေ ဇယမင်္ဂလံ။

၇။ သီဒါ ဗန္ဓာ ယဿကရံ၊ ကိလေသံ ဒေဝပုတ္တကံ။
မဟာပညော ဇိနိ ဇိနော၊ ဟောတု မေ ဇယမင်္ဂလံ။

၈။ ကိလေသ မှတီသင်္ဂါရုံ၊ ခန္ဓမာရုံ စ မှတ္တကုံ။
အစ္ဆုဏ္ဏကံ ဇိနိ ဇိနေ၊ ဟောတု မေ ဇယမင်္ဂလံ။

၉။ မိရေပိ အာဂသိ ဒေဝန္တ၊ ပစုရေ နတ္တကာရကေ။
ပါပမေမွ ဇိနိ ဇိနေ၊ ဟောတု မေ ဇယမင်္ဂလံ။

၁၀။ မာရုံ ဗဟုဓသန္နံ ယောရုံ၊ သဟဿ ဗာဟုနိမ္မိတံ။
ဗာဟိရုံ စ ဇိနိ ဇိနေ၊ ဟောတု မေ ဇယမင်္ဂလံ။

၁၁။ မာရုံ ယက္ခံ ဂဇံ ဓောရုံ၊ စိဉ္စမာဏံ စ သစ္စကံ။
နာဂံ ဗကံ ဇိနိ ဇိနေ၊ ဟောတု မေ ဇယမင်္ဂလံ။

၁၂။ မမွော နတ္တရော ပူဇိတော၊ သန္တော သတ္တိ နိသေဝိတော။
အနတ္တေဇိတော ဝေရိနေ၊ သော မံ ပါလေတု ဖာသုဒေါ။

၁၃။ မဟာကဿပ ထေရော စ၊ သာသနဿ ဝိသောဓကော။
ကုသလော ဌာနာဌာနေသု၊ သဒ္ဓမ္မဝံသပါလကော။

၁၄။ ဒုမ္မုကံနိ နိဂ္ဂါဟကော၊ ယသော သာသန ဇောတကော။
ပေသလာနံ ပဂ္ဂါဟကော၊ ဝိနယေ စ ဝိသာရဒေါ။

၁၅။ တိဿော မောဂ္ဂလိပုတ္တော စ၊ ပရပ္ပဝါဒ မဒ္ဒနော။
သာသနံ အတိပဂ္ဂါဟော၊ ကထာဝတ္ထုဿ ဒေသကော။

၁၆။ ဧတေ နာဂါ ဝသိပ္ပတ္တာ၊ ပရိသာသု ဝိသာရဒါ။
မမွေန ဇိတာ ဝေရိနော၊ တေ မံ ပါလေန္တု တာဒိနော။

၁၇။ ဝိနယာစာရယုတ္တောဟိ၊ သုပူဇိတောဟိ ရာဇူဟိ။
ဝိသုဒ္ဓိစ္ဆဟိ ထေရေဟိ၊ မဟာထေရေဟိ ယာစိတော။

၁၈။ နေဂေကပိ သဒ္ဒသတ္တေ စ၊ ပါဠိ အဋ္ဌကထာဒိကေ။
အဘိဓာနတဋ္ဌီကာယော၊ သမ္ဗေက္ခိကွာန သမ္ဗသော။

၁၉။ ပါဠိ သဝဏ္ဏနာစေဝ၊ ကစ္စာနာဒိ စ အာစေရုံ။
မိရေဟိ ဂရုကာတဗ္ဗံ၊ အဘိဓာနံ စ နိဿယံ။

၂၀။ ဇိတမာရဿ ဝီရဿ၊ ဝိသာရဒဿ ဗုဒ္ဓဿ။
သာသနဿ ဝိသုဒ္ဓတ္ထံ၊ အက္ခရာနံ သုဗုဒ္ဓတ္ထံ။

၂၁။ ပဂ္ဂဟတ္ထံ ပေါရာဏာနံ၊ သာသနံ အနုရက္ခတံ။
လဒ္ဓန္တရေပိ ဆေကာနံ၊ ပရဝါဒံ ပမဒ္ဒတံ။

၂၂။ အကုန္ဒရေးပု သမ္မောဟသ၊ အညာဏသ ဝိသောဓိနိ။
ဆောကာဒိ နယ သမ္ပုဏ္ဏာ၊ ကာသံ ပိဋကဝိသောဓနိ။
၂၃။ ဘမ္မသာမ္ဘုမဟာထေရော၊ သာသနဿ သုစိ ကာမာ။
သုဒ္ဓတ္ထံ တံ ဂရုကတ္တ၊ ကထံ ဓမ္မ နိစ္ဆရာ သုဒ္ဓံ။
၂၄။ ယာဝ တိဋ္ဌတိ သာသနံ နိက္လိဝဿ မပေယသိနော။
ဝိသုဒ္ဓနယံ ဒဿေန္တိ၊ ဆာယမ်ပ္ပ တာဝ တိဋ္ဌတု။

ဟူသော ၂၄-ဂါထာဖြင့် ပြည့်စုံစွာ ဂန္ထာရမ္ဘပြုတော်မူခဲ့သည်။

ကျမ်း၏ အဆုံး၌လည်း—

''ပိဋကဝိသောဓနီ သညာမှိသည့် ဤမည်သာခေါင် ကျမ်းရွှေ
တောင်သည် ၁၃၃၈၊ သက္ကရာဇ်တွင် ရွှေးခေတ်သစ်ဆင်း တော်သ
လင်း၏ ဆန်းလျှင်းရေတွက် ၁၅-ရက်ဝယ် နေ့စက် ၂-နာရီ ချိန့်မြတ်
ဤ၌ ရေးစီဖုံဖုံ ပြီးပြည့်စုံသည် ကြေးမုံမှန်သို့ ကြည့်စေသော်''

ဟူသော ကောပိဒ်သက်ဖြင့် နိဂုံ အုပ်တော်မူသည်။

ယင်း ပိဋကဝိသောဓနီကျမ်း၌ မှတ်သားဖွယ်၊ ကြည့်ရှုဖွယ် လက်ခွဲတဖွဲပုဒ်ပေါင်း ၁၉၆—ပုဒ် ပါရှိသည်။ ယင်းကျမ်းကို ၁၃၇၉—ခုနှစ်က သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ရာ ဒိမိုင်းဆိုက်ဖြင့် ၃၄၀ မျက်နှာရှိသည်။

ဘဒ္ဒန္တမေဓိယော ထေရော၊ မေဓိယော ဂဏဝါစကော။
ဂန္ထကာရေ့စ သော အာသိ၊ ဒက္ခိဏာရာမ ဘာသုရေ။

---

### ဒက္ခိဏာရာမဘုရားကြီးတိုက်
### ဝေဒန္တသက္ကတ ကောဝိဒဆရာတော်
### အရှင်သီလာစာရ

ဒက္ခိဏာရာမတိုက်ပုသိမ်ကျောင်းဆရာတော် အရှင်သီလာစာရသည် သက္ကတဘာသာ၊ ဟိန္ဒီဘာသာများကို ချပို့ကာ စာပေတာဝန် ထမ်းဆောင်တော်မူသည့် မထေရ်မြတ်ဖြစ်သည်။

## ဖွားမြင် ရှင်ရဟန်းပြုခြင်း

မကွေးမြို့အပိုင် စည်ပင်သာရွာ၌ အဖဦးစံရာ-အမိဒေါ်မွဲဘူးတို့မှ သက္ကရာဇ် ၁၂၇၃-ခုနှစ် တပို့တွဲလဆုတ် ၇-ရက် သောကြာနေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်အုံ့ဖြစ်သည်၊ သက်တော် ၁၆-နှစ်ရှိရာ ၁၂၈၉-ခုနှစ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၉၃-ခုနှစ် ဒုတိယ ဝါဆိုလဆန်း ၅-ရက်နေ့တွင် မန္တလေးမြို့ ဒက္ခိဏာရာမတိုက် ခဏ္ဍသိမ်တော်၌ ရွှေရေးဆောင်တိုက်နာယက ဆရာတော်ဘုရားကြီး အရှင်အာဒိစ္စရံသီ မဟာထေရ်မြတ်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ပညာသင်ကြားခြင်း

သာမဏေဘဝကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ ပိဋကတ်အခြေခံကျမ်းဂန်များနှင့် ပိဋကတ်ကျမ်းကြီးများကို သင်ယူတော်မူသည်။ စာမေးပွဲများကို ဖြေဆိုတော်မူခဲ့ရာ သာမဏေဘဝကပင် အစိုးရ ပဌမပြန် စာမေးပွဲ အငယ်တန်း အလတ်တန်းများနှင့် အမျိုးသားစာမေးပွဲ အငယ်အလတ်တို့ကို ဖြေဆိုအောင်မြင်တော်မူသည်။ ရဟန်းသိက္ခာ ၁၂-ဝါအရတွင် သက္ကတဘာသာနှင့် တက္ကရိုး ဗေဒင်ကျမ်းများကို သင်ယူ လေ့လာတော်မူသည်။ အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော် အရှင်ဣန္ဒာသဘနှင့် အဂ္ဂမဟာပဏ္ဍိတ သာသနဇောတိကာရုံ ဆရာတော် အရှင်နာရဒတို့၏ တိုက်တွန်းတော်မူချက်အရ ဝါဆိုဝါကပ် လထပ်ရက်ငင် ပြဿနာများ ဖြေရှင်းနိုင်ရန် ရည်သန်တော်မူကာ ၁၃၁၆-ခုနှစ်တွင် အိန္ဒိယနိုင်ငံသို့ ကြွရောက်၍ သုံးနှစ်တိုင် သီတင်းသုံး၍ သက္ကတဘာသာ၊ ဟိန္ဒီဘာသာနှင့် မူလဗေဒင်တွက်ရိုးကျမ်းများကို လေ့လာသင်ယူတော်မူခဲ့လေသည်။

## ဆောင်ရွက်ချက်များ

ဆရာတော်သည် ၁၃၂၁-ခုနှစ်မှစ၍ အစိုးရယဉ်ကျေးမှု ပြက္ခဒိန်ဌာနစုတွင် ယနေ့တိုင် တာဝန်ယူ ဆောင်ရွက်လျက်ရှိတော်မူသည့်ပြင် အမရပူရ ဆရာတော် အရှင်ဥက္ကံသ ဦးစီးပြုသည့် တိပိဋက ပါဠိပဒ ကျမ်းညွှန်းအဖွဲ့နှင့် တိပိဋက ပါဠိမြန်မာ အဘိဓာန်အဖွဲ့တွင် ပါဝင်၍ ပြုစုဆောင်ရွက်တော်မူခဲ့လေသည်။

## ကျမ်းစာများ ပြန်ဆိုရေးသားပြုစုခြင်း

ရှင်းပြင်—

၁။ ရောဂါဂဏ္ဍိတကျမ်း၊
၂။ လီကာဝတီကျမ်း၊
၃။ သူရိယ သိဒ္ဓန္တကျမ်း၊
၄။ သာမုဒြိကာဇော်တိကျမ်းတို့ကို ဘာသာပြန်ဆို၍၊
၅။ အဓိမာသာဒိနိစ္ဆယ မဉ္ဇူရီကျမ်း၊
၆။ ဗေဒင်ဝေါဟာရ အဘိဓာန်ကျမ်း၊

တို့ကို စီရင်တော်မူခဲ့သည်။ ''ဗေဒင်ဝေါဟာရ အဘိဓာန်ကျမ်း''ကို အစိုးရ ယဉ်ကျေးမှုဌာန၏ လျှောက်ထားချက်အရ ဦးစီးပြုစုတော်မူသည်။

## သက္ကတနှင့် ဟိန္ဒီဘာသာများချပို့

ဆရာတော်သည် ထူးချွန်စွာ ဘာသန္တရတတ်မြောက်လိုသော ရဟန်းတော်များအား သက္ကတဘာသာနှင့် ဟိန္ဒီဘာသာများကို ချပို့တော်မူလျက် စာပေလုပ်ငန်းကို ကြိုးပမ်းဆောင်ရွက်တော်မူသည်။

သီလာစာရေ မဟာထေရော၊ သီသာစာရေသု သံယုတော။
သံယုဖြော ဂန္ထကိစ္စေသု၊ ဘာရဝါဟီ ဝိသာရဒေါ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော် ဆရာတော်

## အရှင်ပညာဇောတာဘိဝံသ

ဆရာတော်သည် ဒက္ခိဏာရာမတိုက် တာရာမင်းကျောင်း၌ သီတင်းသုံးလျက် စာသင်သား များစွာတို့အား စာပေသင်ကြား ချပို့ကာ သာသနာ့ဝန်ထမ်းဆောင်တော်မူသည့် မထေရ်မြတ်ဖြစ်သည်။

## ဖွားမြင် ရှင် ရဟန်းပြု ပညာသင်

မြင်းခြံခရိုင် တောင်သာမြို့နယ် မန်ကျည်းပင်တဲရွာ၌ အဖ ဦးသူတော်-အမိ ဒေါ်ရွှေခဲတို့မှ သက္ကရာဇ် ၁၂၇၀-ပြည့်နှစ်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ဘထွန်းဖြစ်သည်။ အရွယ်ရောက်သော ရှင် ရဟန်းပြု၍ သာသနာဝန် ထမ်းဆောင်တော်မူခဲ့သည်။ ငယ်စဉ်ကစ၍ ဇကွဲ့ဏာရာမတိုက်သို့ရောက်၍ အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော် အစရှိသော ဆရာတော်များထံ ဂန္ထန္တရ အဝဝကို သင်ကြားတတ်မြောက်ခဲ့သည်။

## သကျသီဟဓမ္မာစရိယဘွဲ့ရ ဆဋ္ဌသံဂါယနာဆောင်ရွက်

သကျသီဟ စာသင်တန်း၊ စာချတန်း နှစ်တန်းစလုံး၌ ကောင်းစွာဖြေဆို အောင်မြင်တော်မူခဲ့သည်။ ၁၂၉၉-ခုနှစ်တွင် "ဘဒ္ဒန္တပညာဇောတာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။

ဆဋ္ဌသံဂါယနာ မဟာဓမ္မ သဘင်ကြီးတွင် မူလ ဝိသောဓက၊ ပဋိဝိသောဓက၊ ဆဋ္ဌသံဂီတိကာရက တာဝန်တို့ကိုလည်း ထမ်းဆောင်တော်မူခဲ့သည်။ သာသနာ ၂၅၀၀-ပြည့် အထိမ်းအမှတ် အဖြစ်ဖြင့် ဆဋ္ဌသံဂါယနာ၌ ထူးချွန်စွာ ဆောင်ရွက်ခဲ့သော ဆရာတော် သံဃာတော်များအား အခမဲ့ ခရီးသွားလက်မှတ်များ လှူဒါန်းရာတွင် ဆရာတော် အရှင်ပညာဇောတလည်း ပါဝင်ခဲ့သဖြင့် မိမိအတွက် မီးရထား မီးသင်္ဘော ပထမတန်းမှ အခမဲ့ စီးနင်းခွင့်၊ နောက်ပါ တပည့်တဦး တတိယတန်းမှ စီးနင်းခွင့်နှင့်တကွ အလှူခံ ရရှိတော်မူခဲ့သည်။

## စုတိကမ္မချုပ်ချုပ်တော်မူခြင်း

ဆရာတော်သည် ဇကွဲ့ဏာရာမတိုက် အတွင်းရှိ ကာရာမပ်းကျောင်း၌ ဋီကာကျော်၊ ရူပသိဒ္ဓိ၊ အဋ္ဌသာလိနီကြီး သုံးကျမ်း စသည့် ကျမ်းဂန်အရပ်ရပ်ကို အလဲအလှယ် ချပို့စဉ် ယက်တော် ၆၉-နှစ် သိက္ခာတော် ၄၉-ဝ ရရှိရာ ၁၃၃၉-ခုနှစ် ဂါခေါ်ပ်လဆန်း ၂-ရက်နေ့တွင် ပျံလွန်တော်မူခဲ့လေသည်။

### သံဝေဂယူရန်

မသေပါရန်၊ အာမခံ၊ ကေန်မရှိပြီ။
မနာပါရန်၊ အာမခံ၊ ကေန်မရှိပြီ။
သေနေ့စေ့က၊ တနေ့ကျ၊ မုချသေရမည်။

---

## ဒက္ခိဏာရာမ ဘုံရားကြီးတိုက် ဂဏဝါစက ဆရာတော် အရှင်ဇနိတာဘိဝံသ

ဆရာတော် အရှင်ဇနိတာဘိဝံသ သည်လည်း ဒက္ခိဏာရာမ ဝိဇ္ဇာယတန ကြီး၌ စာပေချပို့ သာသနာပြုတော်မူခဲ့သည့် ပရိယတ္တိ သာသနာ့ဝန်ဆောင် ဆရာတော် ဖြစ်တော်မူသည်။

### ဖွားမြင်တော်မူခြင်း

ညောင်တုန်းမြို့ စက်ကော့ရွာ၌ အဖ ဦးဘ-အမိ ဒေါ်လှသွယ်တို့မှ သက္ကရာဇ် ၁၂၇၃-ခုနှစ် ဝါဆိုလဆုတ် ၁-ရက် အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်သိုက်ထွန်း ဖြစ်သည်။ ဆရာတော်လောင်းလျာသည် လွန်စွာ ဉာဏ်ထက်မြက်သည်။ ၇-နှစ်သားအရွယ်မှစ၍ ကျောင်းနေ ပညာသင်ကြား ခဲ့ရာ ၁၁-နှစ်သားအရွယ်တွင် လေးတန်း အောင်မြင်တော်မူခဲ့သည်။

### ရှင် ရဟန်းပြုခြင်း

သက်တော် ၁၃-နှစ်သားအရွယ်တွင် သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၉၃ ခု နှစ်တွင် ဥပသမ္ပဒဇာတ် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ငယ်စဉ်ကစ၍ ဒက္ခိဏာရာမတိုက် ဟံသာဝတီကျောင်းသို့ ရောက်ရှိ၍ ဟံသာဝတီကျောင်း ဆရာတော် အရှင်ကုဏ္ဍဓာနသာ၊ စာချဆရာတော် အရှင် ဥေယျ၊ သာသန ဇောတိကာရုံ ဆရာတော် အရှင်နာရဒ၊ တမ္ပဝတီကျောင်း ဆရာတော် အရှင်အရိယ၊ ရွှေရေးဆောင်တိုက် စာချဆရာတော် အရှင်ပဏ္ဍဝ၊ အသောကာရာမတိုက် စာချဆရာတော် အရှင်တေဇနိယ၊ အောင်မြေရွှေဘုံ တိုက် ဆရာတော် အရှင်ပညိန္ဒ စသည်တို့ထံတွင် နေ့ဝါ ညဝါ ကျမ်းစာများ ကို မဟုဿာဟ ဇွဲလုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

## စာမေးပွဲများ ဖြေဆိုအောင်မြင်တော်မူခြင်း

ညောင်တုန်းမြို့ သုဓမ္မာပရိယတ္တိ စာမေးပွဲ အချို့နှင့် ရန်ကုန်မြို့ စေတိယင်္ဂဏ စာသင်တန်း စသည်တို့ကို ဖြေဆို အောင်မြင်တော်မူခဲ့သည့်ပြင် ၁၃၀၀-ပြည့်နှစ်တွင် သကျသီဟ စာမေးပွဲ စာသင်တန်းကို နံပါတ်(၁)ဖြင့် ဖြေဆိုအောင်မြင်တော်မူ၍ ၁၃၀၈-ခုနှစ်တွင် သကျသီဟ စာချတန်း စာမေး ပွဲကို အပြီးတိုင် ဖြေဆို အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တဇနိတာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိ တော်မူခဲ့သည်၊ ၁၃၀၉-ခုနှစ်တွင် အစိုးရစာချတန်း စာမေးပွဲကိုလည်း ဂုဏ် ထူးဆောင် ကျမ်းများနှင့်တကွ အောင်မြင်တော်မူသဖြင့် "သာသနဓဇသိရီ ပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

## စာပေချပို့ခြင်း ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေတတ်မြောက်သဖြင့် တပည့်တပန်း ရဟန်း သာမဏေတို့ အား စာပေချပို့ သာသနာပြုစဉ် အဆုတ်ရောဂါ စွဲကပ်လာသဖြင့် သက်တော် ၄၀-ပတ်ဝန်းကျင်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

သာသနဘာရဝါဟောပိ၊ ပရိယတ္တိ ဓုရန္ဓရေ။
မစ္စုရာဇာ နမုဉ္စတိ၊ အဟော ကက္ခဠတာ တဿ။

ပရိယတ္တိ ဓုရန္တရေး၊ နေ့ဝါ ညဝါ ကျမ်းစာပို့ချ ပရိယတ္တိ သာသန ဓုရန္တရ ဖြစ်တော်မူကြကုန်သော။ သာသနဘာရဝါဟော၊ သာသနာ့ ဝန်ဆောင် ဆရာတော်တို့ကိုလည်း။ မစ္ဆုရာဇာ၊ ယုတ်မာလွန်မင်း ရှင်သေမင်းသည်။ နမုစ္စတိ၊ ခွင့်မလွှတ် ချမ်းသာမပေး။ တဿမစ္စု ရာဇဿ၊ ထိုသေမင်း၏။ ကက္ခဠတာ၊ ယုတ်မာကြမ်းကြုတ်သည်၏ အဖြစ်သည်။ အဟော၊ ဩော် အံ့သြလောက်ပါပေ၏။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော် အရှင်သာသနာဘိဝံသ

ဆရာတော်အရှင်သာသနာဘိဝံသ သည်လည်း ဒက္ခိဏာရာမတိုက်၌ စာပေချပို့ သာသနာပြုတော်မူခဲ့သည့် ပုဂ္ဂိုလ်မြတ်ဖြစ်သည်။

### ဖွားမြင် ရှင်ရဟန်းပြုခြင်း

နွားထိုးကြီး မြို့၌ အဖ ဦးဘိုးအောင်-အမိဒေါ်မြမ်း တို့မှ သက္ကရာဇ် ၁၂၇၆-ခုနှစ် တန်ဆောင်မုန်းလဆုတ်၅-ရက် သောကြာနေ့တွင် ဖွားမြင် တော်မူသည်။ ၉-နှစ်သားအရွယ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့သည်။ သက်တော် ၂၀-ပြည့်၍ ၁၂၉၆-ခုနှစ်တွင် မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ဥပသမ္ပဒဇာတ် မြင့်မြတ်သောရဟန်းအဖြစ် သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ငယ်စဉ်ကပင်ဒက္ခိဏာရာမတိုက် သာသနဇောတိကာရုံကျောင်းဆရာတော် အရှင်နာဂဒီပထံရောက်ရှိ၍ ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့လေသည်။ အရှင် သာသနသည် ဝီရိယလည်းကောင်း၊ ဉာဏ်ပညာလည်း ထက်မြက်သူ ဖြစ်သည်။

## စာမေးပွဲများ အောင်မြင်ခြင်း

ဆိုင်ရာ စာမေးပွဲများ ကိုလည်း ဝင်ရောက်ဖြေဆိုရာ အစိုးရ ပဌမငယ်၊ ပဌမလတ်၊ ပဌမကြီး၊ အမျိုးသား စာမေးပွဲ အလတ်၊ အကြီး စသည့် စာမေးပွဲများကိုအောင်မြင်တော်မူခဲ့သည့်အပြင် ၁၃၀၃-ခုနှစ်တွင်သကျသီဟ စာသင်တန်းကို အောင်မြင်တော်မူ၍ ၁၃၁၁-ခုနှစ်တွင် သကျသီဟ စာချ တန်းစာမေးပွဲကို အပြီးတိုင်အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တသာသနာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်နှင့် ၁၃၁၂-ခုနှစ်တွင် အစိုးရ စာမေးပွဲကို ဂုဏ်ထူးဆောင် ကျမ်းများနှင့် တကွ အောင်မြင်တော်မူသဖြင့် "သာသနဓဇသိရီပဝရ ဓမ္မာစရိယ"ဘွဲ့တံဆိပ်တော် တို့ကို အလှူခံရရှိတော်မူခဲ့လေသည်။

## စာပေချပို့ သာသနာပြု

စာမေးပွဲများအောင်မြင် စာပေသင်ကြားတတ်မြောက် ပြီးနောက် ဓမ္မာ စရိယ ဖြစ်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဒက္ခိဏာရာမ တိုက် သာသနဇောတိကာရုံ ဆရာတော်အရှင်နာရဒ၏ ခြေရင်း၌နှစ်ပေါင်း များစွာ စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။ နောင်တွင် နွားထိုးကြီးမြို့ သို့ ပြန်ကြွ သီတင်းသုံး စာပေချပို့တော်မူသည်။ ဒက္ခိဏာရာမတိုက်ကား ကျမ်းဂန်တတ်သိပညာရှိ ကဝိပုဂ္ဂိုလ်တို့၏ ပေါ်ထွန်းရာ မဟာဝိဇ္ဇာလယတနကြီး ဖြစ်သည်။

ဘဒ္ဒန္တသာသနော ထေရော၊ သာသနေ ကိစ္စကာရကော။
သာသနံ သော ဟိ ဇောတေတွာ၊ လောကဂ္ဂသာသနန္ဒရော။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်
## အရှင်ဉာဏောဘာသာဘိဝံသ

အရှင်ဉာဏောဘာသာဘိဝံသည် ဒက္ခိဏာရာမတိုက် ဦးဉာဏောဘာသ ကျောင်း၌ သီတင်းသုံး၍ စာပေချပို့ သာသနာပြုတော်မူသည့် သာသနာ့ ဝန်ဆောင် ဆရာတော် ဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်းပြုခြင်း

မိတ္ထီလာမြို့နယ် ထနောင်းပန်းရွာ၌ အဖ ကျောင်းဒါယကာကြီးဦးချစ်ပို-အမိကျောင်းဒါယိကာမကြီး ဒေါ်ညိုတို့မှ သက္ကရာဇ် ၁၂၇၇-ခုနှစ် ဒုတိယဝါဆိုလဆုတ်၈-ရက် အင်္ဂါနေ့တွင် ဖွားမြင်တော်မူခဲ့လေသည်။ သက်တော် ၁၁-နှစ်သားအရွယ် ၁၂၈၇-ခုနှစ် တပို့တွဲလဆန်း ၈-ရက်နေ့တွင် ထနောင်းပန်းရွာကျောင်း ဆရာတော် အရှင်ပဏ္ဍိစ္စသကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်တော်မူသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၉၆ ခုနှစ် တပို့တွဲလဆန်း၈-ရက်နေ့နံနက် ၇-နာရီ မိနစ်၃၀ အချိန်တွင် ပဲနွယ်ကုန်းမြို့ တတ်သင်ကျောင်း ဆရာတော်ကိုဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## စာသင်ကြားခြင်း

မိတ္ထီလာ မြို့နယ် ထနောင်းပန်းရွာကျောင်း ဆရာတော် အရှင်ပဏ္ဍိစ္စသ၊ တောင်ငူမြို့ မရမ်းကျောင်းဆရာတော် အရှင်ပဏ္ဍိစ္စသတို့ထံ ပိဋကတ်အခြေခံကျမ်းစာများကိုသင်ယူတော်မူခဲ့ပြီး မန္တလေးမြို့ ဒက္ခိဏာရာမတိုက် အဂ္ဂမဟာပဏ္ဍိတဆရာတော် ဦးကြွယ်ထံ ရောက်ရှိနေထိုင်ကာ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဦးကြွယ်နှင့်အဂ္ဂမဟာပဏ္ဍိတ ဆရာတော်အရှင်နာရဒစသည်တို့ထံ ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့သည်။

## အစိုးရဓမ္မာစရိယနှင့် သကျသီဟဓမ္မာစရိယ

အစိုးရစာမေးပွဲ ငယ်၊ လတ်၊ ကြီး တို့ကို ဖြေဆို အောင်မြင်တော်မူခဲ့ပြီး အစိုးရ စာချတန်း စာမေးပွဲကို ကျမ်းရင်းသုံးကျမ်းနှင့်တကွ ဂုဏ်ထူးဆောင်ခြောက်ကျမ်းလုံးကို ဖြေဆို အောင်မြင်တော်မူ သဖြင့် ''သာသနဓဇသိရိပဝရဓမ္မာစရိယ'' ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည့်ပြင် သကျသီဟအသင်း၏ အကိုးကွယ်ခံ သကျသီဟ မူလဓမ္မာစရိယသည်း ဖြစ်တော်မူသည်။

## ဆောင်ရွက်ချက်များ

ဆရာတော် အရှင်ဉာဏောဘာသာဘိဝံသသည် ပါဠိတက္ကသိုလ် ကထိကတာဝန်၊ မန္တလေးမြို့ လေးပြင် လေးရပ် အစိုးရ ဓမ္မာစရိယစာမေးပွဲ ကြီးကြပ်

ရေးအဖွဲ့ဥက္ကဋ္ဌတာဝန်၊ ဒက္ခိဏာရာမ ဂဏဝါစကစာချတာဝန်၊ နိုင်ငံတော်ဗဟိုဝန်ဆောင်အဖွဲ့ဝင် တာဝန်စသည့် တာဝန်များ ကိုလည်း ဆောင်ရွက်တော်မူ၍ သာသနာရေးကိစ္စများကို ဆောင်ရွက်တော်မူသည်။

ဉာဏောဘာသော မဟာထေရော၊ ဉာဏေန ဩဘာသော သုဓီ။

သုဝိတမဿ စက္ကဿ၊ ဘာရဝါဟီ ကဝီ ယတီ။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

## အရှင်နန္ဒဝံသာဘိဝံသ

အရှင်နန္ဒဝံသာဘိဝံသသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ စာပေလုပ်ငန်းအမျိုးမျိုးဖြင့် ပျော်မွေ့သည့် မထေရ်ဖြစ်သည်။

### ဖွားမြင်ခြင်း

၁၂၈၀-ပြည့်နှစ် တော်သလင်းလဆန်း ၁၃-ရက် စနေနေ့ည ၁၀-နာရီ ၄၅-မိနစ်အချိန်တွင် ပခုက္ကူခရိုင် ရေစကြိုမြို့နယ် ငါးလန်ရွာ၌ အဖ ဦးဖြူဘူးနှင့် အမိ ဒေါ်ချေတို့မှ ဖွားမြင်တော်မူခဲ့သည်။

### ရှင်ပြု ပညာသင်ကြားခြင်း

ငါးနှစ်သားအရွယ်မှစ၍ ၁၄-နှစ်သားအရွယ်တွင် ခုနစ်တန်း အောင်သည့် အထိငါးလန်ရွာ ဆရာဦးဖိုး၏ အလယ်တန်းကျောင်း၌ ပညာသင်ကြားခဲ့သည်။ ၁၅-နှစ်သားအရွယ်တွင် သာမဏေဝတ်ခဲ့သည်။ ၁၆-နှစ်သားအရွယ်တွင် လယ်တီပရမတ္ထစာမေးပွဲကို ချွေတံဆိပ်ဖြင့် အောင်မြင်ခဲ့သည်။ ၁၈-နှစ်သားအရွယ်တွင်ကျွမ်းရွာမင်းကျောင်း ဆရာတော် အရှင်ဇက္ကိန္ဒမထေရ်ကြီးထံရောက်၍ ၎င်းဆရာတော်နှင့် အမရပူရ ဆရာတော် အရှင်ဥက္ကံသ မြို့မဟာသေရ်ထံနေ၍ ဝါညဝါများကို သင်ယူခဲ့သည်။

## ရဟန်းပြု ဒက္ခိဏာရာမတိုက်ရောက်ရှိခြင်း

၁၃၀၀–ပြည့်နှစ် သင်္ကြန်တော် ၂၀–တွင် ကွမ်းရွာမင်းကျောင်းဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်ခဲ့သည်။ ၁၃၀၁–ခုနှစ်တွင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ရောက်၍ ဂဏဝါစကစာချအကျော် ဆရာတော်များဖြစ်ကြသော ဆရာတော် အရှင်နာရဒ၊ အရှင် ဥက္ကံသ၊ အရှင်မေဓိယ၊ အရှင်အရိယဝံသ၊ ရွှေရေဆောင်ဆရာတော် ဦးပဏ္ဍဝတို့ထံ ပညာသင်ကြားတတ်မြောက်ခဲ့သည်။ ၁၃၁၄–ခုနှစ် ''သာသနဓဇသိရီပဝရဓမ္မာစရိယ''ဘွဲ့ကို ရရှိတော်မူခဲ့သည်။

## စာပို့ချ ကျောင်းထိုင်

၁၃၂၇–ခုနှစ်မှစ၍ ပရိယတ္တိ သာသနဟိတအသင်း၏ ''ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (မူလစာချ)'' အဖြစ်ဖြင့် ကိုးကွယ်ခြင်း ခံယူတော်မူရလေသည်။ ၁၃၂၄–ခုနှစ်တွင် အမရပူရဆရာတော်၏ ချီးမြှင့်ချက်အရ ဓမ္မာဂါရကျောင်းကို ခံယူ၍ ကျောင်းထိုင်စာချအဖြစ်သို့ ရောက်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်။

## ဆောင်ရွက်ချက်များ

ဆရာတော်သည်—

၁။ ပါဠိတက္ကသိုလ် ကထိက၊
၂။ ဒက္ခိဏာရာမ အခြေခံဓမ္မာစရိယအဖွဲ့ဥက္ကဋ္ဌ၊
၃။ ဆဋ္ဌသံဂါယနာ သံဂီတိကာရက၊
၄။ ဆဋ္ဌသံဂါယနာ မူလဝိသောဓက၊
၅။ ဆဋ္ဌသံဂါယနာ ပဋိဝိသောဓက။
၆။ ဆဋ္ဌသံဂါယနာ ဩဝါဒနဿာဓကတာဝန်၊
၇။ အမရပူရဆရာတော် ဦးစီးခေါင်းဆောင်သော တိပိဋကပါဠိမြန်မာအဘိဓာန်ပြုအဖွဲ့ဝင်တာဝန်စသည်တို့ကိုဆောင်ရွက်ခဲ့သည်။

နန္ဒဝံသော မဟာထေရော၊ ဒက္ခိဏာရာမဝါစကော။
ဥယျုတ္တော နာနာဌာနေသု၊ ကိစ္စကာရီ ဝိသာရဒေါ။
သော ဟိ ဝဿသတံ ကာလံ၊ ဇောတေတု ဇိနသာသနံ။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်သုမန

ဆရာတော် အရှင်သုမနသည်လည်း ဒက္ခိဏာရာမတိုက်၌ စာပေချပို့ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည့် ပရိယတ္တိသာသနာပြု ဆရာတော်တပါး ဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်းပြု

မိတ္ထီလာမြို့ ဖလံကျင်းရွာ၌ အဖ ဦးထွန်းမြ– အမိ ဒေါ်ဒေါ်မိတို့မှ သက္ကရာဇ် ၁၂၈၂–ခုနှစ် နယုန်လဆန်း ၁၅-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ သက်တော် ၁၁–နှစ်ရှိရာ ၁၂၉၃-ခုနှစ်တွင် သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်၊ သက်တော် ၂၀–ပြည့်မြောက်ရာ ၁၃၀၂-ခုနှစ်တွင် ဆရာတော် အရှင်ဩဘာသကို ဥပဇ္ဈာယ် ပြု၍ ရဟန်းဘဝကို ရရှိတော်မူသည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

သက်တော် ငယ်စဉ်ကပင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် သာသနဇောတိကာရုံကျောင်း ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နာရဒထံ ရောက်ရှိ၍ ပညာသင်ကြားခွင့်ကို ရရှိတော်မူခဲ့သည်။ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နာရဒနှင့် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးကြွယ်၊ သကျသီဟ မူလဓမ္မာစရိယများဖြစ်ကြသော တမ္ပဝတီကျောင်း ဆရာတော် အရှင်အရိယဝံသ၊ အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသ၊ သကျသီဟ ဓမ္မာစရိယ စာချဆရာတော် နယားကျောင်း အရှင်မေဓိယ စသည်တို့ထံတွင် နေ့ါ ညဝါ ကျမ်းစာများကို သင်ယူတော်မူခဲ့သည်။

## စာပေချပို့ သာသနာပြုခြင်း

၁၃၁၅–ခုနှစ်တွင် အစိုးရဓမ္မာစရိယ စာချတန်းကို ဖြေဆိုအောင်မြင်တော်မူသည်။ ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နာရဒ၏ ချီးမြှောက်မှုကို ခံယူတော်မူကာ နှစ်ပေါင်းများစွာ စာပေချပို့ သာသနာပြုတော်မူခဲ့

သည်။ ၁၃၂၇-ခုနှစ်တွင် ဆရာတော် အရှင်နာရဒ ပျံလွန်တော်မူသဖြင့် ဆရာတော်၏ အရိုက်အရာဖြစ်သောသာသနဇောတိကာရုံတိုက်ကျောင်းကြီးနှင့်တကွ အခြံအရံကျောင်းများကိုပါ စောင့်ရှောက်အုပ်ချုပ်၍ စာပေချပို့ သာသနာပြုတော်မူသည်။

ဆရာတော်သည် မိမိထက် သိက္ခာဝါကြီးမားလည့် ဆရာတော်များကို ရိုသေလေးစားခြင်း၊ မိမိအောက် အသက်သိက္ခာငယ်သော သာသနာ့ဝန်ထမ်း သီတင်းသုံး ဖော်ရဟန်းသာဏေတို့အား ချစ်ခင်လေးမြတ် စောင့်ရှောက်တော်မူလေ့ရှိတော်မူသည်။

ဘဒ္ဒန္တသုမနော ထေရော၊ သုမနော ဝိညုဇာတိကော။
ဒက္ခိဏာဝံသံ ပါလေတွာ၊ သမ္ဗုဒ္ဓစက္ကဘာရဓော။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် ဂဏဝါစက ဆရာတော်

## အရှင်တိက္ခာစာရ

အရှင်တိက္ခာစာရသည်လည်း ဒက္ခိဏာရာမကိုက် ဒေါနခြံ အုတ်ကျောင်း၌ စာပေချပို့ သီတင်းသုံးတော်မူသည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်း ဖြစ်ခြင်း

မုံရွာခရိုင် ဆင်ရှင်မြို့ ဆင်ရှင်ရွာ၌- သက္ကရာဇ် ၁၂၈၆-ခုနှစ် တပို့တွဲ လဆုတ် ၈-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင် ဓမ္မာစရိယအောင်

ဒက္ခိဏာရာမတိုက်သို့ ငယ်စဉ်ကမှ ရောက်ရှိတော်မူ၍ ဆရာတော် အရှင်နာရဒ၊ ဆရာတော်ဦးကြယ်၊ အမရပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ စသည်တို့ထံတွင် ပညာသင်ယူတော်မူခဲ့သည်။ အစိုးရစာမေးပွဲ ငယ်-လတ်-ကြီးတို့ကို

ဖြေဆိုအောင်မြင်တော်မူခဲ့သည်။ သက္ကရာဇ် ၁၃၁၄-ခုနှစ်တွင် အစိုးရစာချတန်းစာမေးပွဲကို ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇသိရီပဝရဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။

## ဒေါနုခြံအုတ်ကျောင်း၌ စာပေချပို့သာသနာပြု

ဆရာတော်သည် ဒက္ခိဏာရာမတိုက် ဒေါနုခြံအုတ်ကျောင်း၌ သီတင်းသုံးတော်မူလျက် အခြေခံဓမ္မာစရိယအဖွဲ့တွင် ပါဝင်၍ စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။ ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင်လည်း သံဂီတိကာရက၊ ပဋိဝိသောဓက ဖြစ်၍လည်း သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

ဘဒ္ဒန္တတိက္ခထေရောပိ၊ သိဿာနံ ဝါစကော သုဓီ။
ဒက္ခိဏာရာမ ဝါသီ ဟိ၊ ကတ္တဗ္ဗံ အကရီ ဟိ ခေါ။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်
## အရှင်သောဘန

အရှင်သောဘနသည် မန္တလေးမြို့ ဒက္ခိဏာရာမတိုက် ဦးဇာဂရကြီးကျောင်း၌ သီတင်းသုံး၍ စာပေချပို့ ရှင်ပျော်ပျို့တော်မူသည့် သာသနာ့ဝန်ဆောင်ဖြစ်လေသည်။

## ဖွားမြင် ရှင်ရဟန်းပြုခြင်း

ရွှေဘိုခရိုင် ဒီပဲယင်းမြို့နယ် မူးကမ်းကြီးရွာ၌ အဖဦးချိန်-အမိဒေါ်စောညွန့်တို့မှ သက္ကရာဇ် ၁၂၉၁-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၇-ရက် သောကြာနေ့တွင် ဖွားမြင်တော်မူသည်။ ကျောင်းသားအရွယ် ကျောင်းနေပညာသင်ကြားခဲ့၍ သာမဏေအရွယ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၀-ခုနှစ် တပို့တွဲလဆုတ် ၅-ရက်နေ့တွင် ကျွန်းပေါ်ကျောင်း ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘာဝဒုလ္လဘကို ရတော်မူခဲ့လေသည်။

## ပညာသင်ကြားခြင်း စာပေချပို့သာသနာပြုခြင်း

မှုးကမ်းကြီးရွာ ရွှေသိမ်တော်ကျောင်းတိုက် ဆရာတော် အရှင်ဇာဂရ၊ အရှင်နေမိန္ဒ၊ ဆိပ်ခွန်ရွာ မဟာဝိသုတာရာမတိုက် ဆရာတော် အရှင်ဇာဂရ၊ အရှင်ဣန္ဒကတို့ထံ ပညာသင်ကြားခဲ့သည်။ ရင်းပြင် ဒက္ခိဏာရာမတိုက်သို့ ရောက်၍ ဒက္ခိဏာရာမတိုက် အရှင်မဟိန္ဒ၊ အရှင်အာစာရ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နာဂဒေ၊ သကျသီဟ မြေ့ာစရိယ မူလစာချဆရာတော် အရှင် အရိယ၊ အမရပူရဆရာတော် အရှင်ဥက္ကံသ၊ နယားကျောင်းဆရာတော် အရှင် မေဓိယ၊ ပုသိမ်ကျောင်းဆရာတော် အရှင်သီလာစာရ၊ မြောဂါခကျောင်း ဆရာ တော် အရှင်နန္ဒဝံသ၊ ညောင်ကန်တိုက်ဆရာတော် အရှင်ဉာဏ စသည်တို့ထံတွင် လည်း ဂန္ထန္တရ အဝဝကို သင်ယူတော်မူခဲ့လေသည်။

ငယ်၊ လတ်၊ ကြီးနှင့် အစိုးရစာချတန်း စာမေးပွဲကို ဖြေဆိုအောင်မြင်တော် မူခဲ့သဖြင့် "အစိုးရ မြေ့ာစရိယ" ဖြစ်သည့်အပြင် ပရိယတ္တိ သာသနဟိတ အသင်းကြီး၏ "ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလဘာချ)" အဖြစ်ဖြင့် ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။ ဆရာတော် အရှင်သောဘနသည် ဒက္ခိဏာရာမတိုက်၌ သာဒ္ဓါ၊ သင်္ဂြိုဟ်၊ ရူပသိဒ္ဓိ စသည့် ကျမ်းငယ်၊ ကျမ်း လတ်များနှင့် အဋ္ဌကထာ ကျမ်းကြီးများကိုပါ ချပို့၍ သာသနာပြုတော် မူသည်။

## ကျမ်းညွှန်းနှင့် အဘိဓာန်ကျမ်းပြုအဖွဲ့တွင် ပါဝင်ပြုစု

ဆရာတော် အရှင်သောဘနသည် အမရပူရကျောင်း ဆရာတော် အရှင် ဥက္ကံသာဘိဝံသ ဦးစီးပြုစုရေးသားကျက်ရှိသည့် အဂင် ပါဠိပဒပိဋကတ် ကျမ်း ညွှန်းနှင့် တိပိဋက ပါဠိ မြန်မာအဘိဓာန်ကျမ်းပြုအဖွဲ့တွင် ပါဝင်ရေးသား ပြုစု ကာ သာသနာ့ဝန်ကိုလည်း ထမ်းဆောင်တော်မူသည်။

ဘဒ္ဒန္တသောဘနော ထေရော၊ သောဘနော ဗုဒ္ဓသာသနေ။
သာသနသောဘနတ္ထာယ၊ သဒါ ဉယျုတ္တမာနသော။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်ဣန္ဒာစက္က

အရှင်ဣန္ဒာစက္ကသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက် အောင်ရတနာကျောင်း၌ သီတင်းသုံး၍ စာပေချပို့ ဘာသနာပြုတော်မူသည့် ဒက္ခိဏာရာမ သာသနာ့ဝန်ဆောင် ဆရာတော်ဖြစ်တော်မူသည်။

### ဖွားမြင်ခြင်း ရှင် ရဟန်းပြု သာသနာ့ဝန် ထမ်းဆောင်ခြင်း

မန္တလေးတိုင်း အဝင်အဝါ တောင်သာမြို့နယ် ဆင်ဖြူရွာ၌ ဗေဒင်ဆရာကြီး ဦးပိန်ကျော်-ဆရာကတော် ဒေါ်လှရင်တို့မှ သက္ကရာဇ် ၁၂၉၇-ခုနှစ် ဝါဆိုလဆုတ် ၆-ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။ ၉-နှစ်သား အရွယ်တွင် ဆင်ဖြူရွာ ဓမ္မာရုံကျောင်း ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဝတ် သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သာမဏေ ဘွဲ့တော် ရှင်ဣန္ဒာစက္ကဖြစ်၏။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၆-ခုနှစ် ဝါဆိုလဆန်း ၁၄-ရက်နေ့တွင် မဟာဇောတိကာရာမတိုက် ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူသည်။

### ပညာသင်ကြားခြင်း စာမေးပွဲများနှင့် ဘွဲ့အောင်မြင်ခြင်း

မူလ ဆင်ဖြူရွာ မဓမ္မာရုံကျောင်း ဆရာတော်ဘုရားကြီးနှင့် ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက် ဆင်ဖြူကျောင်း၌ သီတင်းသုံး၍ စာချဆရာတော်များထံ ပိဋကတ် အခြေခံ ကျမ်းစ များကို သင်ယူတော်မူခဲ့လေသည်။ တဖန် မုံရွာမြို့ မဟာဇောတိကာရာမတိုက်၌ သီတင်းသုံး၍ ပညာသင်ကြားခဲ့ရာ ၁၃၁၃-ခုနှစ် အစိုးရစာမေးပွဲ ပဌမငယ်၊ ၁၃၁၄-ခုနှစ် အစိုးရစာမေးပွဲ ပဌမလတ်၊ ၁၃၁၅-ခုနှစ် အစိုးရစာမေးပွဲ ပဌမကြီးတို့ကို သာမဏေဘဝဖြင့် အောင်မြင်ခဲ့လေသည်။ ၁၃၁၈-ခုနှစ်တွင် အစိုးရစာချတန်း စာမေးပွဲကို ဂုဏ်ထူးဆောင် ကျမ်းများနှင့်တကွ ဖြေဆိုအောင်မြင်သဖြင့် ''သာသနဓဇ သိရီပဝရဓမ္မာစရိယ''ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။ ဆက်လက်၍ လောကီဘက်ဆိုင်ရာ ပညာရပ်များကိုလည်း လေ့လာဖြေဆိုရာ ၁၃၂၈ ခုနှစ်တွင်''ဘီ-အေ''ဘွဲ့ကို ရရှိခဲ့သည့်ပြင် ၁၃၃၁-ခုနှစ်တွင် ''အိုင်ချ်-ဂျီ-ပီ'' ဘွဲ့ကို ရရှိခဲ့သည်။ အရှင်ဣန္ဒာစက္ကသည် မန္တလေးမြို့ ဒက္ခိဏာရာမတိုက် အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ အထံ၌လည်း ဂန္ထန္တရ အဝဝကို သင်ယူတော်မူခဲ့သည်။

## စာချပို့ ကျမ်းပြုအဖွဲ့တွင် ပါဝင်ပြုစု

အရှင်ဣန္ဒာစက္ကသည် ဒက္ခိဏာရာမတိုက်၌ စာပေကျမ်းဂန်များကို ချပို့၍ သာသနာကို ချီးမြှောက်တော်မူသည့်အပြင် အမရပူရဆရာတော် ဦးဆောင်ပြုစုသည့် အဋ္ဌကထာ ပါဠိပဒပိဋကတ်ကျမ်းညွှန်းနှင့် အဘိဓာန် တိပိဋက ပါဠိမြန်မာကျမ်းပြုအဖွဲ့ဝင်ဖြစ်၍လည်း အဋ္ဌကထာ ပါဠိပဒပိဋကတ်ကျမ်းညွှန်းကျမ်း၊ တိပိဋက ပါဠိ မြန်မာအဘိဓာန်တို့ကို ပြုစု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူလေသည်။

ဣန္ဒာစက္ကော သပ္ပညော ပိ၊ ဒက္ခိဏဝံသဇောတကော။
ဒက္ခိဏာရာမေ ဝသိတွာန၊ ဒက္ခိဏသာသနဒ္ဓရော။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်
## အရှင်သြဘာသာဘိဝံသ

အရှင်သြဘာသာဘိဝံသသည်လည်း ဒက္ခိဏာရာမ ဝိဇ္ဇာလယတနကြီး၌ထင်ရှားသည့် ဂဏဝါစက စာချဆရာတော်တပါး ဖြစ်တော်မူသည်။

## ဖွားမြင် ရှင်ရဟန်းပြုခြင်း

မုံရွာခရိုင် ပုလဲမြို့နယ် မင်းရွာအမည်ရှိသော ရွာ၌ အဖဦးချစ်-အမိ ဒေါ်အေးတင်တို့မှ သက္ကရာဇ် ၁၂၉၇-ခုနှစ် နှောင်းကဆုန်လဆန်း၃-ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။ မောင်ဘချို၊ မခင်ကြည်၊ မောင်ဌေးအောင်၊ မောင်ဘခို၊ မောင်မျိုးမြင့် ဟူသော မွေးချင်းငါးယောက်အနက် ဆရာတော်လောင်းလျာသည် စတုတ္ထမြောက် သားရတနာ မောင်ဘခိုဖြစ်သည်။

## ရှင်သာမဏေပြုခြင်း ပညာသင်ကြားခြင်း

သက်တော် ၁၄-နှစ်ရှိရာ သက္ကရာဇ် ၁၃၁၂-ခုနှစ် ဝါဆိုလဆုတ် ၁-ရက်နေ့တွင် မင်းရွာဆရာတော် အရှင်သုဇနထံတွင် ရှင်သာမဏေဝတ်၍ သာသနာ့

ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘာမကောဘွဲ့တော် ရှင်ဩဘာသ ဖြစ်သည်။ မန္တလေးမြို့ အနောက်ပြင် ချမ်းသာကြီးတိုက်၊ ငွေချိုတိုက်တို့၌လည်း နေထိုင်ပညာသင်ကြားခဲ့သည်။

## ရဟန်းဘဝ ဒုလ္လဘကိုရရှိခြင်း

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၈-ခုနှစ် ကဆုန်လဆန်း ၁၁-ရက်နေ့တွင် ရန်ကုန်မြို့ အလုံရပ် ဇောတနာရာမတိုက် သိမ်တော်၌ ဘကြီးတော် ဆရာတော် အရှင်နန္ဒိယကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိခြင်း

၁၃၁၆-ခုနှစ်မှစ၍ ပရိယတ္တိ သင်ကြားချပို့မှုအရာတွင် အလွန်လျှင် ကျော်စောကီတ္တိရှိလှသော ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးအတွင်း ပခန်းကျောင်းသို့ ရောက်ရှိသီတင်းသုံးတော်မူ၍ ဂဏဝါစက ကျော်ပေါက်ပြသည့် တမ္ဗဝတီ ကျောင်းဆရာတော် အရှင်အရိယာဘိဝံသ၊ အမရပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ၊ နယားကျောင်းဆရာတော် အရှင်မေဓိယာဘိဝံသတို့ထံတွင် သဒ္ဒနယ၊ အတ္ထနယ၊ ဝိနိစ္ဆယဖြတ်ထုံး စသည်တို့ကို အာစရိယမုဋ္ဌိ ရရှိအောင် သင်ယူတော်မူခဲ့လေသည်။

## သက်္ကသီဟအစိုးရ ဓမ္မာစရိယ

ဆရာတော်သည် သက္ကသီဟ စာမေးပွဲများကိုလည်း အပြီးတိုင် ဖြေဆိုအောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တဩဘာသာဘိဝံသ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ(သီချင်းစာချ)" ဘွဲ့တံဆိပ်ကိုလည်းကောင်း၊ အစိုးရစာမေးပွဲများကို ဓမ္မာစရိယတန်း ပြီးသည်အထိ ဖြေဆိုအောင်မြင်တော်မူသဖြင့် အစိုးရ ဓမ္မာစရိယ ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း အလှူခံရရှိတော်မူသည်။

## အဘိဓာန်ကျမ်းပြု ပါဠိပဒကျမ်းညွှန်းကျမ်းပြု

အမရပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ ဦးဆောင်ပြုစုရေးသားသည့် တိပိဋက ပါဠိမြန်မာ အဘိဓာန်ကျမ်းပြုအဖွဲ့၊ ပါဠိပဒပိဋကတ် ကျမ်းညွှန်းအဖွဲ့တို့တွင်လည်း ပါဝင်ပြုစု ရေးသားသူဖြစ်ရာ တိပိဋက ပါဠိအဘိဓာန် ကျမ်းပြုနှင့်

ပါဠိဥပဒေပိဋကတ် ကျမ်းညွှန်းကျမ်းပြု ပုဂ္ဂိုလ်လည်းဖြစ်သည်။ အရှင်သြဘာသာဘိဝံသသည် စိတ်နေသဘောထား နူးညံ့သူဖြစ်သည်။ မဆထရ်ကြီးများကို လေးစားသည့် ဂါရဝ နိဝါတဂုဏ်နှင့် အထူးပြည့်စုံသူဖြစ်သည်။

ဘဒ္ဒန္တသြဘာသော ထေရော၊ သြဘာသော ဇိနသာသနေ။
ဒက္ခိဏာရာမ အာဝါသေ၊ ကော နိသာကရော ဘဝေ။

---

ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်
အရှင်ပညောဘာသာဘိဝံသ

ဆရာတော် အရှင်ပညောဘာသာဘိဝံသ သည်လည်း ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီး၏ ကျက်သရေဆောင် စာချဆရာတော်တပါး ဖြစ်တော်မူသည်။

ဖွားမြင် ရှင်ရဟန်း ပြုခြင်း

မုံရွာခရိုင် ပုလဲမြို့နယ် မင်းရွာအမည်ရှိသော ရွာ၌ အဖဦးချစ်-အမိ ဒေါ်အေးတင်တို့မှ သက္ကရာဇ် ၁၃၀၁-ခုနှစ် ဝါခေါင်လဆုတ် ၂-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ မွေးချင်း ငါးယောက်ရှိသည့်အနက် အထွေးဆုံးသားရတနာဖြစ်သည်။ ငယ်မည် မောင်မျိုးမြင့်ဖြစ်သည်။

ရှင်သာမဏေဝတ်ခြင်း ပညာသင်ကြားခြင်း

သက်တော် ၁၂-နှစ်ရှိရာ ၁၃၁၃-ခု ဝါဆိုလဆန်း ၁၅-ရက်နေ့တွင် မင်းရွာကျောင်းဆရာတော် အရှင်သုဇနကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဝတ်ခဲ့လေသည်။ သာမဏေဘွဲ့ ရှင်ပညာသာမိဖြစ်သည်။ ကျောင်းသားဘဝဖြင့် သင်ပုန်းကြီး၊ နမက္ကာရ၊ ပရိတ်ကြီး၊ လောကနီတိ စသည်တို့ကို သင်ယူတော်မူ

---

၁။ အရှင်ပညောဘာသာဘိဝံသကား ဒက္ခိဏာရာမ စာချဆရာတော် အရှင်သြဘာသာဘိဝံသ၏ ညီအရင်းဖြစ်သည်။ ဒက္ခိဏာရာမ စာချဆရာတော် အရှင်သြဘာသာဘိဝံသလည်းကြည့်။

၍ သာမဏေဝတ်ဖြင့် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပါတိမောက်၊ မာတိကာ၊ ဓာတုကထာ၊ အောက်ယမိုက် ငါးကျမ်းအရကောက်၊ ပဋ္ဌာန်ဇာတ် အဋ္ဌကထာတို့ကို သင်ယူတော်မူခဲ့လေသည်။ အစိုးရစာမေးပွဲ အငယ်တန်း၊ အလတ်တန်းတို့ကို ကိုရင်ဝတ်ဖြင့် ဖြေဆိုအောင်မြင်တော်မူခဲ့သည်။

## ရဟန်းဘဝ ဒုလ္လဘသို့

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၂၁-ခုနှစ် ဝါဆိုလဆန်း ၁၄-ရက်နေ့တွင် မုံရွာမြို့မင်္ဂလာဗောဓိကျောင်းတိုက် သာသနသောဘိနီ ခဏ္ဍသိမ်တော်၌ ဆားထုံးရွာ ကံပျားဆရာတော် အရှင်အာစာရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ဆောက်တည်တော်မူသည်။ ရဟန်းခံပြီး သိမ်အတွင်းမှာပင် မူလ ရှင်ပညာသားမိဘွဲ့မှ အရှင်ပညောဘာသဟူသောဘွဲ့ကို ဥပဇ္ဈာယ်ဆရာတော်က ပြောင်းလဲမှည့်ခေါ်တော်မူသည်။

## ဓဂ္ဂိဏ်ဘာရာမတိုက် ရောက်ရှိပညာသင်

ဆရာတော် အရှင်ပညောဘာသာဘိဝံသသည် မုံရွာမြို့ မြို့မရွှေကူတိုက်၊ ရန်ကုန်မြို့ ဗန္ဓိမာရုံတိုက်တို့၌လည်း ပညာဆည်းပူး လေ့လာတော်မူခဲ့သည်။ မန္တလေးမြို့ ဓဂ္ဂိဏ်ဘာရာမဝိဇ္ဇာလယတနကြီးသို့ ငယ်စဉ်ကပင် ရောက်ရှိ၍ ဓဂ္ဂိဏ်ဘာရာမဝိဇ္ဇာလယတနကြီး၏ မှန်ကူသဖွယ် ဖြစ်တော်မူကြသော စာချဆရာတော် အရှင်ဥက္ကံသာဘိဝံသ၊ အရှင်ခေမိယာဘိဝံသ၊ အရှင်နန္ဒဝံသာဘိဝံသတို့ထံတွင် ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့လေသည်။

## သကျသီဟ အစိုးရဓမ္မာစရိယ

ဆက်လက်၍ စာပေကျမ်းဂန် အရပ်ရပ်ကို ကြိုးပမ်းသင်ယူတော်မူပြီး စာမေးပွဲများကိုလည်း ဆက်လက်ဝင်ရောက် ဖြေဆိုရာ အစိုးရပဌမကြီးတန်း၊ သကျသီဟ စာသင်တန်း၊ စာချတန်း၊ အစိုးရစာချတန်းတို့ကို အောင်မြင်တော်မူခဲ့သဖြင့် "ဘဒ္ဒန္တပညောဘာသာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)၊ သာသနဇောတိကဓမ္မာစရိယ"ဘွဲ့တံဆိပ်တို့ကို အလှူခံရရှိတော်မူခဲ့လေသည်။

## အဘိဓာန်နှင့် ပါဠိပဒပိဋကတ်ကျမ်းညွှန်းကျမ်းပြု

ဆရာတော် အရှင်ပညောဘာသာဘိဝံသသည် အမရပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ ဦးဆောင်ပြုစုသည့် အ-ဝဂ်အဘိဓာန်နှင့် ပါဠိပဒ ပိဋကတ်ကျမ်းညွှန်းကျမ်းအဖွဲ့တွင် အဖွဲ့ဝင်တပါးအဖြစ် ဆောင်ရွက်ပြုစုတော်မူခဲ့လေသည်၊

ပညောဘာသော ထေရသေဋ္ဌော၊ ဒက္ခိဏာရာမဝါစကော။
ဝါစယိတွာ ဗဟဝေါ ဂန္ထေ၊ မဟောသိ သာသနဒ္ဓရေ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

## အရှင်ပဏ္ဍိတာဘိဝံသ

ဒက္ခိဏာရာမတိုက် ရတနာမဥ္ဇူကျောင်း စာချဆရာတော် အရှင်ပဏ္ဍိတာဘိဝံသသည်လည်း ဒက္ခိဏာရာမ သာသနာ့ဝန်ဆောင် ဆရာတော်တပါး ဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်းပြုခြင်း ပညာသင်ကြားခြင်း

ရွှေဘိုခရိုင် တန့်ဆည်မြို့နယ်ရွာသာယာရွာ၌ အဖ ဦးကျော်စော-အမိ ဒေါ်မိုးတို့မှ သက္ကရာဇ် ၁၃၀၀-ပြည့်နှစ်တန်ဆောင်မုန်းလဆုတ် ၄-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ ၁၃၁၀-ခုနှစ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ၁၃၁၉-ခုနှစ် တပေါင်းလဆန်း ၁၄-ရက်နေ့တွင် ဝင်းကန်ကျောင်းဆရာတော် အရှင်ဝိဇယကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ရွာသာယာ ဝင်းကန်ကျောင်း ဆရာတော် အရှင်ဝိဇယ၊ ကမ္ဘားယံတိုက်ဆရာတော် အရှင်သုမနာဘိဝံသ၊ အရှင်ဝိလာသတို့ထံတွင် ပိဋကတ်အခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့သည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

အသက်အရွယ်ငယ်စဉ်ကပင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ စာချ ကျောင်းတိုက်ကြီးသို့ ရောက်ရှိနေထိုင်တော်မူ၍ ပခန်းကျောင်းဆရာတော် အရှင်သုန္ဒရ၊ တမ္ဗဝတီကျောင်း ဆရာတော် အရှင်အရိယ၊ အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသ၊ နယားကျောင်းဆရာတော် အရှင်မေဓိယ-စသည် တို့ထံတွင် ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့သည်။

## သ-စ-အ ဓမ္မာစရိယဘွဲ့တံဆိပ် သုံးထပ်ရရှိ

အရှင်ပဏ္ဍိတာဘိဝံသသည် အလွန်လျှင် ဉာဏ်ထက်မြက်သူဖြစ်သည်။ အစိုးရ စာမေးပွဲ ငယ်၊ လတ်၊ ကြီးတို့ကို ၁၃၁၇-ခု ၁၃၁၈-ခု ၁၃၁၉-ခုနှစ်တို့တွင် ဆက်တိုက် ဖြေဆို အောင်မြင်တော်မူခဲ့သည် သာမက ၁၃၂၁-ခုနှစ်တွင် အစိုးရစာချတန်းကို ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇဓမ္မာစရိယ" ဘွဲ့တံဆိပ်ကိုလည်းကောင်း၊ ၁၃၂၅-ခုနှစ်တွင် သကျသီဟစာသင်တန်းကို ဖြေဆိုအောင်မြင်တော်မူပြီး ၁၃၂၇-ခုနှစ်တွင် အဋ္ဌကထာကြီးသုံးကျမ်းကို အပြီးတိုင် ဖြေဆိုအောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တပဏ္ဍိတာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကိုလည်း ကောင်း၊ တဖန် ၁၃၂၆-ခုနှစ်တွင် စေတိယင်္ဂဏစာသင်တန်းကို ဖြေဆိုအောင်မြင် တော်မူပြီး ၁၃၂၈-ခုနှစ်တွင် စေတိယင်္ဂဏစာချတန်းကို ဖြေဆိုအောင်မြင်တော် မူသဖြင့် "စေတိယင်္ဂဏ ပရိယတ္တိဓမ္မာစရိယ ဂဏဝါစက" ဘွဲ့တံဆိပ်တော်ကို လည်းကောင်း အလှူခံရရှိတော်မူသည်။

## အဘိခေန် ကျမ်းညွန်းကျမ်းပြု

ဆရာတော်အရှင်ပဏ္ဍိတာဘိဝံသသည် အမရပူရဆရာတော် အရှင်ဥက္ကံသာ ဘိဝံသ ဦးစီးပြုစုသည့် တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းပြု အဖွဲ့ဝင်တပါး ဖြစ်တော်မူခဲ့လေသည်။

ဘဒ္ဒန္တပဏ္ဍိတော ထေရော၊ ပဏ္ဍိတော ပဏ္ဍိတောသယော။

ပဏ္ဍိတေသော သုနိဿာယ၊ ပဏ္ဍိစ္စံ သော ဟိ မာဂမိ။

---

## ဒက္ခိဏာရာမဘုရားကြီးတိုက် စာချဆရာတော်

## အရှင်ကုသလာဘိဝံသ

ဒက္ခိဏာရာမတိုက် ဂုဏဝတီကျောင်း ဆရာတော် အရှင်ကုသလာဘိဝံသသည်လည်း ဒက္ခိဏာရာမကျောင်းတိုက်ကြီး၏ သာသနာ့ လုပ်သားကောင်း တပါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ဟင်္သာတခရိုင် အင်္ဂပူမြို့နယ် ကျွန်းကြီးရွာ၌ အဖ ဦးမောင်ရှိန်-အမိ ဒေါ်သွယ်တို့မှ သက္ကရာဇ် ၁၃၀၁-ခုနှစ် နယုန်လဆုတ် ၁၁-ရက် တနင်္လာနေ့တွင် ဖွားမြင်တော်မူသည်။ ၁၃၀၇-ခုနှစ်တွင် ကျောင်းနေ၍ ပညာသင်ကြားတော်မူခဲ့သည်။ ၁၃၁၅-ခုနှစ် ကဆုန်လပြည့်နေ့တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်သော ၁၃၂၀-ပြည့်နှစ် နှုတ်တော်လပြည့်နေ့တွင် ဟင်္သာတမြို့ ရွှေကျောင်းတိုက် ခဏ္ဍသိမ်တော်တွင် ကျွန်းကြီး ဆရာတော် အရှင်ပဒုမကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိခြင်း

အင်္ဂပူမြို့နယ် ကျွန်းကြီးကျောင်း ဆရာတော် အရှင်ပဒုမထံတွင် ပညာသင်ကြားခဲ့သည်။ ဟင်္သာတမြို့ ရေကြည်တိုက်သစ်၊ ပိုးစားတောတိုက်၊ ပန္နက္ကျူမြို့ မဟာဝိသုတာရာမတိုက်တို့၌လည်း ပညာသင်ကြားတော်မူခဲ့သည်။ မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့ အရွယ်ကောင်းစဉ်က စ၍ ရောက်ရှိ၍ ဒက္ခိဏာရာမ ထိပ်တန်းပညာရှင်များ ဖြစ်တော်မူကြသော အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ၊ နယားကျောင်း ဆရာတော် အရှင်မေဓိယာဘိဝံသ၊ တာရာမင်းကျောင်း ဆရာတော် အရှင်ပညာဇောတာဘိဝံသ၊ မြောက်ဂရကျောင်း ဆရာတော် အရှင်နန္ဒဝံသာဘိဝံသတို့ထံတွင် စာပေ ကျမ်းတတ် သဒ္ဒါဏာ စုံလင်အောင် သင်ယူတော်မူခဲ့လေသည်။

### ပရိယတ္တိသာသနဟိတဓမ္မာစရိယ (မူလစာချ)

ငယ်,လတ်,ကြီး စာမေးပွဲများ ဖြေဆို အောင်မြင်တော် မူခဲ့သည့်ပြင် အစိုးရ စာချတန်း စာမေးပွဲကိုလည်း ဖြေဆိုအောင်မြင်တော်မူသဖြင့် အစိုးရ

ခမ္မာစရိယ ဘွဲ့တံဆိပ်နှင့် ၁၃၃၅-ခုနှစ် နယုန်လမှစ၍ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ အသင်းကြီး၏ မူလဓမ္မာစရိယ အဖြစ် ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။

## အဘိဓာန်နှင့် ပါဠိပဒကျမ်းညွှန်းကျမ်းပြု

အမရပူရဆရာတော် အရှင်ဉက္ကံသာဘိဝံသ ဦးစီးရေးသားပြုစု စီခင်သည့် အ-ဝဂ် တိပိဋကပါဠိ မြန်မာအဘိဓာန်အဖွဲ့နှင့် ပါဠိပဒ ပိဋကတ်ကျမ်းညွှန်း အဖွဲ့တွင် ပါဝင် ရေးသားပြုစုခွင့်ရရှိခဲ့ရာ တိပိဋက ပါဠိ မြန်မာအဘိဓာန် ကျမ်းပြုနှင့် ပါဠိပဒကျမ်းညွှန်းကျမ်းပြု ပုဂ္ဂိုလ်လည်း ဖြစ်တော်မူသည်။

ဘဒ္ဒန္တကုသလော ထေရော၊ ကုသလော ဂန္ထေသု ဝိဒူ၊
ဝိဒူတ္တံ သော ဟိ ပတ္တာန၊ ကိစ္စကာရီ ဝိသာရဒေါ။

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်သဒ္ဓမ္မာနန္ဒ

အရှင်သဒ္ဓမ္မာနန္ဒသည် ဒက္ခိဏာရာမတိုက် ပုသိမ်ကျောင်း၌ သီတင်းသုံး၍ စာပေကျမ်းဂန်များ ချပို့၍ ပရိယတ္တိသာသနာတော်ကို ချီးမြှောက်တော်မူသည့် ပုဂ္ဂိုလ်မြတ်တပါး ဖြစ်ပါသည်။

### ဖွားမြင် ရှင် ရဟန်းပြု

မကွေးမြို့နယ် အင်းနက်ရွာ၌ အဖ ဦးစိန်ထွန်း-အမိ ဒေါ်ပုတို့မှ သက္ကရာဇ် ၁၃၀၉-ခုနှစ် နယုန်လဆုတ် ၃-ရက် သောကြာနေ့ နံနက် ၇-နာရီအချိန်တွင် ဖွားမြင်တော်မူသည်။ သက်တော် ၁၁-နှစ်သား အရွယ်တွင် ရှင်သာမဏေ ဝတ်၍ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၂၈-ခုနှစ်တွင် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဟံသာဝတီ ဆရာတော်အရှင်ဥက္ကဋ္ဌာသဘကို ဥပဇ္ဈာယ် ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော် အရှင်သဒ္ဓမ္မာလင်္ကာရ ဖြစ်သည်။

## ပညာသင်ကြားခြင်း

ငယ်စဉ်ကာပင် ပိဋကတ် အခြေခံကျမ်းစာများကို သင်ယူတော်မူ၍ ၁၃၂၂ ခုနှစ်တွင် မန္တလေးမြို့ ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးအတွင်းရှိ ပုသိမ်ကျောင်းသို့ ရောက်ရှိ၍ ပိဋကတ် အခြေခံကျမ်းဂန်များနှင့် ပါဠိ အဋ္ဌကထာကျမ်းဂန်ကြီးများကို သင်ယူတော်မူခဲ့သည်။

## စာမေးပွဲများ အောင်၊ စာချ အဘိဓာန်အဖွဲ့တွင် ပါဝင်

စာမေးပွဲများကိုလည်း ဝင်ရောက် ဖြေဆိုရာ အစိုးရစာမေးပွဲ ပဌမငယ်၊ ပဌမလတ်၊ ပဌမကြီးတန်းတို့ကို ဖြေဆို အောင်မြင်တော်မူခဲ့သည့်ပြင် ၁၃၃၃ ခုနှစ်တွင် အစိုးရစာချတန်း စာမေးပွဲကို ဖြေဆိုအောင်မြင်သဖြင့် အစိုးရဓမ္မာစရိယဘွဲ့ကို ရရှိတော်မူခဲ့သည်။ အစိုးရဓမ္မာစရိယဖြစ်ပြီးနောက် စာပေချပို့ကာ သာသနာတော် အကျိုးကို သည်ပိုး ထမ်းဆောင်လျက် ရှိသည့်ပြင် အမရပူရ ဆရာတော် အရှင်ဥက္ကံသာဘိဝံသ ဦးဆောင်သည့် ပါဠိပဒ ပိဋကတ်ကျမ်းညွှန်းနှင့် တိပိဋက ပါဠိ မြန်မာ အဘိဓာန်အဖွဲ့တွင် ပါဝင်၍ ကျမ်းညွှန်းနှင့် အဘိဓာန်တို့ကိုကူညီ ပြုစု ရေးသား၍လည်း သာသနာရေး ကိစ္စကိုဆောင်ရွက်တော်မူသည်။

သဒ္ဓမ္မာနန္ဒတ္တေရော ဟိ၊ သဒ္ဓမ္မေ အာနန္ဒော သုဓိ။
သဒ္ဓမ္မဝိရုဠ္ဟတ္ထာယ၊ ဗျာဝဋော ကိစ္စကာရကော။

တတိယပိုင်းပြီး၏။

---

# စတုတ္ထပိုင်း

## ဒက္ခိဏာရာမအနွယ် မိုးနံကုန်းဆရာတော်

## အရှင်ဇယန္တ

မိုးနံကုန်းဆရာတော်ဟု ကျော်စောကိတ္တိရှိလှသော ဝိနည်းအကျော် ဆရာတော် အရှင်ဇယန္တသည်လည်း ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားတတ်မြောက် စာပေချပို့တော်မူခဲ့သည့် ဒက္ခိဏာရာမအနွယ် မထေရ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင်ရဟန်း ပြုတော်မူခြင်း

ရမည်းသင်းမြို့နယ် ရွှေဒါးဘူတာအနီး ပေကုန်းရွာအရှေ့ဘက်တွင် ရှိခဲ့ဘူးသော ညောင်ပင်သာခေါ် ရွာပိုးရွာကလေး၌ အဖဦးအင်းနှင့် အမိဒေါ်ဘုံကြီး(ဒေါ်အေး)တို့မှ သက္ကရာဇ် ၁၂၀၉-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ကျောင်းသားအရွယ်တွင် ပေကုန်းရွာဝန်းကျောင်းတိုက် ဆရာတော် အရှင်ဉာဏထံတွင် ရောက်ရှိပညာသင်ကြားတော်မူခဲ့သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်။ ဘွဲ့တော် အရှင်ဇယန္တ ဖြစ်လေသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

အရှင်ဇယန္တသည် သာမဏေဘ၀ ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိသီတင်းသုံး၍ "ဇာဂရာဘိဓဇသိရိဗ၀ရမဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသည့် ဘွဲ့တံဆိပ်တော် သုံးထပ်ရ ဒက္ခိဏာရာမတိုက် ပဉ္စမဆရာတော်ဘုရားကြီး အရှင်

ဇာဂရမဟာထေရ်၊ "ပဏ္ဏတ္တိသီရိပဝရမဟာဓမ္မရာဇာဓိ ရာဇဂုရု" စသည့် ဘွဲ့တံဆိပ်တော် နှစ်ထပ်ရ ဒုတိယမြောက် ဒက္ခိဏာရာမတိုက် ဆရာတော်ဘုရားကြီး အရှင်ပဏ္ဍိတနှင့် စာချဆရာတော် အရှင်သုဇာဗုဒ္ဓိတို့ထံတွင် ဂန္ထန္တရအဝဝကို သင်ယူတတ်မြောက်တော်မူခဲ့လေသည်၊ ဆရာတော် အရှင်ဇယန္တသည် မန္တလေးမြို့ အရှေ့ပြင် မဟာဓမ္မိကာရာမ စလင်းတိုက်၌လည်း သီတင်းသုံးတော်မူဘူးသည်ဟု သိရ၏။

## ဆယ်ဝါရ ပဋ္ဌမစာချဖြစ်

ရဟန်းသိက္ခာ ၁၀-ဝါအရတွင် ပဋ္ဌမစာချဖြစ်၍ ဒက္ခိဏာရာမတိုက်၌ စာလိုက်သံဃာ များစွာတို့အား ဂန္ထန္တရအဝဝကို ချပို့၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သီပေါမင်းလက်ထက်တွင် ယော်ဆရာရင်း အရှင်ဉာဏထံ ပြန်လည်၍ တဝါဆို သီတင်းသုံးတော်မူသည်။ ၎င်းနောက် ပိတောက်ကုန်းရွာ၌ခေတ္တ သီတင်းသုံးတော်မူပြီး မိုးနံကုန်းရွာသို့ ပြောင်းရွှေ့သီတင်းသုံးလျက် စာသင်တိုက်တည်ထောင် စာပေချပို့ သာသနာပြု၍ "မိုးနံကုန်းဆရာတော်"ဟု လွန်စွာကျော်စောသည်။

## ကျမ်းဂန်များ ပြုစုတော်မူခြင်း

ဆရာတော်သည်—

"တိပိဋကပကိဏ္ဏကဒီပနီကျမ်း" စသည့် ကျမ်းဂန်များကိုလည်း ပြုစုစီရင်တော်မူခဲ့လေသည်။ ယင်း တိပိဋကပကိဏ္ဏကဒီပနီကျမ်းကြီးမှာ—

၁။ သံဃိက ကဏ္ဍ၊
၂။ ကထိန ကဏ္ဍ၊
၃။ စီဝရ ကဏ္ဍ၊
၄။ သီမ ကဏ္ဍ၊
၅။ ပဗ္ဗဇ္ဇ ကဏ္ဍ၊
၆။ ကမ္မ ကဏ္ဍ၊
၇။ သေနာသန ကဏ္ဍ၊
၈။ ခုဒ္ဒကဝတ္ထု ကဏ္ဍ၊
၉။ ပကိဏ္ဏက ကဏ္ဍ၊

ဟူသော ကိုးကဏ္ဍ ကိုးပိုင်းတို့ဖြင့် တန်ဆာဆင်၍ စီရင်ဆုံးဖြတ်တော်မူခဲ့သည်။ အဆုံးအဖြတ်ပေါင်း တရာကျော်ခန့်ပါရှိရာ ဝိနည်းမိုရ်ပုဂ္ဂိုလ်များ လက်ကိုင်ပြု လက်စွဲပြုရမည့် "ဟတ္ထပေါတ္ထက ဟတ္ထဂန္ထ ဟတ္ထပကရဏ" ကျမ်းကြီး ဖြစ်လေသည်။

ဆရာတော်သည် ကျမ်းဦး၌—

၁။ မေဓေဟိ မေဓ္မေဟိ သုပုဏ္ဏေ ဗုဒ္ဓံ၊
ဓမ္မဥ္စ သံဃဥ္စ ဂုဏေဟိ ဥတ္တံ။
သိက္ခာပကံ အာစရိယဥ္စ နန္တံ၊
ဝန္ဒိယ ကာယေန ဝစီမနေန။

အစရှိသော ရှစ်ဂါထာပါဌ်ဖြင့် နိဿယဖြင့် ရတနတ္တယ ပဏာမ၊ အာဘိယာစဏ၊ ပဋိညာဉ် စသည်တို့ကို ပြုတော်မူခဲ့လေသည်။

ကျမ်း၏အဆုံး၌လည်း—

၁။ သာသနဿ ဝေပုလ္လာယ၊ ဝိနယံဝ ပဓာနတော။
ဇောတယိတွာန ဂုဋ္ဌတ္ထေ၊ ဒီပယန္တိ တဟိံ တဟိံ။
နိဋ္ဌိတော၀ အယံဂန္ထော၊ သက္ကရာဇေ ဂဆက္ခကေ။

၂။ ယထာ သိဇ္ဈတိ မမေသော၊ ဂုဋ္ဌတ္ထာန ဝိနိစ္ဆယော။
တထာ သိဇ္ဈန္တု သတ္တာနံ၊ သဗ္ဗသော သိဝနိဿိတာ။

၃။ သဒ္ဓမ္မဋ္ဌိတိကာမေန၊ ကရောန္တေန မယာ ကမ္မံ။
ယံ လဒ္ဓံ ကုသလံ သေဋ္ဌံ၊ အပရဉ္စ သာမာစိတံ။

၄။ တဿ ပုညဿာနုဘာဝေန၊ ကလျာဏမ္မေ နိဿိတာ။
အစိရံ သဗ္ဗသတ္တာနံ၊ နိဋ္ဌံ ယန္တု မနောရထာ။

၅။ ရာဇာနောစာပိ ရက္ခန္တု၊ ဓမ္မေန သာသနံ ဗဇံ။
သဗ္ဗတ္ထာပိ ဝဿဆာလေ၊ သမ္မာ ဒေဝေါ ပဝဿတု။

ဟူသော ငါးဂါထာပါဌ် နိဿယဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။

ယင်း တိပိဋကပကိဏ္ဏကဒီပနီကျမ်းကြီး ပြီးချိန်မှာ သက္ကရာဇ် ၁၂၇၃-ခုနှစ် က ဖြစ်လေသည်။ ယင်းကျမ်းကြီးကို "မိုးနံကုန်း အဆုံးအဖြတ်ကျမ်း" ဟုသည်း ခေါ်သည်။

ယင်းကျမ်းကြီးကို မန္တလေးမြို့ အထက်မြန်မာနိုင်ငံ မီးစက်ပုံနှိပ်တိုက်၌ ၁၂၇၃-ခုနှစ် တပို့တွဲလတွင် ပဌမအကြိမ် ရိုက်နှိပ်ခဲ့၍ တဖန် ၁၂၈၈-ခုနှစ် ဒုတိယဝါဆိုလတွင် ရန်ကုန်မြို့ ပြည်ကြီးမဏ္ဍိုင် ပုံနှိပ်တိုက်၌ ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် စာမျက်နှာ ၆၃၄-မျက်နှာရှိလေသည်။

ယင်းကျမ်းကြီး၏ အတွင်းမျက်နှာဖုံး၌—

"ပိဋကတ္တယ ကောဝိဒ လဇ္ဇီပေသလ သိက္ခာကာမ ဝိနယဓရ ဂဏပါမောက္ခ သာသနကာရာဝဟ စသည်လုံးလောက် မှန်သောက်မာတင် အာဇာနည်ဝင်ဖြစ်တော်မူသည့် မိုးနံကုန်း ဆရာတော်ဘုရားကြီးသည် အသီးသီးသော အမေးပုစ္ဆာ ပြဿနာတို့ကို ကောင်းစွာဖြေထွင် စီရင်ဆုံးဖြတ် ရေးသားစီရင် တော်မူအပ်သော မိုးနံကုန်းအဆုံးအဖြတ် တိပိဋက ပကိဏ္ဏက ဒီပနီကျမ်း" ဟု ပါရှိသေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်ဘုရားကြီး အရှင်ဇယန္တသည် ညောင်လွန့်တောရသို့ ရောက်ရှိပြီး ငါ့ဝါပြည့်မြောက်၍ သက်တော် ၆၅-နှစ်ရှိရာ သက္ကရာဇ် ၁၂၇၄-ခုနှစ် တပေါင်းလဆန်း ၈-ရက်နေ့တွင် ဝမ်းသွန်ရောဂါဖြင့် ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဇာတိယာ နုဂတော သောကော၊ ဇရာယစ အနုသဋ္ဌော။
ဗျာဓိနာပိ အဘိဘူတော၊ မရဏေန အဗ္ဘာဟတော။

လောကော၊ သတ္တ လောကကို။ ဝါ၊ သတ္တဝါ အပေါင်းကို။
ဇာတိယာ၊စွဲသာ သန္ဓေ တည်နေမှုသည်။ အနုဂတော၊ အစဉ်တစိုက် လိုက်အပ်၏။ ဇရာယစ၊ သွားကြိုး ဆံဖြူ ငယ်မှုယိုယွင်း အိုးမင်းရင့်

ရော် မှည့်ပျော်မှုဇရာသည်လည်း။ အနုသဋ္ဌော၊ အဖန်ဖန် အထပ်ထပ် ရစ်ပတ်အပ်၏။ ဗျားခိနာပါ၊ မကျန်းမမာ ဖျားနာခြင်း သည်လည်း။ အဘိဘူတော၊ လွှမ်းမိုးနှိပ်စက် အပ်၏။ မရဏေန၊ စုတိပြတ်ကြွေ သေလွန်ခြင်း မရဏ သဘောသည်လည်း။ အဗ္ဘာဟတော၊ လွန်စွာ ထိခိုက်အပ်၏။

---

## ဒက္ခိဏာရာမအနွယ် ညောင်လွန့်တောရဆရာတော်

## အရှင်မေဓာဝီ

ညောင်လွန့်တောရ ဆရာတော်ဘုရားကြီး အရှင်မေဓာဝီသည် ပရိယတ် အရာ၌လည်း လွန်စွာ ကျော်စောတော်မူသည်။ ပဋိပတ်အရာ၌လည်း လွန်စွာ ကျော်စောတော်မူသည်သာမက "ရဟန္တာ" ဟုပင် သမုတ်ခံရသည့်ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူ၏။ ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ ပညာသင်ကြားတော် မူခဲ့ရာ ဒက္ခိဏာရာမ သာသနာ၀င်တွင် အကျဉ်းချုပ် မှတ်တမ်းတင်အပ်ပါသည်။

### ဖွားမြင် ရှင်ရဟန်းပြုခြင်း

မိတ္ထီလာမြို့အနောက်ဘက် ကန်ထက်အိုင့်ရွာ၌ အဖ ဦးမှုတ်-အမိဒေါ်ဂုဏ် တို့မှ သက္ကရာဇ် ၁၂၂၉-ခုနှစ် တပေါင်းလဆုတ် ၁၂-ရက် ကြာသပတေး နေ့ ညဥ့်တချက်တီးကျော် အချိန်တွင် ဖွားမြင်တော်မူသည်။ ခုနစ်သားအရွယ် တွင် ကန်ထက်အိုင့်ရွာကျောင်း ဆရာတော် အရှင်ကေသရ ထံတွင် ပညာသင် ကြားတော်မူခဲ့သည်။ ၁၂-နှစ်သားအရွယ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ ၀န် ထမ်းဆောင်တော်မူသည်၊ ဘွဲ့တော် ရှင်မေဓာဝီဖြစ်သည်။ သက်တော် ၂၀-တွင် ရဟန်းပြု၍ ပရိယတ် ပဋိပတ် နှစ်ရပ်လုံး အားသွန်ကြိုးကုတ်တော် မူခဲ့လေသည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခြင်း

ဆရာတော်သည် ရဟန်းသိက္ခာ သုံး၀ါအရ မန္တလေးမြို့ ဒက္ခိဏာရာမ တိုက်သို့ရောက်ရှိခဲ့ရာ နှစ်၀ါသီတင်းသုံးပြီး ဂန္ထဓုရအာ၀ကို သင်ယူတော်မူခဲ့

သည်။ ၎င်းနောက် "တိပိဋကပကိဏ္ဏကဒီပနီ"ကျမ်းပြု မိုးနံကုန်း ဆရာတော် ဘုရားကြီး အရှင်ဇာယန္တအထံ၌ တိပိဋကကျမ်းဂန်ကို မဟာသာဟ ဇွဲလုံလဖြင့် အနှစ် ၂၀-တိုင်တိုင် သင်ယူတော်မူခဲ့လေသည်။ ဝါတော် ၂၀-အရတွင် ရှမ်းရွာ အနောက်ဘက် မင်းလိုဘောင်သို့ ဘေထွက်တော်မူသည်၊ ထို့နောက် ညောင်လွန့်တောရသို့ ဘေထွက်၍ ဝိပဿနာဓုရကို ကြိုးပမ်း အားသစ်တော်မူရာ "ရဟန်းကိစ္စ" ပြီးသည်ဟု ယုံကြည်ကြသည်။ ဆရာတော် ဘုရားကြီး အရှင်ခေမာဝီသည် ကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင် တော်မူခဲ့လေသည်။

၎င်းတို့မှာ—

၁။ သမထဝိပဿနာနယ သင်္ခေပကျမ်း၊
၂။ ဂဏာစာရိက ပဋိပတ္တိကျမ်း၊
၃။ နိဗ္ဗာနတ္ထပကာသနီကျမ်း၊
၄။ ဝိနယာဂဏ္ဌိဒ္ဒေသန ဝိနိစ္ဆယကျမ်း၊
၅။ တိပိဋက ပကိဏ္ဏကဒီပနီကျမ်း ပဌမတွဲ၊
၆။ တိပိဋက ပကိဏ္ဏက ဒီပနီကျမ်း ဒုတိယတွဲ၊
၇။ တိပိဋက ပကိဏ္ဏက ဒီပနီကျမ်း တတိယတွဲ၊
၈။ ဂမ္ဘီရတ္ထဝဏ္ဏနာကျမ်း၊
၉။ သမ္ဗုဒ္ဓဝိဘာဝနီကျမ်း၊
၁၀။ ဒုသီလဝဇ္ဇပကာသနီကျမ်း၊

-စသည်တို့ဖြစ်ကုန်၏။

## ပကိဏ္ဏကဒီပနီကျမ်းကြီး

ပကိဏ္ဏက ဒီပနီကျမ်းမှာ သုံးတွဲရှိရာ လွန်စွာ ပြည့်စုံ ဆန်းကြယ်ကောင်းမွန်လှပေသည်၊ စင်စစ်တမူကား တိပိဋကသာရ မြန်မာအဌကထာကြီး ဟုပင် ခေါ်ထိုက်ပေ၏။ ဆရာတော်သည် ယင်း ပကိဏ္ဏက ဒီပနီကျမ်း သုံးကျမ်း အနက် ဒုတိယတွဲကို—

၁။ နာနာဝိဓံ မေဓိရသံ ကထေန္တံ၊
သဗ္ဗညုဗုဒ္ဓံ သုဂတ္တာမမ္ဘိ။
သဓမ္မဟိ မေတ္တာဒိဂုဏာဟိ ပုဏ္ဏံ၊
သံသံ နမိတွာ မမ အာစရိယံ။

၂။ ဗုဒ္ဓေန ဝုတ္တေ ပိဋကေစ သမ္မာ၊
ဋီကာဟိ နာနာဋ္ဌကထေသု မေဒေ။
အတ္ထေစ အညာဏပဒေဟိ ဘူတံ၊
ပုဋ္ဌာ ဒုတိယေန ထိရေန သဗ္ဗံ။

၃။ အတ္ထာ ပရေသံ ဟိတာ ဝုဍ္ဎနတ္ထံ၊
ကာရုညစိတ္တေန ဝိနိစ္ဆိတာဝ။
ဧဝံ ကထေသုပိ သုမဇ္ဈုသာယံ၊
စိရံ ဋ္ဌိတတ္တာဝ န ဇာနိတတ္တော။

၄။ ဝေဟာယသေ အဗ္ဘသုဆန္ဒစန္ဒံ၊
ပုဏ္ဏေပိ ဩလောကိတုကာမဇနေဝ။
ဧဝံ နသဂ္ဂါတိ ဝိနိစ္ဆယေစ၊
တသ္မာ ဟိ ထေရေဟိ သမ္မာဝ ကာတုံ။

၅။ ပုဏ္ဏံ သုကဏ္ဍေန သဟောဝ အတ္ထံ၊
အဇ္ဈေသိတတ္တာဝ အဟံစ အတ္ထံ။
တဏ္ဍံ ကရိတွာဝ လိခါမိ သမ္မာ၊
အဗ္ဘာ သုမုတ္တောဝ မရိစိ စန္ဒော။

၆။ ဧဝံ လိခိတ္တောစ အဂစ္ဆိ သုဒ္ဓိံ၊
ထေရာစ ဉာဏေန ဝိနိစ္ဆိတတ္ထံ။
သမ္မာဝ ပဿိယ ခဏေန ကမ္မံ၊
ကာရေန္တု ကတွာန သုခံ ဝသန္တု။

၇။ ဧဝံ အနာကုလဝိဟာရမဇ္ဈေ၊
သာတံ ဝသိတွာန စ ဍုစ္ဆိတေသု။
ဓမ္မေသု သမ္မာဝ ပရက္ကမန္တံ၊
ကတွာန နိဗ္ဗာနသုခံ လဘန္တု။

(၁) အဟံ ညောင်လွန့်တောရ ဆ●ရာတော်ဘုရား ထံတော်ပါး၌ ဝယ်ဝတ် တွားရိုသေ မှီခိုနေ၍ ဓုရဂန္ထ မြတ်မွေကို လုံ့လမယုတ် ကြိုးအားထုတ် သော အကျွန်ုပ်သည်။ နာနာဝိဓ၊ ထူးထွေဆန်းပြား လွန်ပင်များသော။ မွေရသံ၊ တရားမွေ မြတ်ရသကို။ ကထေန္တံ၊ ထင်ရှားပိုင်ပိုင် ဟောစွမ်း

တော်မူနိုင်သော။ သဗ္ဗညုတဉာဏ္ဍ၊ လုံးစုံများလှ မြတ်ဓမ္မကို အလွှေ့အားလျော် သိတော်မူသော မြတ်စွာဘုရားကိုလည်းကောင်း။ သုဓမ္မတ္တ မမ္မ၍၊ တရားမင်းစစ် မမ္မရာဇ်သည် ကောင်းစွာဟောအပ် မဂ်လေးရပ်နှင့် ဖလနိဗ္ဗာန် ပရိယတ်ဓမ္မကွန်ဟု ဆယ်တန်ပိုင်းခြား မြတ်တရားကိုလည်းကောင်း။ သဗ္ဗေဟိ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံကုန်သော။ မေတ္တာဒိဂုဏေဟိ၊ မေတ္တာအစရှိသော ဂုဏ်အဆိတို့နှင့်။ ပုဏ္ဏံ၊ ဥဿုံမကြွင်း ပြည့်စုံခြင်းရှိတော်မူသော။ သံဃဉ္စ၊ ရှစ်တန်အရိယာ မြတ်သံဃာကိုလည်းကောင်း။ မေတ္တာဒိဂုဏေဟိ၊ မေတ္တာစသည် ဂုဏ်အဆိတို့နှင့်။ ပုဏ္ဏံ၊ ဥဿုံမကြွင်း ပြည့်စုံခြင်းရှိတော်မူသော။ မမ၊ အကျွန်ုပ်၏။ အာစရိယဉ္စ၊ တပည့်သားထိုထို များပုဂ္ဂိုလ်တို့အား ကျေးဇူးလွန်များ ညောင်လွန့်တောရ ဆရာတော်ဘုရားကြီးကိုလည်းကောင်း။ နမိတွာ-နမာမိ၊ ကာယဝစီ မနောချီ၍ သုံးလီဒွါရ ပဏာမဖြင့် ကြည်ညွတ်သဒ္ဓါ ရှိခိုးပါ၏။ နမိတွာ၊ ကာယဝစီ မနောချီ၍ သုံးလီဒွါရ ပဏာမဖြင့် ကြည်ညွတ်နူး ရှိခိုးဦး၍။

(၂) ဗုဒ္ဓေန၊ သစ္စာလေးပါး မြတ်တရားကို ထင်ရှားပိုင်ပိုင် ကိုယ်တော်တိုင်သိ မြတ်မုနိသည်။ သမ္မာ၊ ကောင်းစွာ။ ဝုတ္တေ၊ ကြည်ရှင်သတော မြတ်မနေ့ဖြင့် ဟောတော်မူအပ်သော။ ပိဋကေစ၊ သုံးပုံခေါ်လတ် ပါဠိတော် ပိဋကတ်၌လည်းကောင်း။ ဋီကာဟိ၊ အနုမဓု စသည်ခေါ်ဆို ဋီကာ ထိုထိုတို့နှင့်။ သဒ္ဓိံ၊ တကွ။ နာနာဋ္ဌကထေသုစ၊ များစွာသောင်းသောင်း အဋ္ဌကထာ အပေါင်းတို့၌လည်းကောင်း။ အာဂတေ၊ မုချမသွေ စင်စစ်လာပေကုန်သော။ မေဒေ၊ အဆိအနှစ်ဖြစ်၍ ဖြစ်ကုန်ထသော။ အတ္ထေစ၊ ငုပ်ကျဉ်း မိပ္ပာယ် အတ္ထအသွယ်သွယ် တို့ကိုလည်းကောင်း။ ဘူတံ၊ ဟုတ်တိုင်းမှန်စွာ။ အညာဏပရေဟိ၊ တိတိပိုင်ပိုင် မသိနိုင်ကုန်သော ထိုထို ဒေသရပ်ဌာန၌ နေကြမယွင်း သပ္ပုရိသခပင်း ဖြစ်ကုန်သော တပါးသူတို့သည်။ ပုဋ္ဌာ၊ လိုရာရွေးကောက် မေးလျှောက်အပ်ကုန်သည်ဖြစ်၍။ ဝ ါ၊ လိုရာရွေးကောက် မေးလျှောက်အပ်ကုန်သော။ ဒုတိယေန ထိရေန၊ ဒုတိယထေရ်ကျော် င ါတို့၏ ကျေးဇူးရှင် ဆရာတော်သည်။ သုန္ဒြ၊ ကောင်းမွန်စွာ။

(၃) အတ္ထာ၊ မေးလျှောက်အတ္ထ မိပ္ပါယတို့ကို။ ပရေသံ၊ ကျကျနန သဘာဝကို ဌာနပိုင်ပိုင် မသိနိုင်ကုန်သော သပ္ပုရိသ ထိုထို တပါးသော ပုဂ္ဂိုလ်တို့၏။ ဟိတာဝဍ္ဎနတ္ထံ၊ လောကီ လောကုတ် စည်ပွားထုတ်၍ မယုတ်တိုးပွား အကျိုးများစေခြင်းငှာ။ ကာရုညစ်ဝေတ္တန၊

ကြင်နာသနား စိတ်ဓာတ်အားဖြင့်။ ဝိနိစ္ဆိတာဝ၊ ဝရဇိန်ညာဏ် ကြီးအားသန်၍ အမှန်တကျတတ် ဆုံးဖြတ်အပ်ပြီးသည်သာတည်း။ ဧဝံ၊ ဤသို့။ ဝိနိစ္ဆယေသု၊ ဝိနိစ္ဆယတို့ကို။ ကတေသုပိ၊ ရေးသား ပြုပြင်စီရင်အပ်ကုန်ပြီး ငြားသော်လည်း။ သုမဥ္ဇူသာယံ၊ ကောင်းစွာသန့်ရှင်း သေတ္တာတွင်း၌။ စိရံ၊ ကြာမြင့်ရှည်လျားစွာ။ ဌိတတ္တာဝ၊ တည်နေသည်၏ အဖြစ်ကြောင့်သာလျှင်။ ဝိနိစ္ဆယေ၊ ပျားသကာပမာ ချိုမြိန်စွာသော ဝိနိစ္ဆယတို့ကို။ ပရေဟိ၊ တပါးသော ပုဂ္ဂိုလ်တို့သည်။ အပဿိတွာ၊ မကြည့်ရှုရမူ၍။ အတ္ထော၊ ပျားသကာပမာ ချိုမြိန်စွာသော ဝိနိစ္ဆယတို့၏ အနက်အဓိပ္ပာယ်ကို။ နဇာနိတော၊ မသိအပ်။

(၄) ဝေဟာယသေ၊ ရေးမြစ်မထင် ကောင်းကင်ပြင်၌။ ဌိတံ၊ စင်စစ်မသွေ တည်နေပေသော။ အဗ္ဘသုဆန္နစန္ဒံ၊ တိမ်တိုက်ပြည့်နှက် ဖုံးကာယှက်၍နေသော လမင်းကြီးကို။ ဩလောကိတုကာမ ဇနော၊ မယွင်းမှန်စွာ ကြည့်ရှုခြင်းငှာ အလိုရှိသော ပုဂ္ဂိုလ်သည်။ စန္ဒေ၊ လမင်းကြီးသည်။ ပုဏ္ဏေပိ၊ ပကတိရောင်ဆင်း ပြည့်စုံခြင်း ရှိငြားသော်လည်း။ အဗ္ဘသုဆန္နတ္တာ၊ တိမ်တိုက်ပြည့်နှက် ဖုံးကာယှက်၍ နေသည်၏အဖြစ်ကြောင့်။ ဒဿေတုံ၊ မြင်ခြင်းငှာ။ နသက္ကောတိယထာ၊ မစွမ်းနိုင်သကဲ့သို့။ ဧဝံတထာ၊ ထိုအတူ။ မဥ္ဇူသာယံ၊ ကောင်းစွာသန့်ရှင်း သေတ္တာတွင်း၌။ ဌိတေ၊ စင်စစ်မသွေ တည်နေကုန်သော။ ဝိနိစ္ဆယေစ၊ ငါတို့၏ ကျေးဇူးရှင် ဆရာတော်ဘုရား ကရုဏာပွား၍ ရေးသားတော်မူအပ်ကုန်သော ဝိနိစ္ဆယတို့ကိုလည်း။ ဩလောကိတုကာမ ဇနော၊ မယွင်းမှန်စွာ ကြည့်ရှုခြင်းငှာ အလိုရှိသော ပုဂ္ဂိုလ်သည်။ အတ္ထေသု၊ အဓိပ္ပာယ်ဟူသမျှတို့သည်။ သုန္ဒေသုပိ၊ ကောင်းကုန်ငြားသော်သည်း။ မဥ္ဇူသာယ၊ သေတ္တာ၏။ တမဆန္နတ္တာ၊ မိုက်မှောင်ပြည့်နှက် ဖုံးကာယှက်၍ နေသည်၏အတွက်ကြောင့်။ ပဿိတုံ၊ ပြည့်ရှုခြင်းမှာ။ နသက္ကောတိ၊ မစွမ်းနိုင်။ တသ္မာဟိ၊ ထို့ကြောင့်သာလျှင်။ ထေရေဟိ၊ မဟာထေရ မဇ္ဈိမနှင့် နဝခေါ်တွင် ထေရ်အရှင်တို့သည်။

(၅) ဝိနိစ္ဆယေ၊ ပျားသကာပမာ ချိုမြိန်စွာသော ဝိနိစ္ဆယတို့ကို။ မဥ္ဇူသာယ၊ ကောင်းစွာသန့်ရှင်း သေတ္တာတွင်းမှ။ ဥဒ္ဓရိတွာ၊ ထုတ်ငင်ယူဆောင်၍။ သုကဏ္ဍေန၊ ဥပသမ္ပဒကဏ္ဍ စသား ကောင်းသော ကဏ္ဍများနှင့်။ သဟေဝ၊ တကွသာလျှင်။ အတ္ထံ၊ ပါဠိအဋ္ဌကထာ ဋီကာ စသား ဆောင်ပုဒ်များ၏ မြန်မာအတ္ထများကို။ ပုဏ္ဏံ၊ ပြည့်စုံအောင်။ သမ္မာဝ၊ ကောင်းစွာသာလျှင်။ ကာတုံ၊ ရေးသားပြုစီရင်ခြင်းငှာ။

အဟံ၊ ဂန္ထဓုရ မြတ်ဓမ္မကို လုံ့လမယုတ် ကြိုးအားထုတ်သော အကျွန်ုပ်ကို။ အဗ္ဗိုဇ္ဈာ၊ အဖန်ဖန် အထပ်ထပ် တိုက်တွန်းအပ်ပြီ။ ထေရေဟိ၊ မဟာထေရ မဏ္ဍိမနှင့် နဝမည်တွင် ထေရ်အရှင်တို့သည်။ အဇ္ဈေသိတတ္တာဝ၊ အဖန်ဖန် အထပ်ထပ် တိုက်တွန်းအပ်သည်၏ အဖြစ်ကြောင့် သာလျှင်။ ကဏ္ဍာ၊ ဥပသမ္ပဒာကဏ္ဍစသား ကဏ္ဍများကို။ ကရိဘ္ဗာဝ၊ ပိုင်းခြားသမှု ကောင်းစွာပြု၍သာလျှင်။ အတ္ထံ၊ ပါဠိ အဋ္ဌကထာဋီကာစသား ဆောင်ပါဠ်များ၏ မြန်မာအတ္ထများကို။ သမ္မာ၊ ကောင်းမွန်စွာ။ လိခါမိ၊ ကြည်စိတ်ရွှင်ရွှင် ပီတိယှဉ်လျက် စီရင် ရေးသားပေအံ့သတည်း။ အဗ္ဗာ၊ ဖုံးလွှမ်းကွယ်ကာ တိမ်တိုက်လွှာမှ။ သုန္ဒရာဘာ၊ ဆန့်ရှင်းစင်စွာ လွှတ်သည်သာလျှင်ဖြစ်သော။ မရီစိ၊ တောက်ပသွန်းလင်း ဆောင်သန့်ရှင်းသော။ စန္ဒော၊ လမင်းကြီးသည်။ သုန္ဒြံ၊ ကောင်းမွန်စွာ။ အာဂစ္ဆယထာ၊ ပေါ်ထွက်၍ လာသကဲ့သို့။

(၆) ဝေံတထာ၊ ထိုအတူ။ ထေရေန၊ ငါတို့၏ ကျေးဇူးရှင် ထေရ်ကျော်ညောင်လွန့်တောရ ဆရာတော်သည်။ လိခိတ္တော၊ ကြည်ရွှင်နေသော စိတ်သဘောဖြင့် ရေးသားတော်မူအပ်သော။ ဂန္ထော၊ ဒုတိယ တတိယ ပကိဏ္ဏကဒီပနီဟု နာမကျော်ဟိး နှစ်ဆောင်သော ကျမ်းတော်ကြီးများသည်။ မဇ္ဈုသာယ၊ ကောင်းစွာသန့်ရှင်း သေဘ္ဘာတွင်းမှ။ မုတ္တော၊ လွှတ်သည်ဖြစ်၍သာလျှင်။ သာသနေ၊ ဗုဒ္ဓမြတ်စွာ သာသနာတော်၌။ သုန္ဒြံ၊ ကောင်းစွာ။ ယသ္မာ၊ အကြင်ကြောင့်။ အာဂစ္ဆိ၊ ပေါ်ထွက်၍ လာခဲ့ပြီ၊ တသ္မာ၊ ထိုကြောင့်။ ထေရေစ၊ မဟာထေရ မဏ္ဍိမနှင့် နဝခေါ်တွင် ထေရ်အရှင်တို့သည်လည်း။ ဝိနိစ္ဆိတတ္ထံ၊ ကောင်းစွာစေ့စပ် ဆုံးဖြတ်အပ်သော အနက်ရှိသော။ ဂန္ထံ၊ ဒုတိယ တတိယ ပကိဏ္ဏကဒီပနီဟု နာမကျော်ဟိး နှစ်ဆောင်သော ကျမ်းတော်ကြီးကို။ ဉာဏေန၊ ဝဇိရဇိနံ့ပမာ ဉာဏ်မဟာဖြင့်။ သမ္မာဝ၊ ကောင်းစွာသာလျှင်။ ပဿန္တု၊ စေ့စေ့ငုငု သတိပြု၍ ပြည့်ရှုတော်မူကြပါစေကုန်သတည်း။ ပဿိယ၊ စေ့စေ့ငုငု သတိပြု၍ ကြည့်ရှုတော်မူကြကုန်ပြီး၍။ ခမေန၊ မုချမယွင်း ခဏချင်းဖြင့်။ ကမ္မံ၊ မှုကြီး မှုငယ် အသွယ်သွယ်ကို။ ကာရေန္တု၊ ကောင်းစွာပိုင်ပိုင် ဆုံးဖြတ်တော်မူနိုင်ကြပါ စေကုန်သတည်း။ ကတွာန၊ ကောင်းစွာပိုင်ပိုင် ဆုံးဖြတ်တော်မူနိုင်ကြကုန်ပြီး၍။ သုခံ၊ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာသာလျှင်။ အနာကုလဝိဟာရမဇ္ဈေ၊ နှောင့်ယှက်ရှုပ်ထွေး မရှိ အေးသော ကျောင်းကြီးအလယ်၌။ ဝသန္တု၊ နေထိုင်တော်မူနိုင်ကြပါစေသတည်း။

(၇) ဝေ၊ ဤသို့။ အနာကုလ ဝိဟာရမဇ္ဈေ၊ နှောင့်ယှက်ရှုပ်ထွေး မရှိ အေးသော ကျောင်းကြီးအလယ်၌။ သာဘာ၊ ချမ်းသာစွာ။ ဝသိတွာန စ-ဝသိတွာနဝေ၊ နေထိုင်တော်မူကြ၍သာလျှင်။ ဣစ္ဆိတေသု၊ ဟိုဟို ဒီဒီ အလီလီဖြင့် ကြံစည်ရည်မှတ် အလိုရှိအပ်ကုန်သော။ ဓမ္မေသု၊ သမထ ဝိပဿနာ ဘာဝနာတရားတို့၌။ သမ္မာဝ၊ ကောင်းစွာသာလျှင်။ ပရက္ကမန္တံ၊ လုံ့လမယွင်း အားထုတ်ခြင်းကို။ ကတွာန၊ ပြုတော်မူကြကုန်၍။ နိဗ္ဗာနသုခံ ကိုယ်စိတ်နှစ်ဖြာ အေးချမ်းရာဖြစ်သော နိဗ္ဗာန်ချမ်းသာကို။ လဘန္တု၊ စင်စစ်မသွေ ရတော်မူကြပါစေကုန်သတည်း။

ဟူသော ခုနစ်ဂါထာ ပါဠိ နိဿယဖြင့် ပြည့်စုံစွာ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ဖော်ပြပါ ပကိဏ္ဏကဒီပနီကျမ်းကြီး ဒုတိယတွဲ၌—

၁။ ဥပသမ္ပဒါဒိ ကဏ္ဍ၊

၂။ ကထိန ကဏ္ဍ၊

၃။ ပရိဝါသိက ကဏ္ဍ၊

၄။ ကာလိက ကဏ္ဍ၊

၅။ သီမ ကဏ္ဍ၊

၆။ အဓိဋ္ဌာနာဒိ ကဏ္ဍ၊

၇။ သံဃိကာဒိ ကဏ္ဍ၊

၈။ အဘိဓမ္မာ ကဏ္ဍ၊

အားဖြင့် အခန်းကဏ္ဍ ပရိစ္ဆေဒပေါင်း ရှစ်ပိုင်း ပါရှိရာ ဥပသမ္ပဒါဒိကဏ္ဍကို—

၁။ သမ္ဗောဓာဟဆေဒကံ ဗုဒ္ဓံ၊ ဓမ္မံ သံဃဉ္စ ဥတ္တမံ။
ဝန္ဒိတွာန ကရိဿာမိ၊ သုသမ္ဗောဓာ ဝိဘာဝနိံ။

၂။ သီလာဒိဂုဏယုတ္တေန၊ နိစ္စံ အရညဝါသိနာ။
နဝါရညာ ထေရေန၊ သက္ကစ္စံ အဘိယာစိတော။

၁။ အဟံ၊ ခန္ဓာပဥ္စက သမူဟကို နာမစွဲကာ မထေရ်ငါသည်။
သမ္မောဟဆေဒကံ၊ လက္ခယ်သန်းခေါင် မိုးမှောင်မကာ တွေဝေမိုက်မဲ
လှသော မောဟအတိုက် မှောင်အမိုက်ကို တိုက်ခိုက် ဘန်ဆောင်
ဉာဏ် မီး ရှောင် ဖြင့် ငြိမ်း ပျောက် အောင် ပယ် ဖျောက် တော် မူ
ပြီးသော။ ဗုဒ္ဓံ၊ မြတ်စွာ ဘုရား ကို လည်း ကောင်း။ သမ္မောဟ
ဆေဒကံ၊ အလွန် အမင်း ပြင်းစွာ တွေဝေဘတ် မိုက်မဲ ဘတ်
သော မောဟကို တစကျွန် ဘုန်းလှန် ပယ်ဖြတ်တော် မူဘတ်
ထသော။ ဝါ၊ ပယ်ဖြတ်ကြောင်း ဖြစ်တော်မူသသော။ ဥတ္တမံ၊ မြတ်
တော်မူထသော။ မမ္မဥ္စ၊ မဂ်လေးဝ ဖိုလ်လေးတန် နိဗ္ဗာန် ပရိယတ္တိ
ဘည်းဟူသော ဆယ်ပါးသော တရားတော်မြတ်ကို လည်းကောင်း။
သမ္မောဟဆေဒကံ၊ သစ္စာလေးပါးမြတ်တရား၌ မှောက်မှားသေအောင်
အလွန်အကြူး အထူးသဖြင့် ရစ်မူးတွေဝေ တတ်သောမောဟကို တစ
မကြွင်း ခပင်း ဥဿုံ အကုန်ပယ်ဖြတ်ဘော် မူထသော။ ဥတ္တမံ၊ မြတ်
တော်မူထသော။ သံဃဥ္စ၊ အရိယာ သံဃာဘော်မြတ် အပေါင်းကို
လည်းကောင်း။ ဝန္ဒိတွာ-ဝန္ဒာမိ၊ ရှိခိုးပါ၏။ ဝန္ဒိဘွာန၊ ရှိခိုးပြီး၍။
သုသမ္မောဟဝိဘာဝနိံ၊ ဉာဏ်နုသော သူတို့မှာ မမြင် နိုင်အောင်
အလွန်ရှုပ်ထွေး၍ တွေဝေရာဌာနကို ထင်ရှားအောင် ဖော်ပြရာ
ဖော်ပြကြောင်း ဖြစ်သောကြောင့် သုသမ္မောဟဝိဘာဝနီ အမည်
ရှိသော ဝိနိစ္ဆယကို။ ကရိဿာမိ၊ ရေးသားပြုပြင်စီရင်ပေအံ့သတည်း။
၂။ ကသ္မာ၊ အဘယ့်ကြောင့်။ဣမံဂန္ထံ၊ ဤသုသမ္မောဟဝိဘာဝနီ
အမည်ရှိသော ဝိနိစ္ဆယကျမ်းကို။ ကရိဿာမိ၊ ရေးသားပြုပြင် စီရင်
ပေအံ့နည်းဟူမူကား။ သီလာဒိဂုဏယုတ္တေန၊ သီလအစရှိသော ဂုဏ်တို့
နှင့်လည်းယှဉ်ထသော။ နိုင်ငံ၊ အမြဲ။ အရညဝါသိနာ တောကျောင်း
၌လည်း နေလေ့ ရှိထသော။ နဝါရညကထေရေန၊ နဝင်းတောရ
ဝိဟာရ၌ မျှတပျော်မွေ့နေထိုင်လေ့ ရှိသောမထေရ်သည်။ သက္ကစ္စံ၊
ရိုသေစွာ။ အဘိယာစိတော၊ ရှေးရှုညွှတ်ပြောင်း တောင်းပန်အပ်
သည်ဖြစ်၍။ ဝါ၊ တောင်းပန်အပ် သောကြောင့်။ ဣမံဂန္ထံ၊ ကို။
ကရိဿာမိ၊ ရေးသားပြုပြင် စီရင်ပေအံ့သတည်း။
ဟူသော နှစ်ဂါထာ ပါဌ်နိဿယဖြင့် ဂန္ထာရမ္ဘ ပြုတော်မူ၍ စီရင်ရေးသား
ဆုံးဖြတ်တော်မူသည်။

**ခန္ဓာဇာတ် သိမ်းတော်မူခြင်း**

ဆရာတော် ဘုရားကြီး အရှင်မေဓာဝီသည် ကျမ်းဂန် ချုပ်ခြင်း၊ ပြုစုခြင်း
ရေးသားခြင်း၊ ဝိပဿနာတရား အားထုတ်ခြင်းဖြင့် မိမိသူတပါး နှစ်ဦးသား၏

အကျိုးကိုကျင့်ဆောင်တော်မူပြီး သက္ကရာဇ်၁၂၉၅-ခုနှစ်နယုန်လဆုတ်၃-ရက် နေ့ည ၁၁-နာရီ အချိန်တွင် ကုလားထိုင်ပေါ်တွင် ခြေချထိုင်တော်မူလျက် ခန္ဓာဇာတ်သိမ်း ငြိမ်းတော်မူခဲ့လေသည်။

---

## ဒက္ခိဏာရာမအနွယ် ရေစကြိုးဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိမလာ ဘိဝံသ

ဟံသာဝတီခရိုင် (ယခင် ရန်ကုန်တိုင်း) ခရမ်းမြို့ ပြာသဒ်ကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန် ချပို့တော်မူခြင်း၊ သာသနာ့ ဘေးရန်များကို သုတ်သင်တော်မူခြင်း စသည်ဖြင့် သာသနာပြုတော်မူခဲ့သော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ရေစကြိုးဆရာတော် ဘုရားကြီး အရှင်ဝိမလ သည် မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမတိုက်၌ ပရိယတ္တိဓမ္မကို သင်ယူတော်မူခဲ့သည့်ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။

## ဖွားမြင် ရှင်ရဟန်းပြုတော်မူခြင်း

မြင်းခြံခရိုင် နွားထိုးကြီး မြို့နယ်၌ သက္ကရာဇ် ၁၂၂၉-ခုနှစ် ဝါခေါင် လဆုတ် ၇-ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော် မူခဲ့သည်၊ ဆရာတော် လောင်းလျာ၏ရုပ်ရည်ရူပကာယသည် လှပပြေပြစ်ချောမွတ်ကြည်လင်သည်ဟု သိရသည်။ အရွယ်ရောက်သော် ရှင်သာမဏေဘဝ၌ သာသနာ့ဝန်ကို ထမ်း ဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာအခါတွင် ပခန်းကြီး မြို့စား တပင်ဘိုင် မင်းသမီးကြီး၏ ပဋ္ဌယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက် တော်မူသည်။ ဘွဲ့တော် အရှင်ဝိမလဖြစ်သည်၊

## ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခြင်း

ဆရာတော်လောင်းလျာသည် ငယ်စဉ်ကာလ၌ ဥပဇ္ဈာယ်ဆရာတော် စသည် တို့၏အထံ၌ တိပိဋကအခြေခံ ကျမ်းစာများကို သင်ယူတော်မူခဲ့ပြီး အရွယ် ဘော် နှုန်းစဉ်ကပင် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်၍

နာယကဆရာတော်ဘုရားကြီး အရှင်အာစာရမဟာထေရ်၊ ဂဏဝါစကစာချ အကျော် ဆရာတော် ဦးရန်ကုန်စသည့်တို့အထံတွင် ဂန္ထန္တရ အဝဝကိုသင်ယူတော်မူခဲ့လေသည်။

ဒက္ခိဏာရာမံ ပတ္တာန၊ ဝိမလော ဝိဇယော ရတော။
ဗဟာဝေါ ဂန္ထေ သိက္ခိတွာ၊ တေသု ဆေကော ဝိသာရဒေါ။

၎င်းပြင် မန္တလေးမြို့ အနောက်ပြင် မိုးကောင်းတိုက် စသည်တို့၌လည်း ပညာဆည်းပူးတော်မူခဲ့သည်။

## ရစ်ကန်ကြီး ဆရာတော်ဟု တွင်ခြင်း

ဝါပေကျမ်းဂန် တတ်မြောက် ပြီးနောက် ပခုံးခရိုင် ရင်ကန်ကြီးရွာ၌ ကြာမြင့်စွာ သီတင်းသုံး၍ သာသနာပြုတော် မူခဲ့သဖြင့် ''ရစ်ကန်ကြီးဆရာတော်''ဟု တွင်လေသည်၊ ဆရာတော်ကား စာချကောင်း၊ စာရေးကောင်း ဆရာတော်ဖြစ်သည်သာမက အလှူပေးမှု၌ လွန်စွာဝါသနာပါသည့် ပုဂ္ဂိုလ်တူဖြစ်သည်။ ဆရာတော်ဒါနပြုပုံမှာ ဘုရားလောင်းတော်များ၏ ကျင့်ထုံးနှင့် တူတော်မူလှသည်။

## အလှူဒါနကြီးများ

မန္တလေးမြို့ မဟာမြတ်မုနိရှင်တော်မြတ်ကြီးအား ပဲကေသီ၊ပိုးသင်ပိုင်၊ ပိုးခါးပန်းကြိုးတို့ကို လှူဒါန်းပူဇော်တော်မူခဲ့သည်။ ၎င်းပြင် ဘုရားရှင်ကိုယ်တော်စား ရုပ်ပွားဆင်းတုတော်၊ခေါင်တော်၊ မွေတော်၊ ဆံတော်၊ အံတော်၊ ညှင်ရိုးတော် တို့အား ဆီမီး ရှစ်သောင်း လေးထောင်၊ ပန်းရှစ်သောင်း လေးထောင်၊ ဖလ်ခွက်နှင့် ရေရှစ်သောင်း လေးထောင်၊ သနပ်ခါးမီး ရှစ်သောင်း လေးထောင်၊ ပန်းညိုပန်းပင်ပေါင်း ရှစ်သောင်း လေးထောင်၊ ပဒုမ္မာကြာ၊ ကြာညို၊ကြာဖြူ၊ကြာပြာ၊ကြာနီပေါင်း ရှစ်သောင်းလေးထောင်ကို လှူဒါန်းပူဇော်တော်မူခဲ့လေသည်။ တရားတော်အားလည်း ပန်း၊ဆီမီး၊ရေ ရှစ်သောင်း လေးထောင်စီလှူဒါန်းတော်မူခဲ့လေသည်။ သံဃာတော် အားလည်း တရားတော်နည်းတူ ပန်း ဆီမီး ရေ ရှစ်သောင်း လေးထောင်စီ လှူဒါန်းတော်မူခဲ့လေသည်။

၎င်းပြင် ပခုံးခရိုင် ရစ်ကန်ကြီးရွာ ဒါယကာ-ဒါယိကာမတို့အား တရားဓမ္မဟောပြ တိုက်တွန်းတော်မူ၍ ၁၂၇၃-ခုနှစ်က စ၍ ၁၂၇၅-ခုနှစ်အထိ

သုံးနှစ်တိုင်တိုင် အငယ်တန်း၊ အလတ်တန်း၊ အကြီးတန်း၊ အကျော်တန်း သတ်မှတ်၍ပြန်ဆိုအောင်မြင်တော်မူသော အရှင်မြတ်တို့အား–

၁။ အငယ်တန်း ဓမ္မပူဇာဝတ္ထုငွေ ၅၀ကျပ်၊

၂။ အလတ်တန်း ဓမ္မပူဇာ ဝတ္ထုငွေ ၇၅ကျပ်

၃။ အကြီးတန်းဓမ္မပူဇာ ဝတ္ထုငွေ၁၀၀ကျပ်၊

၄။ အကျော်တန်း ဓမ္မပူဇာ ဝတ္ထုငွေ ၁၅၀ကျပ်.

တို့ကို လှူဒါန်းတော်မူခဲ့လေသည်။

ထိုမှတပါး–

၁။ သုတ်သီလကျမ်း ပါဠိတော်၊ အဋ္ဌကထာ အနက် မြန်မာ ပြန်ဆို အောင်မြင်သူအရှင်မြတ်တို့အား ဓမ္မပူဇာ ၆၀ ကျပ်၊

၂။ ဝိနည်းပါရာဇိကကျမ်း ပါဠိတော်၊ အဋ္ဌကထာ အနက် မြန်မာပြန်ဆို အောင်မြင်သူအရှင်မြတ်တို့အား ဓမ္မပူဇာ ၈၀ ကျပ်၊

၃။ အဘိဓမ္မာ ခုနစ်ကျမ်း ပါဠိတော်၊အဋ္ဌကထာအနက်မြန်မာ ပြန်ဆို အောင်မြင်သူ အရှင်မြတ်တို့အား ဓမ္မပူဇာ ၁၀၀ ကျပ်၊

လှူဒါန်း ပူဇော်တော်မူ၍ တကြိမ်လျှင် ငွေထုပ်ငွေကျပ် ငါးထောင်ကျော်မျှ ကုန်ကျသော ပရိယတ္တိစာပြန်ပွဲကြီးကို ကျင်းပပြုလုပ်တော်မူလျက် သာသနာ တော်ကို ချီးမြှင့်တော်မူခဲ့လေသည်။

တဖန် ၁၂၇၀-ခုနှစ်တွင် သထုံမြို့ ရှန်အောင်ကျောင်းတိုက်ကြီးအတွင်း၌ အငယ်၊ အလတ်၊ အကြီး၊ အကျော်၊ သုတ်၊ ဝိနည်း၊ အဘိဓမ္မာ သတ်မှတ် ပိုင်းခြားတော်မူ၍ ဖြေဆို ပြန်ဆို အောင်မြင်ကြသော အရှင်မြတ်တို့အား အထက်ပါအတိုင်း ဓမ္မပူဇာ လှူဒါန်းစေ၍ ငါးထောင်ကျော် ကုန်ကျသော ကုသိုလ်ဒါနကြီး ကိုသည်း ပြုတော်မူခဲ့လေသည်။

ရင်းပြင် ၁၂၈၅-ခုနှစ်တွင် မြဝ်းခြံရိုင် နွားထိုးကြီးမြို့ ရွှေပြည်ရန်အောင် ကျောင်းတိုက်ကြီးအတွင်း၌ ဝိနည်းစာပြန်ပွဲကြီး ကျင်းပပြုလုပ်တော်မူ၍ ပြန်ဆို အောင်မြင်တော်မူကြသော အရှင်မြတ်တို့အား သင်္ကန်း စသော ပစ္စည်း ဝတ္ထုတို့ကို လှူဒါန်းပူဇော်စေတော်မူသည်။

## ခက်လမ်းဆည်ကန် ရွှေပြည်ရင်ဆည်ကန်ကြီးများ ဆည်ဖို့စေခြင်း

သက္ကရာဇ် ၁၂၁၀-ပြည့်နှစ်မှစ၍ ၁၂၁၂-ခုနှစ်တိုင်အောင် သုံးနှစ်ကိတ် နွားထိုးကြီးမြို့နယ် အရှေ့ပိုင်း၌ မိုးအကြီးအကျယ် ခေါင်သည်။ သို့ဖြစ်၍ ထိုဒေသနယ်ပယ်ရှိ ခက်လမ်း၊ ပြင်စည်၊ ရွှေပြည်ရင်၊ ထိမ်ဘလား၊ လှည်းစာ ထွန်း၊ ဘုံသာ-စသော ကျေးရွာများ၌ နေကြသော လူများတို့ ဒုက္ခဆောက် ကြသည်။ ကျွဲနွား-စသောတိရစ္ဆာန်တို့လည်း အစာရေစာ ငတ်၍ သေကြေ ပျက်စီး ကုန်၏။ သို့ဖြစ်ရကား ဆရာတော်သည် အလွန်လျှင် သနားကြင်နာခြင်း ဖြစ်တော်မူသဖြင့် ဝတ္ထုငွေပေါင်း နှစ်သောင်းနီးပါး အကုန်အကျခံတော်မူ၍ ခက်လမ်းဆည်ကန်၊ ရွှေပြည်ရင်ဆည်ကန်တို့ကိုလည်း ဆည်ဖို့စေတော်မူခဲ့လေ သည်။ ရင်းပြင် နွားထိုးကြီးမြို့နယ် အရှေ့ပိုင်း ထန်းခွရွာ၌သည်၊ သောက်ရေကန် ကြီးကို ထပ်မံ၍ထွင် ဆည်ဖို့စေတော်မူခဲ့လေသည်။ ထိုနည်းတူစွာ လှည်းစာ ထွန်းရွာ၌လည်း သောက်ရေကန်ကြီးကို ချဲ့ထွင်တူးဖော်စေတော်မူခဲ့လေသည်။

## ကျေးဇူးရှင် ဆရာသမားများအား လှူဒါန်းပူဇော်

ဆရာတော်ကား တပါးသူတို့ ပြုဘူးသော ကျေးဇူးဥပကာရကို သိ၍ ဆပ်လေ့ရှိသော သူတော်ကောင်းပုဂ္ဂိုလ်စင်စစ် ဖြစ်တော်မူသည်။

ကျေးဇူးရှင် ရွှေပြည်ရန်အောင် ဂိုဏ်းချုပ်ဆရာတော်ဘုရားကြီးအား ပိုးကောသိတထည်၊ ထီး၊ ဖိနပ်၊ နာရီ၊ ကုလားထိုင် စသည်တို့ လှူဒါန်း ပူဇော် တော်မူခဲ့သည်။

ဆဆတပါး ဖြစ်တော်မူသော ဆရာတော် ဦးရန်ကုန်အား ၅၁-ခန်းရှိ သက်န်းကြီးတထည်နှင့် ၅၀-တန် ပဒေသာပင်ဘပင် လှူဒါန်းတော်မူခဲ့သည်။

တောင်တွင်းကြီးမြို့ ညောင်ကုန်းဆရာတော်ဘုရားကြီးအား ဝတ္ထုငွေ၁၀ဝ-တန် ပဒေသာပင်၊ သင်ဓုန်းခါး၊ မျက်မှန်၊ နာရီ-စသည်တို့ကို လှူဒါန်းတော် မူခဲ့သည်။

မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဆရာတော်ဘုရားကြီး အရှင်အာစာရ အား ပိုးသက်န်းကြီးတထည်၊ ဝတ္ထု ၁၀ဝ-တန် ပဒေသာပင်၊ သင်ခုန်းခေါး- စသည်တို့ကို လှူဒါန်းတော်မူခဲ့လေသည်။

ကျေးဇူးရှင် စာချပေးသည့် ဆရာတော်တပါးဖြစ်သော မန္တလေးမြို့ အနောက်ပြင် မိုးကောင်းတိုက် ဆရာတော်အရှင်နန္ဒိယ ပရိသုဒ္ဓ ပြုသဖြင့် ပိုးပုဆိုး၊ အင်္ကျီ၊ ထီး၊ ဖိနပ်၊ ယောပုဆိုး-စသည်တို့ကိုလည်း ချီးမြှင့်တော် မူခဲ့လေသည်။

စကုဂိုဏ်းထောက် ဆရာတော်ကြီးအား ၅၅-ခန်း ပိတ်သက်န်းကြီးနှင့် ဗိုလ်စောင်ဘထည် လှူဒါန်း ပူဇော်တော်မူခဲ့သည်။

နွားထိုးကြီးမြို့နယ် ဘုံသာရွာ ချယားပင်ဆရာတော်အား ပိုးကောသီ၊ သက္ကလတ်သင်္ကန်း၊ ပိတ်သင်္ကန်းဒွိစုံ စသည်တို့ကို လှူဒါန်းတော်မူသည်။

လယ်တီဆရာတော်ဘုရားကြီးအားလည်း အာစရိယဂုဏ်ကို အာရုံပြု၍ မင်းကွတ်သီး တထောင့်၊ ပိတ်ကောသီ-စသည်တို့ကို လှူဒါန်းတော်မူခဲ့လေသည်။

ရင်းပြင် တပည့် ရှင်အာဒိစ္စ၏ မိခင် ဒါယိကာမကြီး ဈာပနကိစ္စအတွက် သင်္ကန်းဒွိစုံ ၃၀၊ သံဇလုံ ၃၀၊ သံတိုက်ခွက် ၃၀-တို့ကို ချီးမြှင့်တော်မူသည်။

## သမဂ္ဂသီတင်းသုံးတော်မူးနှင့် တပည့်တပန်းတို့အား လှူဒါန်းခြင်း

မြင်းခြံခရိုင် တောင်သာမြို့နယ် နွားပြင်းရွာ၌ အဘိဓမ္မာညဝါကို မပြတ် ချပို့တော်မူသော နွားပြင်းဆရာတော်အား ကတ္တီပါသင်္ကန်း၊ ပုသိမ်ထီး-စသည် တို့ကို လှူဒါန်းတော်မူသည်။

ပင်းမြို့တောင်ထောင့် ကန်သာကျောင်းဆရာတော် အရှင်နာဂအား ကတ္တီပါသင်္ကန်းဘထည်၊ပိတ်သင်္ကန်းကြီး-စသည်တို့ကို လှူဒါန်းပူဇော်တော်မူသည်။

တပည့် ရှင်ဇဋိလ၊ရှင်ဥတ္တမတို့အား ကတ္တီပါသင်္ကန်းတထည်စီ ချီးမြှင့်တော်မူသည်။

နွားထိုးကြီးမြို့နယ် အရှေ့ပိုင်း လည်းစာထွန်းရွာ အုတ်ကျောင်းဆရာတော် အရှင်မေဓာအား ပိုးသင်္ကန်းတထည်၊ပိုးခါးပန်းကြိုးတချောင်း၊ မနောလင်ပန်း အကြီးနှစ်ချပ် သံတိုက်ခွက်၊ ဒဏ်ရေသောက်ခွက်၊ ကြေးခုတင်၊ ကုလားထိုင်၊ အိပ်ရာခင်း၊ ဗိုလ်စောင်၊ ဂွမ်းဆောင်-စသည်တို့ကို လှူဒါန်းတော်မူခဲ့သည်။

## ဒါနစာရင်းချုပ်

ဆရာတော်ကား အလှူလည်းဘုန်းကြီးသည်၊ လှူလို့ကုန်သည်မရှိ၊ လှူလေ ရလေဖြစ်၏။ ဆရာတော်၏ ဒါနစာရင်းချုပ်မှာ အောက်ပါအတိုင်းဖြစ်၏။

ဆရာတော်သည် သင်္ကန်းကြီး ၂၀၀-ကျော်၊ ကောသီ ၁၀၀၀-ကျော်၊ သင်းပိုင် ၂၀၀၀ ကျော်၊ ပိုးကောသီအထည် ၆၀၊ ပိုးသင်းပိုင် ၁၃-ထည်၊ သက္ကလတ်သင်္ကန်း အထည် ၂၀၊ ခြံထည် ၁၅-ထည်၊ နာရီကြီး ၅-လုံး၊ သံသပိတ် ၁၀-လုံး၊ ကြေးသပိတ်ဖုံး ၄၀-ကျော်၊ သင်ခုန်းခေး ၂၀၀-

ကျော်၊ ခါးပန်းကြီး ၂၀၀-ကျော်၊ ထီး ၄၀၀ကျော်၊ ဖိနပ် ၃၀၀ကျော်၊ ကော်ဇောကြီး၁၁၁ကျော်၊ ကောဇောငယ် ၁၅-ထည်၊ လက်ဆွဲသားရေအိတ် အလုံးပေါင်း ၁၀-ကျော်၊ လက်ဆွဲလေးဆင့်သံချိုင့် ၁၁၁-ကျော်၊ လက်မ နှစ်ဆယ်ရှိ သံဇလုံကြီး ၁၀၀ကျော်၊ သံဇလုံအလတ် ၁၅၀-ကျော်၊ သံဇလုံ ငယ် ၃၀၀-ကျော်၊ ဖလ်တိုက်ခွက် ၂၀၀-ကျော်၊ သံတိုက်ခွက် ၂၀၀-ကျော်၊ ဒန်တိုက်ခွက် ၃၀-ကျော်၊ မောင်းသောင်ခွက် ၃၀-ကျော်၊ ထွေးခံ ၅၀-ကျော်၊ ပန်းကန်ပြား ၁၀၀၀ ကျော်၊ ပန်းကန်လုံး ၈၀ ကျော်၊ ဇွန်း ၃၀၀ ကျော်၊ လင်ပန်း ၅၀ ကျော်၊ သောက်ရေခွက် ၃၁-ကျော်၊ ရေအိုး ၂၀၀-ကျော်၊ တွံတေး ရေတံခေါင်း အကြီး ၁၀ ကျော်၊ ခေါး မောင်း၊ ဘေးမ၊ သားလှီးဓား ၁၀၀ကျော်၊ စေအလုံးကြီးပါရှိသည့် ၃၂လုံး ပုတီးကုံးပေါင်း ၁၁၀ ကျော်၊ သစ်ဆင်စွယ်သား တောင်ဝှေး တချောင်း၊ ရင်းတိုက်သား တောင်ဝှေး အချောင်း ၁၀၀ကျော်၊ မျက်မှန် ၁၀ လက်၊ ယူနီဖောင်းသံသေတ္တာ ၂ လုံး၊ သားရေနယ် ၁၁ ချပ်၊ သုံးချောင်းထောက် အကြီး၊ အလတ်၊ အငယ် ၂၀၀ ကျော်၊ ကြံဘထောင်ကျော်၊ ဆန်အတင်း ၂၀၀ ကျော်၊ မျက်နှာသုတ်ပုဝါ ၁၀၁ ကျော်၊ ထနေးလျက်အတင်း ၅၀ ကျော်၊ သကာရည်တင်းလဲရည်ပုန်းကြီး ၂၀ ကျော်၊ ပျားရည်ပီယာချိန် ၂၀ ကျော်၊ ဆီပိဿာချိန် ၄၀၀ကျော်၊ ဒူးရင်းသီး တထောင်ကျော်၊ ပိန္နဲသီး တထောင်ကျော်၊ သရက်သီးလုံး၃သိန်းကျော်၊ မုန့်သေတ္တာ ၁၀၀၀ ကျော်၊ နို့ဆီဗူး တထောင်ကျော်၊ နာနတ်ယိုဗူး တထောင် ကျော်၊၊ ငါးသေတ္တာ တထောင်ကျော်၊ တခုံလျှင် သံဃာတော် ၁၀ ပါး သုံးဆောင်တည်းပေးနိုင် သော စားပွဲခုံကြီး ၅၀ ကျော်စသည်တို့ကို လှူဒါန်းတော်မူခဲ့သည်။

## အဘယဒါန

ကေနိသေလတ္တံဖြစ်သော ငါးသတ္တဝါပေါင်း ၁-သိန်း ၆-သောင်းတို့ကို တံငါများထံ ပန်းကန် ကော်ဇောစသည်ဖြင့် လဲလှယ်ရယူတော်မူ၍ ဘေးမဲ့ လွှတ်၍ အဘယဒါနပြုတော်မူခဲ့သည်။

## မိခင်ဒါယိကာမကြီးအား ချီးမြှင့်တော်မူခြင်း

မိခင်ဒါယိကာမကြီးအား သံသရာရေးအတွက် ဉာဏ်တော် ၃တောင်ခွဲမိုက် ရှိ ကျောက်ဆင်းတု၊ ဘုရားပူဇော်ရန် ဝတ္ထုငွေ ၄၀၀ကျော်၊ မြေးရှင်ပြုရန် ၃၀၀ကျော်ဘန် သင်္ကန်း၊ သပိတ်၊ ပရိက္ခရာ၊ ထီးဖိနပ် စသည်များ၊ ပင့်သံဃာ

တော် ၃၀ အားလှူဒါန်းသော ဖြတ်မွေးကော်ဇောကြီး ၃၀၊ ပိုးကောသီ ၁၀-ထည်၊ ပိုးသင်းပိုင် ၂ထည်၊ သက္ကလတ်သင်္ကန်း ၃ထည်၊ သက္ကလတ်ခြုံထည် ၂ထည်၊ သင်္ကန်းကြီး၊ ကောသီ၊ သင်းပိုင်၊ ခါးပန်းကြိုး စသည်၊ ဝတ္ထုငွေ ၇၀၀ကျော် စသည်တို့ကိုလည်း ချီးမြှင့်တော်မူသည်။

ဤကားဆရာတော်၏ ဒါနအမြွက်တည်း၊ ပြည့်စုံအောင် ဖော်ပြရန်ကား ခဲယဉ်းလှ၏။

ရုစိကန်ကြီး ထေရသေဋ္ဌေန၊ ဒိန္နဒါနံ ဟိ ဗဟူနိပိ။
ဤမမို့ ဝံသဂန္ထမို့၊ မုခမတ္တ နိဒဿနံ။

### မိခင်ကြီးအလောင်း ခမ်းနားစွာသင်္ဂြိုဟ်

သက္ကရာဇ်၁၂၆၅-ခုနှစ်တပေါင်းလဆန်း ၁၂ရက်နေ့ အသက်၇၃-နှစ်တွင် ကွယ်လွန်သည့် မိခင်ကြီး၏ ရုပ်ကလာပ်ကို ၁၂၆၆-ခုနှစ် တပေါင်းလဆန်း ၆-ရက်နေ့မှ စ၍ ၁၂-ရက်နေ့အထိ ၇-ရက်တိုင်တိုင် ခမ်းနားစွာ ဈာပနပွဲ ကျင်းပ၍ ရောက်ရှိလာသော ပရိသတ်အားဆန်အတင်းပေါင်း ၂၀၀-ကျော် ချက်ပြုတ်ကျွေးမွေးစေ၍ ပင့်သံဃာ ၁၀၀-ကျော် တို့အား သင်္ကန်းစသော ပစ္စည်း ဝတ္ထုများ လှူဒါန်း၍ ဝတ္ထုငွေ ၄ ထောင်ကျော်ကုန် ခမ်းနားစွာ နောက်ဆုံး သင်္ဂြိုဟ်တော်မူခဲ့လေသည်။ ဆရာတော်ကား ဘုရားအလောင်းတော်ဘဝ ဒါနမှု၌ ရဲရင့်တော်မူပါပေသည်။

### ကျမ်းဂန်များစွာတို့ကို ရေးသားပြုစုတော်မူခြင်း

ဆရာတော်သည် ကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင်တော်မူ၍ သာသနာတော်၌ ထာဝရ ကောင်းမှုများပြုတော်မူခဲ့သေးသည်။

၎င်းတို့မှာ—

၁။ ဂမ္ဘီရတ္ထပုစ္ဆာဗျာကရဏကျမ်း၊
၂။ မိစ္ဆာဝါဒပဟာနဒီပနီကျမ်း၊
၃။ အဘိဓမ္မတ္ထသဟဿပုစ္ဆာဗျာကရဏကျမ်း၊
၄။ ပရိယတ္တိသာသနာနုဂ္ဂဟကျမ်း—
စသည်တို့ဖြစ်ကုန်၏။

## ဂမ္ဘီရတ္ထပုစ္ဆာဗျာကရဏကျမ်း

ဖော်ပြပါ ကျမ်းများ အနက် ဂမ္ဘီရတ္ထပုစ္ဆာဗျာကရဏ ကျမ်းမှာ မိမိ၏ သာသနာ့မိခင် ရဟန်းဒါယိကာမ တပင်တိုင်မင်းသမီးကြီး လျှောက်ထားသည့် ပုစ္ဆာ ၁၀–ချက်အဖြေနှင့် ရစ်ဘန်ကြီးရွာ ဦးထွန်းဖေ လျှောက်ထားသည့် ပုစ္ဆာအဖြေတို့ကို တပေါင်းတည်း ဖွဲ့စည်းဖော်ပြအပ်သော ဖြစ်သော ကျမ်းစာ ဖြစ်သည်။

ဆရာတော်သည် ကျမ်းဦး၌-

"အဠကထာ၊ ဋီကာ၊ အနု၊ မဓု၊ ယောဇနာ၊ ဂဏ္ဌိ၊ နိဿယ၊ ဝိနိစ္ဆယ မှတ်စုများကို ရေးသားပြု စီရင်တော်မူကြ ကုန်သော ဂန္ထကာရက အကျော် ကျမ်းပြုဆရာတော် တို့သည် ဆန်းကျမ်း၌လာသော ပဇ္ဇာ ဝတ္တစသော ဂါထာများကို ရေးသား၍ ကျမ်း၏ အစ၌ ကျမ်းနှင့် လျော်စွာ ဘုရားဂုဏ်ကို ချီးမွမ်း၍ ပဏာမပြုကြ ကုန်သည်။ ငါတို့ ကား လက်ရိုးသက်ဟောင်းကြီး အစစ် ဖြစ်သော "နမောတဿ" ဖြင့် ပဏာမပြု၍ ဂမ္ဘီရတ္ထပုစ္ဆာဗျာကရဏကျမ်းကို ပြုစီရင်ပေအံ့"

ဟု ဖော်ပြတော်မူပြီး "နမောတဿ" ပဏာမကြီးကို ဆန်းကြယ်စွာ နည်း အမျိုးမျိုး ဖြင့် အနက်ယောဇနာဘော်မူ၍ ကျမ်းကို စဘင် စီရင်တော်မူသည်။

ယင်းကျမ်းကြီးမှာ ရှိုင်ဆိုက်ဖြင့် စာမျက်နှာ ၂၂၆-မျက်နှာ ရှိလေသည်။ ရန်ကုန်မြို့ကြည့်မြင်တိုင် ဗုဒ္ဓဘာသာ သာသနာ့ပြု ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့ရာ ပဌမကျော် ပညာသီဟ ဦးကြီးဖေ ကြီးကြပ်ပြင်ဆင်ခဲ့သည်။

## မိစ္ဆာဝါဒပဟာနဒီပနီကျမ်း

မိစ္ဆာဝါဒပဟာနဒီပနီကျမ်းမှာ ငှက်တွင်းဂိုဏ်းမှ ရေးသားထုတ်ဝေသည့် ကျမ်းစာမှ ချွတ်ယွင်းချက်များကို ဖြေရှင်းသော ကျမ်းစာဖြစ်သည်။ဆရာတော် သည် ဖော်ပြပါ မိစ္ဆာဝါဒပဟာနဒီပနီကျမ်းကို သထုံမြို့ ရန်အောင်ကျောင်း တိုက်၌ သီတင်းသုံးစဉ် တောရကျောင်းမြို့ပါ သံဃာတော်များနှင့် အနေရးပိုင် ဦးကျော်ဒွန်း တောင်းပန်လျှောက်ထားသဖြင့် စီရင် ရေးသားတော်မူရာ ၁၂၈၃–ခုနှစ်တွင် ပညာ့အလင်း သတင်းစာပုံနှိပ်တိုက်တွင် ရိုက်နှိပ်ခဲ့သေ သည်။

## အဘိဓမ္မတ္ထသဟာဿပုစ္ဆာဗျာကရဏကျမ်း

အဘိဓမ္မတ္ထသဟာဿ ပုစ္ဆာဗျာဆရဏကျမ်းမှာ နာမည်ဖြင့်ပင် ကျမ်းစာ အဓိပ္ပာယ် ပေါ်လွင်ထင်ရှားသည်။ အဘိဓမ္မာဆိုင်ရာ ပုစ္ဆာ အဖြေပေါင်း ၁၀၀၀(တထောင်)ကို ဖော်ပြရာ ကျမ်းဖြစ်သည်။ ပရိယတ္တိ သာသနာကို ချီးမြှောက်သည့်အနေဖြင့် စီရင် ရေးသားတော်မူသည်။

## ပရိယတ္တိသာသနာနုဂ္ဂဟကျမ်း

ပရိယတ္တိ သာသနာ နုဂ္ဂဟကျမ်းကြီးကိုလည်း ရေးသား၍ ပုံနှိပ်စေတော်မူ၍ အုပ်ရေ ၅၀၀-ကျော်ကို ဆရာတော်က မွေဒါနအဖြစ် လှူဒါန်းတော်မူသည်၊ ဆရာတော်ကား သဒ္ဒါဓိက၊ ပညာဓိက ပုဂ္ဂိုလ် ဖြစ်တော်မူသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်၏ ခန္ဓာကိုယ်ကား အငမျှားသည်။ အဝမျှားပြီး နောက်ဆုံး လေဖြတ်သော ရောဂါဖြင့် ဇာတိ နွားထိုးကြီးမြို့နယ် ဓမ္မရပ်မြေတွင် ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ဒုက္ခော ပုနဗ္ဘဝေါ နာမ၊ သရီရဿ စ ဘေဒနံ။

သမ္မောဟမရဏံ ဒုက္ခံ၊ ဇရာယ အဘိမဒ္ဒနံ။

ပုနဗ္ဘဝေါ နာမ၊ မိမိပြုသေားကံသည် ဂတိငါးပါးတွင် ထိုက်သည့် အားလျော်စွာ တပါးပါးသော ဂတိ၌ ပဋိသန္ဓေ အားဖြင့် တဖန် ဘဝသစ်၌ ဖြစ်ခြင်းမည်သည်၊ ဒုက္ခော၊ ဆင်းရဲ၏။ သရီရဿ၊ ပဋိသန္ဓေ စွဲနေက မချွတ်သေရလတ္တံ့ ဖြစ်၍ ပဋိသန္ဓေအား ဖြင့် ဖြစ်ပြီးသော ခန္ဓာကိုယ်၏။ ဘေဒနဉ္စ၊ အကျိတ်အခဲ အမြဲ မတည် ပျက်စီး စုတေ သေဆုံးရခြင်းသည်လည်း။ ဒုက္ခံ၊ ဆင်းရဲ၏။

ဇရာယ၊ ဆံဖြူသွားကျိုး ဇရာဆိုးသည်။ အာဘိမဒ္ဒနံ၊ နှိပ်စက်အပ်သည် ဖြစ်၍။ သမ္ဘေ ဟာမဒေဝါနွ၊ တွေတွေ ဝေဝေ သေရခြင်းသည်လည်း။ ဒုက္ခ၊ ဆင်းရဲ၏၁။

---

ဒက္ခိဏာရာမအနွယ် ပဋ္ဌာန်းညဝါဂဏ္ဍိကျမ်းပြု

ဆရာတော်အရှင်ကလျာဏာဘိဝံသ၂

ဆရာတော် အရှင်ကလျာဏာဘိဝံသ သည်လည်း ဒက္ခိဏာရာမဘုရားကြီး တိုက်ထွက် ဖြစ်သည်၊ မင်းကြီးမြို့ ရေစကြိုမြို့နယ် ချောင်းဆုံးယ်ရွာ၌ သက္ကရာဇ် ၁၂၃၀-ပတ်ဝန်းကျင်တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက် သော် ရှပ်ရေဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သေသည်၊

ဒက္ခိဏာရာမတိုက်၌ ပညာသင်

ဒက္ခိဏာဆရာမဘုရားကြီးတိုက်သို့ ရောက်ရှိတော်မူ၍ "ပဏ္ဍိတသိလာသက်ာရ တဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" စသည့် ဘွဲ့တံဆိပ်တော် နှစ်ထပ်ရ အရှင် ပဏ္ဍိတ မဟာထေရ် စသည်တို့ထံတွင် နှောါညဝါ ကျမ်းစာများကို သင်ယူ တတ်မြောက်တော်မူခဲ့လေသည်။

စာပေကျမ်းဂန် နိုင်နင်းတတ်မြောက်ခြင်း

ဆရာတော် အရှင်ကလျာဏာဘိဝံသသည် စာပေကျမ်းဂန် အရပ်ရပ်၌ လွန် စွာကျွမ်းကျင် တတ်မြောက်တော်မူသည်၊ အထူးသဖြင့် အဘိဓမ္မာ ပါဠိအဋ္ဌကထာ၊ ဋီကာ ကျမ်းဂန်များနှင့် အဘိဓမ္မာ ညဝါများ၌ သာလွန်၍ ကျွမ်းကျင် တတ်မြောက်တော်မူသည်။

---

၁။ ရစ်ကန်ကြီး ဆရာတော်၏ အနက်၊ (ဂန္ထဝင်ရတနာကျမ်း ၁၈၉-၂၀၀)

၂။ "ကလျာဏာဘိသာတိ" ဟု ဖော်ပြထားသည်လည်းရှိသည်။

## ပဋ္ဌာန်းညဝါဂဏ္ဍိ ကျမ်းကြီးကို ပြုစီရင်ခြင်း

ဆရာတော်သည် ယင်းသို့ အဘိဓမ္မာ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ၊ နှဝါ ကျမ်းများနှင့် ညဝါ ကျမ်းများကို တတ်မြောက် ကျွမ်းကျင်သူ ဖြစ်ည့်အလျောက် "ပဋ္ဌာန်း ညဝါ ဂဏ္ဍိကျမ်း"ကြီးကိုလည်း ပြုစီရင်တော်မူခဲ့သသည်။

ယင်း ပဋ္ဌာန်းညဝါဂဏ္ဍိ ကျမ်းကြီး ကျမ်းဦး၌—

၁။ ဗုဒ္ဓံ ဗုဒ္ဓံ မေမ္ဘံ နတွာ၊ ကုဍ္ဍံ မကုဍ္ဍံ ဘဝန္တံ။
သန္တံ ပသန္တံ ပတ္တိတံ၊ ဘဇ္ဇိတံ ဘဇ္ဇိတံ ဂဏံ။

၂။ ပဋ္ဌာနဿ ဂဏ္ဍိပ္ပဗ္ဗံ၊ တုမေ့ သုဏာထ ကရိဿံ၊
ဂမ္ဘိရ နယမဏ္ဍိတံ၊ သောတူဟိ အဘိယာစိတော။

(၁) အဟံ၊ ကလျာဏဝံသာဘိ အမည်ရှိသော ငါသည်။ သဗ္ဗသတ္တာနံ၊ ခပ်သိမ်းသသူ ဝေနေလူတို့၏။ ကုဍ္ဍံ မကုဍ္ဍံ၊ မောင်ဒွိအမြိုက် မကိုင်ဒွိအထွတ်သို့။ ဘဝန္တံ၊ ရောက်တော်မူထသော။ တနည်းကား- ကုဍ္ဍံ၊ သုံးရွာအုံရှိ ဦးထိခညွတ် တမွတ်ရာဇာ ဖြစ်တော်မူထသော။ မကုဍ္ဍံ၊ စံတဆူဟု သရဖူသင်းကျစ် ဥဩျှင် ဖြစ်တော်မူထသော။ ဘဝန္တံ၊ တြိဇာတိ ဝိမုတ္တိဆူ ပါရဂူဖြစ်တော်မူထသော။ ဗုဒ္ဓံ၊ ပညာ ဝရဇိန် ဉာဏ်ခြ ပဏ္ဍိတဖြစ်တော်မူထသော။ ဗုဒ္ဓဥ၊ မြတ်စွာဘုရားကို လည်းကောင်း။ သန္တံ၊ အဥ္ဇလိဘွဲ့တင်ချီနွဲ့၍ စဉ်တညီဘွဲ့အပ်တော် မူထသော။ ပသန္တံ၊ အပြားအားဖြင့် ခြားနားအင့်၍ ချီးမွမ်းသင့် တော်မူထသော။ ပတ္တိတံ၊ နာရိမခြောင့် ရှည်မထောင့်ပဲ တောင့်တ အပ်တော် မူထသော။ ဓမ္မဥ၊ တရားတော်မြတ်ကိုလည်းကောင်း၊ ဘဇ္ဇိတံ၊ ကိလေသာရက်ကန့် စက်အတန့်ကို ဖျက်သန့်တော်မူထသော။ ဘဇ္ဇိတံ၊ ဝိဇ္ဇာစက်မွန့် ရဟတ်ညွန့်ကို ဖြန့်ကွန့်တော်မူဘတ်ထသော။ ဂဏဥ၊ အရိယာသံဃာတော်မြတ် အပေါင်းကိုလည်းကောင်း။ နတွာ- နမာမိ၊ ရှိခိုးပါ၏။ နတွာ၊ ရှိခိုးပြီး၍။

(၂) ပစ္စယဝိဘူဘာဿ၊ ရတနာရွဲလုံး ပုလဲလုံးကုံးကို သိကုံသာ့ွယ် ၂၄-သွယ်သော ပစ္စည်းတို့ဖြင့် တန်ဆာဆင်အပ်ထသော။ ဂမ္ဘိရနယ မဏ္ဍိတံ-ဂမ္ဘိရနယမဏ္ဍိတဿ၊နက်နဲသိမ်မွေ့ လေ့လွှေ့နယာနည်းဟော

တို့ဖြင့် တန်ဆာဆင်အပ်ထသော။ ပဌာနသာ၊ အနန္တနယ သမန္တ ပဌာန်းကျမ်းတော်ကြီး၏ သုံးချက်စု ပစ္စည်းပြိုင်၏။ ဂဏ္ဌိပ္ပဗ္ဗံ၊ ခက်ရာသမူ ကုံစုလျင်စုနှင့် အဖုအဆစ်ကို။ သောတူဟိ၊ ပညာပြန့်လျှောင်း စာသင်သား အပေါင်းတို့သည်။ အဘိယာစိတော၊ သမ္မာဒိဋ္ဌိ ဆန္ဒာ မိပဘ်ဖြင့် တောင်းပန်အပ်သည်၊ ဟုတွာ၊ ဖြစ်၍။ ကရိယံ၊ မတွေး မရစ် ပေးအနှစ်ကို ရေးလှစ်ပေအံ့။ သာခဝေါ၊ သူတော်ကောင်း ဖြစ်ကုန်သော။ တုမှေ၊ သင်စာသင်သားတို့သည်။ သုဏာထ၊ သောတ နှစ်ပွင့် ဖော်ကာချင့်၍ နာလင့်ကြကုန်။

ဟူသော ဂါထာပါဌ် အနက်ဖြင့် ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။

ဂဏ္ဌိ ၃-ကျမ်း

ဆရာတော်အရှင်ကလျာဏာဘိဝံသသည်-

(၁) ပဌာန်း ၃-ချက်စု ဂဏ္ဌိ၊
(၂) ပဌာန်းပစ္စည်းပြိုင် ဂဏ္ဌိ၊
(၃) ပဌာန်းရာသီစု ဂဏ္ဌိ၊

အားဖြင့် ဂဏ္ဌိ သုံးကျမ်းလုံးကို သက္ကရာဇ် ၁၂၅၆-ခုနှစ်တွင် အပြီးသတ်ပြုစီရင်တော်မူခဲ့လေသည်။ ဆရာတော်ကား ဒက္ခိဏာရာမ ဘုရားကြီးတိုက်ထွက် ပညာရှင် ပုဂ္ဂိုလ်ထင်စစ်ပဒ် ဖြစ်တော်မူလေသည်။

ထေရော သော ကလျာဏော ဟိ၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏာဝံသံ ပါလေတွာ၊ သမ္ဗုဒ္ဓသာသနန္ဓရော။

---

ဒက္ခိဏာရာမအနွယ် မစိုးရိမ်ဆရာတော်

အဂ္ဂမဟာပဏ္ဍိတ အရှင်သောမာဘိ သိရီ

အရှင်သောမာဘိသိရီသည် ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ ပညာသင်ကြားတတ်မြောက်တော်မူခဲ့သည်။ နောင်တွင် မစိုးရိမ် ဆရာတော်အဖြစ်၊ စစ်ကိုင်း တောင်ရိုးသစ်ဝင်ချောင် ဆရာတော်အဖြစ်တို့ဖြင့် ထင်ရှားသည်။



အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်သောမာဘိသိရီ

## ဖွားမြင်တော်မူခြင်း

မန္တလေး ရတနာပုံမြို့တော်ကို လက်မွန်မဆွ ပဌမ တည်ထောင်တော်မူခဲ့ ပဋ္ဌမသံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီး လက်ထက်တော်တွင် ရေကြောင်းဘက်ဆိုင်ရာ ရေတပ်မတော် အမှုထမ်းတို့ ရင်ကွက်ဖြစ်သော မန္တလေးမြို့ ရွှေတုန်းလှေတန်းရပ်၌ အဖ ဦးမိုး-အမိ ဒေါ်မင်းသူတို့မှ သက္ကရာဇ် ၁၂၃၉-ခုနှစ် ဒုတိယဝါဆိုလဆုတ် ၉-ရက် သောကြာနေ့ ညဉ့် ၂-ချက်တီး ကျော်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ကလေးဖြစ်သည်။

## ပညာသင်ကြားခြင်း

ဆရာတော် လောင်းလျာ၏ ဖခင်ကြီး ဦးမိုးမှာ စစ်ကိုင်းဇာတိဖြစ်ရာ သီပေါမင်း ပါတော်မူပြီးနောက် စစ်ကိုင်းမြို့ ထုံးဘိုသောတာပန် အမျိုး အနွယ်ရှိရာ မိသားစုနှင့်အတူ သွားရောက် နေထိုင်ခဲ့လေသည်။ ဆရာတော် လောင်းလျာသည် ရှစ်နှစ်သား အရွယ်တွင် မိဘတို့ အပ်နှံသဖြင့် သောတာပန် တောင်ရေဦးတိုက် ဆရာတော် အရှင်သုမနထံ ရောက်ရှိ၍ ပညာသင်ကြား ခဲ့သည်။

## ရှင်သာမဏေဝတ်ခြင်း

၁၂၅၂-ခုနှစ် ဝါဆိုလဆန်း ၁-ရက်နေ့တွင် စစ်ကိုင်း တောင်ရိုး သောတာပန် တောင်ရေဦးတိုက် ဆရာတော် အရှင်သုမနထံ ရေဇုံချောင် ဆရာတော် ဘုရားကြီး ကိုယ်တော်တိုင် သရဏဂုံ ပေးသနား ချီးမြှောက်မှုဖြင့် ရှင်သာမဏေအဖြစ်သို့ ရောက်တော် မူခဲ့လေသည်။ ရှင်သောမာဘိသိရီဟု ဥပဇ္ဈာယ် ဆရာတော်က အမည်မှည့်ခေါ်တော်မူသည်။

## သာမဏေဝတ်ဖြင့် ပိဋကတ် အခြေခံကျမ်းများ ပေါက်အောင်သင်ယူ

ဆရာတော်အရှင်သုမနထံတွင်ပင် ကျောင်းသားဝတ်ဖြင့် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဇာတ်ကြီးဆယ်ဘွဲ့စသည်တို့ကိုစတင်သင်ယူခဲ့ပြီး သာမဏေဝတ်ဖြင့် ဆက်လက်၍ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဇာတ်ကြီးဆယ်ဘွဲ့၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်းတို့ကိုလည်း သင်ယူတော်မူခဲ့လေသည်။

## ဒက္ခိဏာရာမ ဝိဇ္ဇာဃတနကြီးသို့

သက္ကရာဇ် ၁၂၅၃-ခုနှစ် ဝါဆိုလတွင် စစ်ကိုင်း တောင်ရိုး ကျီးမနိုး ဆရာတော် ဖြစ်လတ္တံ့သော အရှင်ဝိသုဒ္ဓနှင့် အတူ လိုက်ပါ၍ မန္တလေးမြို့ ဒက္ခိဏာရာမဝိဇ္ဇာဃတနကြီးအတွင်းရှိ ပေဘောကျောင်း ဆရာတော်အရှင်ဉာဏိန္ဒ ထံ သီတင်းသုံးတော်မူ၍ သံသနာဃာတတိုက်အုပ် ဆရာတော် အရှင်အာစာရ၊ ဆရာတော် ဦးရန်ကုန်ခေါ် အရှင်သုဇာတ၊ ကဗျာနန်ခေါ် အရှင်နန္ဒိယတို့ ထံတွင် စာပေကျမ်းဂန် အရပ်ရပ်ကို သင်ယူတော်မူခဲ့လေသည်။

## ရဟန်းအဖြစ်သို့ ရောက်တော်မူခြင်း

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၅၈-ခုနှစ်တွင် တောင်ငူမြို့ စပါး ပွဲစားကြီး ဦးဘချိုနှင့် ဇနီး ပွဲစားတော် ဒေါ်ရွှေမ တို့၏ ပစ္စယာနုဂ္ဂဟဖြင့် တောင်ငူမြို့ စည်ပင်ကျောင်း ခဏ္ဍသိမ်တော်၌ ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော် ဆရာတော်ဦးရန်ကုန်ခေါ် အရှင်သုဇာတကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။

## ဆက်လက် ပညာသင်ကြားတော်မူခြင်း

ရဟန်းဖြစ်ပြီးနောက် မန္တလေး ဒက္ခိဏာရာမတိုက်သို့ ပြန်ကြွတော်မူ၍ ဆက်လက် ပညာသင်ကြားတော် မူခဲ့လေသည်။ ၁၂၆၁-ခုနှစ်တွင် စစ်ကိုင်း တောင်ရိုး ဝတ်ချက်မင်းကျောင်းဆရာတော် ထံသို့ ချဉ်းကပ်ရောက်ရှိ၍ နေတ္တိ ပါဠိတော်၊ အဋ္ဌကထာ စသည့် ကျမ်းဂန်အရပ်ရပ်ကို သင်ယူတော် မူခဲ့လေ သည်။ ၁၂၆၃-ခုနှစ်တွင် ရန်ကုန်မြို့ ဘင်္ဂလားတိုက်ဆရာတော်ကြီးထံ ရောက် ရှိ သီတင်းသုံးတော်မူ၍ သက္ကတ၊သီဟိုဠ် စသည့် ဘာသန္တရ စာပေများကို သင်ယူလေ့လာတော် မူခဲ့သည်။ ဘင်္ဂလားဆရာတော်ကြီးနှင့် အတူ အိန္ဒိယ နိုင်ငံ မဇ္ဈိမဒေသ၊ သီဟိုဠ်၊ ယိုးဒယား နိုင်ငံများသို့လည်း သာသနာရေးဆ ဓမျာ့လေ့လာရန် ကြွတော်မူခဲ့သည်။

## တောင်ငူ၌သီတင်းသုံး စာချ

ရဟန်းဒါယကာကြီးဦးဘချိုနှင့် ရဟန်းဒါယိကာမကြီး ဒေါ်ရွှေမ၊ ညီမ ဒေါ်ဖွားခင်တို့ တည်ဆောက် လှူဒါန်းသည့် တောင်ငူမြို့ ပိဋကတ္တယာရာမ

ကျောင်းတိုက်ကို အလှူခံတော်မူ၍ ရောက်ရှိလာသော စာသင်သား ရဟန်းသာမဏေတို့အား နေ့ဝ ညဥ့ ါ စာပေပို့ချ သာသနာပြုတော်မူခဲ့သည်။

## မစိုးရိမ်ဆရာတော်ဟု ထင်ရှားခြင်း

ဘက်သားဆရာတော်ကြီး အရှင်ရေဝိန္ဒသည် သက္ကရာဇ်၁၂၇၁-ခုနှစ် ငါဆိုလဆန်း ၁၀-ရက်နေ့တွင် မန္တလေးမြို့ အနောက်ပြင် မစိုးရိမ် ကျောင်းတိုက်ကြီးကို အာဂတာနာဂတ စာတုဒ္ဒိသ သံဃိကရေစက်ချ အလှူခံတော်မူပြီး တဝါခန့် သီတင်းသုံးတော်မူ၍ အရှင်သောမာဘိသီရိအား လွှဲအပ်တော်မူသည်။ အရှင်သောမာဘိသိရီသည် ဖော်ပြပါ မစိုးရိမ်ကျောင်းတိုက်ကြီးကို မဟာနာယကဖြစ်၍ သီတင်းသုံးတော်မူပြီး စာပေကျမ်းဂန် အရင်းရပ်ကို ချပို့သာသနာပြုတော်မူခဲ့လေသည်၊ ထိုအခါမှစ၍ မစိုးရိမ် ဆရာတော်ဟု ထင်ရှားလေသည်။

## စစ်ကိုင်းတောင်ရိုး မဟာသစ်ဝင်ချောင်သို့

၁၂၈၇-ခုနှစ် စစ်ကိုင်းတောင်ရိုး ငတ်ချက်ရွာအနီး မဟာသစ်ဝင်ချောင် မစိုးရိမ်တောရကျောင်းကို တည်ထောင်တော်မူသည်၊ ၁၂၈၈-ခုနှစ် ဝါဆိုဦးတွင် ဖော်ပြပါ မဟာသစ်ဝင်ချောင် မစိုးရိမ်တောရကျောင်း၌ သီတင်းသုံးတော်မူ၍ ပရိယတ်၊ ပဋိပတ် အလုပ် နှစ်ရပ်ကို ကြိုးကုတ်တော် မူခဲ့လေသည်။

## ကျမ်းဂန်များစွာ ပြုစီရင်တော်မူခြင်း

ဆရာတော်သည် ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခဲ့လေသည်။ ၎င်းတို့မှာ—

၁။ သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်ကျမ်း (ပဋ္ဌမတွဲ)၊
၂။ ဏွာဒိမောဂ္ဂလ္လာန်နိဿယ၊
၃။ စိသုဒ္ဓိမဂ်သီလနိဒ္ဒေသ၊ ဓုတင်နိဒ္ဒေသ မြန်မာပြန်၊
၄။ တေပိဋကသာရ ရတနာဝလိကျမ်း၊
၅။ ဗုဒ္ဓဝင်ချုပ်ကျမ်း၊
၆။ အမ္ဗပါလီထေရီဝတ္ထု၊

၇။ ပြဟ္မစိုရ်လက်စွဲကျမ်း၊
၈။ သင်္ချာဂဏ္ဌိဝိသောဒနီကျမ်း၊
၉။ စစ်ကိုင်းတောင်ရိုး သမိုင်းမှတ်တမ်းအဘ္ဘုပ္ပတ္တိကျမ်း၊
၁၀။ ထေရဝံသစာရှုက္ကမပဒီပိကာကျမ်း၊
၁၁။ နိရုတ္တိပဋ္ဌာဗျာကရဏကျမ်း၊
၁၂။ ဗုဒ္ဓဗောဓနီသယကျမ်း၊
၁၃။ အမရကောသအဘိဓာန် မြန်မာပြန်ကျမ်း၊
၁၄။ သရသ္သတီဗျာကရဏ်းနိဿယကျမ်း၊
၁၅။ ပဋ္ဌာဗျာကရဏဝိနိစ္ဆယကျမ်း၊
၁၆။ သရဏတ္တာယသိဒ္ဓိကျင့်ထုံးကျမ်း၊
၁၇။ သင်္ဂဟသရုပ်ကျမ်း၊
၁၈။ သီမာဝိနိစ္ဆယကျမ်း၊
၁၉။ ပါဠိမောက်ဂဏ္ဌိကျမ်း၊
၂၀။ ဘက္ကုမဋ္ဌနသာဝဇ္ဇာနဝဇ္ဇဝိနိစ္ဆယကျမ်း၊
၂၁။ သကဘက္ကာဘာဝါဘာဝဝိနိစ္ဆယကျမ်း၊
၂၂။ ဓမ္မပဒသင်္ကြကျမ်း၊
၂၃။ သံဃဘေဒဝိနိစ္ဆယကျမ်း၊
၂၄။ ဒက္ခိဏာသာခါ ဘုရားပူဇော်နည်းကျမ်း၊
၂၅။ ဓမ္မဝိနယပူပဒေသနိဒါန်း၊
၂၆။ အသီတိဓာတုဝိဘာဂဒီပနီကျမ်း၊
၂၇။ မင်းဆက်ရာဇဝင်ကျမ်း၊
၂၈။ ဆန်း၊ နိဿယနှင့် အဆုံးအဖြတ်ကျမ်း၊
၂၉။ ဓမ္မပဒဂါထာဆန်းစစ်ကျမ်း၊
၃၀။ သဒ္ဒါအဆုံးအဖြတ်ကျမ်း၊
၃၁။ ဆေး အဘိဓာန် (ပါဠိ၊ မြန်မာ၊ ဘင်္ဂါလီ၊ နာဂရီ၊ အင်္ဂလိပ်၊
ယိုးဒယား၊ သီဟိုဠ်- ၇-ဘာသာဖြင့် ရေးသောကျမ်း)၊
၃၂။ အထွေထွေ အမေးပုစ္ဆာအဖြေနှင့် သိမ်အောင် စာတမ်းများ၊
၃၃။ တိရစ္ဆာနဝိသောဓကကျမ်း၊
၃၄။ လက်ကျာအောင်မြေလုပ်ထုံး အဖြေကျမ်း၊
၃၅။ အင်္ဂိယအဘိဓာန်ကျမ်း၊
၃၆။ နေတ္တိပါဠိတော် နိဿယသစ်-စသည်တို့ ဖြစ်ကုန်၏။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခြင်း

ဆရာတော်သည် ဖော်ပြပါ ပရိယတ် ပဋိပတ် နှစ်ရပ်သော လုပ်ဆောင်ချက်တို့ကြောင့် အင်္ဂလိပ်အစိုးရတို့ လှူဒါန်းသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့ဘံဆိပ်တော်ကို ၁၂၉၂-ခုနှစ် ပြာသိုလဆန်း ၁၄-ရက်နေ့တွင် အလှူခံ ရရှိတော်မူခဲ့လေသည်[၁]။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ ထူးခြားသည့် ပရိယတ္တိ ပဋိပတ္တိ သာသနာ့ဝန်ဆောင် ဒက္ခိဏာရာမ အနွယ်ဝံသဏ္ဍား ဖြစ်တော်မူသော အရှင်သောမာဘိသိရီသည် သက်တော် ၆၃၊ သိက္ခာတော် ၄၃-ဝါ အရ ၁၃၀၁-ခုနှစ် သီတင်းကျွတ်လဆန်း ၃-ရက်နေ့ ၁၁-နာရီအချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်[၂]။

## သံဝေဂယူရန်

လူ၌ကြီးဘိ၊ သားအမိပင်၊ မချိကယ်ရေး၊ ကိုယ်လွတ်ပြေးသည့်၊ မီးဘေးရေဘေး၊ ပြည်ပျက်ဘေးလည်း၊ ဆယ်ရေးတခရေ၊ ကယ်နိုင်သေး၏၊ အိုဘေး နာဘေး၊ သေခြင်းဘေးဟု၊ ဤဘေးသုံးပါး၊ လွန်ကြီးမားကား၊ သားနှင့်အမိ၊ ဖြစ်တုံဘိလည်း၊ မျက်စိအောက်တွင်၊ ရင်ခွင်တင်လျက်၊ သက်သက်ရေးပိုင်၊ မတယ်နိုင်ဘူး၊ လက်မှိုင်ချကာ၊ နေရစွာရှင့်[၃]။

---

၁။ သာသနာဝင် ဘွဲ့တံဆိပ်တော်များ သမိုင်း ၇၇-၌ ၁၃၀၀-ပြည့်နှစ် အဂ္ဂမဟာပဏ္ဍိတ ရရှိသည်ဟု မှတ်တမ်းတခု အရ ဖော်ပြထားသည်။
၂။ စစ်ကိုင်း သာသနာဝင်။ ၂၀၀-၂၀၈ ကြည့်။
၃။ ခေသဒေဝ။ ၂၇၄၊ ၄၀၀။

## ဒက္ခိဏာရာမအနွယ် မြို့မိဆရာတော်

## အရှင်ဇေယျသေန

နာမည်ကျော် ''ထေရုပဒါန် ဝတ္ထုတော်ကြီး''စသည့် ကျမ်းစာများကို ပြုစီရင်တော်မူခဲ့သော မြို့မိဆရာတော်ဘုရားကြီး အရှင်ဇေယျသေနသည် ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြား တတ်မြောက်တော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင်တော်မူခြင်း

ဆရာတော်သည် မကွေးမြို့ ရေအောင်တိုက်နယ် မြို့မိရွာ၌ သက္ကရာဇ် ၁၂၄၄-ခုနှစ်တွင် မီးရှူးသန်စင် ဖွားမြင်တော်မူခဲ့သည်။ နံတော် အင်္ဂါသား ဖြစ်သည်။

### ကျောင်းနေ ပညာသင်

သက်တော် ၁၀-နှစ်သားအရွယ်တွင် သရနော်ရွာ ဆရာတော်ထံ ရောက်ရှိ၍ သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ ပရိတ်ကြီး စသည့် လောကုတ္တရာအခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။ သရနော်ရွာ ဆရာဘုန်းတော်ကြီးဘုရားက ''ဤသူငယ် ပညာတတ်မည် ကောင်း၏''ဟု မြော်မြင် သိရှိတော်မူသဖြင့် ဂရုစိုက်၍ သင့်လျော်သည့် စာပေများကိုလည်း သင်ပြပေးတော်မူသည်။

### ၁၁-နှစ်သား သာမဏေဝတ် သာသနာ့ဝန် ထမ်းဆောင်

သက်တော် ၁၁-နှစ်သားအရွယ်တွင် ရှင်သာမဏေဝတ်၍ ဘုရားဇိနော်သာသနာတော်ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဥပဇ္ဈာယ်ဆရာတော်က ''ဤသာမဏေသည် ကာမဖွဲ့နှောင် လူတို့ဘောင်ကို အပြီးတိုင် ရှောင်ခွါမည့် ပုဂ္ဂိုလ်ထူး ဖြစ်ပေလိမ့်မည်၊ အောင်သင့်အောင်ထိုက်သည့် ကာမအနှောင်ကို ကောန် အောင်မြင်သည့် သာသနာ့ စစ်သည်တော် ရဟန်းတော်ကောင်း'' ဟူသော ပဝတ္တနိမိတ်ကို ယူတော်မူ၍ ရှင်ဇေယျသေန-ဟူ မှည့်ခေါ်တော်မူ

သည်။ ယင်းသို့ဖြစ်ကြောင်း "ဇေယျသေနာဘိဓာနေန၊ အသက် ဆယ်နှစ်ကျောင်းသားဖြစ်၍ ဆယ့်ဘနှစ်အရွယ် သူငယ်စဉ်ကာ သင်ပြမကွာ ငယ်ဆရာသည် နောင်ခါ စင်စစ် ရဟန်းဖြစ်မည် ဘွဲ့ချီထူးထွေ မှည့်ခေါ်လေ၍ ဦးဇေယျသိန် ဟူသော အမည်ကိုရသော"[၁] ဟူ၍ ကိုယ်တိုင် ဖော်ပြတော်မူခဲ့သည်။

## ရဟန်းဘဝ ဒုလ္လဘသို့ ရောက်ခြင်း

သက်တော် နှစ်ဆယ်ပြည့်မြောက်ရာအခါတွင် ဥဇ္ဈာယ်ဆရာတော် ဆင်မြင်တော်မူသည့်အတိုင်း ရဟန်းဘဝ ဒုလ္လဘသို့ ရောက်ရှိတော်မူခဲ့လေသည်။ အရှင်ဇေယျသေနသည် ရဟန်းငယ်ဘဝကပင် သိက္ခာသိက္ခာကို ရှိသေစွာ ထိန်းစောင့်ရှောက်တော်မူကာ ဘုရားမြတ်စွာ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

## ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးသို့

အရှင်ဇေယျသေန စာသင်သား ရဟန်းငယ်အရွယ်တွင် မန္တလေးမြို့ ဒက္ခိဏာရာမကျောင်းတိုက်ကြီး၏ ပရိယတ္တိဂုဏ်သတင်းသည် အရှင်ဇေယျသေနဘံသို့လည်း ကြားလိုက်ခဲ့လေသည်။ သို့ဖြစ်၍ အရှင်ဇေယျသေနသည် "ငါသည် မန္တလေးမြို့ ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးသို့ မချမဖောက် အရောက်သွား၍ ဂန္ထန္တရ အဝေးစားကို ကြီးမားသော လုံ့လဝီရိယဖြင့် သင်ယူ၍ ဝိညူဂိုဏ်းဝင် ပညာရှင်လုပ်မည်" ဟု ဆုံးဖြတ်ချက် ချတော်မူပြီး မန္တလေးမြို့ ဒက္ခိဏာရာမ ဝိဇ္ဇာယတနကြီးသို့ ကြွရောက် သီတင်းသုံးတော်မူ၍ မဟာနာယက ဆရာတော်ဘုရားကြီး အရှင်အာစာရ၊ စာချအကျော် ဆရာတော် ဦးရန်ကုန်ခေါ် အရှင်သုဇာတ စသည်တို့ထံတွင် သင်အပ်သမျှ ဂန္ထန္တရ အာဝကို သင်ယူတော်မူခဲ့လေသည်။

ဒက္ခိဏာရာမံ ပတ္တာန၊ ဒက္ခိဏာနံ သုဝိညုနံ၊
ဗဟူနံ ဂန္ထာနံ သော ဟိ၊ သမ္မာ ဥဂ္ဂဟဏံ ကရိ။

ရင်းဖြင့် ပခုက္ကူမြို့ မဟာဝိသုဒ္ဓာရာမ တိုက်တော်တည် ဒီဃဒဿီ ဆရာတော်ဘုရားကြီးအထံတော်၌လည်း နိကာယ်ငါးကျမ်းဂန္ထကိုမဟုဿုတဟ ဖွဲ့လုံ့လဖြင့် လိုက်နာ သင်ယူတော်မူခဲ့လေသည်။

---

၁။ ထေရုပ္ပဒါန် ဝတ္ထုတော်၊ ၁။ ၅၀၆။

## လုပ်ဆောင်ချက်များ

ဆရာတော်ကား နောင်လာ နောက်သား ရဟန်းသာမဏေတို့အား "အို နောင်လာ နောက်သား ညီတော် ရဟန်းသာမဏေများ၊ သင် ညီတော် ရဟန်းသာမဏေတို့သည် ငါနှယ်အလား အလုပ်လုပ်ကြရမည်"ဟု ပြောဆို ညွှန်ပြသည့်အလား သာသနာတော်၌ ကောင်းမြတ်သော အလုပ်များစွာတို့ကို ပြုလုပ်တော် မူခဲ့လေသည်။ မန္တလေး၊ ပခုက္ကူ ပညာသင်နည်း နှစ်မျိုးလုံး သင်ယူ တတ်မြောက်တော် မူပြီးနောက် စစ်ကိုင်းတောင်ရိုးသို့ ကြွရောက် သီတင်းသုံးတော်မူ၍ သပိတ်တလုံး သုံးထည်သော သင်္ကန်းကိုဆောင်တော် မူ၍ ပဋိပတ်အလုပ်ကို ကြိုးကုတ်အားသစ်တော် မူခဲ့လေသည်[၁]။ ရဟန်း သာမဏေ၊ ဥပါသကာ ဥပါသိကာတို့အား ဝိပဿနာတရားများကို ဟောကြား တော်မူ၍လည်း ချီးမြှောက်တော်မူခဲ့လေသည်။

## လေးဘာသာ စာသင်ကျောင်း တည်ထောင်ခဲ့

ဝိပဿနာတရားတော်များ ဟောကြားတော်မူယင်း ဖျာပုံမြို့၌ သီတင်း သုံးတော်မူစဉ် ခေတ်ကာလသမယ အခြေအနေအရ မြန်မာ၊ အင်္ဂလိပ်၊ ဟိန္ဒီ၊ ပါဠိ လေးဘာသာ စာသင်ကျောင်းကိုသည်း တည်ထောင် ဖွင့်လှစ်တော် မူခဲ့လေသည်။

## ဝိပဿနာ ဆောင်းပါးများ ရေးသားခြင်း

၎င်းပြင် ရန်ကုန်မြို့ ပဋိပတ္တိသာသနာနုဂ္ဂဟ အသင်းကြီးမှ ထုတ်ဝေသည့် လစဉ်စာစောင်များ၌လည်း ဝိပဿနာ ဆောင်းပါးများစွာတို့ကို ရေးသား ချီးမြှင့်တော်မူခဲ့သည်။

## ကျမ်းစာပြုစုအားထုတ်မှု

ဤမျှဖြင့် သာသနာပြုရသည်ကို အားရကျေနပ်တော်မမူသေးပဲ ရန်ကုန်မြို့ သရက်တော ကျောင်းတိုက်အတွင်း ဝါးကျောင်းကလေး တကျောင်း၌ သီတင်းသုံးတော်မူကာ ကျမ်းဂန်များစွာတို့ကိုလည်း ရေးသားစီရင်တော် မူခဲ့သေးသည်။ ၎င်းတို့မှာ-

---

၁။ စစ်ကိုင်းတောင်ရိုး၌ ပါဠိတော်ဂိုဏ်းကို တည်ထောင်သည်ဟု အဆိုရှိသည်။

၁။ ထေရာပဒါန် ဝတ္ထုတော်ကြီး ပဌမတွဲ၊
၂။ ထေရာပဒါန် ဝတ္ထုတော်ကြီး ဒုတိယတွဲ၊
၃။ ထေရာပဒါန် ဝတ္ထုတော်ကြီး တတိယတွဲ၊
၄။ ထေရာပဒါန် ဝတ္ထုတော်ကြီး စတုတ္ထတွဲ၊
၅။ ထေရီ အပဒါန် ဝတ္ထုတော်ကြီး ပဌမတွဲ၊
၆။ ထေရီ အပဒါန် ဝတ္ထုတော်ကြီး ဒုတိယတွဲ၊
၇။ ထေရီ အပဒါန် ဝတ္ထုတော်ကြီး တတိယတွဲ၊
၈။ ထေရီ အပဒါန် ဝတ္ထုတော်ကြီး စတုတ္ထတွဲ၊
၉။ ဝိမာန ဝတ္ထုတော်ကြီး၊
၁၀။ သုတ်သီလက္ခန် ဝတ္ထုတော်ကြီး၊
၁၁။ မူလ ပဏ္ဏာသ ဝတ္ထုတော်ကြီး၊
၁၂။ ငါထိသက်ဆိုင်းကျမ်း၊
၁၃။ ဝိပဿနာ ခတ်ပညာကျမ်း၊
၁၄။ မေတ္တာဖလပကာသနီကျမ်း၊
၁၅။ ဝိပဿနာဖြတ်လမ်းကျမ်း၊
၁၆။ ဇော်ဂျီ ဝိဇ္ဇာလမ်းမှန်ကျမ်း-

စသည်တို့ ဖြစ်ကုန်၏။

## ထေရာပဒါန်ဝတ္ထုတော်ကြီး ပဌမတွဲ

ထေရာပဒါန် ဝတ္ထုတော်ကြီးကို-

၁။ သမ္ဗုဒ္ဓေ အဋ္ဌဝီသဉ္စ၊ ဒွါဒသဉ္စ သဟဿကေ။
ပဉ္စသတသဟဿာနိ၊ နမာမိ သိရသာ မဟံ။
တေသံ ဓမ္မဉ္စ သံဃဉ္စ၊ အာဒရေန နမာမဟံ၊

၂။ နမက္ကာရာနုဘာဝေန၊ ဟိတွာ သဗ္ဗေ ဥပဒ္ဒဝေ။
အနေကာ အန္တရာယာပိ၊ ဝိနဿန္တု အသေသတော။

(၁) အဋ္ဌဝီသံ၊ နှစ်ကျိပ် ရှစ်ဆူကုန်သော။ သမ္ဗုဒ္ဓေစ၊ မြတ်စွာဘုရားတို့ကို လည်းကောင်း။ ဒွါဒသဉ္စသဟဿကေ၊ တစ်သောင်း နှစ်ထောင်ကုန်သော မြတ်စွာဘုရားတို့ကိုလည်းကောင်း။ ပဉ္စသတသဟဿာနိ၊ ငါးသိန်းကုန်သော မြတ်စွာဘုရား တို့ကို လည်းကောင်း။ အဟံ၊ အကျွန်ုပ်သည်။ သိရသာ၊ ဦးခေါင်းဖြင့်။ နမာမိ၊ ရှိခိုးပါ

> ၏။ တေသံ၊ ထိုငါးသိန်းတသောင်း နှစ်ထောင် နှစ်ကျိပ်ရှစ်ဆူ ကုန်သော မြတ်စွာဘုရားတို့၏။ ဓမ္မဉ္စ၊ တရားတော်ကို လည်းကောင်း။ သံဃဉ္စ၊ သံဃာတော်ကို လည်းကောင်း။ အဟံ၊ အကျွန်ုပ်သည်။ အာဒရေန၊ ရိုသေစွာ။ နမာမိ၊ ရှိခိုးပါ၏။
>
> (၂) နမက္ကာရာနုဘာဝေန၊ ရှိခိုးသော စေတနာ၏ အစွမ်းအာဖြင့်။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ဥပဒ္ဒဝေ၊ ဘေးရန်တို့ကို။ ဟိတွာ၊ ပယ်ပျောက်စေ၍။ အနေကာ၊ များစွာကုန်သော။ အန္တရာယာအပိ၊ အန္တရာယ်တို့သည်လည်း။အသေသတော၊ အကြွင်းမရှိသော အားဖြင့်။ ဝိနဿန္တု၊ ကင်းပျောက်စေကုန်သတည်း။

ဟူသော သမ္ဗုဒ္ဓေ ဘုရားရှိခိုးဂါထာငါးဆယ့်နှိုင်ဖြင့် လည်းကောင်း၊ "ကပ္ပေစ သတသဟဿေ" စသော ၇-ဂါထာ၌ ပါ၀င်နိုင်ငံ စသည်ဖြင့်လည်းကောင်း ဂန္ထာရမ္ဘပြုတော်မူခဲ့လေသည်။

ကျမ်း၏အဆုံး၌သည်း—

၁။ ယံ ရဋ္ဌံ ဇမ္ဗုဒီပေန၊ မဟိတလေန ဒီပိတံ။
ဇမ္ဗုဒီပေတိ တံရဋ္ဌံ၊ ဝေါဟာရေ ပုဗ္ဗကပ္ပိကာ။

၂။ နဒိယာ နိဝတ္တနမ္ဘိ၊ ယံတံ ဘိဋ္ဌတိ နဂရံ။
နဒိနိဝတ္တနံ ဣတိ၊ ဝေါဟာရေ ရဋ္ဌဝါသိကာ။

၃။ ဇမ္ဗုဒီပဝှယေ ရဋ္ဌေ၊ နဒိနိဝတ္တနေ ပုရေ။
ဂါမေ နဂရမာတုကေ၊ ဇာတေန သုကတာမယာ။

၄။ ဇေယျသေနာဘိဓာနေန၊ မဟာထေရေန ဘိက္ခုနာ။
ပါရမီပူရဏတ္ထာယ၊ အပဒါနဿ ဝဏ္ဏကံ။

၅။ အဋ္ဌာသီတိဝဿာဓိကေ၊ ဒွိသတသ္မိံ သဟဿကေ။
ဒသာဟဇုဏှကတ္တိကေ၊ ပဉ္စမတ္တံ သုနိဋ္ဌိတံ။

၆။ ယထာ အနန္တရာယေန၊ အပဒါနဿ ဝဏ္ဏကံ။
ဧဝံ ကလျာဏာသင်္ကပ္ပာ၊ သီဃံ သိဇ္ဈန္တု ပါဏိနံ။

၁။ ယံရဋ္ဌံ၊ အကြင်ဟိမဝန္တာ မဟာအိုင်မြတ် နောတတ်ပဘာဝါ အစဉ်ဖြာလျက် ဂင်္ဂါမသွေ ရောဝတီမြစ်မဟီဖြင့် နာမည်ကျော်လှိုင်း မြန်မာ့တိုင်းကို။ ဇမ္ဗုဝဏ္ဏေန၊ အရုဏဝတီ စံမှီသို့ နီနီလွှင်လွှင်

ကြည်လင်သန့်ရှင်း ထိန်ထိန်ဝင်းသော။ မဟီတလေန၊ စည်မျက်နှာသွင် အပြင်ညီစွာ မဟီချာတွင် သီတာဖြန်းစွေ ရွှန်းရွှန်းလေလျက် စမ်းရေစိမ့်ရေ တွေတွေသွင်သွင် မြေပြင်မခန်း ရေရှင်လမ်းလှူကျ် အေးချမ်းရိပ်မြုံ ရုံပိတ်ဆိုင်းရေယဉ်ဝိုင်းသောအင်တိုင်းမြေအပြင်ဖြင့်။ ဒိပိတံ၊ နိမိတ်ခြင်းရာ လက္ခဏာနှင့် မှတ်ရာတင်တပ် ဖော်ပြအပ်၏။ တံရဋ္ဌ၊ ထိုသို့ကြောင်းဟိတ် ဂုဏ်နိမိတ်ဖြင့် ကျော်ဘိတ်ဝှန့်သူ ဇမ္ဗူတခွင် မြေပြင်မဆန့် ပြန့်နှံ့ကျော်လှိုင်း မြန်ပြည်တိုင်းကို။ တမ္ဗဒီပေါ်တိ၊ တမ္ဗဒီပတိုင်းဟူ၍။ ဝါ-မြေနီကျွန်းဟူ၍။ ပုဗ္ဗကပ္ပိကာ၊ကမ္ဘာဦးသူ ရှေးလူကဝိ ပညာရှိတို့သည်။ ဝေါဟာရေ၊ နာမည် ထုတ်ဖော် သမုတ်ခေါ်ဆိုကြကုန်၏။

၂။ ယံနဂရံ၊ အကြင်မြို့သည်။ နဒိယာ၊ ရောဝတီမြစ်၏။ နိဝတ္တနမှို၊ သောင်နုသဲပြင် ရေယဉ်တိုက်ဇွေ ဆင်ပ်ကမ်းကွေ့၌။ တိဋ္ဌတိ၊ တိုက်အိမ်ဈေးလမ်း စီစဉ်တန်းလျက် ခမ်းနားထင်ပေါ် မွေလျော်ပျော်ရှင် ရှုချင်စဖွယ် တင့်တယ်သပ်ရပ် လျှောက်ပတ်သဖြင့် အနေသင့်လျက် ဗွေမြင့်မြန်မာ ဝတီသာကို ပမာနှုန်းမှု အတူပြုလျက် တုဘက်ယှဉ်မှီ ပြိုင်လျက်တည်၏။ တံနဂရံ၊ ထိုမြို့ကို။ နဒီနိဝတ္တနံ၊ မြစ်ကွေ့မြို့ဟု လူတို့ရှေးက ခေါ်ဆိုကြလည်း ကာလနောက်ပွား လူအများတို့ စကားရွေ့ပြောင်း အကြောင်းစာများ ရေးသားပေးပို့ မကွေးမြို့ဟူ၍။ ရဋ္ဌဝါသိကာ၊ မြန့်တိုင်းနေသူ မြန်မာလူ တို့သည်။ ဝေါဟာရေ၊ နာမည်ထုတ်ဖော် သမုတ်ခေါ်ကြကုန်၏။

၃။ တမ္ဗဒီပဝှယေရဋ္ဌေ၊ တမ္ဗဒီပနာမခေါ်တွင် ကျော်ထင်သမိုင်း မြန်ပြည်တိုင်း၌၊ နဒီနိဝတ္တနေပုရေ၊ မကွေးမြို့၌။ ဂါမေနဂရမာတုကော၊ မြို့မိရွာ၌။ ဇာတေန၊ ဇာတ်သစ်ပုန လူ့ဘဝသို့ ဇာတဖွားမြောက် သန့်စင်ရောက်သဖြင့်။ ဘိက္ခုနော၊ ဥပသမ္ပဒါ အင်္ဂါစုံလင် ရဟန်းဖြစ်သော။ ဇေယျသေနာဘိခေနေန၊ အသက်ဆယ်နှစ် ကျောင်းသားဖြစ်၍ ဆယ့်တနှစ်ရွယ် သူငယ်စင်က သင်ပြမကွာ ယယ်ဆရာသည် နောင်ခါစင်ဇစ် ရဟန်း ဖြစ်မည် ဘွဲ့ချီထူးတွေ မှည့်ခေါ်လေ၍ ဦးဇေယျသိန်ဟုသော အမည်ကိုရသော။ မဟာထေရေန၊ ယခုအခါ ဝါနှစ်ဆယ်ရပြီး မထေရ်ကြီးဖြစ်သော။ မယာ၊ ငါသည်။

၄။ ပါရမီပူရဏတ္ထာယ၊ ပါရမီ ပြည့်စေခြင်းငှာ။ သုကတံ၊ ကောင်းစွာစီစဉ် ပြုပြင် ကြိုးစား ရေးသားခြင်းကို ပြုအပ်သော။ အပဒါနသ၊ ဘုရားပစ္စေကဗုဒ္ဓါ ရဟန္တာအရှင်မြတ် တို့သည် မိမိတို့

ပါရမီဖြည့်ပုံ၊ ဗျာဒိတ်ယူပုံအကြောင်းအရာတို့ကို ကောင်းစွာ ဟော ကြားတော်မူအပ်သော အပဒါန် ပါဠိတော်၏။ ဝတ္ထုကာ၊ ပါရမီ အကြောင်းအရာတို့ကို ကောင်းစွာ စုပေါင်း၍ ပြဆိုဖြစ်သော ဝတ္ထု ကျမ်းသည်။

၅။ အဌသဠိဘိဝဿာဓိကေ၊ ရှစ်ဆယ့်ရှစ်ခု အလွန်ရှိသော။ ဒွိသတသို့ သဟဿကေ၊ တထောင့်နှစ်ရာ နှစ်ကောဇာ၌။ ဝါ၊ တထောင့်နှစ်ရာ ရှစ်ဆယ့်ရှစ် ခုနှစ်၌။ ဒသာဟဇုဏှကတ္တိကေ၊ တန် ဆောင်မုန်းလဆန်း ၁၀-ရက်နေ့၌။ ပဌမတ္တံ၊ ပဌမတွဲသည်။ သုနိဋ္ဌိတံ၊ ကောင်းစွာပြီးပြီ။

၆။ အပဒါနဿ၊ အပဒါန် ပါဠိတော်၏။ ဝတ္ထုကံ၊ ဝတ္ထုသည်။ အနန္တရာယေန၊ အန္တရာယ်မရှိသဖြင့်။ သုနိဋ္ဌိတံ-ယထာ၊ ကောင်းစွာ ပြီးသကဲ့သို့။ ခေံ၊ ဤအတူ။ ပါဏိနံ၊ သတ္တဝါတို့၏။ ကလျာဏာ သင်္ကပ္ပာ၊ ကောင်းသောအကြံတို့သည်။သီဃံ၊ လျင်မြန်စွာ။ သိဇ္ဈန္တု၊ ပြီးစီးကြစေကုန်သတည်း။

ဟူသော ၆-ဂါထာပါ၌နိဂုံးသဖြင့် တမ္ဗဒီပဗျူပွတ်၊ နဒီနိတ္တန (မကွေး) ဗျူပွတ်-စသည်နှင့်တကွ ပြည့်စုံစွာ ဖော်ပြ၍ နိဂုံးအုပ်တော် မူခဲ့လေသည်။ ယင်းထေရာပဒါန်ဝတ္ထုတော်ကြီး မှာ ၁၃၃၆-ခုနှစ် တပေါင်းလတွင် ဒုတိယ အကြိမ်ရိုက်ရာ ရွှိုင်ဆိုက်ဖြင့် စာမျက်နှာ ၅၀၇-မျက်နှာ ရှိလေသည်။

## ထေရာအပဒါန်ဝတ္ထုတော်ကြီး ဒုတိယတွဲ

ထေရာအပဒါန် ဝတ္ထုတော်ကြီး ဒုတိယတွဲသည်လည်း စိတ်ဝင်စားစရာ ကောင်းသည့်ကျမ်းစာကြီးဖြစ်သည်၊ ပင်ကိုယ်ပါဠိတော်၊အဋ္ဌကထာ များကိုက အလွန်လျှင် ကြည်ညိုစရာကောင် လေရာ ဆရာတော် အရှင် ဇေယျာသနက ထပ်မံ၍ မွမ်းမံပြန်ဆို ရေးသားထားရာ အတိုင်းထက်အလွန်လျှင် စိတ်ကြည် လင်စရာ ဝတ္ထုတော်ကျမ်းဂန်ကြီး ဖြစ်လေသည်၊ ဆရာတော်သည် ယင်း ကျမ်းကြီး နိဒါန်း၌ အမျိုးသား အမျိုးသမီးတို့ ကုသိုလ်ကောင်းမှု ပြုချင် လာအောင် ပါရမီမျိုးစေ့ စိုက်ပျိုးချင်လာအောင် အောက်ပါလင်္ကာကြီး ဖြင့် နှိုးဆော်တော်မူခဲ့လေသည်။

## ပါရမီစိုက်ပျိုးရန်နှိုးဆော်သည့်အပဒါန် နိဒါန်းလင်္ကာတော်

နိဒါန်းအစ လင်္ကာပြုပိမ့် ဒုတိယမှတ် ရေးသားအပ်၍ နောက်ထပ် တဖန် အပဒါန်ဟု ပြပြန်၍ကျမ်း ဗျာဒိတ်ခန်းကို ရှင်လန်းကြည်ဖြူ

ကြည့်ရှုသူတို့ ဆုယူပန်သ တောင်းကုန်ကြ၍ ပုညအစ ကုသိုလ်မှုကို ဂရုစိုက်ကာ ပြုကြပါလျှင် ပြုစရာတွေ ပေါများချေ၏ စေတနာများ သဒ္ဓါပွားလျက် တတ်အားသမျှ ပြုကုန်ကြလော့ ဦးချည့်တ်ကျိုး လက်အုပ်မိုး၍ ရှိခိုးရုံမျှ ကုသိုလ်ရ၏ စိတ်ကကြည်သ ပြုလုပ်ပါလျှင် နှံသာတစက် ရေတခွက်နှင့် သစ်ရွက်ဇာဆုပ် လက်အုပ်တချီ ပြုလုပ်သည်ကို ပါရမီကံ ဖြစ်ကြောင်းမှန်၍ ကောန်နောင်ခါ ထွတ်မြတ်စွာတို့ ပွင့်ရာကြုံက ဗျာဒိတ်ရလိမ့် ဘဝချမ်းသာ စည်းစိမ်မှာကား စေတနာကံ ထက်သံသလောက် မျိုးစေ့ပေါက်၍ ပြီးမြောက်ကြီးပွား အကျိုးများလျက် စံစားဖို့ရာ ဖြစ်ပေါ်လာလိမ့် ကမ္ဘာအရှေ(ရှည်) ရှုမျှော်လေသော် သခင်္ချာသင်္ချာ များလှစွာ၍ ဘယ်ခါကာလ ဘယ်ဘဝ၌ ဒုက္ခပူကိန်း ငြိမ်းဘုတ်သိမ်း၍ အေးငြိမ်းဖို့ရာ မြတ်ချမ်းသာကို သေချာပိုင်ပိုင် မသိနိုင်ခဲ့ ကြီးနိုင်သမ္ဘာ ဘုန်းပညာနှင့် မြတ်စွာသခင် ဘုရားရှင်မှ သဗ္ဗညုဉာဏ်တော် ရှေ့နောက်မျှော်၍ သိတော်မူလျက် ဟောမိန့်ချက်ကို နှစ်သက်ဦးခိုက် ယုံကြည်ထိုက်၍ ကိုယ်၌အမြဲ မကွဲမပျောက်သွားရောက်ထိုင်အိပ် အရိပ်ပမာ ကုသိုလ်ပါအောင် ပါရမီမျိုးနောက်အကျိုးကို မျှော်ကိုး၍သာ စိုက်ပျိုးရာ၏ မြန်မာမျိုးဆွေ တို့တတွေမှာ ဘုန်းဝေမြတ်စွာ ရဟန္တာနှင့် ထေရာထေရီ မြတ်မထည်(ထေရ်)တို့ ပါရမီမျိုး စိုက်ပျိုးကြဲမြုပ် ပြုလုပ်ကြဟန် အပဒါန်ဟု ကျမ်းဂန်အလာ ဒေသနာကို မြန်မာစကား ငတ္ထုသွားဖြင့် ပြန်ကြားဖော်ပြ ရေးသားရ၍ အပဒါန်ခေါ် ဝတ္ထုတော်ဟု အဟောဝတ အံ့ဩရအောင် နာမကျော်ဟီး ဤကျမ်းကြီး၌ ကျင့်နည်းအသွယ်သွယ် လှုဖွယ်အဖြာဖြာ ပူဇော်ရာအဖုံဖုံ ဆုတောင်းပုံအတန်တန် ဗျာဒိတ်ခံ အလီလီ နတ်ပြည်လူ့ပြည် ကျင်လည်ခံစား သံကြားနတ်မင်း စကြာမင်းနှင့် လူမင်းအကြိမ်ကြိမ် စည်းစိမ်အမျိုးမျိုး အုပ်စိုးပိုင်သ စံစားရလျက် ဘဝနောင်ခါ ဉာဏ်ရင့်မာသော် ရဟန္တာမြတ် ဖြစ်တုံလတ်၍ ခပ်သိမ်းဒုက္ခ အေးငြိမ်းကြသည့် ထေရာပဒါန် ဝတ္ထုတည်း။

ရှင်းပြင်—

အနန္တဂုဏဗုဒ္ဓဿ၊ ဂုဏံ ထောမေမိ ဒါနိဟံ၊
သာရိပုတ္တေန ထေရေန၊ ဂါထာယေဒေဟိ ထောမိတံ။

အဟံ၊ ဖြစ်ပျက် ဖြစ်ပျက် အဆက်မပြတ် မရပ်မစဲ ပြောင်းလဲဖောက်ပြန် ရုပ်နာမ်နှစ်ဖြာ ခန္ဓာငါးခု ဖြစ်ပျက်စုကို ကိုယ်ဟုသမုတ် အကျွန်ုပ်သည်။ သာရိပုတ္တေန ထေရေန၊ အရှင်သာရိပုတ္တရာ မဟာ

ထေရ်မြတ်သည်။ ဂါထာပဒေဟိ၊ အပဒါန်လာ ဂါထာပုဒ်တို့ဖြင့်။ သောမိတံ၊ ချီးမွမ်းအပ်သော။ အနန္တဂုဏာဗုဒ္ဓံ၊ အနန္တဂုဏ်ရှင် ဘုရားသခင်၏။ ဂုဏံ၊ ညဏ်တော် ဂုဏ်တော် ကျေးဇူးတော်ကို။ ဣဓ ဒါနိ၊ ယခုအခါ၌။ သောမေမိ၊ ကြည်ညိုလှစွာ စေတနာဖြင့် သဒ္ဓါ ဝေရွှန်း ညဏ်ရောင်ထွန်းလျက် ချီးမွမ်းပါအံ့။ သုဏာထ၊ စဉ်းစဉ်း စားစား စိတ်ကောင်းကား၍ မှတ်သားနာယူကြကုန်လော့၊

ဟူသော ဥယျောဇဉ် ဂါထာပါဌ် နိဿယဖြင့် ကိုက်တွန်းတော်မူပြီး အရှင် သာရိပုတ္တရာ ဟောဆော်မူအပ်သော ဗုဒ္ဓဝံသပါဠိတော်လာ ပဏာမ ဂါထာ များစွာတို့ဖြင့် ဂန္ထာရမ္ဘ ပြုတော်မူခဲ့သည်။

၎င်းပြင်—

ဇယာသနေ ဇယံ ပတ္တော၊ ဇယန္တာနံ ဇယုတ္တရော။
ဇယံ ပဏ္ဏံ ဇယေသိနံ၊ ဇယံ ဒေတု ဇယုဿဝေါ။

ဇယာသနေ၊ အောင်မြေပလ္လင် ဗောဓိပင်၌။ ဇယံ၊ ငါးမာရ် နှိပ်နင်း အောင်မြင်ခြင်းသို့။ ပတ္တော၊ ရောက်တော်မူပြီးထသော။ ဇယန္တာနံ ကိလေသာမာရ် ကိုယ်တွင်းရန်ကို ပယ်လှန်နှိပ်နင်း အောင် ခြင်းကို ရကုန်ကြသော ပစ္စေကဗုဒ္ဓါ ရဟန္တာတို့ထက်။ ဇယုတ္တ ရော၊ ထူးမြတ်ကဲလွန် လွန်သော အောင်ခြင်း ရှိတော်မူထသော။ ဇယုဿဝေါ၊ အောင်ပွဲခံသခင် ဘုရားရှင်သည်။ ဇယံ၊ ကိလေသာ မာရ် ကိုယ်တွင်းရန်ကို ပယ်လှန်နှိပ်နင်း အောင်မြင်ခြင်းသို့။ ပတ္တုံ၊ ရောက်ခြင်းငှာ၊ ဇယေသိနံ၊ အောင်ကြောင်းရှာဖွေ အောင်စေသမှု အောင်ကြောင်းပြု၍ အောင်ဆုပန်ဆို အောင်လိုရန်သူ နတ်လူဗြဟ္မာ ပတ္ထနာဆုတောင်း ဗောဓိလောင်းတို့အား။ ဇယံ၊ အောင်ဆုတံဆိပ် အောင်ဗျာဒိတ်ကို။ ဒေတု၊ ပေးတော်မူပါစေသတည်း။

ဟူသော ဇယာသီသ မင်္ဂလာဂါထာပါဌ် နိဿယဖြင့် ဘောင်းဆုချီးဘော် မူခဲ့သည်။ ၎င်း ထေရာပဒါန် ဝတ္ထု ဒုတိယတွဲကျမ်းကြီးကို ၁၃၂၅-ခုနှစ်က ရန်ကုန်မြို့ ဗဟန်းသမ်းမကြီး မိဘမေတ္တာ ရွှေဘိုဆိပ် ပုံနှိပ်တိုက်တွင် ရိုက်ခဲ့ရာ ရှိုင်ဆိုက်ဖြင့် စာမျက်နှာ ၅၃၁-ရှိသည်။

## ထေရီအပဒါန် ဝတ္ထုတော်ကြီး

ထေရီအပဒါန် ဝတ္ထုတော်ကြီးမှာ မေ့ကထိက ပုဂ္ဂိုလ်များ၊ ကဗျာလင်္ကာ အရေးအသား ဝါသနာပါသူများ၊ ထေရီဂါထာ ပါဠိတော် အဋ္ဌကထာကို

ချပို့သည့် ဂဏ၀ါစကများ၊ သုတေသီများအဖို့ ရှိရမည့် လက်ကိုင်ပြုရမည့် ကျမ်းဖြစ်သည်။ ဆရာတော်သည် ဖော်ပြပါ ထေရီအပဒါန် ၀တ္ထုတော်ကြီး နိဒါန်းတွင် ဘိက္ခုနီမ သမိုင်းပြ လင်္ကာကြီးကို အောက်ပါအတိုင်း ဖော်ပြ တော်မူခဲ့သည်။

## ဘိက္ခုနီမသမိုင်းပြ လင်္ကာ[၁]

သုံးလူ့မြတ်စွာ စေသတ္တာ၏ မာယာမယ်တော် နတ်ရွာပျော်လျှင် ဘုန်းမော်ဘုရား လောင်းမြတ်ဖျားကို သနားချစ်ကြင် မေတ္တာယှဉ်၍ ရင်ခွင်ပွေ့ပိုက် နို့ချိုတိုက်လျက် သိုက်မြိုက်ယုယ မွေးမြူ၍ ဇုဒ္ဓ မာတာ ဘွဲ့တော်သာသည် ပဇာပတိ သာကီနွှင်းဆီ ဂေါတမီခေါ် မိထွေးတော်မြတ် မယ်တော်နတ်သည် ပဗ္ဗဇိတ ဥပသမ္ပဒါ သင်္ကန်း ၀ါနှင့် သာသနာထမ်း ရဟန်းမိန်းမ ပြုလုပ်ရေးအောင် ဦးချဘန်တန် ခွင့်တောင်းပန်သော် ဂရုဓံတရား ဤရှစ်ပါးကို မမှားမတိမ်း မယိမ်း မယိုင် သက်ဆုံးတိုင်အောင် ကျင့်နိုင်ပါမူ ကြည်ဖြူမနှေး ခွင့်တော်ပေး၍ မြတ်လေးကြည်လင် ဦးထိပ်ပြင်၀ယ် ပန်ဆင်ယူသုံး ပန်းကုံး ရတနာ ခိုင်မာလာကို ရှင်ဖြူကျင့်ရန် ဂရုဓံကို ၀န်ခံပြီးခါ သင်္ကန်း ၀ါနှင့် မဟာဂေါတမီ ဘိက္ခုနီတွင် ထေရီမြတ်လှ သူအစဘည့် နောက်မှငါးရာ သူနှင့်ပါသည် သာကီနွယ်ဘွား မိန်းမများကို ဘုရား မြတ်စွာ မိန့်အာဏာဖြင့် ကမ္မ၀ါစာ ဖတ်ကာရွတ်ကြား ရဟန်းများ က ပဉ္စင်ဖြင့် ဥပသမ္ပဒါ၊ အင်္ဂါငါးတန် ပဉ္စင်းခံ၍ ဘုန်းလျှံမြတ်စွာ သာသနာ၀ယ် ဖန်၀ါသင်္ကန်း ၀တ်ဆင်မြန်းလျက် ရဟန်းမိန်းမ ပြုကြ ပြီးခါ ထိုငါးရာမှ ဆယ်ခါနွယ်လာ များစွာထောင်သောင်း မိန်းမ ပေါင်းတို့ ဦးခေါင်းရိပ်တာ သင်္ကန်း၀ါနှင့် သာသနာ၀န်ထမ်း ရဟန်း မိန်းမ ပြုကြသူတွေ ပေါများလေ၍ ဘုန်းဝေမြတ်ဖျား ဟောကြား ညွှန်ပြ သြ၀ါဒဖြင့် မိန်းမသာသနာ ထွန်းလင်းဖြာသည် ရောင်၀ါ နေသို့ လင်း၏တည်း”[၂]

ရင်းမြစ် ကျမ်းဦး၌—

မာတုစ္ဆာအာဒိ ဣတ္ထီနံ၊ ပဗ္ဗဇ္ဇံ ဒေတိ ယောမုနိ၊
တဿ ဓမ္မဉ္စ သံဃဉ္စ၊ ဝန္ဒာမိ တံ ပုနပ္ပုနံ။

---

၁။ ဆရာတော်ကိုယ်တိုင်ကမူ “မိန်းမတွေ သင်္ကန်း၀တ်၍ ရဟန်းပြုခြင်းကြောင့် သာသနာထွန်းလင်းကြောင်း နိဒါန်းလင်္ကာ” ဟု အမည်တပ်ထားသည်။
၂။ ထေရီအပဒါန် ၀တ္ထုတော်ကြီး နိဒါန်း။ ဃ။

ယောမုနိ၊ မုနိထွတ်တင် အကြင်မြတ်ဗျား စောဘုရားသည်။ မာတုဋ္ဌာအားဒိ ဣတ္ထိနံ၊ မိထွေးတော် ဂေါတမီ အစရှိသော မိန်းမတို့အား။ ပဗ္ဗဇ္ဇံ၊ သာသနာတော်ဆမ်း သက်န်းဝတ်ကာ သာမဏေရီ ဘိက္ခုနီစစ် ရဟန်းမိန်းမအဖြစ်ကို။ ဒေသိ၊ သနားကရုဏာ မေတ္တာ ရွေးရှုပေးတော်မူ၏။ တသ္မာ၊ ထိုမြတ်စွာဘုရားအားလည်းကောင်း။ တဿ၊ ထိုမြတ်စွာဘုရား၏။ ဓမ္မဥ္စ၊ မဂ်ဖိုလ်လေးတန် နိဗ္ဗာန် ပရိယတ် တရားတော်မြတ်ကိုလည်းကောင်း။ သံဃဿ၊ သံဃာတော်မြတ်ကိုလည်းကောင်း။ အဟံ၊ အကျွန်ုပ်သည်။ ပုနပ္ပုနံ၊ အဖန်ဖန် အကြိမ်ကြိမ်။ ဝန္ဒာမိ လက်ဆယ်ဖြာကို ဆိပ်မှာတင်မိုး ဦးနှိမ်ကျိုး၍ ရှိခိုးပါ၏။

ဟူသော ဂါထာပါဌ် နိဿယဖြင့် ရဘာနုတ္တယ ပဏာမ ပြုတော်မူခဲ့လေသည်။

ထို့ပြင်တဖြာ-

ပဋိသမ္ဘိဒါပတ္တာဟိ၊ သုမေဓာအာဒိထေရီဟိ။
သုဘာသိတံ အာဒါနံ၊ ဂါထာဗန္ဓေဟိ သံဂီတံ။
ထေရီပဒါနသခ်ါတံ၊ ဝတ္ထုံ ပဿိယ ဣတ္ထိယာ။
သေရိနံ နယ မာဒါယ၊ ပရိပူရေန္တု ပါရမီ။

ဟူသော နှစ်ဂါထာပါဌ်နှင့် နှစ်ဂါထာနိဿယဖြင့် ကရဏာပကာရ ပဋိညာဉ် ဥဒယျာဇဉ် ပြုတော်မူခဲ့သည်။

ကျမ်း၏ အဆုံး၌သည်း-

နဝါသီတိဝဿာဓိက ဒွိသတသိ္မံ သဟဿကေ။
မာဃမာသေ ကာဠပက္ခေ၊ ဧကာဒသာဟသာဿယနေ။
ဇေယျသေနေန ထေရေန၊ ကဘော ဂန္ထော သုနိဋ္ဌိတော။
ထေရီ ဒါနဝတ္ထုတိ၊ သညိတော လောကပူဇိတော။

ဟူသော သုံးဂါထာဖြင့် သက္ကရာဇ် ၁၂၈၉-ခုနှစ် တပို့တွဲလဆုတ် ၁၁-ရက်နေ့ ညနေချမ်း အချိန်ကာလ ခါသမယတွင် ကျမ်းစာပြီးကြောင်းနိဂုံးအုပ်တော်မူခဲ့သည်။

ယင်းထေရီအပဒါန် ဝတ္ထုတော်ကြီးမှာ ၁၃၃၄-ခုနှစ်ဘွင် ရန်ကုန်မြို့ ဣစ္ဆာသယ ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ရာ ရှင်ဆိုက်ဖြင့် စာမျက်နှာ ၄၀၀-မျက်နှာ ရှိလေသည်။



တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်ဘုရားကြီး အရှင်မေဓာနန္ဒိယ

## အလွန်အလုပ်လုပ်သော ဆရာတော်

ဆရာတော်သည် သာသနာတော်၌ အလွန်လျှင် အလုပ်လုပ်တော်မူသည်။ ရန်ကုန်မြို့ သရက်တောတိုက် မြို့မကျောင်း၌လည်းကောင်း၊ မြို့မရွာ မြို့မကျောင်း၌လည်းကောင်း၊ အခါအားလျော်စွာ လှည့်လည် သီတင်းသုံးတော်မူသည်။ ဆရာတော်သည် နေလေရာ အရပ်၌ စာပေကြည့်ရှုခြင်း၊ တရားဓမ္မ ဟောပြခြင်း စသည်ဖြင့် သာသနာ့တာဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ယင်းသို့ မဟုသာဘာ ဇွဲလုံ့လဖြင့် သာသနာ့ဝန်ကို ထမ်းဆောင်တော်မူစဉ် ၁၃၀၆-ခုနှစ် ဝါခေါင်လဆုတ် ၅-ရက် ည ၁၁-နာရီအချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည် ၁။

> ဇေယျသေနော မဟာထေရော၊ သာသနေ ကိစ္စကာရကော။
> ကိစ္စာနိ သော ဠပေတွာန၊ ပဝိဋ္ဌော မစ္စုနော မုခံ။

---

## ဒက္ခိဏာရာမအနွယ် တောင်ပုလုတောရ ကမ္ဘာအေးဆရာတော်

### အရှင်ဓမ္မနန္ဒိယ

တောင်ပုလုတောရ ကမ္ဘာအေး ဆရာတော်ဘုရားကြီး အရှင်ဓမ္မနန္ဒိယသည် ဒက္ခိဏာရာမတိုက်၌ ဂိန္ထုန္တရ အာဝကို သင်ယူတော်မူခဲ့သည့် သာသနာပြု ဆရာတော်ဖြစ်တော်မူသည်။ သို့ဖြစ်၍ ဤဒက္ခိဏာရာမ သာသနာဝင်၌ ဆရာတော် ဘုရားကြီး၏ အဖြစ်တော်စဉ် အကျဉ်းချုပ်ကို ဖော်ပြအပ်ပါသည်။

### ဖွားမြင်တော်မူခြင်း

ဆရာတော်သည် မန္တလေးတိုင်း ဝမ်းတွင်းမြို့နယ် (မိတ္ထီလာခရိုင် ငမ်းတွင်း မြို့နယ်) တဲစုရွာ၌ သက္ကရာဇ် ၁၂၅၈-ခုနှစ် တပေါင်းလဆုတ် ၃-ရက် စနေနေ့ ညနေ ၃-နာရီ အချိန်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။

---

၁။ ထေရာပဒါန် ဝတ္ထုတော်ကြီး ပဋ္ဌမတွဲ အမှာစကားအဆုံး မြို့မဆရာတော် ဘုရား ဇေယျသေနော ကြည့်။

## လောကုတ္တရာ အခြေခံကျမ်းစာများ သင်ယူ

သက်တော် ၇-နှစ်သား အရွယ်မှစ၍ ၁၃-နှစ်သားအရွယ်အထိ တဲစုရွာ ရေဝန်းကျောင်း ဆရာတော် အရှင်တေဇ၏ အထံတွင် သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ လောကနီတိ၊ ပရိတ်ကြီး အစရှိသော စာပေများကို သင်ယူတော်မူခဲ့လေသည်။

## ရှင်သာမဏေဘဝ သာသနာ့ဝန် ထမ်းဆောင်

၁၃-နှစ်သား အရွယ်တွင် ဆရာတော် အရှင်တေဇ မဟာထေရ်ကိုပင် ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော်ရှင်မေ့နန္ဒိယ ဖြစ်သည်။ ဆရာတော် သေးငယ်လျှသည် သာမဏေဝတ်ဖြင့် သာသနာ့ဝန်ကို ထမ်းဆောင်စဉ်ကပင် သီလသိက္ခာကို ရိုသေ လေးမြတ်သည့် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။

## ရဟန်းဘဝ ဒုလ္လဘကိုရရှိခြင်း

သက်တော် ၂၀-အရွယ်တွင် ရေဝန်းကျောင်း ဆရာတော် အရှင်တေဇကိုပင် ဥပဇ္ဈာယ်ပြု၍ ဥပသမ္ပဒကံဘာတ် မြင့်မြတ်သော ရဟန်းပဋ္ဌင်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။ ဆရာတော်ကား ရဟန်းငယ်ဘဝကပင် သီလသိက္ခာကို ရိုသေစွာ စောင့်ထိန်းတော်မူလျက် ပရိယတ် ပဋိပတ် ဓုရ နှစ်ရပ်ကို အပတ်တကုတ် အားထုတ် ကြိုးပမ်းတော်မူခဲ့သည်။

## ပျဉ်းမနားမြို့ မာန်အောင် ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်အာသဘ

ပျဉ်းမနားမြို့ မာန်အောင်ဆရာတော် အရှင်အာသဘသည် စာပေ ကျမ်းဂန် ကျွမ်းကျင် တတ်မြောက်တော်မူသည်။ ငယ်စဉ်ကပင် ရှင်သာမဏေဝတ် သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့ပြီး သက်တော် ၂၀-ပြည့်မြောက်သည့် အရွယ်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် အနောက်ပြင် မိုးကောင်းတိုက်တို့၌ နေ့ဝါ ညဝါ ကျမ်းစာများကို သင်ယူ တတ်မြောက်တော်မူခဲ့သည်။ ကျမ်းဂန် သင်ကြား တတ်မြောက်ပြီးနောက် ပျဉ်းမနားမြို့ မာန်အောင်တိုက်၌ ဆက်သက် သီတင်းသုံးတော်မူ၍ စာသင်တိုက် တည်ထောင်၍ စာပေကျမ်းဂန် ချပို့ရာ ရဟန်းသာမဏေ ၁၀၀-ကျော်တို့ ဆရာတော်ထံ ချဉ်းကပ်ရောက်ရှိ၍ သင်ယူကြကုန်၏။

ဆရာတော်သည် "နိဒ္ဒေသနမဂ္ဂဒီပနီကျမ်း၊ ဗောဓိပက္ခိယဒီပနီကျမ်း" စသည်တို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။ ရဟန်းသိက္ခာ ၂၀-ကျော်ခန့်တွင် "အဂ္ဂမဟာ ပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ ဝါတော် ၃၆-ဝါ သက်တော် ၅၆-နှစ်ရှိသော ၁၂၉၇ ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## ဆရာတော်လောင်းလျာ မာရ်အောင်ဆရာတော်ထံ ပညာသင်

တောင်ပုလုတောရ ကမ္မဋ္ဌာနအေး ဆရာတော် လောင်းလျာ အရှင်ခေမိန္ဒမှာယသည် ရဟန်းသိက္ခာ သုံးဝါအရတွင် ဖေါ်ပြပါ ပျဉ်းမနားမြို့ မာရ်အောင်ဆရာတော် အရှင်အာသဘထံ ရောက်ရှိ သီတင်းသုံးတော်မူ၍ ဂန္ထဓုရ အခါကို မဟာဿဟာ ဖွဲ့လုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် ရောက်ရှိပညာသင်

ရဟန်းသိက္ခာ ရှစ်ဝါအရတွင် ပျဉ်းမနားမြို့ မာရ်အောင်တိုက်မှ ပယ်ခွါတော်မူခဲ့ပြီး မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ကြွရောက်သီတင်းသုံး တော်မူ၍ အာရာမာဓိပတိ၊ ဂဏပါမောက္ခ အရှင်အာစာရမဟာထေရ်စသည်တို့ထံတွင် ဇိဝိဋက ကျမ်းဂန္ထကို အဘိဓာန်၊ သဒ္ဒါ၊ အလင်္ကာ၊ ဆေးဒသည်း-စသည့် နည်းအမျိုးမျိုးတို့ဖြင့် သင်ယူတော်မူခဲ့လေသည်။

## သာစည်မြို့ ရေလယ်ကျောင်းတိုက်၌ စာပေချပို့ခြင်း

မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ စာပေကျမ်းဂန် အတန်တန်ကို သင်ယူတတ်မြောက်တော် မူပြီးနောက် သာစည်မြို့ ရေလယ်ကျောင်းတိုက်၌ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန်ချပို့တော်မူကာ သာသနာတော် သုံးရပ်တွင် မူလဘူတပင်မဖြစ်သည့် ပရိယတ္တိ သာသနာတော်ကြီးကို စည်ပင်ခိုင်မြဲအောင် ကြိုးပမ်းအားသစ်တော် မူခဲ့လေသည်။ ဆရာတော် သီတင်းသုံး၍ စာပေချပို့စဉ်က သာစည်မြို့ ရေလယ်ကျောင်းတိုက်၌ သံဃာတော် ၁၀၀ ကျော်ရှိသည်ဟုသိရလေသည်။

## သိမ်တောင်တောရ၌ တရားအားထုတ်ခြင်း

သာစည်မြို့ ရေလယ်ကျောင်းတိုက်၌ ကာလကြာမြင့်စွာ စာပေချပို့တော်မူပြီးနောက် ပျော်ဘွယ်မြို့ တွင်းရွာသိမ်တောင်ကျောင်းတိုက်၌ သီတင်းသုံးတော်မူ၍ ပဋိပတ် အလုပ်ကို ကြိုးကုတ် အားသစ်တော်မူခဲ့လေသည်။

## သထုံမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး

သထုံမြို့မူလမင်းကွန်း ဇေတဝန် ဆရာတော်ဘုရားကြီး အရှင်နာရဒသည် ထူးခြားသည့် သာသနာ့ပုဂ္ဂိုလ်ဖြစ်တော်မူသည်။ မြန်မာနိုင်ငံသာသနာတွင် အလွန်လျှင်ထူးကဲသည့် ပဋိပတ္တိ၀န်ဆောင်ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။ ထို့ကြောင့် ပဋိပတ္တိအလုပ် ကြိုးကုတ်လိုသူတိုင်းလိုလို ဆရာတော်၏ခြေရင်း အရောက် သွားကြရသည်။

စစ်ကိုင်းခရိုင် ကန်ကြီးကုန်းရွာ၌ အဖဦးညို-အမိဒေါ်ပိုင်းတို့မှ သက္ကရာဇ် ၁၂၁၀-ပြည့်နှစ် တပို့တွဲလဆန်း ၅-ရက် စနေနေ့ ညနေ ၆-နာရီ အချိန်တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်သာဗျောဖြစ်သည်။

ရှစ်နှစ်သား အရွယ်မှစ၍ ကျောက်ပန်း၊ ကန်ကြီးကုန်း နှစ်ရွာ အကြား၌ တည်ရှိသော စော်ကဲကျောင်း ဆရာတော်ထံတွင် အခြေခံ ကျမ်းစာများကို သင်ယူတော် မူခဲ့သည်၊ ၁၄-နှစ်သား အရွယ်တွင် ရှင်သာမဏေအဖြစ်၍ သာသနာ့ဘောင်သို့ ဝင်ရောက်တော်မူခဲ့သည်။ သာမဏေဘွဲ့တော်ရှင်နာရဒ ဖြစ်သည်။ သက်တော် ၂၀-အရွယ်တွင် ရဟန်းပြု၍ မင်းကွန်း တောင်ပေါ် ကျောင်း ဆရာတော် အရှင်နေမိန္ဒထံတွင် ဂန္ထဓုရအဝကို သင်ယူတော်မူခဲ့ သည်။ ၎င်းနောက်မန္တလေးမြို့ အနောက်ပြင် မိုးဓိကောင်းတိုက်၊ ဇက္ခိဏာရာမ တိုက်၊ မြတောင်တိုက်တို့၌ လည်းကောင်း၊ ရွှေတောင်မြို့ ဝေဠုဝန်ကျောင်း တိုက်၌လည်းကောင်း ပညာသင်ကြား ဆည်းပူးတော်မူခဲ့သေးသည်။

ရဟန်းသိက္ခာ ၆-ဝါခန့်အရတွင် မင်းကွန်းတောင်ရိုး တောင်ပေါ်ကြီး ကျောင်းဆရာတော်အရှင်နေမိန္ဒထံ ပြန်လည်ရောက်ရှိ၍ စာပေချပို့သာသနာပြု တော်မူခဲ့သည်။ ယင်းသို့ စာပေချပို့စဉ် ရဟန်းဘောင်၌ မပျော်မွေ့သဖြင့် လူထွက်ခဲ့လေသည်။ လူ့ဘောင်တွင် အတော်ကြာအောင် နေထိုင်ပြီးနောက် မင်းကွန်း တောင်ပေါ်ကျောင်း ဆရာတော် အရှင်နေမိန္ဒထံရောက်ရှိ၍ ရှင် ရဟန်းပြုတော်မူခဲ့သည်။

သက်တော်၃၇-နှစ်သားအရွယ်မှစ၍ မင်းကွန်းတောင်ရိုး လူသူလေးပါး ဝေးကွာသော အရပ်၌ ကမ္မဋ္ဌာန်းကျောင်းငယ်ကို အလှူခံတော်မူပြီး သတိ ပဋ္ဌာန် ကမ္မဋ္ဌာန်းအလုပ်ကို အားထုတ်ကြိုးပမ်းတော် မူခဲ့သည်။ နောင်တွင် ပဋိပတ္တိအဆုံးလွန်စွာ ကျော်ကြားသည့် သာသနာ့ဝန်ဆောင် ဆရာတော်ကြီး ဖြစ်တော်မူခဲ့လေသည်။

ဆရာတော်သည် "ပေဋကောပဒေသအဋ္ဌကထာပါဠိ" စသည့် ကျမ်းဂန်များစွာ တို့ကိုလည်း ပြုစီရင်တော်မူခဲ့လေသည်။ သထုံမြို့ ဇောဘဝန် ကျောင်းတိုက်ကိုလည်း တည်ထောင်၍ တရားပြသ သာသနာပြုရာ သထုံဇေတဝန်ဆရာတော်ဟုလည်းတွင်ရှားတော်မူခဲ့သည်၊ သက်တော် ၈၆-နှစ်၌ရှိသော ၁၃၁၆ ခုနှစ်တွင် ဇေတိကမ္မဇရုပ် ချုပ်တော်မူခဲ့လေသည်။[1]

## ဆရာတော်လောင်းလျာ သထုံ ဇေတဝန်ဆရာတော်ဘုရားကြီးထံ ရောက်ရှိ

သက္ကရာဇ် ၁၂၉၉-ခုနှစ် တန်ဆောင်မုန်းလပြည့်နေ့သည် သန်းခေါင်ယံအချိန်တွင် တပည့်ဖြစ်သူ ထူးတွင်း ဆရာတော်ကို ခေါ်တော်မူ၍ သပိတ်ဘလုံး သုံးထည်သော သင်္ကန်းဖြင့် သထုံမြို့ ဇေတဝန် ဆရာတော် ဘုရား ထံသို့ ခြေကျင်စတင် ခရီးထွက်တော် မူခဲ့လေသည်။ တောင်ငူမြို့သို့ ရောက်သောအခါ မိမိ၏တပည့်ရင်းချာဖြစ်သူ အရှင်နန္ဒာဘာသကိုပါ ခေါ်တော်မူ၍ ခြေကျင် ခရီးဆက်တော်မူသည်၊ ပဲခူးမြို့အရောက်တွင် ခရီးတထောက် နားတော်မူကာ ရွှေမောဓောဘုရားကြီး၊ ရွှေသာလျောင်းဆင်းတုတော်ကြီးစသည့် တန်ခိုးကြီး စေတီပုထိုးတို့ကို လေးမြတ်ကော်ရော် ဖူးမြော်၍ သံဝေဂယူတော်မူခဲ့လေသည်။

ပဲခူးပုရီ သမ္ဘူတာန၊ ရွှေမောဓော ထူပမာဒယော။
ဝန္ဒိတွာ ဗဟဝေါ ထူပေ၊ ပုညာနုသိံ အကာသိ ခေါ။

ထိုမှတဖန် ကုသိုလ်ဇောတွေ့ ကုဋ္ဌေကုဋ္ဌာစောစေလျက် ခရီးဆက်တော်မူပြန်ရာ ကျိုက်ထီးရိုးဆံတော်ဘုရား စသည်တို့ကိုလည်း သဒ္ဓါရွှန်းစို ကြည်ညို ဖူးမြော်တော်မူခဲ့လေသည်။

ကျိုက်ထီးရိုး ထူပသေဋ္ဌမ္ဘိ၊ တိလောက တိလကံ သုဘံ။
ပသန္နစိတ္တော ဟုတွာန၊ သုပူဇံ ဝန္ဒနံ အကာ။

ကျိုက်ထီးရိုး ဆံတော်ရှင်ကို ဖူးမြော်တော် မူပြီး ဆက်လက်၍ ခရီးကြွတော်မူရာ သက္ကရာဇ် ၁၂၉၉-ခုနှစ် ဘပေါင်းလဆန်း ၂-ရက်နေ့တွင် ကလျာဏမိတ္တ စင်စစ်ဖြစ်တော်မူသော ပိယ၊ ဂရု၊ ဘာဝနီယ-စသည့် ဂုဏ်ပေါင်းခတော်မူသော ကမ္မဋ္ဌာနာစရိယအကျော် သထုံမြို့ ဇေတဝန် ဆရာတော်ဘုရားကြီး အရှင်နာရဒ မဟာထေရ်ထံ ဆိုက်ရောက်တော်မူခဲ့လေသည်။

---

၁။ စစ်ကိုင်းသာသနာဝင်။ ၂၇၉-၂၀၂-လည်းကြည့်။

## မနေမနား တရားအားထုတ်

ဆရာတော်သည် ရောက်ရှိ၍ ဇေတဝန် ဆရာတော် ဘုရားကြီးကို ဖူးမြင်လျှင် ဖူးမြင်ချင်း ပီတိတွေ တဖွားဖွား ဖြစ်ကာ ငါ့နှယ် ပုဗ္ဗေကတပုညတာ ပင့်သောကြောင့် ဤမျှပြည့်စုံသည့် ဆရာသမားကိုတွေ့ရလေသည်ဟု စိတ်ကူးပြီ ဆရာတော်ဘုရားကြီးထံ တရားတောင်းကာ ဘုရား၊ တရား၊ သံဃာ ဟူသော ရတနာသုံးပါးအား အသက်ကို အပ်နှင်း လှူဒါန်းတော် မူပြီး ဆရာတော်ဘုရား ပေးတော်မူသည့် သတိပဋ္ဌာန် ကမ္မဋ္ဌာန်းနည်းကို မဟုဿာဟ ဇွဲလုံ့လဖြင့် အားထုတ်တော်မူ၍ သုံးဝါ ဆိုတော်မူခဲ့လေသည်။

## မော်လမြိုင်မြို့ ခရွန်းရွာ၌ သီတင်းသုံး

ဇေတဝန် ဆရာတော်ဘုရားကြီးထံ သုံးနှစ်သုံးမိုး သီတင်းသုံး တရားအလုပ်ကြိုးကုတ်တော်မူပြီး သီလရှင် ဥပါသိကာမကြီး ဒေါ်ကုသလာ လျှောက်ထားချက်အရ မော်လမြိုင်မြို့ ခရွန်းရွာသို့ ကြွတော်မူ၍ ၁၃၀၂-ခုနှစ်မှ ၁၃၁၃-ခုနှစ်အထိ ၁၀ ဝါဆို သီတင်းသုံးတော်မူခဲ့လေသည်။

## ရေလယ်တောသင်တိုက်သို့ ဆိုက်ရောက်တော်မူခြင်း

၁၃၀၃-ခုနှစ် နတ်တော်လတွင်[1] ဂျပန်က အင်္ဂလိပ်၊ အမေရိကန် တို့ကို စစ်ကြေငြာ၍ စစ်တိုက်သည်တွင် ပြာသိုလဆန်း ၇-ရက်နေ့တွင် ရန်ကုန်မြို့တော် ဗုံးကြဲခဲ့သည်။ ဆရာတော်သည် စစ်ဘေးဒဏ် အန္တရာယ်ကို ကြိုတင် ခန့်မှန်းတော်မူမိသဖြင့် ၁၃၀၃-ခုနှစ် အနှံခေဒါင်မှန်းသကာပင် အညာဒေသ ပြန်ကြွတော်မူပြီး သာစည်မြို့ ရေလယ်ကျောင်း၌ သီတင်းသုံးတော်မူသည်၊

## တောရကျောင်းနေ တရားကျင့်ပြီ

တတိယကမ္ဘာစစ်အတွင်း နိုင်ငံအရပ်ရပ်တို့၌ ဗုံးကြဲတိုက်ခိုက်ကြ သတ်ကြဖြတ်ကြသည်ကို သိတော်မူသဖြင့် များစွာ သံဝေဂဖြစ်တော်မူသည်၊ "လောကကြီး ပျက်စီးတော့မှာပါတကား၊ ငါလဲ ဘယ်နေ့သေမည်ဟု မသိနိုင်ဘူး၊ ယခုကပင် ကြိုတင်၍ တရားအားထုတ်ပြီး သေရဲအောင် ပြုလုပ်မှ သင့်တော်မည်" ဟု နှလုံးပြုတော်မူလျက်—

---

၁။ ၁၉၄၁-ခု၊ ဒီဇင်ဘာလ။

"ရွှေသွားနောက်လိုက်၊ သိုက်မြိုက်မလို၊ ကြံ့ချိုပမာ၊ တချောင်း
သာတည်း၊ ရှောင်ခွါဖေါ်နည်း၊ တကိုယ်တည်းဖြင့်၊ တောထည်း
ဝင်ခို၊ ချမ်းသာပို၏"

ဟူသော တောထွက်နည်း ဉာဏ်ကိုလည်း နှလုံးသွင်းတော်မူပြီး ၁၃၀၃-ခုနှစ် တပို့တွဲလဆန်း ၁၀-ရက်နေ့တွင် ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော တဲစုရွာ ကျောက်ဆင်တောသို့ ကြွရောက် ခိုဝင်တော်မူ၍ ဓုတင် တေရသ် ပဋိပတ် အကျင့်များအပြင် သတိပဋ္ဌာန် ဝိပဿနာ အကျင့်တရားကို မနားမနေ တအားဖြေ့၍ ကျင့်ကြံကြိုးကုတ် အား ထုတ်တော်မူခဲ့လေသည်။

## ဇာတောထွက် တစေတာဝင် သူတော်သူမြတ်တို့ လမ်းစဉ်ကျင့်ကြံ

ဆရာတော်သည် တနေရာတည်း၌ သီတင်းသုံးတော်မမူပါချ၊ ကျောက်ဆင်တောရမှ သနပ်ချောင်းတောရသို့ ပြောင်း၍ သီတင်းသုံးတော်မူသေးသည်၊ တဖန် သနပ်ချောင်းတောရမှ ရွှေသိမ်တောရသို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူပြန်၏။ တဖန် ရွှေသိမ်တောရမှ ရွှေသာချောင်း တောရချောင်းသို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်။ ဆရာတော်က တနေရာမှသွား တစေတာဝင် နေရာဌာနကို ခင်မင်စွဲလမ်းမှု ပြုတော်မမူပဲ အနေသာင်းအလျော အာဇာနည် သူရဲကောင်း သူတော်မြတ်တို့၏ လမ်းစဉ်ကို ကျင့်ဆောင်တော်မူခဲ့လေသည်။

## တောင်ပုလုတောရ ကမ္ဘာအေးဓမ္မရိပ်သာ၌ သီတင်းသုံး

ထုတ်ဆို ဖော်ပြခဲ့သည့်အတိုင်း ပြောင်းရွှေ့၍ သီတင်းသုံးတော်မူခဲ့ရာ သက္ကရာဇ် ၁၃၁၃-ခုနှစ်တွင် တောင်ပုလု ဆည်တောင်ကြီးကို ဆည်ဖို့ကြံစည် အချိန်ကာလ ပါသမယာ ဆည်လုပ်သားများသည် ဆရာတော်ဘုရားကြီး၏ သီလ၊ သမာဓိ၊ ပညာဂုဏ်တို့ကို ကြည်ညိုကြသဖြင့် ဆွမ်းခံပင့်လျှောက်၍ ဆွမ်းဟင်းများ လောင်းလှူ ကုသိုလ်ပြုကြပြီး ဆရာတော်ဘုရားကြီး၏ တပည့်အဖြစ် ခံယူကြသည်။ ဆရာတော်ဘုရားကြီး၏ ဩဝါဒကိုလည်း လေးစား ကြည်ဖြူ နာယူကြသည်။ ၎င်းပြင် အုပ်ချုပ်သူလူကြီးများနှင့် မိတ္ထီလာ အမတ် ဦးထီနှင့် ကန်ဗိုလ် ဦးစံငြိမ်းတို့ သိရှိပြန်သဖြင့် ဆရာတော်ဘုရားကြီးအား "ဤနေရာ ဤဒေသ၌ သီတင်းသုံးတော်မူပါ" ဟုပင့်လျှောက်ကြသဖြင့် သနား ငဲ့ညှာတော်မူပါသဖြင့် သက္ကရာဇ် ၁၃၁၅-ခုနှစ်တွင် တောင်ပုလု တောရ ကမ္ဘာအေး ဓမ္မရိပ်သာကြီးကို စတင် တည်ထောင်တော်မူခဲ့လေသည်[၁]။

---

၁။ မိတ္ထီလာမြို့ မြောက်ဘက် ၁၂-မိုင်ကွာလှမ်းသည့် ပင်းဘလဲတဲစု သွားရာ လမ်းအတိုင်းလာလျှင် တောင်ပုလု တောရ ကမ္ဘာအေး ဓမ္မရိပ်သာသို့ ရောက်တော့သည်။

## အနယ်နယ် အစိုးစိုး အမြို့မြို့ အရွာရွာတို့၌ တရားဟော

ဆရာတော်ဘုရားကြီးသည် ဒါယကာ ဒါယိကာမတို့အား ချီးမြှောက်တော်မူလိုသဖြင့် ရန်ကုန်၊ မန္တလေး၊ မြင်းခြံ၊ ပခုက္ကူ၊ ရေနံချောင်း စသည့် မြန်မာပြည်အရပ်ရပ်ရှိ မြို့ကြီး မြို့ငယ် တောရွာ အသီးသီးတို့သို့လည်း လှည့်လည်ကြွချီတော်မူ၍ တရားဒေသနာ ဟောပြောပြသ ဆုံးမတော်မူခဲ့သည်။

## အမေရိကန်နှင့်အပါအဝင် ကမ္ဘာ့နိုင်ငံများသို့ ကြွတော်မူခြင်း

ဆရာတော်ဘုရားကြီးသည် ၁၃၄၁-ပြည့်နှစ် ဝါဆိုလဆုတ် ၁၃-ရက်နေ့တွင် အမေရိကန်သို့ ခရီးစတင်သည့်အနေဖြင့် မြန်မာနိုင်ငံ ရန်ကုန်လေဆိပ်မှ ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့သို့ ကြွတော်မူသည်။ ထိုမှ ဗန်ကောက်မှ ဟောင်ကောင်သို့ ကြွတော်မူ၍ ဆက်လက်၍ အမေရိကန်နိုင်ငံ ဆန်ဖရန်စစ္စကိုမြို့သို့ ကြွတော်မူရာ အမေရိကန်နိုင်ငံ ကာလီဖိုးနီးယားပြည်နယ် ဆန်ဖရန်စစ္စကိုမြို့သို့ ဝါဆိုလဆုတ် ၁၄-ရက်နေ့ အမေရိကန် စံတော်ချိန် နေ့ ၂-နာရီ ၅၅-မိနစ် အချိန်တွင် ဆိုက်ရောက်တော်မူခဲ့သည်။

အမေရိကန်နိုင်ငံတွင် ၃-လနှင့် အရက် ၂၀-ကြာမျှ သာသနာပြုတော်မူခဲ့သည်။ ၎င်းပြင် အိန္ဒိယနိုင်ငံ၌လည်း ၁-လ ၁၅-ရက်ခန့် သီတင်းသုံးတော်မူ၍ သာသနာ ပြုတော်မူခဲ့သည်။ ဆရာတော်ဘုရားကြီး၏ ဖြစ်သွန်း ပေါ်ပေါက်တော်မူလာခြင်းသည် လောကသားတို့အား လွန်စွာ ကျေးဇူးများလှချေ၏။

တောင်ပုလု ထေရသေဋ္ဌော၊ ပါတုဘူတော လောကဿစ။
ကေန္တိ ဗဟူပကာရော၊ ဒီပေါ ကေဒါ ဟိ ဝေ။

## မြမဥ္ဇူကျောက်စေတီတော်ကြီး ဦးစီးတည်တော်မူခြင်း

ဆရာတော်ဘုရားကြီးသည် ပုဂံပြည့်ရှင် အနော်ရထာမင်းကြီး၏ ကြွင်းယာသက်ထား မိဖုရားစောခင်လှ တည်ထားခဲ့သော မူလ မြမဥ္ဇူစေတီတော်ကို ငုံ၍ ကြီးမားလှသော မြမဥ္ဇူ ကျောက်စေတီတော်ကြီးကိုလည်း ဦးစီး တည်ထား ကိုးကွယ်တော်မူခဲ့လေသည်။

## ထူးခြားသည့် ဓုတင်ဆောင်ပုဂ္ဂိုလ်

ဆရာတော်ကား ဓုတင်ဆောင်မှု၌ လွန်စွာထူးခြားသည့် ပုဂ္ဂိုလ်မြတ်ဖြစ်သည်။ အခါအားလျော်စွာ ဓုတင် ၁၃-ပါးလုံး ဆောင်ခဲ့သည်ဟု သိရ၏။ အထူးအားဖြင့် နိသိဇ်ဓုတင် ဆောင်နိုင်မှုမှာ အံ့သြလောက်အောင် ထူးခြားလှသည်။

ဓုတင်ဂုဏ လေရသေဋ္ဌော ဟိ၊ ဝိသိဋ္ဌော အာစရော ဘဝေ။
သဗ္ဗညု ဇိနစက္ကမှိ၊ ကေန္တံ ပူဇိယော ဟိ ဝေ။

---

## ဒက္ခိဏာရာမအနွယ် သထုံစန္ဒာရုံဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်အာစိဏ္ဏ

သထုံမြို့ စန္ဒာရုံကျောင်းတိုက် နာယကဆရာတော်ဘုရားကြီး အရှင်အာစိဏ္ဏသည် ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ ပညာသင်ကြားတော်မူခဲ့သည်ဖြစ်၍ ဒက္ခိဏာရာမ သာသနာဝင် ဖြစ်တော်မူသည်၊

ဟံသာဝတီခရိုင် မြန်အောင်မြို့နယ် ရွှေးတောင်တိုက် ထူရွာ၌ အဖ ဦးရွှေလမ်း-အမိ ဒေါ်ပုံတို့မှ သက္ကရာဇ် ၁၂၂၇-ခုနှစ် ပြာသိုလဆုတ် ၄-ရက် တနင်္ဂနွေနေ့ နံနက် ၃-နာရီအချိန်တွင် ဖွားမြင်တော်မူသည်။

## ရှင် ရဟန်းပြု ပညာသင်ခြင်း

ကျောင်းသားအရွယ်တွင် ဣန္ဒသာရ ဆရာတော်ဘုရားကြီးထံ ရောက်ရှိ ပညာ သင်ကြားတော်မူသည်၊ သာမဏေအရွယ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၄၇-ခုနှစ် ပြာသိုလဆန်း ၅-ရက်နေ့တွင် ဣန္ဒသာရ ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။ ရဟန်းဖြစ်ပြီးနောက် ဥပဇ္ဈာယ်ဆရာတော်ဖြစ်သော ဣန္ဒသာရ ဆရာတော်ဘုရားကြီး၊ ဘုရားကုန်းဆရာတော်၊ ဂူကိုးလုံး ဆရာတော်ကြီးတို့၏ အထံ၌လည်း ပညာသင်ကြားခဲ့သည်။

## မန္တလေးဘုရားကြီးတိုက်၌ ပညာသင်

မန္တလေးမြို့သို့ ကြွရောက်တော်မူ၍ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ကြာရှည်စွာ သီတင်းသုံးတော်မူလျက် တိုက်အုပ်ဆရာတော် အရှင်အာစာရ၊ စာချအကျော် ဆရာတော် ဦးနေကုန်တို့ထံ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းတို့ကို သင်ယူတော်မူခဲ့သည်။ ရှင်ပြင် ကျီဝန် သာသနာပိုင် ဆရာတော်၊ မိုင်းနိုင်ဆရာတော်၊ မင်းကြီးတိုက်ဆရာတော် စသည်တို့ထံ၌လည်း နေ့ဝါ ညဝါ ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။

ထို့နောက် ဂူကျိုးလုံးတိုက်၊ သထုံမြို့ မဟာဓမ္မိကာရာမတိုက်တို့၌လည်း ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ဆက်လက်ကာ ပါဠိတော်၊ အဋ္ဌကထာ ဋီကာကျမ်းများကို သင်ယူတော်မူခဲ့သည်။

## သထုံမြို့ စန္ဒာရုံကျောင်း၌ စာပေချပို့

၁၂၆၄-ခုနှစ်တွင် မဟာဓမ္မိကာရာမ ဆရာတော်ဘုရားကြီး၏ ချီးမြှောက်တော်မူချက်အရ သထုံမြို့ စန္ဒာရုံကျောင်းတိုက်ကြီးကို လက်ခံတော်မူ၍ မဟာနာယက အဓိပတိ ဖြစ်တော်မူ၍ ရှင် ရဟန်း ပရိသတ်တို့အား စာပေချပို့ သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့လေသည်။

## ဝေဠုဝန်နိကာယ မဟာနာယကာဓိပတိ

၁၃၁၅-ခုနှစ်တွင် စန္ဒာရုံဆရာတော်ဘုရားကြီး အရှင်အာစိဏ္ဏသည် မြို့နယ် ၁၂-မြို့နယ်မှ ကျောင်းတိုက်ပေါင်း ၃၆၄-တိုက် နာယက ဆရာတော်များ ပါဝင်သော အစည်းအဝေးက "ဝေဠုဝန် နိကာယ မဟာနာယကာဓိပတိ" ဘွဲ့ထူးပေးအပ်၍ နိကာယာဓိပတိ တင်မြှောက်ခြင်းကို ခံတော်မူရလေသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း ပျံလွန်ခြင်း

၁၃၂၀-ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းခြင်းကိုလည်း ခံယူတော်မူရလေသည်။ သက်တော် ၉၀-ကျော်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

ဘဒ္ဒန္တအာစိဏ္ဏော သေရော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏံ သော ကရိတွာန၊ ပယာတော မစ္စုနော ဝသံ။

## ဒက္ခိဏာရာမအနွယ် ပေါင်းတည် ဘုရားကြီးဆရာတော်
## အဂ္ဂမဟာပဏ္ဍိတ အရှင်ပုညာဘိဝံသ

ပေါင်းတည်မြို့ ဘုရားကြီးတိုက် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး အရှင်ပုညာဘိဝံသသည် ဒက္ခိဏာရာမဘားကြီးတိုက်၌ စာပေလေ့လာ သင်ကြား တတ်မြောက်တော်မူသည်။ သို့ဖြစ်၍ ဤဒက္ခိဏာရာမ သာသနာဝင်အခန်း၌ ဖော်ပြအပ်ပါသည်။

ဆရာတော်သည် ပြည်ခရိုင် သဲကုန်းမြို့နယ် စလင်္ဂသူကိုက် အုတ်တောခေါ် ပရှင်ရွာ၌ အဖ ဦးဆိုး-အမိ ဒေါ်ဦးတို့မှ ၁၂၃၁-ခုနှစ် ဒုတိယဝါဆိုလဆုတ် ၆-ရက်နေ့ ကြာသပတေးနေ့တွင် ညဉ့် ၄-နာရီအချိန် ဖွားမြင်တော်မူသည့် တတိယသား ရတနာဖြစ်၏။

### ရှင် ရဟန်းပြု ပညာသင်

သက်တော် ၁၃-နှစ်သားအရွယ်တွင် ရွာကျောင်းဆရာတော်ထံ၌ ရှင်သာမဏေဝတ်၍ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၅၀-ပြည့်နှစ် သီတင်းကျွတ်လဆုတ် ၅-ရက်နေ့တွင် သဲကုန်းမြို့နယ် လေင်္ဂသူတိုက် လင်လင့်ကန့်ရွာ ဥသျှစ်ပင်ကျောင်းတိုက် ခဏ္ဍသိမ်တော်၌ ဆရာတော် ဦးဂန္ဓမာကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ပိဋကတ်အရာ၌ ကျွမ်းကျင်တော်မူကြသော ရန်ကုန်မြို့ ကြည့်မြင်တိုင် ဗားကရာတိုက် နာယက ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးလက်ထက် ပဌမစာတော်ပြန်ဆရာတော် အရှင်အာစာရ၊ မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်ဆရာတော် အရှင်အာစာရ၊ မိုးခိုင်ဆရာတော် အရှင်ပဏ္ဍိတ၊ ကျီဝန်ဆရာတော်-အစရှိသော ဆရာတော်အရှင်မြတ်တို့ထံ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းများကို သင်ယူတတ်မြောက်တော်မူခဲ့သည်။

### သာသနာ့ဝန်ထမ်းဆောင်ခြင်း

ဆရာတော်သည် စာပေကျွမ်းကျင် တတ်မြောက်ပြီးနောက် ရန်ကုန်မြို့ ကြည့်မြင်တိုင် ဗားကရာတိုက်နှင့် သဲကုန်းမြို့နယ် ဆီးကုန်းကျောင်းတိုက်များ၌ သီတင်းသုံး၍ နေ့ဝါ ညဝါ စာပေချပို့ သာသနာပြုတော်မူခဲ့သည်၊ ရင်ပြင် ခရစ်သက္ကရာဇ် ၁၉၂၄-ခုနှစ်တွင် ပေါင်းတည်မြို့၌ ဒန္တမုဒ္ဒေဝကိကာရုံဘုရားကြီးကျောင်းတိုက်ကြီးကို တည်ထောင်၍ ၂၅-နှစ်ကျော် နေ့ဝါ ညဝါ စာပေချပို့ သာသနာပြုတော်မူခဲ့သည်။ ဆရာတော်၏ ကြိုးပမ်းမှုကြောင့်

တပည့်ရဟန်းများ များစွာပေါ်ထွန်းခဲ့သည်။ ၁၃၀၈-ခုနှစ် နယုန်သဆန်း ၂-ရက်နေ့တွင် ရန်ကုန်မြို့၌ ကျင်းပသည့် တောင်တန်းသာသနာပြုဂိုဏ်းပေါင်းစုံ မဟာသံဃာအဖွဲ့ချုပ်ကြီး၏ သဘာပတိအဖြစ်ဖြင့်လည်းကောင်း၊ ပေါင်းတည် မြို့နယ် သုခမ္မာဂိုဏ်းဝင် သံဃာတော်များ၏ ဦးစီးနာယကဂိုဏ်းချုပ်အဖြစ် ဖြင့်လည်းကောင်း၊ နိုင်ငံတော် ဩဝါဒါစရိယအဖြစ်ဖြင့်လည်းကောင်း ဆောင် ရွက်တော်မူခဲ့လေသည်။

ရင်းပြင်—

၁။ မေဝိဘာဂဒီပကကျမ်း၊

၂။ တာသနောတာရကျမ်း၊

၃။ ဓမ္မမဂ္ဂဒီပနီကျမ်း-တို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်။

အဂ္ဂမဟာပဏ္ဍိတ အလှူခံရရှိခြင်း၊ ပျံလွန်တော်မူခြင်း

ဖော်ပြပါ ဆောင်ရွက်ချက်ဘိုကြောင့် ၁၃၁၅-ခုနှစ်တွင် နိုင်ငံတော် အစိုးရက ဆက်ကပ်လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူ ခံချရှိတော်မူခဲ့လေသည်၊ သက်တော် ၈၇-နှစ် ဝါတော် ၆၇ ဝါချရှိသာ ၁၃၁၇-ခုနှစ် ပြာသိုသဆန်း ၇-ရက်နေ့ဘွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်၊ နာမည်ကျော် ပြည်မြို့ ခေတ်ဘာရုံကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် တော်ရ ဆရာတော် အရှင်တေဇနိယသည် ဖော်ပြပါ ဆရာတော်ဘုရားကြီး အရှင်ပုညာဘိဓဇ၏ တပည့်ဖြစ်သည်။

ပုညာဘိဓဇတ္ထေရော ဟိ၊ ပုညဝါဓိနသာသနေ။
ပုညံ ကမ္မံ ကရိတွာန၊ ပယာတော မစ္စုနော မုခံ။

---

ဒက္ခိဏာရာမအနွယ်ဖွား မြို့ထောင့်ဆရာတော်

အဂ္ဂမဟာပဏ္ဍိတ အရှင်ဇဝန

ဆရာတော်သည် တောင်ငူခရိုင် ဖြူးမြို့ မြို့ထောင့်ကျောင်းတိုက်၌ သက်ဆုံး တိုင် သီတင်းသုံး၍ စာပေချပို့ သာသနာပြုတော်မူခဲ့သည်၊ ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြား၍ ကြီးပွားတတ်မြောက်သဖြင့် ဒက္ခိဏာရာမ သာသနာဝင်တွင် ထည့်သွင်းမှတ်တမ်းတင်အပ်ပေသည်။

ဆရာတော်သည် မြင်းခြံခရိုင် တောင်သာမြို့နယ် ဒန်းတိုင်ရွာနေ အဖ ဦးအုံးရွှေ-အမိ ဒေါ်ဒေါ်ဖူးတို့မှ ၁၂၃၇-ခု ဝါဆိုလပြည့် အင်္ဂါနေ့တွင် ဖွား မြင်တော်မူသည်။

## ရှင် ရဟန်း ပြုခြင်း

သက်တော် ၁၄-နှစ်သားအရွယ်တွင် ဒန်းတိုင်ရွာ ရွာအရှေ့ကျောင်းဆရာ တော်ကို ဥပဇ္ဈာယ်ပြု၍ သာမဏေဝတ်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့် မြောက်ရာ ၁၂၅၆-ခုနှစ်တွင် ငယ်ဆရာရင်း ဒန်းတိုင်ရွာ ဆရာတော်ဦးကေ သရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သေသည်။ ဥပဇ္ဈာယ် ဆရာတော် ဦးကေသရထံ ပိဋကတ်အခြေခံ ကျမ်းဂန်များကို သင်ယူတော် မူခဲ့သည်။

## ဒက္ခိဏာရာမတိုက်ပညာသင်

မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ တိုက်အုပ်ဆရာ တော် အရှင်အာစာရထံတွင် ပညာသင်ကြား ဘတ်မြောက်တော်မူခဲ့သည်။ မိုးတားသာသနာပိုင်-စသည့် ဆရာတော်များထံ၌လည်း ဝိနိစ္ဆယဖြတ်ထုံးများ ကို သင်ကြားတော်မူခဲ့သည်။ ရဟန်းသိက္ခာ ၁၄-ဝါအရတွင် ဖြူးမြို့ မြို့ထောင့် ကျောင်းတိုက်ကို စာသင်တိုက်ဖွင့်လှစ်၍ စာပေချပို့တော်မူခဲ့သည်။

## ကျမ်းပြုခြင်း၊ သာသနာရေးဆောင်ရွက်ခြင်း

ဆရာတော်သည် "နိဗ္ဗာနဝိနိစ္ဆယကျမ်း၊အက္ခရာအဆုံးအဖြတ်ကျမ်း" တို့ကို လည်း ပြုစီရင်တော်မူခဲ့သည်။ ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယတာဝန်၊ သံဃ မဟာနာယကတာဝန်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတဘွဲ့ရရှိခြင်း၊ ပျံလွန်ခြင်း

၁၃၂၃-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော် မူခဲ့လေသည်။ ဆရာတော်ကား သက်တော်ကြီးရင့်သောအခါ—

၁။ ဗုဒ္ဓါနုဿတိဂုဏ်ကို အမြဲနှလုံးသွင်းတော်မူခြင်း၊
၂။ ဘုရားရှေ့တော်၌ ပန်းရေချမ်းများ ကပ်လှူပြီး တနေကုန် ဘုရား ဝတ်ပြုခြင်း၊
၃။ ဂုဏ်တော်ပွားများတော်မူခြင်းတို့ကို အမြဲပြုလေ့ရှိတော်မူသည်။

ဤစာရေးသူ ဆရာတော်ကြီးကျောင်းသို့ ဆရာတော်ကြီးက ခေါ်သဖြင့် ဦးပဥ္စင်းငယ်ဘဝက ရောက်ဘူး၏။ သက်တော် ၉၄-နှစ် ဝါတော် ၆၄-ဝါ ရရှိရာ ၁၃၂၉-ခု ပြာသိုလဆန်း ၈-ရက်နေ့တွင် ပျံလွန်တော်မူသည်။

ဘဒ္ဒန္တဇာဂရော သေဒေါ၊ ထိရေသု သဏ္ဌိတော သုစိ။
စက္ကံ သော ဝုစ္ဆိ ကရိတွာ၊ ဂဒတာ ဒေဝသဟဗျတံ။

---

## ဒက္ခိဏာရာမအနွယ် ယိုးဒယားနိုင်ငံသန်းပန်ဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်နေမိန္ဒ

ဆရာတော် အရှင်နေမိန္ဒသည် ယိုးဒယားနိုင်ငံ လန်ပန်မြို့၌ ဝပ်ဘမအိုကျောင်း၌ သက်ဆုံးတိုင် သီတင်းသုံးတော်မူ၍ သာသနာပြုတော် မူခဲ့သည်။ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ပညာသင်ကြား လေ့လာ တတ်မြောက်သူဖြစ်၍ ဒက္ခိဏာရာမ သာသနာဝင်၌ မှတ်တမ်းတင်အပ်ပေသည်။

ညောင်ရွမ်းမြို့နယ် အုတ်ဖိုကျေးရွာ၌ အဖ တိုက်သူကြီး ဦးရွှေရေး-မိခင် ဒေါ်ဖွားတို့မှ သက္ကရာဇ် ၁၂၃၉-ခုနှစ် တော်သလင်းလဆန်း ၂-ရက် စနေနေ့တွင် ဖွားမြင်တော်မူခဲ့သည်။

### ရှင်ရဟန်းပြုခြင်း၊ ပညာသင်ခြင်း

သက်တော် ၁၁-နှစ်သားအရွယ်တွင် အုတ်ဖိုဆရာတော်ထံ ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၅၉-ခုနှစ် ဝါဆိုလဆန်း ၁၅-ရက်နေ့တွင် သနက်ကန် ဆရာတော်ကိုဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

အုတ်ဖိုကျောင်း ဆရာတော် အရှင်အာဒိစ္စ၊ မန္တလေးမြို့ ရွှေရေးဆောင် တိုက် မိုင်းခိုင်ဆရာတော်နှင့် ဆရာတော်ဦးကြည်တို့ ထံတွင်လည်း ပညာသင်ကြားတော်မူခဲ့သည်။

### ဘုရားကြီးတိုက်၌လည်း ပညာသင်

ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌လည်း ဒက္ခိဏာရာမ ပညာရှင် စာချဆရာတော်များထံ ကျမ်းဂန်အရပ်ရပ်ကို သင်ယူတတ်မြောက်တော် မူခဲ့သည်။

## သာသနာပြုတော်မူခြင်း

၁၂၇၃-ခုနှစ်မှ စ၍ ကညွတ်ကွင်း မြို့နယ် ကြာအင်းရွာ ကျောင်းနှင့် သာစည်မြို့ သားယားကုန်း ကျောင်းများတွင် ၁၂-နှစ် တိုင်တိုင် လောကီ၊ လောကုတ္တရာကျမ်းစာချပို့၍ လောက၊သာသနာ ကြီးပွားရေးကို ဆောင်ရွက်တော်မူခဲ့လေသည်။

၁၂၈၂-ခုနှစ်တွင် ယိုးဒယားနိုင်ငံသို့ ကြွတော်မူ၍ လန်းပန်မြို့ ငပ်ဘမအို ကျောင်း၌ သီတင်းသုံးတော်မူ၍ သာသနာ စည်ပင် ပြန့်ပွားရေး အတွက် ဆောင်ရွက်စဉ် ၁၂၉၅-ခုနှစ်တွင် ကထိန်နှင့် စပ်၍ ယိုးဒယား-မြန်မာ အငြင် ပွားခဲ့ရာတွင် ယိုးဒယားဘာသာဖြင့်“ကထိနာနိသံသကထာ”ဟူသော ကျမ်းစာကိုလည်း စီရင်တော်မူခဲ့သည်။

## ဘွဲ့တံဆိပ်တော်များရရှိခြင်း ပျံလွန်ခြင်း

၁၃၂၂-ခုနှစ်တွင် ယိုးဒယားနိုင်ငံလုံးဆိုင်ရာ ထိုင်း-မြန်မာ သံဃာ့အဖွဲ့ကို အောင်မြင်စွာဖွဲ့စည်းနိုင်ခဲ့ပြီး အဆိုပါအဖွဲ့ဘွင် သံဃနာယကအဖြစ် ဆောင်ရွက်တော်မူခဲ့သည်။ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့နှင့် ဆဋ္ဌသံဂါယနာ ဝန်ခံဆောင် သံဃာ့အဖွဲ့ တို့က လှူဒါန်း ဂုဏ်ပြုသည့် “ဘဒ္ဒန္တနေမိန္ဒ ထိုင်းရဋ္ဌမရမ္မသံဃ နာယကသာသနဓဇ” ဟူသော ဘွဲ့တံဆိပ်တော်လက်မှတ်တော်ကို အလှူခံရရှိ သည့်အပြင် ၁၃၂၃-ခုနှစ်တွင် နိုင်ငံတော် အစိုးရက လှူဒါန်းသည့် အဂ္ဂ မဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူသည်။ သက်တော် ၉၀-ပတ်ဝန်းကျင်တွင် ပျံလွန်တော်မူသည်။

ဘဒ္ဒန္တနေမိန္ဒော ထေရော၊ သျာမရဋ္ဌေ သုပါကဋော။
စက္ကေ သော ကိစ္စံ ကရိတွာ၊ ယာတော ဒေဝါနသန္တိကေ။

---

## ဒက္ခိဏာရာမအနွယ် ရေကြည်ဒီပါရုံဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်ဥတ္တရာဇီဝ

ဆရာတော် အရှင်ဥတ္တရာဇီဝသည် ပုသိမ်ခရိုင် ရေကြည်မြို့နယ် ဒီပါရုံ ကျောင်းတိုက်၌ သက်ဆုံးတိုင် သီတင်းသုံး၍ သာသနာ့ဝန်ကို ထမ်းဆောင် တော်မူခဲ့လေသည်။

ပုသိမ်မြို့နယ် ငသိုင်းချောင်းမြို့ သရက်ချောင်းရွာ၌ ၁၂၄၉-ခုနှစ် တန်ဆောင်မုန်းလဆန်း ၈-ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။

## ရှင်ရဟန်းပြုခြင်း၊ ပညာသင်ကြားခြင်း

သက်တော် ၁၄-နှစ်သားအရွယ်တွင် မဲဇလီရွာ ဒွါရကျောင်းတိုက် ဆရာတော် ဦးကဿပထံ ရှင်သာမဏေဝတ်ခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၆၉-ခုနှစ် ပဉ္စမဝါဆိုလဆန်း ၆-ရက်တွင် ငယ်ဆရာရင်း ဦးကဿပကိုဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဥပဇ္ဈာယ်ဆရာတော် ဦးကဿပကံ ရဟန်းနှစ်ဝါတိုင် သီတင်းသုံး၍ ပညာသင်ကြားခဲ့သည်။ ၎င်းနောက်ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၌ သီတင်းသုံး၍ ပညာကြားခဲ့သည်။

### မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့

ပခုက္ကူ၌ ပညာသင်ကြားပြီး မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမတိုက်သို့ ကြွရောက်သီတင်းသုံးတော်မူပြီး ကျမ်းဂန်တတ် ဆရာတော်ကြီးများထံ နေ့ဝါ ညဝါ ဆက်လက် သင်ကြားတော် မူခဲ့လေသည်။ ၎င်းပြင် မေဘ်သာမြို့ ဆရာတော ဦးစက္ကပါလထံ၌လည်း စာပေကျမ်းဂန်များလေ့လာသင်ကြားဘူးသည်။ အိန္ဒိယနိုင်ငံ လပ်ခနောင် မြို့၊ ဗာရာဏသီမြို့တို့၌လည်း သီတင်းသုံး၍ ဘာသန္တရများကို လေ့လာခဲ့သည်။

### ကျမ်းဂန်ပြုစု ဘွဲ့တံဆိပ်ရ၊ ပျံလွန်ခြင်း

ဆရာတော်သည် ကျမ်းဂန်များကိုလည်း ပြုတော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ သုတ်မဟာဝါမဟာနိဒါနသုတ် နိဿယ၊
၂။ မဟာပုဏ္ဏသုတ်နိဿယ၊
၃။ ဓာတုဝိဘင်္ဂသုတ်နိဿယ၊
၄။ စူဠဝေဒလ္လသုတ်နိဿယ၊
၅။ ဗုဒ္ဓစရိတ်(မြောက်ပိုင်းဗုဒ္ဓဝင်နိဿယ)၊
၆။ သာမုဒြိကဘာသာပြန်(လက္ခဏာကျမ်း)စသည်တို့ဖြစ်ကုန်၏။

၁၃၂၂-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ မူလဒွါရနိကာယ၏ မဟာနာယက တပါးလည်း ဖြစ်တော်မူသည်၊ သက်တော် ၈၅-နှစ်၊ ဝါတော်၆၅-ဝါရရှိရာ ၁၃၃၄-ခုနှစ် တန်ဆောင်မုန်းလဆန်း ၃-ရက်နေ့တွင် ပျံလွန်တော်မူသည်။

ဥတ္တရာဇီဝတ္ထေရောဟိ၊ ဥတ္တမ ဗုဒ္ဓသာသနေ။
ဧသောပိ ဒက္ခိဏာရာမေ၊ ဝသိတွာ ကိစ္စကာရကော။

## ဒက္ခိဏာရာမအနွယ် မော်လမြိုင်မင်းကျောင်း ဆရာတော်

### အဂ္ဂမဟာပဏ္ဍိတ အရှင်ပဏ္ဍိစ္စ

မော်လမြိုင်မြို့ ပန်းဘဲတန်း မင်းကျောင်းဆရာတော် အရှင်ပဏ္ဍိစ္စ သည်လည်း ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ ပညာသင်ကြားဘတ်မြောက်တော်မူသည့် မထေရ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ကျိုက္ခမီခရိုင် ဘီလူးကျွန်းချောင်းဆုံမြို့ ကလဒ္ဒိရွာ အဖ ကျောင်းဒါယကာကြီး ဦးမောင်ခင်-အမိ ကျောင်းဒါယိကာမကြီး ဒေါ်ဒေါ်သက် တို့မှ သက္ကရာဇ် ၁၂၅၀-ပြည့်နှစ် ကဆုန်လဆုတ် ၄-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၇၁-ပြည့်နှစ် မော်လမြိုင်မြို့ ထားဝယ်စုချပ် မင်းခင်းကျောင်း ဆရာတော် "ဝိမလာစာရာဘိဓေ မဟာဓမ္မရာဇာဓိရာဇဂုရု၊ ဝိမလာစာရာဘိကဝိဓေ မဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော် နှစ်ထပ်ရ မင်းခင်းဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရှင်အဖြစ်၊ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခြင်း

ကျေးဇူးရှင် ဥပဇ္ဈာယ်ဆရာတော် အရှင်ဝိမလ မဟာထေရ်နှင့် သထုံမြို့ တလိုင်းကုန်း ဆရာတော် အရှင်တို့ထံ ပညာသင်ကြားတော်မူခဲ့ပြီး မန္တလေးမြို့ ဒက္ခိဏာရာမတိုက် ပေတောကျောင်း၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ စာချဆရာတော် အရှင်ဝိမလ စသည်တို့ထံတွင် ပရိယတ္တိ ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။

### စာပေချပို့ သာသနာပြုခြင်း

စာပေကျမ်းဂန် တတ်မြောက်တော်မူပြီးနောက် မော်လမြိုင်မြို့ ပန်းဘဲတန်း မင်းကျောင်း၌ သီတင်းသုံးတော်မူ၍ တပည့်တပန်း စာသင်သား ရဟန်းသာမဏေ များစွာတို့အား စာပေချပို့၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

## အခြားဆောင်ရွက်ချက်များ

ဆရာတော်သည်–

၁။ မော်လမြိုင်မြို့ သဒ္ဓမ္မပါလ စာမေးပွဲကြီး၏ နာယကတာဝန်၊
၂။ မော်လမြိုင်မြို့ သုသမာစာရ စာမေးပွဲကြီး၏ နာယကတာဝန်၊
၃။ ဆဋ္ဌသံဂါယနာဝန်ဆောင် ဆရာတော်တာဝန်၊
၄။ ဆဋ္ဌသံဂီတိကာရက တာဝန်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်အလှူခံရခြင်း

ဖော်ပြပါ ဆောင်ရွက်ချက်များနှင့် သီလဝန္တ သိက္ခာကာမဂုဏ်တို့ကြောင့် ၁၃၁၈–ခုနှစ်တွင် နိုင်ငံတော်အစိုးရက လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ပင်းဘဲတန်း မင်းကျောင်း၌ သီတင်းသုံး၍ သံဃာ့ဥပရိသတ်ကို ကွပ်ကဲ အုပ်ချုပ် ဩဝါဒပေး သာသနာပြုဆဲဖြစ်စဉ် သက်တော် ၇၆–နှစ် သိက္ခာတော် ၅၆–ဝါ ရရှိရာ ၁၃၂၆–ခုနှစ် တပို့တွဲလဆန်း ၁၃–ရက် ည ၉–နာရီ ၁၀–မိနစ်အချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

မြင်မြင်သမျှ၊ သင်္ခါရ၊ စိတ်ကနှလုံးသွင်း။

---

## ဒက္ခိဏာရာမအနွယ် ဇေယျောတိဆရာတော်
## အဂ္ဂမဟာပဏ္ဍိတ အရှင်ဥက္ကံသ

ဆရာတော် အရှင်ဥက္ကံသသည်လည်း ဒက္ခိဏာရာမတိုက်ထွက် ဖြစ်၏။ သို့ဖြစ်၍ ဤဒက္ခိဏာရာမ သာသနာဝင်၌ မှတ်တမ်းတင်အပ်ပါသည်။

ဆရာတော်သည် ပြည်ခရိုင် ရွှေတောင်မြို့နယ် လက်ပန်ကုန်းရွာ၌ အဖ ဦးဖြူသုံး အမိ ဒေါ်သေးသေးတို့မှ သက္ကရာဇ် ၁၂၅၀–ပြည့်နှစ် ဝါဆိုလဆန်း ၂–ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်တော်မူသည်။

## ရှင် ရဟန်းပြုခြင်း ပညာသင်ကြားခြင်း

သက်တော် ၁၅-နှစ်သားအရွယ်တွင် လှက်ပန်ကုန်းရွာကျောင်း ဆရာတော် အရှင်မေဓာထံတွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-တွင် ရွှေနတ်တောင် တောရကျောင်း အရှင် ဥတ္တမကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ရန်ကုန်ခရိုင် ဒလမြို့ ဇေယျဝတီကျောင်းတိုက် ဆရာတော် အရှင်ဉာဏစံသ၊ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ရေစကြိုဆရာတော် အရှင်ဂန္ဓသာရ မဟာထေရ်၊ ပြည်မြို့ ဆရာတော် အရှင်အရိယတို့ထံ ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့သည်။

### ဒက္ခိဏာရာမဘုရားကြီးတိုက်

ရင်းပြင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ ရောက်ရှိ နေထိုင်တော်မူ၍ ဆရာတော် ဦးဇာဂရ၊ ဆရာတော် ဦးပခန်း၊ ဆရာတော် ဦးခန္တီတို့ထံ၌လည်း—

> "ဒသနတ္တ၊ ဒီပကဖြင့်၊ ဒုမရာဇာ၊ ပဒေသာသို့၊ သဒ္ဒါနက်ပုံ၊ ဆေးဖက်စုံလျက်၊ အာဂုံယုတ္တိ၊ ဆိုရိုးမိ၍၊ မြူရှိတစ၊ မယွင်းစွသည့်၊ ဝါစ္စဝါစကာ၊ မုချဥပစာ၊ နည်းနာသမွှန်၊ လိင်အန်ဝုစ်နေ၊ ပုဒ်အတေွလည်း၊ နုသန္ဓေဆိုက်၊ အလိုက်အဖက်၊ လုံးစုံစေ့လျက်၊ ရှစ်သောင်းအလှန်၊ နက်သည့်ဉာဏ်ဖြင့်၊ မဟာဏ်နဒီ၊ စွယ်ရောက်ညီသည်၊ နှစ်ဆီပျော်ပျှို၊ ဆရာတို့ကို၊ မြင့်မိုရ်တန္တု၊ မှီငြမ်းပြုမျ"

ဆိုသည်နှင့်အညီ သဘောထား၍ သဒ္ဒနယ၊ အတ္ထနယ စသည် မျိုးစုံတို့ကို သင်ယူတော်မူခဲ့လေသည်။

### သာသနာ့ဝန်ထမ်းဆောင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ရရှိ

၁၂၇၁-ခုနှစ်တွင် သာယာဝတီခရိုင် မင်းလှမြို့၌ ဇေယျဝတီ အမည်ဖြင့် ကျောင်းတိုက်တည်ထောင်၍ သံဃာတော် အပါး ၅၀-ခန့်တို့အား စာပေ ချပို့၍ ပရိယတ္တိသာသနာကို ချီးမြှောက်တော်မူခဲ့သည်။ တဖန် ရန်ကုန်မြို့ ကြည့်မြင်တိုင် ဇေယျဝတီတိုက်၌ ဇေယျဝတီဆရာတော်ဘုရားကြီး ပျံလွန်တော် မူသဖြင့် လွဲအပ်ချက်အရ ၁၃၀၀-ပြည့်နှစ်မှစ၍ သံဃာတော် ၂၀၀-ကျော်ရှိ ဇေယျဝတီကျောင်းတိုက်ကို အုပ်ချုပ်၍ စာပေပို့ချလျက်—

၁။ စေတိယင်္ဂဏအသင်း ဩဝါဒါစရိယ၊
၂။ ရွှေတိဂုံစေတီတော် ဂေါပကအဖွဲ့ ဩဝါဒါစရိယ၊
၃။ ဆူးလေစေတီတော် ဂေါပကအဖွဲ့ ဩဝါဒါစရိယ၊

၄။ ပရိယတ္တိသာသနာနုဂ္ဂဟအသင်း ဩဝါဒါစရိယ၊
၅။ သင္ဃသံဂါယနာ ဩဝါဒါစရိယ၊ သံဃနာယက၊
၆။ နိုင်ငံတော် ဝိနည်းဓိုရ်ဘာဝန်-

တိုက်လည်း ဆောင်ရွက်တော်မူသည်။ ၁၃၂၃-ခုနှစ်တွင် နိုင်ငံတော်အစိုးရက လှူဒါန်းသည့် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်၊

## ပျံလွန်တော်မူခြင်း

သက်တော် ၈၈-နှစ်၊ သိက္ခာတော် ၆၇-ဝါရရှိရာ ၁၃၃၇-ခုနှစ် နှောင်းတန်ခူးလဆန်း ၁၀-ရက်နေ့ နံနက် ၇-နာရီအချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်၊

ဘဒ္ဒန္တဥက္ကံသော ထေရော၊ ဥက္ကံသညာဏိကော ဝိဒူ။
ဥက္ကံသံ ဥက္ကံသံ ဓေသာ ဟိ၊ ပတ္တော ဘွာနုတိဒိဝံ ဂတော။

---

## ဒက္ခိဏာရာမအနွယ်ဘုရားဖြူဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာဝံသ

ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ကြာမြင့်စွာ သီတင်းသုံး၍ စာပေသင်ကြားတော် မူခဲ့သည့် ဘုရားဖြူ ဆရာတော်သည် မြဲခြံခရိုင် ညောင်ဦး မြို့နယ် သေယောက်ကိုက်နယ် နှောပင်ကွင်းရွာ၌ အဖ ဦးဖိုးငြိမ်း-အမိ ဒေါ်ဆိုးမယ်တို့မှ သက္ကရာဇ် ၁၂၅၄-ခုနှစ် နယုန်လဆန်း ၈-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။

## ရှင်ရဟန်းပြု ပညာသင်ကြားခြင်း

သက်တော် ၁၅-နှစ်အရွယ်တွင် နှောပင်ကွင်းရွာ ဆရာတော်ဘုရားကြီးထံတွင် ရှင်သာမဏေပြု၍ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၇၃-ခုနှစ် တပေါင်းလပြည့် စနေနေ့တွင် သေယောက်မြို့ ရှင်ပင် သိမ်တော်ကြီးတွင် ဆင်ဖြူဆိပ်တောကျောင်းဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်တော်မူသည်။

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဝန္ဒသာရမဟာထေရ်၊ အတိခေဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီး အရှင်ဇဝနမဟာထေရ်၊ မဟာဝိသုတာရာမတိုက် အတိခေဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီး အရှင်သုန္ဒရမဟာထေရ်၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ညာဏမဟာထေရ်၊ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသမဟာထေရ်တို့ ထံတွင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်တို့ကို သင်ယူလေ့ကျက်တော်မူခဲ့သည်။

## ဧကဲ့ဏာရာမတိုက်၌ကြာမြင့်စွာ ပညာသင်

ရဟန်းသိက္ခာလေးဝါအရတွင် မန္တလေးမြို့သို့ကြွရောက်တော်မူ၍ မစိုးရိမ်တိုက်၌ တနှစ်ခန့် သီတင်းသုံးတော်မူခဲ့သည်။ ၁၂၇၉-ခုနှစ်၊ ၁၂၈၀-ပြည့်နှစ်များတွင် ဧကဲ့ဏာရာမ ဘုရားကြီးတိုက်၌ သီတင်းသုံးတော်မူ၍ တိုက်အုပ်ဆရာတော် အရှင်အာစာရ၊ စာချဆရာတော် အရှင်နန္ဒိယ၊ ဆရာတော်ဦးဇာဂရကြီး၊ ရွှေရေးဆောင်ဆရာတော် ဦးကြည်၊ ညောင်ကန်ဆရာတော် အရှင်ဥက္ကဋ္ဌ၊ ဘုံကျော်ဆရာတော် အရှင်ဃောသိတတို့ ထံတွင်လည်း—

၁။ ဝါကျသွား ဝါကျလာအမျိုးမျိုး၊

၂။ အနုသန္ဓေအထွေထွေကျမ်းရိုးအသွယ်သွယ်၊

၃။ အဓိပ္ပာယ်အဖြာဖြာ၊

၄။ ဌာနာပဋ္ဌာန၊ ဌာနာဆက္က—

ဝသည့် နည်းနာနယတို့ကို သင်ယူတော် မူခဲ့လေသည်။ ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်၌လည်း စာချပို့တော်မူ၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

## ဘုရားဖြူဆရာတော်ဖြစ်ခြင်း၊ ကျမ်းပြုစာချခြင်း

၁၂၈၅-ခုနှစ်တွင် ရန်ကုန်မြို့ ပုဇွန်တောင် ဘုရားဖြူကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူ၍—

"ယောဇနာမျိုး၊ ကျမ်းရိုးငါးချက်၊ ဆက္ကဌာနာ၊ ပုစ္ဆာထွက်တက်၊ စုဒ်ဖက်နိုင်းရှိ၊ ရွှေနောက်ညှိ၍၊ သန္ဓိအနု၊ ကေဠုဘနည်း၊ ဝုတ္တောဒည်းက၊ ထုတ်နည်းပဌာန၊ ပစ္စယနှင့်၊ နယလေးတန်၊ ပဋ္ဌာန်သာသန၊ သဒ္ဒမွှေနေတ္တိ၊ ညာယ်၏ကောက်ပုံ၊ အစုံနှစ်ဖြာ၊ ကြိယာငါးချက်၊ စပ်လျက်ယှဉ်ကြ၊ အာဘောဂမှ၊ နယစုံသင်၊ တန်ဆာဆင်၍"

ဟူသည့် မန္တလေးစာချနည်းနှင့်—

"ပါဠိ အဋ္ဌကထာ၊ ဋီကာမကျန်၊ ကျမ်းဂန်ကိုချ၊ ဝါကျဥဿုံ
နည်းစုံယောဇနာ၊ ကျမ်းလာခဲကတ် ဒုန္နယတ်ရှင်း၊ ချပို့ခြင်းဟူး
ပခုက္ကူစာချ၊ နည်းနယကို၊ ကျနသေချာ၊ နာသည်ပါမှ၊ ပိဋကကျမ်းကူး၊ လင်းယာဉ်မှူး"

ဟူသည့် ပခုက္ကူနည်း ကိုလည်း ချပို့၍သာသနာပြုတော်မူခဲ့သည်။

ဆရာတော်အရှင်ဆုဇိန္ဒ ပျံလွန်တော်မူပြီးနောက် ဘုရားဖြူတိုက်၏ မဟာနာယက ဖြစ်တော်မူသည်။ ဝိနယာနုဂ္ဂဟစာမေးပွဲကြီးကိုလည်း ဦးစီးကျင်းပတော်မူသည်။ ၎င်းပြင် နိုင်ငံတော်ဝိနည်းဓိုရ်၊ ဆဋ္ဌသင်္ဂါယနာ သြဝါဒစရိယ၊ စေတိယင်္ဂဏအသင်း၏ သြဝါဒစရိယ၊ ပရိယတ္တိသာသနာနုဂ္ဂဟ အသင်း၏ သြဝါဒစရိယဘာဝန် တို့ကိုလည်း ထမ်းဆောင်တော်မူခဲ့သည်။

### အဂ္ဂမဟာပဏ္ဍိတ ဘွဲ့အလှူခံရရှိခြင်း ပျံလွန်ခြင်း

၁၃၂၃-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ သက်တော်၇၉-နှစ် ဝါတော် ၅၉-ဝါရှိရာ ၁၃၃၃-ခုနှစ် ဝါဆိုလဆန်း ၁၀-ရက်နေ့တွင် ပျံလွန်တော်မူသည်။

ပညာဝံသော မဟာထေရော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏာရာမေ ဝသိတွာ၊ ဗဟုံ ပရိစယံ အကာ။

---

### ဒက္ခိဏာရာမအနွယ် ပခုက္ကူ မဟာဝိသုတာရာမ ဆရာတော်
### အဂ္ဂမဟာပဏ္ဍိတ အရှင်ဂန္ဓမာ

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီး၏စတုတ္ထမြောက် သံဃမဟာနာယက ဖြစ်တော်မူသော "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ရ အရှင်ဂန္ဓမာ မဟာထေရ်သည်လည်း ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြား တတ်မြောက်တော်မူသည့် မထေရ်မြတ်ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

စစ်ကိုင်းခရိုင် ဇေယျန်မြို့နယ် သားကျင်ရွာ၌ အဖ ဦးထွန်းအေး-အမိ ဒေါ်မယ်စံတို့မှ သက္ကရာဇ် ၁၂၅၄-ခုနှစ် တပေါင်းလဆန်း ၁၃-ရက် တနင်္လာနေ့တွင် ဖွားမြင်တော်မူသည်။ သက်တော် ၁၃-နှစ်သားအရွယ်တွင် ရှင်



အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဂန္ဓမဒ

သာဇဏောဝတီ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၇၄-ခုနှစ် တပေါင်းလဆန်း ၁၂-ရက်နေ့တွင် ဝါကျမြောင်ဖတော်ရ ဆရာတော် အရှင်သာဂရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက် ဆရာတော်များထံ ပညာသင်

၁၂၇၅-ခုနှစ်တွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီးသို့ ရောက်ရှိပညာသင်ကြားတော်မူခဲ့သည်။ ၎င်းနောက် မန္တလေးမြို့ တောင်ပြင် အောင်မြေရွှေဘုံတိုက်၌ သီတင်းသုံး၍ ဒက္ခိဏာရာမတိုက် ပရိယတ္တိ သာသနဟိဘ ဓမ္မာစရိယ (မူလစာချ) အရှင်ဇာဂရာဘိဝံသ စသည်တို့ထံတွင် မန္တလေးစာပြေနည်းကို သင်ယူတော်မူခဲ့လေသည်။ ဆရာတော် အရှင်ဂန္ဓမာသည် ၁၃၁၄-ခုနှစ် ပဌမဝါဆိုလပြည့်နေ့မှစ၍ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီး၏ မဟာနာယကဖြစ်တော်မူသည်။

## အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း၊ ပျံလွန်တော်မူခြင်း

ဆရာတော် အရှင်ဂန္ဓမာသည် ၁၃၄၀-ပြည့်နှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ နိုင်ငံတော်အစိုးရက ဆက်ကပ်လှူဒါန်းသည့် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်သည်။ သက်တော် ၈၉-နှစ်ရှိရာ ၁၃၄၂-ခုနှစ် နယုန်လဆန်း ၃-ရက်နေ့ ညနေ ၅-နာရီ ၂၅-မိနစ်အချိန်တွင်ပျံလွန်တော်မူခဲ့လေသည်[၁]။

## သံဝေဂယူရန်

အနိစ္စာ ဝတ သင်္ခါရာ၊ အဓုဝါ အနဿာသိကာ။
ယာဝဇ္ဇိဒံ သင်္ခါရေသု၊ အလမေဝ ဝိရဇ္ဇိတုံ။

သင်္ခါရာ၊ ရုပ်နာမ်ဓမ္မသင်္ခါရတို့သည်။ အနိစ္စာဝတ၊ မမြဲကုန်စွတကား။ အဓုဝါဝတ၊ မခိုင်ခံ့ကုန်စွတကား။ အနဿာသိကာဝတ၊ သက်သာရာ ရှာမရကုန်စွတကား။ ဣဒံ ဣဒမေသု သင်္ခါရေသု၊ ဤရုပ်နာမ်ဓမ္မသင်္ခါရတို့၌။ ယာဝ၊ အလွန်အကဲသာလျှင်။ ဝိရဇ္ဇိတုံ၊ တပ်မက်ခြင်းကင်းအောင်ပြုခြင်းငှာ။ အလမေဝ၊ ထိုက်တော့သည်သာ။

---

၁။ အကျယ် အရှင်ဂန္ဓမာ မဟာထေရ်၏ မဟာထေရုပ္ပတ္တိဋ္ဌိတကျမ်း၊ မဟာဝိသုတာရာမ နိကာယသာသနာဝင်၊ ၂၉၁-၂။ မဟာထေရုပ္ပတ္တိသန္ဒီပနီ ၂၈၆-၃၀၇-တို့လည်းကြည့်။

## ဒက္ခိဏာရာမအနွယ် ရွှေဘိုမွေသုခဆရာတော်

## အဂ္ဂမဟာပဏ္ဍိတ အရှင်ဝိသုတ

ရွှေဘိုမြို့ မွေသုခကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရ မဟာနာယကဆရာတော် အရှင်ဝိသုတဆရာတော်ဘုရားကြီးသည်လည်း မန္တလေး မြို့ ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ ပညာသင်ကြား တတ်မြောက်တော်မူသည့် ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။

### ဖွားမြင်ရှင်ရဟန်းပြု ပညာသင်

ဆရာတော်သည် ရွှေဘိုဒေသ ငါးရာနဲမြို့နယ် ဖလံကြင်ရွာ၌ အဖ ဦးစံသင်း အမိ ဒေါ်ငွေအိတို့မှ ဘာလ္ဗရာဇ် ၁၂၅၆-ခုနှစ် နယုန်လဆန်း ၁၁-ရက် ဗုဒ္ဓဟူးနေ့ နံနက် ၁-ချက်တီးကျော်အချိန်တွင် ဖွားမြင်တော်မူသည်။

သက်တော် ရှစ်နှစ်သားအရွယ်တွင် ဖလံကြင်ကျောင်းဆရာတော် အရှင်အာစိဏ္ဏထံ နေ့ကပ်ရှိ၍ ပညာသင်ကြားတော်မူခဲ့သည်။ သက်တော် ၁၄-နှစ်သားအရွယ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၇၅-ခုနှစ် တပေါင်းလဆန်း ၇-ရက်နေ့တွင် ကျောင်းအမကြီး ဒေါ်ချက်၏ ပဋ္ဌယာနုဂ္ဂဟဖြင့် ရွှေဘိုမြို့ ဝေဠုဝန်တိုက်သစ် ဆရာတော် အရှင်တိလောကကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။

ဆရာတော်သည် ၁၂၇၂-ခုနှစ်တွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီးသို့ ရောက်နှိ၍ ပညာသင်ခွင့်ကို ရရှိတော်မူခဲ့သည်။ ၎င်းနောက် အမရပူရမြို့သို့ ကြွတော်မူ၍ အတ်မြွာ ညဝါကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။

### ဒက္ခိဏာရာမဘုရားကြီးတိုက်၌ပညာသင်

၁၂၈၂-ခုနှစ်တွင် အမရပူရမြို့မှ မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူပြီး ဘုရားကြီးတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ''ဝါကျသွား ဝါကျလာအမျိုးမျိုး၊ အနုသန္ဓေ အထွေထွေ ကျမ်းရိုးအသွယ်သွယ်၊အခိပ္ပာယ်အဖြာဖြာ၊ ဌာနာပဥ္စက၊ ဌာနာ ဆက္ကအစရှိသော နည်း'' အမျိုးမျိုးတို့ကို သင်ယူတော်မူခဲ့လေသည်။ ယင်းသို့ ပညာသင်ကြားပြီးနောက် ၁၂၈၅-ခုနှစ် ဝါဆိုလဆန်း ၁၀-ရက်နေ့တွင် ရွှေဘိုမြို့သို့ ပြန်ကြွတော်မူခဲ့လေသည်။ ၁၂၈၇-ခုနှစ် နတ်တော်လဆန်း ၆-ရက်နေ့တွင် ဘက်ယ မဟာဝိသုတာရာမ အသင်းကျောင်းတိုက်ကြီးကို လှူအပ်ခြင်း ခံယူတော်မူရလေသည်။

ရင်းနောက် တတိယမဟာဝိသုတာရာမဆရာသင်း ကျောင်းတိုက်အနီး၌ ဓမ္မသုခကျောင်းတိုက်ကြီးကို အလှူခံရရှိသဖြင့် ၁၃၁၅-ခုနှစ် တပေါင်းလဆန်း ၂-ရက်နေ့တွင် ဓမ္မသုခတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးကာ စာသင်သားတို့အား စာချတော်မူခဲ့လေသည်။

## သာသနာ့တာဝန်ဆမ်းဆောင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ရ

ဆရာတော်သည် ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘာကြီးတွင် ပဋ္ဌိဝိသောဓက တာဝန်၊ သံဂီတိကာရကတာဝန် တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။ ရင်းပြင် နိုင်ငံတော် ဂိနည်းမိုရ်တာဝန်ကိုသည်း ဆောင်ရွက်တော်မူခဲ့လေသည်၊ ၁၃၃၀-ပြည့်နှစ် ဝါဆိုလမှစ၍ ရွှေတိုမြို့ရှိ ကျောင်းတိုက်ပေါင်း ၆၀-ကျော်ရှိ သံဃာတော် ၁၀၀၀-ကျော်၏ သံဃာမဟာနာယကဆရာတော် အဖြစ် တင်မြှောက်ခြင်းကို ခံယူတော်မူရလေသည်။

ဆရာတော်သည် ၁၃၄၁-ခုနှစ်တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံနိုင်ငံတော်အစောင်စိုက လှူဒါန်းသည့်"အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဖော်ပြပါ ဆောင်ရွက်ချက်တို့ဖြင့် သာသနာပြုတော်မူခဲ့သော "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ရ ဒက္ခိဏာရာမတိုက်ထွက် ဆရာတော်ဘုရားကြီး အရှင်ဝိသုတသည် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ် ဆက်ကပ်လှူဒါန်းကြောင်း ကြေငြာချက်ကိုသာ သိတော်မူ၍ ဘွဲ့တံဆိပ်တော်အလှူမခံရမီ ၁၃၄၁-ခုနှစ် တပို့တွဲလဆုတ် ၁၂-ရက်နေ့ နံနက် ၄-နာရီအချိန်တွင် လည်ချောင်းကင်ဆာဝေဒနာဖြင့် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။[၁]

## သံဝေဂယူရန်

နာနာရောဂါနံ အာဝါသော၊ ဇရာနံ အာသယော ဟိ ဝေါ။
တသ္မာဝ တသ္မိံကာယသ္မိံ၊ အလံ အလံ ဝိရဇ္ဇိတုံ [၂]။

အယံကာယော၊ လေးပါးဓာတ်ခိုင် ဤခန္ဓာကိုယ်သည်။ နာနာရောဂါနံ၊ အသီးအသီး အမျိုးမျိုး ကိုးဆယ့်ခြောက်ဖြာ ဘေးရောဂါတို့

---

၁၊ ဘွဲ့တံဆိပ်တော် ဆက်ကပ်ပွဲကား ၁၃၄၂-ခုနှစ် နယုန်လပြည့်နေ့ဖြစ်သည်။ ၃-လခွဲကျော်ကျော် အလိုတွင် ပျံလွန်တော်မူသည်။
၂။ အဋ္ဌရိယာပဒါန်။ ၁၁၄။

၏။ အာဝါသော၊ စဲ့မှီတည်နေရာ စင်စစ်ဖြစ်၏။ ဝဇ္ဇာနံ၊ လွန်စွာဆိုးညစ် အပြစ်တို့၏။ အာသယော ဟိ ခေါ်၊ တည်ရာစင်စစ် ကေန်လည်းဖြစ်သည်သာ။ တသ္မာဝ၊ ထိုကြောင့်သာလျှင်။ တဿိ ကာယဿိ၊ အပြစ်ရောဂါ စုံစွာပေါလှ ထိုကာယဥ္။ ဝိရဇ္ဇိတုံ၊ တပ်ခြင်းကင်းအောင် ပြုခြင်းငှာ။ အလံ အလံ၊ အလွန်လျှင် သင့်လျော်လှချေပြီတကား။

---

ဒက္ခိဏာရာမအနွယ် တောင်ကြီးမြို့ တောင်ကျောင်းကြီးဆရာတော်

အဂ္ဂမဟာပဏ္ဍိတ အရှင်နရိန္ဒ

ရှမ်းပြည်နယ် တောင်ကြီးမြို့ တောင်ကျောင်းကြီးဆရာတော် အရှင်နရိန္ဒ မဟာထေရ်သည်လည်း ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ပညာသင်ကြား ဆည်းပူးတော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ဆရာတော်ဘုရား ဖြစ်တော်မူသည်။

ဖွားမြင် ရှင် ရဟန်းပြု

ဆရာတော်သည် မွန်ပြည်နယ် သိမ်ဆိပ်မြို့နယ် တံတားဦးရွာ၌ အဖ ပအိုဝ့်အမျိုးသား ဦးချွန်း-အမိ ဒေါ်အုပ်တို့မှ ၁၂၅၇-ခုနှစ် ကဆုန်လဆုတ် ၄-ရက် စနေနေ့ ညဉ့် ၁၀-နာရီ မိနစ် ၄၀-အချိန်တွင် ဖွားမြင်တော်မူသည်။ ဦးချွန်း-ဒေါ်အုပ်တို့၌ သားသမီး ငါးယောက်ရှိရာ ဆရာတော်သည် ဒုတိယမြောက်ဖြစ်၍ ငယ်နာမည် မောင်ထွန်းမောင် ဖြစ်၏။

၁၀-နှစ်သားအရွယ်တွင် တံတားဦးရွာ တောင်ကျောင်းကြီး ဆရာတော် အရှင်ပညာဝံသထံတွင် ရှင်သာမဏေဝတ်၍ ၁၂၇၆-ခုနှစ် ဝါဆိုလဆန်း ၇-ရက်နေ့တွင် သိမ်ဆိပ်မြို့နယ် တံတားဦးရွာ မြောက်ကျောင်း ခဏ္ဍသိမ်တော်၌ အင်္ဂပူမြို့နယ် သမ္ဘုဆုတိုင်း သက်ငယ်ပြင်ကျောင်းတိုက် မဟာနာယက အရှင်မုနိန္ဒ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘာဝဒုလ္လဘသို့ ရောက်တော်မူခဲ့လေသည်။

ဆရာတော်သည် တံတားဦးကျောင်း ဆရာတော်များ၊ ကျိုက္ကော်မြို့ ကုသိနာရုံကျောင်းဆရာတော်များနှင့် ကျိုက္ကော်မြို့ သုခိတာရုံတိုက်သစ် ဆရာတော် အရှင်စာရိန္ဒ မဟာထေရ်တို့ထံ ပိဋကတ်အခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့သည်။

## ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ပညာသင်ခြင်း

ၐင်းနောက် မန္တလေးမြို့သို့ ကြွတော်မူ၍ ဘုရားကြီးတိုက် စာချအကျော် ဆရာတော် အရှင်ဇာဂရမထေရ်၊ အရှင်ဝိမလ မဟာထေရ်တို့ထံ ကျမ်းဂန် အရပ်ရပ်ကို သင်ယူတော်မူခဲ့လေသည်။

ဥသိတွာ ဒက္ခိဏာရာမေ၊ ဒက္ခိဏာနံ ဝိဒ္ဒါ သုမိ။
သိက္ခိတွာ ဗဟဝေါ ဂန္ထေ၊ တေသု ဆေကော ဝိသာရဒေါ။

ၐင်းပြင် ရွှေရေးဆောင်ဆရာတော် ဦးကြည်၊ ခင်မကန်တိုက် သဒ္ဒေး ဆရာတော် အရှင်ရေဝတ၊ မန်ကျည်းပင်ကျောင်း ဆရာတော် အရှင်သီလာ စာရ၊ စကုတိုက် ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ စာချဆရာတော် အရှင် သဒ္ဓမ္မ၊ တောင်မြို့မင်္ဂလာတိုက် ညဝါအကျော် ဆရာကြီးဦးအုံး၊ ဖက်ပင်အိုင် ဆရာတော် အရှင်ဒီပတို့ထံတွင် နေ့ဝါ ညဝါတို့ကို သင်ယူတော်မူခဲ့သည်။

## စာပေချပို့ သီတင်းသုံးခြင်း

၁၂၈၃-ခုနှစ်မှစ၍ သိမ်ဆိပ်မြို့နယ် တံခွားဦးရွာ ဓမ္မာရာရိကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန်တို့ကို ချပို့တော်မူခဲ့သည်။ ၁၂၉၀-ပြည့် နှစ်တွင် ကျိုက်ထိုမြို့ ဘုရားကြီးကျောင်းတိုက်၌လည်းကောင်း၊ ၁၂၉၂-ခုနှစ် တွင် ခရမ်းမြို့ မဟာဓမ္မာရာမ ကျောင်းတိုက်၌လည်းကောင်း စာပေချပို့ သာသနာပြုတော်မူခဲ့သည်။ ၐင်းနောက် ၁၂၉၄-ခုနှစ်မှစ၍ သထုံမြို့၌ ပုဗ္ဗာရုံ ကျောင်းတိုက်ကို တည်ထောင်တော်မူ၍ ၉-နှစ်တိုင် တပည့်တပန်း ရဟန်း သာမဏေ များစွာတို့အား စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။

၁၃၀၇-ခုနှစ်တွင် ရှမ်းပြည်တောင်ပိုင်း တောင်ကြီးမြို့မှ တပည့် ဒါယကာ ဒါယိကာမများ၏ ပင့်လျှောက်ချက်အရ တောင်ကြီးမြို့ တောင်ကျောင်းကြီး သို့ ကြွတော်မူ၍ ကိုးခန်းဇနပ်ဟောင်းပေါ်၌ တပည့်များနှင့်အတူ ဖြစ်သလို သီတင်းသုံးတော်မူ၍ စာပေချပို့ သာသနာပြုတော်မူခဲ့သည်။ ယခုမူ သံဃာတော် ၂၀၀-ကျော်ခန့်ရှိ၍ စာသင်တိုက်ကြီးအဖြစ် ထင်ရှားလေ၏။

## စာပေကျမ်းဂန် ပြုစုရေးသားခြင်း

ဆရာတော်သည် တောင်ကြီး၊ ပင်လုံ၊ ဆီဆိုင်၊ ပင်လောင်းဒေသများ အတွင်းရှိ သံဃာတော်ပေါင်း ၆၀၀-ကျော်တို့အား သြဝါဒ အနုသာသနီ ပေး၍ သာသနာပြုတော်မူယင်း—

၁။ မူလတန်း ပအိုဝ့်ဖတ်စာ၊
၂။ ပဌမတန်း ပအိုဝ့်ဖတ်စာ၊

၃။ ပအိုဝ့်မြန်မာ နှစ်ဘာသာအဘိဓာန်၊
၄။ လောကနီတိ ပအိုဝ့်ဘာသာပြန်၊
၅။ မင်္ဂလသုတ် ပအိုဝ့်ဘာသာပြန်၊
၆။ သိင်္ဂါလောဝါဒသုတ် ပအိုဝ့်ဘာသာပြန်—

စသည့်ကျမ်းဂန်များစွာတို့ကို ပြုစီရင်တော်မူခဲ့လေသည်။

ရင်းပြင် ၁၃၁၂-ခုနှစ်က တကြိမ်၊ ၁၃၂၂-ခုနှစ်က တကြိမ် အင်္ဂလန်၊ ဂျာမနီ၊ ဆိုက်ပရင်စပ်၊ ဆွစ်ဇာလန်၊ သီဟိုဠ်၊ အိန္ဒိယ စသည့် နိုင်ငံများသို့လည်း နှစ်ကြိမ် ကြွရောက်တော်မူ၍ ဘုရားမြတ်စွာ သာသနာ ပြန့်နှံ့ စည်ပင်ရေးကို ဆောင်ရွက်တော်မူခဲ့လေသည်၊ ယင်းသို့ မဟုဿာဟ ဇွဲလုံ့လဖြင့် သာသနာတော်အတွက် ဆောင်ရွက်တော်မူသော ဂုဏ်တို့ကြောင့် ၁၃၄၀-ပြည့်နှစ်တွင် ပြည်ထောင်စုဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော်၊ နိုင်ငံတော်ကောင်စီက ဆက်ကပ်လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

ဘဒ္ဒန္တနန္ဒိမေဓာ ထေရော၊ နရာနံ သုဟိတာဝဟော။
သာသန ဝုဍ္ဎိကာဝါယ၊ သတတံ ကိစ္စကာရကော။

---

### ဒက္ခိဏာရာမအနွယ် ဖြူးမြို့ မင်းကျောင်းဆရာတော်
### အဂ္ဂမဟာပဏ္ဍိတ အရှင်ကုသလ

ဖြူးမြို့ မင်းကျောင်းတိုက် ဆရာတော် အရှင်ကုသလသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ကြာမြင့်စွာ ပညာသင်ကြားခဲ့သည့် ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော်များ၏ အဆက်အနွယ်ဖြစ်ရာ ဤဒက္ခိဏာရာမ သာသနာဝင်၌ ဆရာတော် အရှင်ကုသလ၏ အဖြစ်တော်စဉ် အကျဉ်းကို ဖော်ပြအပ်ပါသည်။

#### ဖွားမြင် ရှင်သာမဏေပြု

ဆရာတော်သည် မန္တလေးတိုင်း ဝမ်းတွင်းမြို့နယ် ခင်ကြီးရွာ၌ အဖ ဦးပျော-အမိ ဒေါ်မေတို့မှ သက္ကရာဇ် ၁၂၆၀-ပြည့်နှစ် တပေါင်းလဆုတ် ၄-ရက် တနင်္ဂလာနေ့တွင် ဖွားမြင်တော်မူသည်။ သက်တော် ၁၁-နှစ်သား အရွယ်တွင် ရှင်သာမဏေတက်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် ရှင်ကုသလ ဖြစ်သည်။

## ဒက္ခိဏာရာမတိုက်၌ ပညာသင် ရဟန်းဘ၀ရောက်

ဆရာတော်သည် ၁၇-နှစ်သားအရွယ်တွင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိ၍ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးငြိမ်းထံတွင် ပိဋကတ်အခြေခံ ကျမ်းဂန်များ ဖြစ်သော ဋီကာကျော်၊ ရူပသိဒ္ဓိ စသော ကျမ်းစာများကို ဆို၀ါ လိုက်၀ါဖြင့် သင်ယူတော်မူခဲ့လေသည်။ ၎င်းပြင် ကျက်အံသင့်သော သဒ္ဒါ၊ သင်္ဂဟ၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ ဘုရားကြီးနိယံ စသည့် ကျမ်းစာများကိုလည်း အရေးရေလွှတ် တတွတ်တွတ်ရအောင် ဆောင်တော်မူခဲ့လေသည်။

သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၈၄-ပြည့်နှစ် တပေါင်းလဆန်း ၅-ရက်နေ့တွင် မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရွှေပြည်ရန်အောင် အရှေ့လက် ထီးလှိုင်-အင်းခမ်း နှစ်ဂိုဏ်းချုပ် ကုလားကာ ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘ၀ ဒုလ္လဘသို့ ရောက်တော်မူသည်။

ရဟန်းဖြစ်ပြီးနောက်တွင်လည်း ဦးငြိမ်းထံမှာပင် သီတင်းသုံးတော်မူလျက် ရွှေရေဆောင် ဆရာတော် ဦးကြည်၊ ထီးလင်းတိုက် ပေပင်ကျောင်း ဆရာတော် ဦးဝိမလတို့ထံ ပညာသင်ကြားတော်မူသည်။ ပုဂံအတွင်းဝန်တိုက် ဆရာတော် ဦးပဏ္ဍိတတို့ထံတွင် နေ့ဝါ ညဝါများကို ဆက်လက် သင်ယူတော်မူလေသည်။ ၎င်းပြင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးအဂ္ဂဝံသ၊ ညောင်လေးပင်မြို့ ကမ္မဋ္ဌာန်းကျောင်းတိုက် ဆရာတော် ဦးရဝိန္ဒ အစရှိသော ကျမ်းဂန်တတ်အကျော် ဆရာတော်များထံ၌လည်း ဆက်လက် ပညာသင်ကြားတော်မူခဲ့လေသည်။

## ဖြူးမြို့ မင်းကျောင်း စာသင်တိုက် တည်ထောင်ဖွင့်လှစ်

ရဟန်းသိက္ခာ ၁၅-ဝါရရှိပြီဖြစ်သော အရှင်ကုသလသည် ၁၂၉၅-ခုနှစ် ဝါဆိုလတွင် ညောင်လေးပင် ကမ္မဋ္ဌာန်းကျောင်း ဆရာတော် ဘုရားကြီး ဦးရဝိန္ဒ၏အမိန့်အရ တောင်ငူခရိုင်ဖြူးမြို့၌ မင်းကျောင်း စာသင်တိုက် အမည်ဖြင့် စာသင်တိုက် တည်ထောင်ဖွင့်လှစ်၍ ရောက်ရှိလာသော စာသင်သား ရဟန်း သာမဏေတို့အား နေ့ဝါ ညဝါ ကျမ်းစာမျိုးစုံချပို့တော်မူ၍ ပရိယတ္တိ သာသနာကို များစွာ ချီးမြှောက်တော် မူလေသည်။ ဆရာတော်သည် တောင်ငူခရိုင် ဝိနည်းဓိုရ်တာဝန်၊ ဆဋ္ဌသံဂါယနာ မူလဝိသောဓကတာဝန်၊ ဆဋ္ဌသံဂီတိကာရကတာဝန် တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။

## ကျမ်းဂန်ပြုစု အားထုတ်မှု

ဆရာတော်သည် နောင်လာ နောက်သားတို့ ကျေးဇူး များစိမ့်သောငှာ "နာနာပဒဝိနိစ္ဆယကျမ်း"ကိုလည်း ပြုစီရင်တော်မူခဲ့လေသည်။

ယင်းနာနာပဒဝိနိစ္ဆယကျမ်း၌—

ဂမ္ဘီရဒေသကံ ဗုဒ္ဓံ၊ ဓမ္မဉ္စ ဇိနဒေသိတံ။
သဒ္ဓမ္မခေါရကံ သံဃံ၊ ဝန္ဒိတွာမဟံ မဘန္တရံ။
ယာစိတော ဗဟုသောတူဟိ၊ နာနာပဒဝိနိစ္ဆယံ။
သင်္ခေပေန ကရိဿာမိ၊ နာနာဂန္ထေသု အာဂတံ။

ဟူသော နှစ်ဂါထာဖြင့် ပဏာမ၊ အဘိယာစနာ၊ ပဋိညာဉ်တို့ကို ဖော်ပြတော်မူခဲ့သည်။ ယင်းနာနာပဒဝိနိစ္ဆယကျမ်းကို ၁၃၄၄-ခုနှစ်တွင် မင်းကျောင်းတိုက်အုပ်ဆရာတော် ဦးဝါယမက ဓမ္မဒါနအဖြစ် ထုတ်ဝေခဲ့သေးသည်။ ဆရာတော်ကား သာသနာတော် စည်ပင်ရေးကို ရှေးရှု လိုလားတော် မူသည့် သာသနုဂ္ဂဟိုက ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

ဘဒ္ဒန္တကုသလော ဓောရော၊ ကုသလော ဗုဒ္ဓသာသနေ။
ကုသလံ သော ကရိတွာန၊ သမ္ဗုဒ္ဓသာသနဓရော။

---

## ဒက္ခိဏာရာမအနွယ် နန္ဒိသေနာရာမဆရာတော်
## အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒိသေန

ဆရာတော် အရှင်နန္ဒိသေန သည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ စာပေသင်ကြားခဲ့သည့် မထေရ်မြတ် ဖြစ်သည်။

### ဖွားမြင် ရှင်ရဟန်းပြုခြင်း

ပဲခူးတိုင်းပြန်တန်ဆာမြို့ချောင်းရင်းရွာ၌ အဖကျောင်းဒကာဆေးဆရာကြီး ဦးဘအို-အမိ ကျောင်းဒါယိကာမကြီး ဆရာကတော် ဒေါ်ဆောင်း တို့မှ သက္ကရာဇ် ၁၂၆၁-ခုနှစ် တော်သလင်းလဆုတ် ၁၂-ရက် စနေနေ့တွင် ဖွားမြင်တော်မူသည်။ ဆယ်နှစ်သား အရွယ်တွင် ရှင်သာမဏေ ဝတ်၍ သက်တော် ၂၁-နှစ်ပြည့်မြောက်သော ၁၂၈၁-ခုနှစ် နယုန်လဆုတ် ၁၃-ရက်နေ့ နံနက် ဂနာရီ အချိန်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်၊ စာပေချပို့

ရဟန်းဖြစ်ပြီးနောက် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမတိုက် ဆရာတော်ဦးကြယ်ကျောင်းသို့ရောက်ရှိ၍ နေ့ဝါညဝါ ကျမ်းစာများ သင်ယူတော်မူလေသည်။ ရဟန်းသိက္ခာ ရှစ်ဝါမှစ၍ တပည့်တပန်း ရဟန်းသာမဏေတို့အား စာပေချပို့၍ ပရိယတ္တိသာသနာတော်ကို များစွာချီးမြှောက်တော်မူခဲ့လေသည်။ ရဟန်းသိက္ခာ ၁၆-ဝါအရတွင် ပရိယတ္တိသာသနဟိတ အသင်းကြီး၏ "ပရိယတ္တိသာသနဟိတဓမ္မာစရိယ (မူလစာချ)" အဖြစ်ဖြင့် ကိုးကွယ်ခြင်းကိုခံယူတော်မူလေသည်။

## နန္ဒိသေနာရာမကျောင်းတိုက် တည်ထောင် စာပေချပို့

၁၃၀၃-ခုနှစ် ဝါဆိုလဆုတ် ၄-ရက်နေ့တွင် မဟာနန္ဒိသေနာရာမကျောင်းတိုက်ကို တည်ထောင်တော်မူ၍ ရောက်ရှိလာသော စာသင်သားရဟန်းသာမဏေ များစွာတို့အား စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။

## ဆောင်ရွက်ချက်များ

ဆရာတော်သည်—

၁။ ပါဠိပညာရေးအဖွဲ့ နာယကတာဝန်၊
၂။ ဆင္ဃသံဂါယနာ မူလဝိသောဓကတာဝန်၊
၃။ ဆင္ဃသံဂါယနာ ပဋိဝိသောဓက တာဝန်၊
၄။ ဆဋ္ဌသံဂီတိကာရက တာဝန်၊
၅။ ဆဋ္ဌသံဂါယနာ ဝေယျာဝစ္စကရအဖွဲ့တာဝန်—

စသည်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့လေသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခြင်း

ဆရာတော်သည် ဖော်ပြပါ ဆောင်ရွက်ချက် တို့ကြောင့် ၁၃၁၈-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။ ဆရာတော်ကား ပစ္စည်းမသို စိတ်မတိုသည့် ပုဂ္ဂိုလ်မြတ်ဖြစ်တော်မူသည်။ မထေရ်ကြီးများကိုသည်း လွန်စွာလေးစားတော်မူသည် [၁]။

နန္ဒိသေနော မဟာထေရော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏံ သော ဟိ ကတွာန၊ ဒက္ခိဏာဘာဂသဏ္ဌိတော။

---

၁။ အကျယ် မန္တလေး သာသနာဝင်ကျမ်း၊ နန္ဒိသေနာရာမ သာသနာဝင်ကြည့်။

## ဒက္ခိဏာရာမအနွယ် မေဝ်လမြိုင်တောင်လေးလုံးဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်နာဂသေနာဘိဝံသ

မော်လမြိုင်မြို့တောင်သေးလုံးကျောင်းတိုက် နာယကဆရာတော်အရှင်နာဂ သေနာဘိဝံသ သည်လည်း ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး၍ စာပေသင်ကြားတတ်မြောက်တော်မူသည့် မအေရိမြတ် ဖြစ်တော်မူသည်။

### ဖွားမြင်တော်မူခြင်း

ရွှေဘိုခရိုင် ဒီပဲရင်းမြို့အပိုင် ပေါင်းထောင်ကျေးရွာ၌ အဖ ဦးတိုးအနှံ-အမိ ဒေါ်သာမိတို့မှ သက္ကရာဇ် ၁၂၆၄-ခုနှစ် တန်ဆောင်မုန်းလဆန်း ၉-ရက် စနေနေ့ည ၈-နာရီ အချိန်တွင် ဖွားမြင်တော်မူသည့် ဒုတိယမြောက် သား ရတနာဖြစ်သည်။ ဆရာတော်လောင်းလျာကား လုံးချပ်သဏ္ဌာန် ကြန်အင် လက္ခဏာနှင့်ပြည့်စုံသည့် ဘုန်းကံပါရမီရှင် ပုဂ္ဂိုလ်ထူးဖြစ်သည်။

### ရှင်ရဟန်းပြု သာသနာ့ဝန် ထမ်းဆောင်တော်မူခြင်း

အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့သည် သက်တော် ဆယ်နှစ်သား အရွယ်မှစ၍ အတိုးဖြစ်တော် မူသော မန္တလေးမြို့ အနောက်ပြင် တောင်ဘော် သာသနာပိုင် (တိုက်တော်) တိုက် ရွှေကျောင်းကြီး၌ သီတင်းသုံးတော်မူသော ''ပညာလင်္ကာရ မဟာဓမ္မရာဇဂုရု'' ဘွဲ့တံဆိပ်တော်နှင့် ''ပညာသာမိ ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု'' ဘွဲ့တံဆိပ် တော်၊ ''အဂ္ဂမဟာပဏ္ဍိတ''ဘွဲ့တံဆိပ်တော်အားဖြင့် ဘွဲ့တံဆိပ်တော်သုံးထပ် ရ ဆရာတော်ဘုရားကြီးအရှင်ပညာ၊ပဥ္စမကျော်နှင့် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် တော်ရ သုခမ္မာဝင် ခေမာသီဝံ ဆရာတော်ဘုရားကြီး အရှင်အဂ္ဂဝံသတို့ထံ တော်၌ ကျောင်းသားဘဝ၊ သာမဏေဘဝ၊ ရဟန်းဘဝ အဖြင့်ဖြင့် ၁၃-နှစ် ကာလကြာမျှ ပိဋကတ်အခြေခံကျမ်းစာများနှင့် တကွ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ နေ့ဝါညဝါကျမ်းစာများကိုသင်ယူတော်မူခဲ့သည်။

ရင်းပြင် ခင်မကန်တိုက် အလယ်ကျောင်းကြီး၌ သီတင်းသုံးတော်မူ၍ အဂ္ဂမဟာပဏ္ဍိတ စံကျောင်း ဆရာတော် အရှင်နန္ဒိမာ၊ အဂ္ဂမဟာပဏ္ဍိတ သရေ့ဆရာတော် အရှင်ရေဝတ၊ တောင်သမန်တိုက် စာချအကျော် ဆရာ တော် အရှင်ဝိမလတို့ အထံတွင်လည်း ဂန္ထန္တရအဝဝကို သင်ယူတော်မူသည်။

## ဒက္ခိဏာရာမတိုက်သို့

“သဒ္ဒါကျမ်းဂန်၊ ဂန္ထန္တရ၊ ဇတ်လိုလှ၊ ကြွလေဒက္ခိဏာ”ဟူသည်နှင့် အညီ သဒ္ဒါကျမ်းဂန် အရပ်ရပ်နှင့် ဂန္ထန္တရ အဝဝကို ငိုးကဲ့သို့မွေ့ အာဂုံကျေညက် တတ်မြောက်လို သဖြင့် ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပခန်းကျောင်း၌ သီတင်းသုံးတော်မူ၍ ဆရာတော် ဦးပခန်းကြီးစသည်တို့အထံတွင် သဒ္ဒါ၊ကျမ်း ဂန်အရပ်ရပ်၊ ဂန္ထန္တရအဝဝကို နောက်ဆုံးပိတ် အချောသတ် သင်ယူတော် မူခဲ့လေသည်။

ဆရာတော်ဦးပခန်း ပခုက္ကူမြို့သို့ ကြွရောက်တော်မူ၍ သာသနဝိပုလာရာမ မန္တလေး ကျောင်းတိုက်ကြီးကို တည်ထောင်၍ စာပေချပို့စဉ်က ဆရာတော် အရှင်နာဂသေနာဘိဝံသ ပါဝင်ခဲ့သည်။ ဆရာတော် အရှင်နာဂသေနာဘိဝံသ သည် မန္တလေးမြို့ အနောက်ပြင် မစိုးရိမ်တိုက်၌သည်၊ သီတင်းသုံးတော်မူ၍ ပဌမကျော်၊ အဂ္ဂမဟာပဏ္ဍိတ၊ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီး အရှင်သူရိယအထံ၌လည်း ပညာဆည်းပူးလျက် စာပေချပို့တော်မူခဲ့လေသည်။

## စာမေးပွဲများ ဖြေဆိုအောင်မြင်တော်မူခြင်း

ဆရာတော်သည် စာမေးပွဲ များစွာတို့ကို ဖြေဆိုအောင်မြင်တော်မူခဲ့သည်။ ၁၂၈၀-ပြည့်နှစ် အစိုးရ ပဌမငယ်၊ ၁၂၈၅ ခုနှစ် အမျိုးသား ပဌမငယ်၊ ၁၂၈၆-ခုနှစ် အမျိုးသား ပဌမလတ်၊ အစိုးရ ပဌမလတ်၊ သကျသီဟ စာသင်တန်း၊ ၁၂၈၈-ခုနှစ် အစိုးရ ပဌမကြီးတန်း တို့ကို ဖြေဆိုအောင် မြင်တော်မူခဲ့သည်။

## ပဌမကျော်၊ အဂ္ဂမဟာအကျော် ကျော်လေးကျော်ဘွဲ့ရဆရာတော်

ဆရာတော်ကား ဉာဏ်လည်းထက်မြက်၊ ဝီရိယလည်း အလွန်ကောင်းသည့် ပုဂ္ဂိုလ်ထူးဖြစ်သည့်အားလျော်စွာ—

၁။ ၁၂၈၉-ခုနှစ်တွင် အမျိုးသား ပဌမကျော်၊
၂။ ၁၂၉၁-ခုနှစ်တွင် အစိုးရပဌမကျော်၊
၃။ ၎င်းနှစ်နေ့ချောင်းအမျိုးသားပဌမကျော်၊
၄။ ၁၃၁၂-ခုနှစ် အစိုးရ စာချတန်းတွင် အမှတ်အများဆုံး ရ၍ အောင်မြင်တော်မူ သဖြင့် အဂ္ဂမဟာအကျော် ဘွဲ့တို့ကိုရရှိတော် မူခဲ့လေသည်။

သို့ဖြစ်၍ ဤသာသနာတော်တွင် အကျော်လေးကျော် ဘွဲ့ရ ပုဂ္ဂိုလ် ဖြစ်ကြောင်း—

"ပဉ္စမကျော်၊ အဂ္ဂကျော်ဟု၊ လေးခုအကျော်၊ တံဆိပ်တော်ဖြင့်၊
ရှင်ပင့်မြတ်စွာ၊ သာသနာ့ဝန်၊ အားသွန်ကြိုးပမ်း၊ ထမ်းရွက်ပျော်ရွှင်၊
အရှင်နာဂသေန၊ ပုဂ္ဂလဝိသိဋ္ဌ၊ ဂုဏ်ဟိတ်ကြီးမား၊ ဆရာတော်ဘုရား"

ဟူ၍ မှတ်သားရာ၏။

## သကျသီဟ၊ သိရိပဝရ ဓမ္မာစရိယ ဘွဲ့နှစ်ထပ်ရ

ဆရာတော်ကား ထူးခြားညွှန်ကြားထိုက်သည့် ပုဂ္ဂိုလ်မြတ် စင်စစ် ဖြစ်တော်မူသည်။ ၁၂၈၈-ခုနှစ်တွင် သကျသီဟ စာချတန်း စာမေးပွဲကို အပြီးတိုင် အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တ နာဂသေနာဘိဝံသ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်နှင့် ၁၃၁၂-ခုနှစ်တွင် အစိုးရစာချတန်းကို ဂုဏ်ထူးဆောင် ကျမ်းများနှင့်တကွ အောင်မြင်တော်မူသဖြင့် "သာသန ဓဇ သိရိပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်တို့ကို အလှူခံ ရရှိတော်မူခဲ့လေသည်။ ဤသို့ဖြင့် ဓမ္မာစရိယ ဘွဲ့တံဆိပ်တော်နှစ်ထပ်ရ ပုဂ္ဂိုလ်သည်း ဖြစ်တော်မူသည်။

## တောင်လေးလုံးဆရာတော်

သက်တော် ၄၀-ကျော်လောက်ကစ၍ မော်လမြိုင်မြို့ တောင်လေးလုံး ကျောင်းတိုက်ကြီး၏ အဓိပတိ မဟာနာယကဖြစ်၍ တိုက်တာအုပ်ချုပ် စာပေ ကျမ်းဂန် ချပို့ သာသနာပြုတော်မူခဲ့သော တောင်လေးလုံး ဆရာတော်အဖြစ် လွန်စွာ ထင်ရှားတော်မူသည်။

## ကျမ်းဂန်ပြုစု အားထုတ်မှု

ဆရာတော်သည် ကျမ်းဂန်များစွာတို့ကို ပြုစုတော်မူ၍ ပရိယတ္တိသာသနာ တော် စည်ပင်ရန် အားထုတ်တော်မူခဲ့သည်။ ၎င်းတို့မှာ—

၁။ ဓမ္မာစရိယ လက်သုံးကျမ်း၊
၂။ ဆန်း သင်နည်းကျမ်း၊
၃။ အလင်္ကာ သင်နည်းကျမ်း၊
၄။ ဘေဒစိန္တာ သင်နည်းကျမ်း၊
၅။ ကစ္စာယနသာရ သင်နည်းကျမ်း၊
၆။ မာတိကာ သင်နည်းကျမ်း၊
၇။ ဓာတုကထာ သင်နည်းကျမ်း၊
၈။ ယမိုက် သင်နည်းကျမ်း၊

၉။ ပဋ္ဌာန်း သင်နည်းကျမ်း၊
၁၀။ တောင်လေးလုံး သဒ္ဒါကြီး နိဿယသစ် ပဌမတွဲ၊
၁၁။ တောင်လေးလုံး သဒ္ဒါကြီး နိဿယသစ် ဒုတိယတွဲ၊
၁၂။ တောင်လေးလုံး သဒ္ဒါကြီး နိဿယသစ် တတိယတွဲ—

စသည်တို့ ဖြစ်ကုန်၏။

## ထူးခြားသော သဒ္ဒါကြီး နိဿယသစ်

ဖော်ပြပါ ကျမ်းများအနက် သဒ္ဒါကြီး နိဿယသစ်မှာ လွန်စွာ ထူးခြားသည့် နိဿယကြီးဖြစ်သည်။ ဒက္ခိဏာရာမတိုက် ခဗ္ဗူဇမ ဖြစ်တော်မူကြသော ဆရာတော် ဦးရှုန်ကုန်၊ ဆရာတော် ဦးခေါင်းကြီး စသည့် ဂဏာင်ဂေက စာချ ဆရာတော်ကြီးတို့၏ နည်းနာနယကို ဖော်ပြ၍ အနက်ပေး၊ အဓိပ္ပာယ်၊ ရုပ်တွက်၊ စာဝင်၊ ပဋ္ဌာပရိဟာရ၊ အဓိကာက်၊ ဂိုဏ်းပြေး သည်ဘို့ဖြင့် လိုလေးသည်မရှိအောင် ရေးသား စီရင်တော်မူခဲ့လေသည်။ ကျမ်းဦးကျမ်းဦ—

ရတနတ္တယံ ဝန္ဒိတွာ၊ ကဿံ သဒ္ဒါဝိဓေဘ နယံ။
သောတူနံ သိက္ခနတ္ထာယ၊ သလက္ခ° သာဓိမုတ္တိကံ။

အဟံ၊ ငါသည်။ ရတနတ္တယံ၊ ရတနာတို့၏ သုံးပါးတို့၏ အပေါင်းကို။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။ သောတူနံ၊ စာသင်သားတို့၏။ သိက္ခနတ္ထာယ၊ သင်ယူခြင်းအကျိုးငှာ။ သလက္ခံ၊ ဥဒါဟာရုဏ် ပုံစံနှင့်တကွဖြစ်သော။ သာဓိမုတ္တိကံ၊ အဓိပ္ပာယ်နှင့်တကွဖြစ်သော။ သဒ္ဒါဝိဓေနယံ၊ သဒ္ဒါသင်နည်းကျမ်းကို။ ငါ၊ တောင်လေးလုံးသဒ္ဒါကြီး နိဿယသစ် မည်သော သဒ္ဒါသင်နည်းကျမ်းကို။ ကဿံ၊ ရေးသားစီရင်ပေအံ့။

ဟူသော ဂါထာ နိဿယဖြင့် ရတနတ္တယပဏာမ၊ ကရုဏာပွကာရ၊ ပဋိညာဉ်တို့ကို ဖော်ပြ၍ ဂန္ထာရမ္ဘ ပြုတော်မူခဲ့လေသည်။ ကျမ်း၏အဆုံး၌ကား တစုံတရာ ဖော်ပြတော်မမူချေ။

## သံဃာ့ဝန်ဆောင် ဆရာတော်ဖြစ်ခြင်း

၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၁-ရက်၊ ၁၂-ရက်၊ ၁၃-ရက်၊ ၁၄ ရက်နေ့တွင် ကျင်းပခဲ့သည့် ပဌမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး ဖြစ်မြောက်ရေးအတွက် တပို့တွဲလဆုတ် ၁-ရက်နေ့ကစ၍ သံဃာ့ဝန်ဆောင်အဖွဲ့ ၆၆-ပါးတွင်လည်း ပါဝင်၍ သံဃာ့ဝန်ဆောင် ဆရာတော်တာဝန်ကို ဆောင်ရွက်တော်မူခဲ့လေသည်။

### အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခြင်း

၁၃၄၂-ခုနှစ် နတ်တော်လဆုတ် ၁၃-ရက် (၄-၁-၈၁) နေ့တွင် ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော် အစိုးရက လှူဒါန်းသည့် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

### သုတ္တန်များကို အရဆောင်၍ ဘုရားရှင်ပူဇော်

ဆရာတော်သည် ကျန်းမာရေးအလွန်ကောင်းသည်၊ ယခုတိုင် စာပြန်တုန်း ရှိတော်မူသေးသည်။ နိကာယ်ငါးချပ်မှ သုတ္တန်ရှာပေါင်းများစွာတို့ကို နှုတ်လွတ်ပြန်၍ ညစဉ် ဘုရားရှင်အား ပူဇော်တော်မူသည်။ ကျက်ဉာဏ်လည်း လွန်စွာထက်မြက်သည်။ ငယ်စဉ်က ဋီကာကျော် ကိုးပိုင်းလုံး အာဂုံဆောင်တော်မူသည်ဟု သိရသည်၊ ဆရာတော်ကား ဘုရားပရမေ သာသနာတော်၏ ကျက်သရေဆောင် ပုဂ္ဂိုလ်မြတ်ကြီး စင်စစ် ဖြစ်တော်မူပါသည်။

နာဂဒေသနော မဟာထေရော၊ ဒက္ခိဏာရာမဝံသိကော။
ဝါစယိတွာ လိခိတွာန၊ သမ္ဗုဒ္ဓ စက္ကဘာဇနော။

---

### ဒက္ခိဏာရာမအနွယ် ဗားကရာတိုက် တိလောကာရုံဆရာတော်

### အဂ္ဂမဟာပဏ္ဍိတ အရှင်တိလောက

ရန်ကုန်မြို့ ကြည့်မြင်တိုင် ဗားကရာကျောင်းတိုက် တိလောကာရုံကျောင်း ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်တိလောကသည်လည်း ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြား ဘတ်မြောက်တော်မူခဲ့သည့် မထေရ်မြတ် ဖြစ်သည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

သာယာဝတီခရိုင် လက်ပံတန်းမြို့နယ် ကွမ်းခြံရွာ၌ အဖ ဦးသူတော်-အမိ ဒေါ်ငွေတော်တို့မှ သက္ကရာဇ် ၁၂၆၈-ခုနှစ် နယုန်လပြည့် စနေနေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်တွန်းအောင် ဖြစ်သည်။ သက်တော် ၁၄-နှစ်သားအရွယ်တွင် ကွမ်းခြံတောင်ကျောင်း ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဝတ်ခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၈၇-ခုနှစ် ဝါဆိုလဆန်း ၁၀-ရက်နေ့တွင် ကွမ်းခြံတောင်ကျောင်း ဆရာတော်ဘုရားကြီးကိုပင် ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။

## ဒက္ခိဏာရာမတိုက်၌ ပညာသင်

ရဟန်းဖြစ်ပြီးနောက် မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ နှစ်ပေါင်းများစွာ ပညာသင်ကြားတော်မူခဲ့သည်။ မန္တလေးမြို့ အနောက်ပြင် ခင်မကန်တိုက် စံကျောင်းဆရာတော် အရှင်နန္ဒိမာ၊ တောင်ပြင် ဆင်တဲတိုက် ဆရာတော်၊ ဒက္ခိဏာရာမတိုက် ဟံသာဝတီဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ကုန္တာသာ၊ သာသန ဇောတိကာရုံ ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒ စသည်တို့ထံတွင် "ပညာမရ၊ လျှပ်ပေါလှ သူများနောက်လိုက်သာ" ဟူသည်နှင့်အညီ သူများနောက်လိုက် မခံလိုဘိတ်ဖြင့် စာပေကျမ်းဂန် အရပ်ရပ်ကို သင်ယူ တတ်မြောက်တော်မူခဲ့လေသည်။

## စာမေးပွဲများ အောင်မြင် စာချ

စာမေးပွဲများကိုလည်း ဝင်ရောက်ဖြေဆိုရာ ငယ်၊ လတ်၊ ကြီး၊ ကျော် စာမေးပွဲများကိုလည်းကောင်း ၁၂၉၃-ခုနှစ်တွင် သကျသီဟ စာမေးပွဲ စာသင်တန်းကိုလည်းကောင်း ဖြေဆိုအောင်မြင်တော်မူခဲ့လေသည်။ ၁၂၉၅-ခုနှစ်တွင် သကျသီဟ စာချတန်းကိုလည်း အပြီးတိုင် ဖြေဆိုအောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တတိလောကာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။ စာပေကျမ်းဂန် တတ်မြောက်ပြီးနောက် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဟံသာဝတီကျောင်း၌လည်းကောင်း၊ လက်ပံတန်းမြို့ ပါဠိသိပ္ပံကျောင်း၌လည်းကောင်း စာသင်သား ရဟန်း သာမဏေတို့အား စာပေချပို့ သာသနာပြုတော်မူခဲ့လေသည်။

## အခြားဆောင်ရွက်ချက်များ

၎င်းပြင် အိန္ဒိယပြည်သို့လည်း ကြွရောက်၍ သက္ကတ၊ ဟိန္ဒီ-စသည့်ဘာသာများကိုလည်း လေ့လာတော်မူခဲ့သည်။ အိန္ဒိယနိုင်ငံ လက်ခနောင်းမြို့ ဗုဒ္ဓဘာသာအသင်းကြီး၌ ငါးနှစ်ကျော်မျှ ဥက္ကဋ္ဌအဖြစ် တာဝန်ထမ်းဆောင်တော်မူခဲ့လေသည်။ မြန်မာနိုင်ငံ ပြန်ရောက်သောအခါ ကြည့်မြင်တိုင် ဗားကရာတိုက် မဟာနာယကတာဝန်၊ ရန်ကုန်မြို့ အနောက်ပိုင်း မြို့နယ်တာဝန်ခံ ဝိနည်းဓိုရ်တာဝန်၊ ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင် ဝန်ဆောင်အဖွဲ့ဝင်တာဝန်၊ ပါဠိဝိသောဓက၊ ပဋိဝိသောဓကတာဝန်–စသည်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။ ပဋ္ဌာန်းကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေး ဝန်ဆောင်ဆရာတော် ၆၆-ပါးတို့တွင် ပါဝင်ဆောင်ရွက်တော်မူခဲ့သည်။ ၎င်းပြင် နိုင်ငံတော် ဩဝါဒါစရိယဆရာတော် အဖြစ်ဖြင့်လည်း ဆောင်ရွက်တော်မူသည်။

## အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် အလှူခံရရှိခြင်း

၁၃၂၃-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ လှူဒါန်းသည့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။ ယခုအခါတွင် ရန်ကုန်မြို့ ဗားကရာတိုက် တိဿောကာရုံကျောင်း၌ သီတင်းသုံးတော်မူလျက်ရှိ၏။

ဘဒ္ဒန္တတိလောကော ထေရော၊ ဒက္ခိဏာရာမ ဝံသိကော။
ပုဗ္ဗေ သော ဒက္ခိဏော ဝသိဘူ၊ သမ္ဗုဒ္ဓသာသနဓ္ဓဇော။

---

## ဒက္ခိဏာရာမ-အနွယ် တိပိဋကဓရ မဓမ္မဘဏ္ဍာဂါရိက

## (ပြည်) ဆရာတော် အရှင်ကောသလ္လ

ရန်ကုန်မြို့ ရန်ကင်းပဋ္ဌာနိကာယ သာသနာ့ဗိမာန် "တိပိဋကဓရ မဓမ္မဘဏ္ဍာဂါရိက" သာသနာ့အာဇာနည် (ပြည်) ဆရာတော် အရှင်ကောသလ္လသည် ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ကြာမြင့်စွာ ပညာသင်ကြားခဲ့သည့် မထေရ်ဖြစ်သည်။

### ဖွားမြင် ရှင်ရဟန်းပြု

ဆရာတော်သည် ပြည်မြို့နယ် ဝက်တီးကန်ဝါးရုံဆိပ်ရွာ၌ ဦးဘိုးရင်-ဒေါ်ဒေါင် စိန်တို့မှ သက္ကရာဇ် ၁၂၇၉-ခုနှစ်တော်သလင်းလဆန်း ၁၀-ရက် တနင်္လာနေ့တွင် ဖွားမြင်သော အကြီးဆုံး သားရတနာဖြစ်သည်။ လူမည် မောင်ကျော်စိန်ဖြစ်သည်။

၁၃-နှစ်သားအရွယ်တွင် ဝါးရုံဆိပ်ဆရာတော် အရှင်ဣန္ဒကအထံတွင် ရှင်သာမဏေဝတ်၍ သာသနာ့ဘောင်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဘွဲ့တော် ရှင်ကောသလ္လဖြစ်သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၀၀-ခုနှစ် တပေါင်းလပြည့်နေ့တွင် ဝါးရုံဆိပ်ရွာ ဦးချစ်စု-ဒေါ်မယ်တင်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ပြည်မြို့ ပွင့်လှသိမ်ကုန်း ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဝါးရုံဆိပ်ဆရာတော် အရှင်ဣန္ဒက၊ ပွင့်လှသိမ်ကုန်း ဆရာတော်ဘုရားကြီး၊ ရန်ကုန်မြို့ ခြောက်ထပ်ကြီးတိုက်ဆရာတော်၊ သျှောင်တုန်းတိုက်ဆရာတော်တို့ထံ ပညာသင်ကြားတော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခြင်း

ဆရာတော် အရှင်ကောသလ္လသည် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍—

"ယောဇနာမျိုး၊ ကျမ်းရိုးငါးချက်၊ ဆက္ကဋ္ဌပနာ၊ ပုစ္ဆာထွက်တက်၊ စုဒ်ဖက်နှိုင်းရှိ၊ ရွှေနှောက်ညှိ၍၊ သန္ဓိအနု၊ ကေဠုဘနည်း၊ ဝုဓဘာဒည်းကား၊ ထုတ်နည်းပဌာန်၊ ပစ္စယနှင့်၊ ဒါကျချစိတ်၊ ပုဒ်နိဒ္ဒသ ယမကလှောက်၊ ဆဲ့ခြောက်ဟာရ၊ နယလေးတန်း၊ ပဉ္စာန်သာသန၊ သဒ္ဓမ္မနေတ္တိ၊ ဉာဏ်၏ကောက်ပုံ၊ အစုံနှစ်ဖြာ၊ ကြိယာငါးချက်၊ စပ်လျက်ယှဉ်ကြ၊ အာဘောဂမှ၊ နယစုံလင်၊ တန်ဆာဆင်၍"

စသည့်မန္တလေးခါပြောနည်းကိုလည်း သင်ယူတော်မူခဲ့လေသည်။

ဒေသိတွာ ဒက္ခိဏာရာမေ၊ တေပိဋကော မဟာဝိဒူ။
သုဝိဒုသာသနဿေဝ၊ ဝုဍ္ဍိယာ ဥဂ္ဂဟံ အကာ ။

ဤမြင်ပြင် မန္တလေးမြို့ အနောက်ပြင် မိုးကောင်းတိုက်၊ စကုတိုက်တို့၌သည်းကောင်း၊ ပခုက္ကူမြို့ မဟာဝိသုတာရာမ ဝိဇ္ဇာလယာနကြီး၌သည်းကောင်း ပိဋကတ်ကျမ်းဂန် အဘန်ဘင်ကို ဆက်သက်သင်ယူတော်မူခဲ့လေသည်။

ယင်းသို့ မဆုတ်မနစ် အားသစ်ကြိုးပမ်းမှုကြောင့်—

၁။ ၁၃၁၄-ခုနှစ်တွင် ဓမ္မာစရိယစာချတန်း ကိုးကျမ်းလုံးကို ဖြေဆို အောင်မြင်တော်မူသဖြင့် "သာသနဓဇသိရိပဝရ ဓမ္မာစရိယ"

၂။ ဗုဒ္ဓသာသနဝိသိဋ္ဌ ဒီဃဘာဏက ဒီဃနိကာယကောဝိဒ၊

၃။ ဗုဒ္ဓသာသန ဝိနယခရ ဝိနယကောဝိဒ၊

၄။ အဘိဓမ္မိက အဘိဓမ္မကောဝိဒ၊

၅။ ၁၃၂၅-ခုနှစ်တွင် သင်ရိုးပိဋကတ်အားလုံးကို ပြန်ဆို ရေးဖြေ အောင်မြင်တော်မူသဖြင့် "တိပိဋကကောဝိဒ တိပိဋကခရ ဓမ္မဘဏ္ဍာဂါရိက" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။

ဆရာတော် အရှင်ကောသလ္လသည်—

၁။ ပွင့်လှသိမ်းကုန်း ထေရုပ္ပတ္တိကျမ်း၊

၂။ အဘိဓမ္မသရူပမာလာအဖွင့်အဓိပ္ပာယ်ကျမ်း၊

၃။ အနာဂါရိယဂုဏ်တော်ဖွင့်နှင့် အာဂါရိယရှုဖွယ်ကျမ်း၊

၄။ အခြေခံ သာသနာရေးကျမ်း-စသည်တို့ကိုလည်း ပြုစီရင်တော်မူခဲ့လေသည်[၂]။

ဘဒ္ဒန္တ ကောသလ္လတ္ထေရော၊ ကောသလ္လဉာဏ်ကော သုဓီ၊
ကိစ္စာနိ သော ကရိတ္ဝာန၊ သာသနဿ ဝုဍ္ဍိ။

---

၁။ တိပိဋကခရ ဝုတ္တန္တသန္ဒီပနီကျမ်း၊ ၁၉၉။
၂။ တိပိဋကခရ ဝုတ္တန္တသန္ဒီပနီကျမ်း ၁၇၄-၂၁၇-ကြည့်။

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်ပရမာဘိဝံသ

အရှင်ပရမာဘိဝံသသည်လည်း ဒက္ခိဏာရာမ ဝိဇ္ဇာလယတနကြီး၌ စာပေချပို့၍ သာသနာပြုတော်မူခဲ့သည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

လှိုင်းတက်မြို့၌ သက္ကရာဇ် ၁၂၃၅-ခုနှစ် ပတ်ဝန်းကျင်တွင် ဖွားမြင်တော်မူခဲ့သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်းကို ထမ်းဆောင်တော်မူခဲ့လေသည်။ ဉာဏ်ထက်သည့် ဆရာတော်ဖြစ်သည်။ "ပရိယတ္တိ သာသန ဟိတဓမ္မာစရိယ" လည်းဖြစ်သည်။

### စာပေချပို့ခြင်း ပျံလွန်တော်မူခြင်း

ဒက္ခိဏာရာမတိုက်၌ စာချအကျော် ကဗျာနန်ဒေါ် ဆရာတော် အရှင် နန္ဒိယ စသည်တို့ထံတွင် ပညာသင်ကြား တတ်မြောက်ပြီး စာပေချပို့ သာသနာ ပြုတော်မူခဲ့သည်။ လယ်တွင်းစဉ့်ကိုင်အနယ်တွင် ပလိပ်ရောဂါဖြင့် ပျံလွန်တော် မူခဲ့လေသည်။

### သံဝေဂယူရန်

"သဗ္ဗေ ရောဟိ ဝိနာသိနော၊
ရုပ်နာမ်ဓမ္မ သင်္ခါရတရားတို့သည် ပျက်စီးခြင်းသဘောရှိကုန်စွတကား"

---

## ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်

### အရှင်သုစိတ္တ

ဆရာတော် အရှင်သုစိတ္တသည် ဒက္ခိဏာရာမတိုက် ပဉ္စမနာ ကျောင်း၌ စာချလုပ်ငန်းဖြင့် ပျော်မွေ့ခဲ့ဘူးသော မထေရ်မြတ်ဖြစ်သည်။

### ဖွားမြင် ရှင်ရဟန်းပြုခြင်း

သက္ကရာဇ် ၁၂၄၀-ပြည့်နှစ်တွင် မကွေးမြို့ စည်ပင်ရွာ၌ ဖွားမြင်ခဲ့သည်။ နံဘော် သောကြာသား ဖြစ်သည်။ အရွယ် ရောက်သော် ရှင်ရဟန်း ပြု၍ ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိပြီး စတုတ္ထမြောက် နာယကဆရာတော် အရှင်

အာစာရာဘိဝံသနှင့် စာချအကျော် ဆရာတော် ဦးရန်ကုန်-စသည်တို့ထံပညာသင်ကြားတော်မူခဲ့သည်။

ဘွဲ့ပေးချီးမြှင့်ခြင်းနှင့် ပျံလွန်တော်မူ

ဂဏာမစက စာချအဖြစ်သို့ ရောက်၍ ပျဉ်းမနားကျောင်း၌ စာချခဲ့ရာ နည်းပေးကောင်းသဖြင့် စာသင်သား သံဃာတော်များစွာတို့ ဆရာတော်ထံ စာပေလိုက်နာသင်ယူကြကုန်၏။ နောင်တွင် နိုင်ငံရေးဆက်စပ်မှုများကို ပြုလုပ်ရာ စာဝါများမချပဲ ရပ်ဆိုင်းလိုက်တော့သည်။ ဒေါက်တာဘမော်၏ ဆရာတော်အဖြစ်ဖြင့် ရန်ကုန်မြို့ အစည်းအဝေးသို့ တက်ရောက်ရာ နှလုံးရောဂါဖြင့် သက်တော် ၅၈-နှစ်ရှိရာ ၁၂၉၇-ခုနှစ် တွင် ပျံလွန်တော် မူသည်။ အလောင်းကို မန္တလေးယူ၍ သင်္ဂြိုဟ်သည်။

သံဝေဂယူရန်

ကိလေသသတ္တုံ အဇိတွာ၊
အဇေယျော မစ္စုသတ္တုကော ၁။

ကိလေသသတ္တုံ၊ ကိလေသာစက် သုံးထောင်ဝက် ရန်သူကို။ အဇိတွာ၊ မအောင်နိုင်သေးသည် ရှိသော်။ မစ္စုသတ္တုကော၊ ယုတ်မာစင်းစင်း သေမင်းရန်သူကို။ အဇေယျော၊ မုချပုံသေ မအောင်အပ်နိုင်ပါချေ။ ဝါ။ မုချအမှန်ပင် မအောင်မြင်နိုင်ပါချေ။

---

ဒက္ခိဏာရာမအနွယ် ရူပသိဒ္ဓိဂဏ္ဌိကျမ်းပြု ဆရာတော်
အရှင်ဥက္ကံသာဘိဝံသ

မြင်းခြံတိုက် ပတ္တမြားကျောင်း စာချဆရာတော် အရှင်ဥက္ကံသာဘိဝံသသည် ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ စာသင်ကြားတတ်မြောက်တော်မူသည့် မဟာထေရ်မြတ်ဖြစ်တော်မူသည်။

ဖွားမြင် ရှင်ရဟန်းပြုခြင်း

မိတ္ထီလာမြို့ အရှေ့ အပျောက်ရွာ၌ သက္ကရာဇ်၁၂၆၆-ခုနှစ် နယုန်လဆုတ် ၁-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ နံတော် တနင်္ဂနွေသားတည်း၊ ငယ်မည်

---

၁။ မဟာဝံသ။ ၃၂။ ၁၀။

မောင်ဖေအောင်ဖြစ်သည်။ သာမဏေအရွယ်တွင် သာမဏေဝတ်၍ သာသနာ့ ဝန်ကို ထမ်းဆောင်တော် မူခဲ့လေသည်။ သက်တော် ၂၁-ပြည့်မြောက်ရာ ၁၂၁၅-ခုနှစ် သီတင်းကျွတ်လဆုတ် ၈-ရက် ကြာသပတေးနေ့ နံနက် ၄ ဖဝါးအချိန်တွင် ဥပသမ္ပဒဇာတ် မြင့်မြတ်သောရဟန်းအဖြစ်သို့ ရောက်တော် မူခဲ့သည်။

ဒက္ခိဏာရာမတိုက်၌ ပညာသင်

ငယ်စဉ်ကပင် ဒက္ခိဏာရာမ စာသင်တိုက်ကြီးသို့ ရောက်၍ ဟံသာဝတီ ဆရာတော် အရှင် ဣန္ဒသဘာ၊ တိုက်သစ် ဆရာတော် အရှင်ဥဿဘိဝံသ စသည့်ထံတွင် သဒ္ဒါ၊ရူပသိဒ္ဓိ-စသည့် ကျမ်းဂန် အရပ်ရပ်ကို ၊အာစရိယမုဋ္ဌိ ရရှိဘတ်သိအောင် သင်ယူတော်မူခဲ့လေသည်။

စာပေချပို့ သာသနာပြုခြင်း

စာပေသင်ကြားတတ်မြောက်သဖြင့် စာပေချပို့ သာသနာပြုတော်မူခဲ့လေ သည်။ နောင်တွင် မဟာမြတ်မုနိဘုရားကြီး မြောက်မုခ်အနီးရှိ မြင်းဝန်တိုက် (မြင်းဝန်မင်းကြီးကျောင်းတိုက်)သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူ၍ စာပေ ချပို့သာသနာတော်ကို ချီးမြှောက်တော်မူခဲ့လေသည်။

သကျသီဟ မူလဓမ္မာစရိယဖြစ်ခြင်း

၁၂၃၈-ခုနှစ် နန်းတော်လမှ၍ ပရိယတ္တိသာသနဟိတ အသင်းကြီး၏ “ဘဒ္ဒန္တဥက္ကံသာဘိဝံသပရိယတ္တိသာသနဟိတဓမ္မာစရိယ (မူလစာချ)” အဖြစ် ဖြင့် ကိုးကွယ်ခြင်းကို ခံယူတော်မူရလေသည်။

ရူပသိဒ္ဓိဂဏ္ဌိကျမ်းကြီး ပြုစီရင်တော်မူခြင်း

ဆရာတော်သည် ရူပသိဒ္ဓိကျမ်းကို မပြတ်ချပို့တော် မူလေ့ရှိသည်။ ရံခါ ဋီကာနှင့်ဘွဲ၍ ချပို့တော်မူသည်။ ရူပသိဒ္ဓိကျမ်းကို ချပို့၍ အခေါက်များစွာ ပေါက်မြောက်၍ နိုင်နင်းသဖြင့် ရူပသိဒ္ဓိ ဂဏ္ဌိကျမ်းကြီးကို ရေးသားစီရင် တော်မူခဲ့သည်။ ယင်းရူပသိဒ္ဓိဂဏ္ဌိ ကျမ်းကြီးမှာ ပဌမတွဲ၊ ဒုတိယတွဲ နှစ်တွဲ ရှိသည်။

ဆရာတော်သည် ယင်းရူပသိဒ္ဓိဂဏ္ဌိကျမ်းဦး၌—

နိဿာယ ဂရူပဒေသံ၊ နတွာန ရတနတ္တယံ။
သင်္ခေပေန သောဝယိဿံ၊ဂဏ္ဌိံ ဝ ရူပသိဒ္ဓိယံ။

အဟံ၊ ငါသည်။ ရတနတ္တယံ၊ ရတနာသုံးပါးတို့၏ အပေါင်းကို။ နတွာ၊ ရှိခိုး၍။ ဂရူပဒေသံ၊ အဂ္ဂမဟာပဏ္ဍိတ ဝိနယဓရ ဟံသာဝတီဆရာတော် ဝိနယပြေင်သာဆရာတော်-စသော ဆရာတော်တို့၏ နည်းဥပဒေကို။ နိဿာယ၊ အမှီပြု၍။ ရူပသိဒ္ဓိယံ၊ ရူပသိဒ္ဓိကျမ်း၌။ ဂဏ္ဌိဝ၊ ကော်ရာခက်ဆစ်ကိုသာလျှင်။ သခေပေန၊ အကျဉ်းအားဖြင့်။ သောယေယိဿံ၊ ရှင်းလင်းသုတ်သင် စင်ကြယ်စေတော့အံ့။"
ဟူသော ပါဠိနိဿယဖြင့်ဂန္ထာရုမ္ဘပြုတော်မူခဲ့သည်။

### ထာဝစဉ်သဒ္ဒါကြံသော ဆရာတော်

ဆရာတော်သည် အရုပ်အမောင်းကောင်းသည်၊အသံမြည်ဟိန်းသည်။ စာချသောအခါ အာရပါရ အဓိပ္ပာယ် ပြောလေ့ရှိသည်။ အမြဲနိစ္စ ထာဝရ သဒ္ဒါပုစ်ပ႒ မျှားကို ကြံစည်တော်မူလေ့ ရှိသည်။ စင်မိလျှင်သည်း သဒ္ဒါကြောင်းကိုသာ မိန့်ဆိုတော်မူတတ်သည်[၁]။

ဘဒ္ဒန္တဥက္ကံသော ထေရော၊ ဥက္ကံသညာဏကော သုဓီ။
ဥက္ကံသံ ကိစ္စသော ကာသိ၊ ဥက္ကံသ ဗုဒ္ဓသာသနေ။

---

### ဒက္ခိဏာရာမအနွယ် သာလေးဆရာတော်
### ပရိယတ္တိ သာသနဟိတ မေဓာစရိယ အရှင်နေမိန္ဒာဘိဝံသ

ဆရာတော် အရှင်နေမိန္ဒာဘိဝံသသည် ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ စာပေကျမ်းဂန် သင်အံ ဆည်းပူး လေ့ကျက်တော်မူခဲ့သည့် ဒက္ခိဏာရာမအနွယ်ဝင် ဆရာတော်တဖါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

တောင်ပိုင်းရှမ်းပြည် ညောင်ရွှေမြို့နယ် သာလေးရွာ၌ သက္ကရာဇ် ၁၂၆၈-ခုနှစ် သီတင်းကျွတ်လဆုတ် ၅-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၈၇-ခုနှစ် တပေါင်းလဆုတ် ၄-ရက်နေ့တွင် ဥပသမ္ပဒဇာတဲ မြင့်မြတ်သော ရဟန်းပဥ္စင်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော် အရှင်နေမိန္ဒ ဖြစ်သည်။

---

၁။ မြင်းခြံမင်းကြီးတိုက် သာသနာဝင်လည်းကြည့်။

## ဒက္ခိဏာရာမတိုက်၌ ပညာသင် သကျသီဟစာမေးပွဲများ အောင်

အရှင်နေမိန္ဒသည် လွန်စွာ ဉာဏ်ထက်မြက်သည့် ရှမ်းအမျိုးသား လူရည်ချွန် ဖြစ်တော်မူသည်။ ဒက္ခိဏာရာမတိုက် သာသနဇောတိကာရုံတိုက်ကျောင်း စာချအကျော် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နာရဒ ါဘိဝံသထံ ရောက်ရှိ၍ နေ့ဝါ ညဝါ ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။ ပရိယတ္တိ သာသနဟိတ အသင်း စာချောက်မေးခွန်း စာမေးပွဲများကို ဝင်ရောက် ဖြေဆိုတော်မူရာ ၁၂၉၁-ခုနှစ်တွင် စာသင်တန်း အောင်မြင်တော်မူ၍ ၁၂၉၄-ခုနှစ်တွင် စာချတန်းကို အပြီးတိုင် ဖြေဆို အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တ နေမိန္ဒာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့ဘံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

## သာလေးတောင်ကျောင်း၌ စာပေချပို့ သာသနာပြု

ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ ဖြစ်ပြီးနောက် နှစ်အနည်းငယ် ဒက္ခိဏာရာမတိုက်၌ စာပေချပို့ သာသနာပြုတော်မူပြီး ဇာတိချက်ကြွေ မွေးရပ်မြေဖြစ်သော သာလေးရွာတောင်ကျောင်း၌ သီတင်းသုံး၍ ရောက်ရှိ မှီခိုသာကြသော စာသင်သား ရဟန်း သာမဏေတို့အား စာပေချပို့၍ ပရိယတ္တိ သာသနာတော်ဘူသော ကန်ပေါင် ကန်သင်းကို ဆည်ဖို့တော်မူခဲ့လေသည်။

## ဆဋ္ဌသံဂါယနာဝန်ဆောင်တာဝန်

ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင် ဝန်ဆောင် သံဃာ့အဖွဲ့ဝင် တာဝန်ကို ဆောင်ရွက်တော်မူသည်သာမက သံဂီတိကာရက တာဝန် စသည်တို့ကိုလည်း ဆောင်ရွက်တော်မူသေသည်၊ ဆရာတော် အရှင်နေမိန္ဒသည် ဆရာတော် အရှင်နာရဒါဘိဝံသ၏ ကျမ်းစာများ ပုံနှိပ်စာမူ ဖြစ်မြောက်ရေးကိုလည်း ဆောင်ရွက်တော်မူခဲ့သေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဖော်ပြခဲ့သည့်အတိုင်း သာသနာ့အရေး ကိုယ့်အရေးဟု သဘောပိုက်ထား သာသနာ့တာဝန်တို့ကို အားသွန်ခွန်စိုက် ဆောင်ရွက်တော်မူခဲ့သော ဒက္ခိဏာရာမအန္တေဝါသိကဝံသ ရှိတော်မူသော ဆရာတော် အရှင်နေမိန္ဒသည် ၁၃၂၇-ခုနှစ်တွင် ဘဝနတ်ထံ ဝင်စံတော်မူခဲ့လေသည်။

## သံဝေဂယူရန်

မစ္စုနာ သင်ရော နတ္ထိ၊ လဉ္စဂ္ဂါဟော နဝိဇ္ဇတိ။
ယုဒ္ဓံ နတ္ထိ ဇယော နတ္ထိ၊ သဗ္ဗေ မစ္စုပရာယဏာ[၁]။

မစ္စုနာ၊ သေမင်းနှင့်။ သင်ရော၊ သေဘေးမှလွတ်ကင်းရန် အရေး မိတ်ဆွေဖွဲ့ခြင်းသည်။ နတ္ထိ၊ မုချပုံသေ မရှိပါချေ။ လဉ္စဂ္ဂါဟော၊ ကံစိုးလက်ဆောင်ပေး၍ မသေအောင် ပြုလုပ်ခြင်းသည်။ နတ္ထိ၊ မရှိပါချေ။ ယုဒ္ဓံ၊ သေမင်းနှင့် ယှဉ်ပြိုင်တိုက်ခိုက်၍ အနိုင်ယူခြင်းသည်။ နတ္ထိ၊ မရှိပါချေ။ ဇယော၊ သေမင်းကို အောင်နိုင်ခြင်းသည်၊ နတ္ထိ၊ မရှိပါချေ။ သဗ္ဗေ၊ ကြီးကြီးငယ်ငယ် ရှယ်ရှယ်စားစား သတ္တဝါအား လုံးတို့သည်။ မစ္စုပရာယဏာ၊ သေမင်းလျှင်လည်းလျောင်းရာ ရှိချေ ကုန်၏။

---

## ဒက္ခိဏာရာမအနွယ် ပါသာဒိကာရုံ ဆရာတော်

### အရှင်သာဂရ

ရန်ကုန်မြို့ သမိုင်းပါသာဒိကာရုံကျောင်းတိုက် နာယကဆရာတော် အရှင် သာဂရသည်လည်း ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ စာပေသင်ကြားတတ်မြောက်တော်မူသည့် မထေရ်မြတ်ဖြစ်၏။

### ဖွားမြင် ရှင်ရဟန်းပြုခြင်း

ပုသိမ်မြို့နယ် ကျွဲကိုက်ရွာ၌ သက္ကရာဇ် ၁၂၆၉-ခုနှစ်တွင်ဖွားမြင်တော် မူသည်၊ နံတော် သောကြာသားဖြစ်၏။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့လေသည်။ ဘွဲ့တော် အရှင်သာဂရ ဖြစ်သည်။

### ဒက္ခိဏာရာမ၌ ပညာသင်၊ စာပေချပို့သာသနာပြုခြင်း

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ ဟံသာဝတီ ဆရာတော် အရှင်ဣန္ဒာသဘစသည်တို့ထံတွင် ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့လေသည်။ နောင်တွင် ရန်ကုန်မြို့သမိုင်းရပ်၌ ပါသာဒိကာရုံကျောင်းတိုက်၏ နာယကဖြစ်၍ စာပေချပို့ရာ ရဟန်းသာမဏေ များစွာတို့ ဆရာတော်ထံ ရောက်ရှိ၍ပညာသင် ကြားကြကုန်၏။

---

၁။ ဇာ၊ ၄၊ ၅။ ၁၁၄။

## ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချီးပိုသာသနာ့ဝန်ထမ်းဆောင်ဆဲဖြစ်စဉ် အဆုတ်နာရောဂါ စွဲကပ်လာရာ ဇာတိရင်ရှာ၌ အနားယူကုသစဉ် ၁၃၀၆-ခုနှစ်တွင် ပျံလွန် တော်မူခဲ့လေသည်။

### သံဝေဂယူရန်

နတ္ထိ ခန္ဓသမာ ဒုက္ခာ။
ခန္ဓာနှင့်တူကုန်သော ဆင်းရဲဒုက္ခတို့မည်သည် မရှိကုန်စွတကား။

---

## ဒက္ခိဏာရာမအနွယ် မိဂဒါဝုန်ဆရာတော်

### အရှင်အာစိဏ္ဏ

ဒက္ခိဏာရာမကျောင်းတိုက်ကြီးမှ ပညာရှိ သာသနာ့ဝန်ဆောင် ရဟန်း တော်ပေါင်းမြောက်မြားစွာ ပေါ်ထွန်းခဲ့လေရာ ပုသိမ်မြို့ မိဂဒါဝုန်တောရ ဆရာတော်အရှင်အာစိဏ္ဏသည်း ပါဝင်ခဲ့လေသည်။

### ဖွားမြင်ခြင်း၊ ရှင်ရဟန်းပြုခြင်း

ပုသိမ်မြို့ ဇီးဖြူကုန်းရွာနေ အဖ ဦးအောင်ခိုင်-အမိ ဒေါ်မမကြီး တို့မှ သက္ကရာဇ် ၁၂၆၉-ခုနှစ်ဘွင် မီးရှူးသန့်စင် ဖွားမြင်တော် မူခဲ့လေသည်။ နံနေ တနင်္ဂနွေသား ဖြစ်သည်၊ ငယ်မည် မောင်အောင်ထွန်းဖြစ်သည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်၊ စာပေချီးပို

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ ဟံသာဝတီ ဆရာတော် အရှင်ဥက္ကဋ္ဌာဘိဝံသ စသည်တို့ထံတွင် ဂန္ထဓုရ အဝဝကို သင်ယူဘတ် မြောက်တော်မူခဲ့လေသည်။ စာပေသင်ကြားတတ်မြောက်ပြီးနောက် ဒက္ခိဏာ ရာမတိုက်၌ တပည့်တပင်း ရဟန်း သာမဏေတို့အား စာပေချီးပိုသာသနာပြု တော်မူခဲ့သည်။ နောင်တွင် ဇာတိဖြစ်သော ပုသိမ်မြို့သို့ ပြန်ကြွတော်မူ၍ ပုသိမ်မြို့ မိဂဒါဝုန် တောရကျောင်းတိုက်ကြီး၏ အကြီးအမှူး ဦးစီးနာယက ဖြစ်၍ သာသနာတော် ကြီးပွားအောင် စာပေချီးပို၍ သာသနာ့ဝန် ထမ်း ဆောင်တော်မူခဲ့လေသည်။

ပရိယတ္တိ ဝါစေတွာန၊ ထေရော ထိရေသု သဏ္ဍိတာ။
တထေဝါ စိဏ္ဏာတ္တေရော၊ ဝါစယိတွာ သာသနန္တရော။

---

## ဒက္ခိဏာရာမအနွယ် ထုံးဘိုဆရာတော်

## အရှင်တိလောက

မုံရွာမြို့ ထုံးဘိုရွာ မဟာဝိစိတ္တာရာမတိုက် ဆရာတော် အရှင်တိလောက သည်လည်း ဒက္ခိဏာရာမတိုက်ထွက် ကျမ်းဂန်တတ် ဆရာတော်တပါး ဖြစ်တော်မူသည်။

ဒက္ခိဏာရာမတိုက်၌ စာချအကျော် "ပရိယတ္တိ သာသနဟိတ မွောစရိယ (မူလစာချ)" ကဗျာနန်ဆရာတော် အရှင်နန္ဒိယမဟာထေရ် စသည်တို့အထံတွင် သဒ္ဒါ၊ သင်္ဂဟ၊ ဋီကာကျော်၊ ရူပသိဒ္ဓိ၊ ကင်္ခါ-စသည့် နေ့ဝါ ကျမ်းဂန်များနှင့် မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းအစရှိသော ညဝါကျမ်းတို့ကို သင်ယူတတ်မြောက်တော်မူခဲ့လေသည်။

### စာပေချပို့ ရှင်ပျော်ပျို့

နောင်တွင် မုံရွာမြို့ ထုံးဘိုရွာ မဟာဝိစိတ္တာရာမတိုက်၌ သီတင်းသုံး၍ ဘုရားမြတ်စွာ သာသနာတော်၏ အဓိကမူလပင်မဖြစ်သော ပရိယတ္တိ ကျမ်းဂန်အဝဝကိုချပို့၍ တထောက်တင်နီး စည်ပင်အောင် ဆောင်ရွက်တော်မူခဲ့လေသည်။

### မြန်မာ့သာသနာ အနှံ့အပြား

ဤကဲ့သို့ ပရိယတ္တိကျမ်းစာချပို့ သာသနာပြုတော်မူကြသည့် ဒက္ခိဏာရာမတိုက်ထွက် စာချကျမ်းပြုပုဂ္ဂိုလ်တို့ကား မြန်မာနိုင်ငံတော် အနယ်နယ်တွင် အနှံ့အပြားတည်ရှိတော်မူကြကုန်၏။

တေသံ တေသု ပဒေသေသု၊ ဒက္ခိဏဝံသိကာ ဗဟူ။
န သက္ကာ တေသံ သင်္ခါတုံ၊ မုခမတ္တံနိဒဿနံ။

---

## ဒက္ခိဏာရာမအနွယ် ကော့ကပ်ကြီးဆရာတော်

## ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ အရှင်စာရိတ္တာဘိဝံသ

အရှင်စာရိတ္တသည်လည်း ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန်တတ်မြောက်သည့် ဒက္ခိဏာရာမအနွယ်ဝင် သာသနာ့ဝန်ဆောင် ဆရာတော်ဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်းပြုခြင်း

ဟင်္သာတခရိုင် ဇလွန်မြို့ ကော့ကပ်ကြီးရွာတွင် သက္ကရာဇ် ၁၂၇၁-ခုနှစ် နယုန်လဆန်း ၇-ရက် အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၉၀-ပြည့်နှစ်တွင် ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူသည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက် စာချအကျော် အဂ္ဂမဟာပဏ္ဍိတ သာသနဇောတိကာရုံဆရာတော် အရှင်နာရဒါဘိဝံသထံ ရောက်ရှိတော်မူ၍ ဂန္ထန္တရဘာဝကို သင်ယူတော်မူခဲ့လေသည်။ ဆရာတော် အရှင်နာရဒါဘိဝံသသည် အောက်သားဘက်ကျောင်းကလေး သာသနာတော် ကြီးပွားအောင် ဂရုစိုက်မည်ဟု နှလုံးပိုက်၍ ဆရာသားမသား ကျနစွာ သင်ပြပေးတော်မူသည်။

## သကျသီဟ စာသင် စာချ နှစ်ဌာနလုံးအောင်မြင်

ပရိယတ္တိ သာသနဟိတအသင်း စာမေးပွဲများကို ဝင်ရောက်ဖြေဆိုတော်မူရာ ၁၂၉၅-ခုနှစ်တွင် စာသင်တန်းအောင်မြင်၍ ၁၂၉၈-ခုနှစ်တွင် စာချတန်းကို အပြီးတိုင်အောင်မြင်သဖြင့် "ဘဒ္ဒန္တစာရိတ္တာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်။

## စာပေချပို့ သာသနာပြု

သကျသီဟဓမ္မာစရိယ ဖြစ်ပြီးနောက် ဒက္ခိဏာရာမတိုက်၌ စာပေ ဆက်လက်ချပို့တော်မူပြီးနောက်တွင် ဇာတိရပ်မြေဖြစ်သော ဇလွန်မြို့ ကျောက်ကပ်ကြီး ကျောင်းမှာပင် စာပေကျမ်းဂန်ချပို့ သာသနာပြုတော်မူခဲ့လေသည်။

ဘဒ္ဒန္တစာရိတ္တာ ထေရော၊ စာရိတ္တာဘိဝံသော သုဓီ။
သံဃာနံ သုခါဘာဝါယ၊ သာသနံ ဟိ စိန္တာ ပရော။

၎င်းပြင် အရှင်စန္ဒာဘာသ (ရခိုင်)၊ အရှင်ဝရသာမိ (ရွှေဘို) တို့သည်လည်း ဒက္ခိဏာရာမတိုက် ပညာတတ်ရဟန်းတော်များ ဖြစ်ကြကုန်၏၊

## ဒက္ခိဏာရာမဘုရားကြီးတိုက် ဂဏဝါစက စာချဆရာတော်

## အရှင်ပဏ္ဍဝ

အရှင်ပဏ္ဍဝသည်လည်း ဒက္ခိဏာရာမတိုက် အပြင်ထပ် ပျဉ်းမနားကျောင်း၌ သီတင်းသုံး၍ စာပေသင်ကြားချပို့ သာသနပြုတော်မူခဲ့သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

မိတ္ထိလာမြို့အပိုင် ညောင်ပင်လှရွာ၌ အဖ ဦးဘိုးကြီး-အမိ ဒေါ်သေးတို့မှ သက္ကရာဇ် ၁၂၇၃–ခုနှစ် ကဆုန်လတွင် ဖွားမြင်တော်မူခဲ့သည်။ ၁၂၈၇– ခုနှစ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဘောင်ကို ထမ်းဆောင်တော်မူခဲ့သည်။ ၁၂၉၃-ခုနှစ်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍–

> "တပည့်တို့အင်္ဂါမှာ လျှင်မြန်ပေါ့ပါး စကားပြေချော သဘောချို သာ ဝေယျာဝစ္စ ခယမ်းယမ်း ရှင်လန်းစေတနာ သေချာမှုမျိုး ရိုးရိုးဆောင်ရွက် မျက်မှောက် မျက်ကွယ် မပယ်တရံ သင်အံကြံကြည့် လောင်းဖြည့်ပညာ ဆရာသင်နည်း နိဿယည်းမပျက် ပါဠိအနက်က ထွက်သည့် မိပ္ပာယ် သည်ဝယ်ပုဒ်ဖြတ် သေသတ်မှုချ တကြိမ်ပြလျှင် မဆွမှတ်သား တပည့်အားကို သင်ကြားဆရာ မြတ်နိုးရာ၏"။

ဟူသည်နှင့် အညီ တပည့်တို့အင်္ဂါနှင့်အညီ ဒက္ခိဏာရာမတိုက် စာချဆရာ တော်များဖြစ်ကြသော အရှင်ဥေယျ၊ အရှင်နာရဒ၊ ဆရာတော်ဦးကြယ် စသည်တို့ထံတွင် ဂန္ထန္တရ အဝဝကို သင်ယူတော်မူခဲ့သည်။

### ဓမ္မာစရိယ စာချဖြစ်ခြင်း

အစိုးရစာမေးပွဲ ငယ် လတ် ကြီးတို့ကို ဖြေဆို အောင်မြင်တော်မူခဲ့၍ ၁၃၁၂-ခုနှစ်တွင် အစိုးရစာချတန်းစာမေးပွဲကို ဂုဏ်ထူးဆောင်ကျမ်းများနှင့် တကွ ဖြေဆို အောင်မြင်တော်မူသဖြင့် "သာသနဓဇ သိရိပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့သည်။ ဆရာတော်သည်ကား စာချ ဝါသနာ အလွန်ပါသူဖြစ်သည်။

## ဒက္ခိဏာရာမအနွယ် သထုံလယ်ဝန်ကျောင်း ဆရာတော်
## သကျသီဟ အစိုးရဓမ္မာစရိယ ပိဋကတ္တယပါရဂူ
## အရှင်အဂ္ဂဝံသာဘိဝံသ

သထုံမြို့ လယ်ဝန်ကျောင်းတိုက် ဆရာတော် အရှင်အဂ္ဂဝံသ သည်လည်း ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံး ပညာသင်ကြား ထတ်မြောက်တော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ဆရာတော်တပါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ထားဝယ်မြို့ စစ်ပြည်ငမော်ရွာနေ အဖ ဦးဘိုးချန်-အမိ ဒေါ်ခြုံ တို့မှ သက္ကရာဇ် ၁၂၇၄-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့လေသည်။ နံတော် တနင်္ဂနွေသားတည်း။ ငယ်မည် မောင်ဘခင် ဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

ဒက္ခိဏာရာမတိုက် ဟံသာဝတီကျောင်း အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်ဣန္ဒာဘိဝံသ ထံတွင် ရောက်ရှိ၍ နှစ်ပေါင်းများစွာ အရှင်ဣန္ဒာသဘ၊ အရှင်နာရဒ အစရှိသော ဒက္ခိဏာရာမ စာချ ဆရာတော်များထံ နေ့ဝါ ညဝါ ဂန္ထဓုရ အဝဝကို သင်ယူတော်မူခဲ့လေသည်။

### သကျသီဟ၊ အစိုးရဓမ္မာစရိယ၊ ပိဋကတ္တယပါရဂူ

သက်ဆိုင်ရာ စာမေးပွဲများကို ဝင်ရောက်ဖြေဆိုတော်မူရာ ၁၂၉၈-ခုနှစ်တွင် သကျသီဟ စာသင်တန်း စာမေးပွဲ အောင်မြင်တော်မူ၍ ၁၃၀၃-ခုနှစ်တွင် သကျသီဟ စာမေးပွဲ စာချတန်းကို အပြီးတိုင် အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တအဂ္ဂဝံသာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ(သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။ ၎င်းပြင် "သာသနဇောတိကပါဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်၊ ထိုနည်းတူ "ပိဋကတ္တယပါရဂူ" ဘွဲ့တံဆိပ်၊ "အမျိုးသား ပရိယတ္တိ ပဌမကျော်" ဘွဲ့ စသည်တို့ကိုလည်း ရရှိတော်မူသည်။

### သကဒေသီ နာယကဆရာတော်

ဆရာတော် အရှင်အဂ္ဂဝံသာဘိဝံသသည် သထုံမြို့ သုဝဏ္ဏဘူမိ ပရိယတ္တိ သာသနဟိတ အသင်းကြီး၏ သကဒေသီ နာယကဆရာတော်ဖြစ်၍ ပုစ္ဆာထုတ်၊ ပုစ္ဆာစစ်ခြင်း အစရှိသော တာဝန်များကို ဆောင်ရွက်တော်မူခဲ့လေသည်။

အဂ္ဂဝံသော မဟာထေရော၊ အဂ္ဂဂ္ဂဝံသ ဇောတကော။
အဂ္ဂံ ကိစ္စံ သော ကတွာ၊ လောကဂ္ဂ သာသနန္ဓရော။

---

## ဒက္ခိဏာရာမအနွယ် မွန်ဘာသာကောဝိဒ ဆရာတော်

## အရှင်အာဒိစ္စ

ဆရာတော်သည် မွန်ဘာသာ၌ ကျွမ်းကျင် တတ်မြောက်တော်မူသည့် ဒက္ခိဏာရာမအနွယ် ဆရာတော်တပါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြု

မော်လမြိုင်ခရိုင် ချောင်းဆုံမြို့နယ် ကွမ်ရိုက်ရွာ၌ အဖ ဦးစိန်ပင်-အမိ ဒေါ်မျှားတို့မှ ၁၂၇၉-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ဆရာတော်လောင်းလျာသည် မွေးချင်း ၁၂-ယောက်အနက် အငယ်ဆုံးဖြစ်သည်။ သက်တော် ၁၅-နှစ်သားအရွယ်တွင် ရှင်သာမဏေအဖြစ်၌ သာသနာ့ဝင်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၂၉၉-ခုနှစ်တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်

ကတိုးမြို့ သုသာန်ကျောင်းတိုက် ဆရာတော် အရှင်ဝုစိပါလထံတွင် ပိဋကတ် အခြေခံ ကျမ်းစာများကို သင်ယူတော်မူခဲ့လေသည်။ ဆရာတော်လောင်းလျာကား ဉာဏ်ထက်မြက်လှ၏။ ဘီလူးကျွန်း မဟာရင်ဂိုဏ်း ဝိနည်း စာပြန်ပွဲကြီးတွင် သုံးနှစ်ဆက်တိုက် နံပါတ်(၁)ဖြင့်ချည်း ပြန်ဆို အောင်မြင်တော်မူခဲ့သည်။ ပဌမငယ်၊ ပဌမလတ်တန်း စာမေးပွဲတို့ကိုလည်း ဖြေဆို အောင်မြင်တော်မူခဲ့သည့်အပြင် ၁၃၀၆-ခုနှစ် မုဒုံမြို့အပိုင် ဖားအောက်ရွာတွင် ကျင်းပသည့် မွန်အမျိုးသား ဝိနယ စာမေးပွဲ အကျော်တန်း ဝိနည်း ၄ါးကျမ်းကို ဖြေဆိုရာ တတိယစွဲ၍ အောင်မြင်တော်မူခဲ့လေသည်။

၁၃၀၈-ခုနှစ်တွင် အစိုးရ ပဌမကြီးတန်းကို အောင်မြင်၍ ၁၃၀၉-ခုနှစ်တွင် စာချတန်းဂုဏ်ထူး နှစ်ကျမ်းကို ဖြေဆို အောင်မြင်တော်မူသည်။ ယင်းသည့် ၁၃၀၉-ခုနှစ်မှာပင် မန္တလေးမြို့ ဒက္ခိဏာရာမတိုက် ဆရာတော် ဦးကြွယ်အထံသို့ ရောက်ရှိ၍ ဆရာတော် ဦးကြွယ်၊ ဆရာတော် အရှင်နာရဒတို့ထံ ကျိုးနွံစွာ နည်းခံ သင်ယူ၍ အစိုးရ စာချတန်းကို ဖြေဆိုရာ ၁၃၁၁-ခုနှစ်တွင် မွန်ဘာသာဖြင့် ပဌမဦးစွာ ဖြေဆို အောင်မြင်တော်မူခဲ့လေသည်။ ဆရာတော် အရှင်အာဒိစ္စကား ဒက္ခိဏာရာမအနွယ် မွန်အမျိုးသား ပိဋကတ်ပညာရှင် ဖြစ်တော်မူပါပေသည်။

ဘဒ္ဒန္တအာဒိစ္စော ထေရော၊ အာဒိစ္စော ဗုဒ္ဓသာသနေ။
အာဒိစ္စ ဗန္ဓုနော စက္ကံ၊ ဓောတေတွာ စက္ကဘာဂဓော။

---

## ဒက္ခိဏာရာမအနွယ် ရေဦးဝါဆိုကျောင်း ဆရာတော်
## သကျသီဟ မွေ့စရိယ အစိုးရ မွေ့စရိယ အင်္ဂုနေမိန္ဒာဘိဝံသ

ရေဦးမြို့ ဝါဆိုကျောင်းတိုက် ဂဏဝါစက စာချဆရာတော် အရှင်နေမိန္ဒာဘိဝံသသည် ဒက္ခိဏာရာမတိုက်၌ ကြာမြင့်စွာ သီတင်းသုံးတော်မူ၍ ပညာသင်ကြား တက်မြောက်တော်မူသည့် ဆရာတော် ဖြစ်သည်။

### ဖွားမြင် ရှင် ရဟန်းပြု

ရွှေဘိုခရိုင် ရေဦးမြို့နယ် လယ်ဇရပ်ကုန်းရွာ၌ အဖ ဦးရွှေဘို-အမိ ဒေါ်ငွမ်းပုံတို့မှ သက္ကရာဇ် ၁၂၈၄-ခုနှစ်၊ တပေါင်းလဆန်း ၁၁-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်

အသက်အရွယ် ငယ်စဉ်ကပင် ဒက္ခိဏာရာမ မဟာဝိဇ္ဇာယတန ဟံသာဝတီကျောင်းသို့ ရောက်၍ ဟံသာဝတီဆရာတော် အရှင်ဥက္ကဋ္ဌသဘာ၊ မြင်းဝန်တိုက် ပတ္တမြားကျောင်း ဆရာတော် အရှင်ဉက္ကံသ စသည်တို့ထံတွင် ဂန္ထန္တရ အဝဝကို သင်ယူ တတ်မြောက်တော်မူခဲ့လေသည်။

### စာမေးပွဲများအောင်

ဆရာတော်သည် ဉာဏ်ထက်မြက်သည်၊ ဝီရိယ ကောင်းသည်။ သို့ဖြစ်၍ အစိုးရစာမေးပွဲ ငယ် လတ် ကြီးနှင့် မွေ့စရိယ စာချတန်းကိုလည်းကောင်း၊ သကျသီဟ စာချတန်းကိုလည်းကောင်း ဖြေဆို အောင်မြင်တော်မူသဖြင့် "သာသနဓဇ သိရီပဝရ မွေ့စရိယ"နှင့် "ဘဒ္ဒန္တ နေမိန္ဒာဘိဝံသ ပရိယတ္တိ သာသနဟိတ မွေ့စရိယ (သီးခြားစာချ)" ဘွဲ့အမည်တော်ကိုလည်းကောင်း အလှူခံ ရရှိတော်မူခဲ့လေသည်၊

### သာသနာ့တာဝန် ထမ်းဆောင် ပျံလွန်တော်မူ

ဆရာတော်သည် ရေဦးမြို့ ဝါဆိုကျောင်းတိုက်၌လည်း သံဃာတော်များစွာတို့အား စာပေချပို့၍ ပရိယတ္တိ သာသနာ အရှည်ခန့်အောင် ဆောင်ရွက်တော်မူခဲ့လေသည်၊ နောင်တွင် စာသင်တိုက်အသစ် ဘည်ထောင်၍ သာသနာ့ဝန်ကို ထမ်းဆောင်စဉ် သက်တော် ၅၀-ခန့်တွင် ပျံလွန်တော်မူသည်။

ဘဒ္ဒန္တနေမိန္ဒော ထေရော၊ ပဏ္ဍိတော နေရုဉာဏိကော။
တဿ ပဏ္ဍိတဘာဝေါ တု၊ ဒက္ခိဏာရာမမူလကော။

## ဒက္ခိဏာရာမအနွယ် အာမေရိကန်သာသနာပြု ဆရာတော် သကျသီဟ အဝိုးရ ဓမ္မာစရိယ ဘာသန္တရကောဝိဒ အရှင်သီလာနန္ဒာဘိဝံသ

ဒက္ခိဏာရာမဝိဇ္ဇာလယဘာနကြီးကား မြန်မာနိုင်ငံ၌အကြီးဆုံးသော ဗုဒ္ဓကျမ်းစာများကို သောတုဇနမွေ့ဥ္စ္စ ါဟက စာသင်သား တို့အား အစ၊အလယ်၊ အဆုံးသင်ကြားချပိုရာ မဟာဝိဇ္ဇာလယတနကြီး ဖြစ်သည့်အလျောက် ပညာရှင်အမျိုးမျိုးတို့ ပေါ်ထွန်းရာဌာနမွန်ကြီး ဖြစ်သည်။

ယင်းဒက္ခိဏာရာမတိုက်ထွက်တို့တွင်-

၁။ အချို့ကား ကျမ်းပြုဆရာများဖြစ်ကြသည်၊
၂။ အချို့ကား စာချကောင်း စာချအကျော်တို့ ဖြစ်ကြသည်၊
၃။ အချို့ကား ကျမ်ပြု၊ စာချ နှစ်ဌာနလုံး၌ ကျွမ်းကျင်ဘာတ် မြောက်ကြသည်၊
၄။ အချို့ကား ဓမ္မကထိကပုဂ္ဂိုလ်ကျော်များ ဖြစ်ကြသည်၊
၅။ အချို့ကား ဘာသန္တရကောဝိဒတို့ဖြစ်ကြသည်၊

ဆရာတော် အရှင်သီလာနန္ဒာဘိဝံသကား ဘာသန္တရ ၌လည်း ကျွမ်းကျင် တတ်မြောက်သူဖြစ်၏။

### ဖွားမြင် ရှင်ရဟန်းပြုခြင်း

မန္တလေးမြို့ စာတိုက်တန်းရပ် ဂ၁-လမ်း၌ မြန်မာဗိသုကာဆရာကြီး ဆရာဆိုင်နှင့် ဒေါ်မုန်းတို့မှ ၁၂၇၉-ခုနှစ် နတ်တော်လဆုတ် ၈-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်ဘဝင်းဖြစ်သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဥပဇ္ဈာယ်ဆရာ ရင်းမှာ စစ်ကိုင်းတောင်ရိုး မဟာဝိဇ္ဇာဒယကျောင်း ဆရာတော် အရှင်ပညာဝန္တဖြစ်တော်မူသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

မိုးဦးပေါက်သစ် မျစ်စို့သဖွယ် နုနယ်ငယ်လှ ရဟန်းဖြစ်စတွင် ဒက္ခိဏာရာမဘုရားကြီးတိုက်သို့ရောက်ရှိ၍ ဒက္ခိဏာရာမတိုက် စာချအကျော်များ ဖြစ်တော်မူကြသော အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒ၊ သကျသီဟ ဓမ္မာစရိယ အရှင်သီလဝံသ၊ အရှင်အရိယဝံသ၊ အရှင်ဥက္ကံသ၊ အရှင်ပညာဇောတ-စသည်တို့ထံတွင် နေ့ဝါညဝါကျမ်းဂန်အရပ်ရပ်ကို တတ်မြောက်အောင် သင်ယူတော်မူခဲ့သည်။

## အစိုးရသက်ျသီဟ ဓမ္မာစရိယ

ဆရာတော်သည် ၁၃၁၂-ခုနှစ်တွင်အစိုးရ စာချတန်းကို ဂုဏ်ထူးဆောင်ကျမ်းများနှင့်တကွ အပြီးတိုင် ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇသိရိပဝရဓမ္မာစရိယ" ဘွဲ့တံဆိပ်ကိုလည်းကောင်း၊ ၁၃၁၈-ခုနှစ်တွင် သက်ျသီဟ စာချတန်းစာမေးပွဲကို အပြီးတိုင် ဖြေဆို အောင်မြင်တော် မူသဖြင့် "ဘဒ္ဒန္တသီလာနန္ဒာဘိဝံသ ပရိယတ္တိသာသနဟိတဓမ္မာစရိယ(သီ‚ခြားစာချ)" ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း အလှူခံရရှိတော်မူသည်။

## သက္ကတ၊ ပြာကရိုက်၊ အင်္ဂလိပ်ဘာသာများကျွမ်းကျင်ကျမ်းပြုခြင်း

သီဟိုဠ်ကျွန်း၌ သုံးနှစ်ခန့် သီတင်းသုံး၍ သက္ကတ၊ အင်္ဂလိပ်-စသည့် ဘာသန္တရများကို လေ့လာသင်ယူတော်မူခဲ့ရာ ယင်းဘာသာရပ်များ၌လည်း ထူးချွန်စွာ ကျွမ်းကျင်တတ်မြောက်တော်မူသည်၊ သဒ္ဒသင်္ဂါယနာ တွင်လည်း ဖင်္ဂဝ်သောကေ ဩဘာနုသောကေ အဖြစ်ဖြင့် ကျမ်းစာများကို သုတ်သင်တော်မူခဲ့သည်။ တပိဋကပင်ဦးမြန်မာ အဘိဓာန် ကျမ်းကြီး နှစ်တွဲ ကိုလည်း ဦးဆောင်ပြုစုတော်မူခဲ့သည်။ ရုပ်ပြင်ဗိသုကာဆရာဆိုင်(ဖခင်ကြီးအတ္ထုပ္ပတ္တိ) နှင့် သိမ်သင်တန်းကျမ်းစာတို့ကို ပြုစုတော်မူခဲ့သည်၊

အရှင်သီလာနန္ဒာဘိဝံသသည် ဤကျမ်းပြုစုချိန် အထိ အမေရိကန် နိုင်ငံ၌ သီတင်းသုံး သာသနာပြုလျက်ရှိကြောင်း သိရသည်။

သီလာနန္ဒော မဟာထေရော၊ ဒက္ခိဏာရာမ ပါသိကော။
ပုဒ္ဗ္ဗ သော ဒက္ခိဏာရာမေ၊ ဝသိတွာ စက္ကဘာရဓော။

---

## ဒက္ခိဏာရာမအနွယ် သက်ျသီဟစေတိယင်္ဂဏ အစိုးရ ဓမ္မာစရိယ

## အရှင်ဇာဂရာဘိဝံသ

ဆရာတော် အရှင်ဇာဂရာဘိဝံသသည်လည်း ဒက္ခိဏာရာမတိုက်၌ ဂန္ထဓုရ အဝဝကိုသင်ယူတော်မူခဲ့သည့် ဒက္ခိဏာရာမအနွယ်ဝင် သာသနာ့ဝန်ဆောင် ဖြစ်တော်မူသည်။

## ဖွားမြင်ရှင်ရဟန်းပြုခြင်း

သာယာဝတီခရိုင် မင်းလှမြို့အပိုင် အိုးသည်ကုန်းမြို့နယ် ကျီးဖြူရွာ၌ အဖ ဦးတက်တိုး-အမိ ဒေါ်စိန်ခင်တို့မှ သက္ကရာဇ် ၁၂၈၇-ခုနှစ် ဝါခေါင်လဆုတ်

-သ-ရက် အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။ အရှယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။

ကျိုးဖြူကျောင်း ဆရာတော် အရှင်ဥတ္တမ၊ ဥက္ကံမြို့ ဘုရားကြီးတိုက် ဆရာတော် အရှင်ဝိဇယ၊ ရန်ကုန်မြို့ တာခေမ္မနန္ဒာခန်းကျောင်းဆရာတော် ဗုဒ္ဓပိယဘို့ထံ တွင်ပညာသင်ကြားပြီး မန္တလေးမြို့ ဒက္ခိဏာရာမတိုက် ဆရာတော်ဦးကြွယ်ထံ ရောက်ရှိ၍ နေ့ဝါ ညဝါကျမ်းစာများကို ပြင်းထန်သော လုံ့လ ဝီရိယဖြင့် သင်ယူတော်မူခဲ့လေသည်။

သ-စ-အ ဓမ္မာစရိယ သုံးတွဲရ

ဆရာတော်သည် အလွန်သည်း ဉာဏ်ထက်မြက်၊ ဝီရိယသည်း အလွန် ကောင်းသည်၊ ရဟန်းသိက္ခာ ၇-ဝါ အတွင်းတွင် စေတီယင်္ဂဏဓမ္မာစရိယ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ(သီးခြားစာချ)၊ သာသနဓဇသိရိပဝရဓမ္မာ စရိယ (အဂ္ဂမဟာအစကျော်) တွဲဘွဲ့ကိုဆွတ်ခူးရရှိတော်မူခဲ့လေသည်။ နောင်တွင် အိန္ဒိယနိုင်ငံ ဘီယာနယ်ရာဇဂြိုဟ် (ရာဇဂြိုဟ်)အနီးရှိ နာလန္ဒာ တက္ကသိုလ်သို့ ကြွရောက်၍ ဘာသန္တရ ပညာရပ်များကို ဆည်းပူးတော်မူရာ တတ်မြောက် ကျွမ်းကျင်သဖြင့် ၎င်းတက္ကသိုလ်၌ ကထိကအဖြစ် ဆောင်ရွက်လျက် ရှိသည်။

ဘဒ္ဒန္တဇာဂရော ထေရော၊ ဒက္ခိဏာရာမဝံသိကော။
သုမိန်း ကိစ္စံ သော ကတွာ၊ ဇောတယိ ဇိနသာသနံ။

---

ဒက္ခိဏာရာမအနွယ် ညောင်ရွှေသာသနဝိပုလတိုက်ဆရာတော်
နိုင်ငံတော် သံဃမဟာနာယက
သကျသီဟ၊အစိုးရဓမ္မာစရိယ
အရှင်ဝိလာသာဘိဝံသ

ဆရာတော် အရှင်ဝိလာသာဘိဝံသသည် ဒက္ခိဏာရာမဘုရားကြီးတိုက်၌ စာပေသင်ကြားတတ်မြောက်တော်မူခဲ့သည့် ပရိယတ္တိ သာသနာ့ဝန်ဆောင် ဆရာတော်ဖြစ်သည်။ ယခုအခါ ညောင်ရွှေမြို့ သာသနဝိပုလစာသင်တိုက်ကြီး ၏ မဟာနာယကဖြစ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်။

## ဖွားမြင်တော်မူခြင်း

တောင်ပိုင်းရှမ်းပြည် ညောင်ရွှေမြို့ နန်းသဲရွာဥ္ဓ အဖ မြင်မာပိန္နောဆေးဆရာကြီး ဦးဘိုးလုံ-အမိ ဒေါ်လှုရင်တို့မှ သက္ကရာဇ် ၁၂၈၇-ခုနှစ် ပြာသိုလဆန်း ၁၀-ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော်မူသည်။

## ရှင် ရဟန်းပြု သာသနာ့ဝန်ထမ်းဆောင်

ကျောင်းသားအရွယ်တွင် ကျောင်းနေ ပညာသင်ကြားတော်မူ၍ သာမဏေအရွယ်တွင် သာမဏေဘောင်၌ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၀၇-ခုနှစ် နယုန်လဆုတ် ၄-ရက်နေ့တွင် သဒ္ဓါသိမ် ယနာ သံဃာ့ဝန်ဆောင်၊ သက္ကျသီဟမွေးစရိယ ညောင်ရွှေမြို့နယ် သာလေးဘောင်ကျောင်း သာလေးဘောင်ရွာ သာလေးဘောင်ကျောင်းဆရာတော်ဘုရားကြီး အရှင်နေမိန္ဒကို ဥပဇ္ဈာယ်ပြု၍ ညောင်ရွှေမြို့ မြို့လယ်ရပ် ပွဲစားကြီး ဦးဝိုင် -ဒေါ်လှုဘင်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်။

## ဒက္ခိဏာရာမတိုက်ရောက်ရှိပညာသင်

ငယ်စဉ်က ညောင်ရွှေမြို့ ရွှေဂူဂိုဏ်းချုပ် ဆရာတော်ဘုရားကြီးထံတွင် ပိဋကတ်အခြေခံကျမ်းစာများကို သင်ယူတော်မူခဲ့ပြီး ၁၃၁၀-ခုနှစ်တွင် ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနဇောတိကာရုံကျောင်းဆရာတော် အဂ္ဂမဟာပဏ္ဍိတအရှင်နာရဒထံ ရောက်ရှိသီတင်းသုံးတော်မူ၍ စာချအကျော်ဆရာတော် အရှင်နာရဒမဟာထေရ်၊ အမရပူရကျောင်းဆရာတော် အရှင်ဥက္ကံသာဘိဝံသစသည်တို့ထံတွင် ဂန္ထန္တရအဝဝကို သင်ယူတော်မူခဲ့သည်။

## စာမေးပွဲများဖြေဆိုအောင်မြင်ခြင်း

ဆရာတော်သည် ဉာဏ်အလွန်ထက်မြက်သည်။ စာမေးပွဲများစွာတို့ကိုလည်း ဖြေဆို အောင်မြင်တော်မူခဲ့သည်။ ညောင်ရွှေမြို့ ဝိနယာဒိနုဂ္ဂဟစာမေးပွဲများ၊ တောင်ကြီးမြို့ ပရိယတ္တိ သာသနဟိတ စာမေးပွဲများ အစိုးရစာမေးပွဲ ငယ်လတ် ကြီးတို့ကို ဖြေဆို အောင်မြင်တော်မူသည်သာမက ၁၃၁၄-ခုနှစ်တွင် အစိုးရစာချအောင် စာမေးပွဲကို ဂုဏ်ထူးကျမ်းများနှင့်တကွ အပြီးတိုင် အောင်မြင်တော်မူသဖြင့် "သာသနဓဇသိရီပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံ ရရှိတော်မူသည်။ ၁၃၁၂-ခုနှစ်တွင် ပရိယတ္တိ သာသနဟိတ

အသင်းမှ ကျင်းပသည့် စာသင်တန်း စာမေးပွဲကို ဖြေဆို အောင်မြင်တော်မူ၍ ၁၃၁၄-ခုနှစ်တွင် စာချတန်းစာမေးပွဲကျမ်းကြီးသုံးကျမ်းကို အပြီးတိုင် ဖြေဆို အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တဝိလာသာဘိဝံသ ပရိယတ္တိ သာသနဟိတ မွာစရိယ(သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။

## နိုင်ငံတော် သံဃမဟာနာယက

၁၃၄၂-ခုနှစ် နယုန်သဆန်း ၁၃-ရက်နေ့မှစ၍ ပေါ်ပေါက်လာသည့် နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ဝင် ဆရာတော်ဖြစ်၍လည်း သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဆရာတော် အရှင်ဝိလာသ၏ လုံ့လဝီရိယ ကြောင့် ရှမ်းပြည်နယ်အရပ်ရပ်၌ ထောင်ရွေ့မျှ သာသနဝိပုလစာသင်တိုက်မှ ခွဲ၍ တည်ထောင်သည့် စာသင်တိုက်ပေါင်း ၁၆-တိုက်မျှ ပေါ်ထွန်းခဲ့လေသည်။

ဆရာတော် အရှင်ဝိလာသသည် ရုပ်ရည်ချောကားလည်း တင့်တယ်သည် ဉာဏ်ပညာလည်းကြွယ်ဝ ဝီရိယလည်းလွန်ကဲသူဖြစ်သည်၊ စိတ်နေသဘောထား လည်း လွန်စွာနူးညံ့သည်၊ တပည့်သားအား ကူညီလိုစိတ်များလည်း ရှိသည်။

ဘဒ္ဒန္တဝိလာသော သေဌော၊ ဝိလာသော ဗုဒ္ဓသာသနေ၊
ဝိလာသေတွာ ဝီရိယေန၊ သမ္ဗုဒ္ဓသာသနန္တဝေ။

---

## ဒက္ခိဏာရာမအနွယ် ပေါင်းတည် ရွှေကျောင်းကြီးဆရာတော်
## နိုင်ငံတော် သံဃမဟာနာယက
## ဓေတိယင်္ဂဏ အစိုးရ ဓမ္မာစရိယ
## ဝိသိဋ္ဌဒိဿဘာဏက ဒီဃနိကာယကောဝိဒ
## အရှင်သောဇာဘာသာဘိဝံသ

သာသနဓဇသိရီပဝရဓမ္မာစရိယ-စသော ဘွဲ့တံဆိပ်တော်သုံးထပ်ရ ပေါင်း တည်မြို့ ရွှေကျောင်းကြီးတိုက် သဒ္ဓမ္မ ဇောတိကာရုံကျောင်း ဆရာတော် အရှင် တေဇောဘာသာဘိဝံသသည်လည်း ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ စာပေ ကျမ်းဂန် သင်ယူတော်မူခဲ့သည့် သာသနာ့ဝန်ဆောင် သာသနာ့အာဇာနည် ဖြစ်တော်မူသည်။

## ဖွားမြင် ရှင်ရဟန်းပြုတော်မူခြင်း

ပြည်ခရိုင် ပေါင်းတည်မြို့၌ အဖ ဦးစောဖြူ-အမိ ဒေါ်ပန်းမြတို့မှ သက္ကရာဇ် ၁၂၈၄-ခုနှစ် နတ်တော်လဆန်း ၅-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ အရွယ်ရောက်သော် ရှင်ရဟန်း ပြု၍ သာသနာ့ဝန်းကို ထမ်းဆောင်တော်မူသည်။

## ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခြင်း

ပေါင်းတည်မြို့ အင်ကြင်းတောင်ကျောင်း ဆရာတော် အရှင်နန္ဒဝံသ၊ ရွှေကျောင်းကြီးတိုက် သုမင်္ဂလာရုံကျော်ဆရာတော် အရှင်ပုည၊ စာချဆရာတော် အရှင်ရေဝတ၊ အရှင်ဝိလာသ၊ အရှင်ကုဏ္ဍလ၊ ပြည်မြို့ မဇ္ဈိမာရုံ ပါဠိ တက္ကသိုလ်ကျောင်းတိုက် ဆင်္ဂမဟာပဏ္ဍိတ အရှင်ဒေဝနိယ၊ စာချဆရာတော် အရှင်ဒုမင်္ဂလတို့ထံ ပညာသင်ယူတော်မူခဲ့သည်။ မန္တလေးမြို့ဒက္ခိဏာရာမတိုက်၌လည်း သီတင်းသုံးတော်မူ၍ ဂန္ထန္တရ အာဂမကို သင်ယူတော်မူခဲ့သည်။

## အ-စ-ဓမ္မာစရိယ ပိဋကတ်ဘွဲ့ဆောင်

ဆရာတော်သည် ဉာဏ်ထက်မြက် ဝီရိယလည်း အလွန်ကောင်းသည်။ စာမေးပွဲများကိုလည်း ဖြေဆိုအောင်မြင်တော်မူခဲ့သည်။ ၁၃၁၄-ခုနှစ်တွင် အစိုးရစာချတန်း စာမေးပွဲကို ဂုဏ်ထူးဆောင် ကျမ်းများနှင့်တကွ ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။ စေတိယင်္ဂဏ စာချတန်းကိုလည်း အောင်မြင်တော်မူသဖြင့် စေတိယင်္ဂဏဓမ္မာစရိယ ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံ ရရှိတော်မူခဲ့လေသည်။

ထို့နောက် ၁၃၁၈-ခုနှစ်တွင် တိပိဋကဓရ စာမေးပွဲတွင် ဒီဃနိကာယ် သုံးကျမ်းကို အထောက်အမ လွတ်ကင်းစွာ ပြန်ဆိုအောင်မြင်တော်မူသဖြင့် "ဗုဒ္ဓသာသနဝိသိဋ္ဌ ဒီဃဘာဏက" ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း၊ ၁၃၂၀-ပြည့်နှစ်တွင် ဒီဃနိကာယ်သုံးကျမ်း သဘောရေးဖြေပွဲကို အောင်မှတ်ပြည့် ဖြေဆိုအောင်မြင်တော်မူသဖြင့် "ဗုဒ္ဓသာသန ဒီဃနိကာယကောဝိဒ" ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း အလှူခံ ရရှိတော်မူခဲ့လေသည်။

## နိုင်ငံတော် သံဃမဟာနာယက

၁၃၄၂-ခုနှစ် နယုန်လဆန်း ၁၃-ရက်နေ့မှစ၍ ပေါ်ပေါက်လာသည့် နိုင်ငံတော် သံဃမဟာနာယကအဖွဲ့တွင် နိုင်ငံတော် သံဃမဟာနာယကဖြစ်၍

လည်း သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ ဆရာတော် အရှင် တေဇောဘာသကား ဉာဏ်ကောင်းသည်၊ ဝီရိယရှိသည်၊ ဇွဲရှိသည်၊ ပွင့်ပွင့်လင်း လင်း မိန့်ဆို မြွက်ကြားတော်မူတတ်သည်။

ဘဒ္ဒန္တ တေဇောဘာသော ဟိ၊ တေဇေန သံယုတော သုဓိ။
သုဇိနော စက္ကံ ဇောတေတုံ၊ သဗ္ဗဒါ ဝါယာမော ဟိ ခေါ။

---

## ဒက္ခိဏာရာမအနွယ် မကွေး မဟာဓမ္မိကာရာမ ဆရာတော်
## နိုင်ငံတော် သံဃမဟာနာယက
## သက္ယသီဟ၊ အဓိုးရ ဓမ္မာစရိယ
## အရှင်ကုမာရာဘိဝံသ

မကွေးမြို့ မဟာဓမ္မိကာရာမတိုက် စာချဆရာတော် အရှင်ကုမာရာဘိဝံသ သည်သည်း ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြား တက်မြောက်တော်မူခဲ့သော မထေရ်မြတ် ဖြစ်တော်မူသည်။

### ဖွား မြင် ရှင် ရဟန်းပြု ပညာသင်

မြင်းခြံမြို့နယ် ဖောင်းကားရွာ၌ သက္ကရာဇ် ၁၂၈၈-ခုနှစ် ပြာသိုလဆုတ် ၇-ရက် တနင်းလာနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ အရွယ်ရောက်သော် သာ မဏေတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀- ပြည့်မြောက်ရာ ၁၃၀၈-ခုနှစ်တွင် ဖောင်းကားသယ်ပေါ်တိုက် ဆရာတော် အရှင် ကေလာသ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက် တော်မူသည်။ မြင်းခြံမြို့ သာသန ဇောတိကာရုံတိုက် ဆရာတော် အရှင် ဇာဂရ စသည်တို့ထံတွင် ပညာသင်ကြားခဲ့သည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခြင်း

ရဟန်းဖြစ်၍ ဝါအနည်းငယ်ရပြီးနောက် ဒက္ခိဏာရာမတိုက် ပခန်းကျောင်း သို့ ရောက်ရှိ၍ ဆရာတော် အရှင်ဥက္ကံသာဘိဝံသ၊ အရှင်အရိယ စသည်တို့ထံ တွင် ဂန္ထန္တရ အဝဝကို သင်ယူတော်မူခဲ့လေသည်။ ရင်းပြင် ချောင်းဦးမြို့ ကျိုကုန်းဆရာတော် အရှင် ကောဏ္ဍညထံတွင်လည်း နည်းခံတော်မူခဲ့သည်။

**သကျသီဟ အစိုးရ ဓမ္မာစရိယ၊ နိုင်ငံတော် သံဃမဟာနာယက**

စာမေးပွဲများကိုလည်း ဖြေဆို အောင်မြင်တော်မူခဲ့ရာ ၁၃၁၄-ခုနှစ်တွင် အစိုးရစာချတန်း စာမေးပွဲကို ဂုဏ်ထူးဆောင်ကျမ်းများနှင့်တကွ အောင်မြင်တော်မူသဖြင့် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ" ဘွဲ့ဘိသိပ်ကိုလည်းကောင်း၊ သကျသီဟ စာချတန်း စာမေးပွဲကိုလည်း အပြီးတိုင် အောင်မြင်သဖြင့် "ဘဒ္ဒန္တ ကုမာရာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ(သီးခြားစာချ)" ဘွဲ့ဘိသိပ် တော်ကိုလည်းကောင်း အလှူခံ ရရှိတော်မူခဲ့သည်။ နောက် မကွေးမြို့ မဟာ ဓမ္မိကာရာမတိုက်သို့ ရောက်၍ သီတင်းသုံးတော်မူ၍ စာပေ ချပို့တော်မူသည်။ နိုင်ငံတော် သံဃမဟာနာယက အဖွဲ့ဝင် ဆရာတော်သည်း ဖြစ်တော်မူသည်။

ဘဒ္ဒန္တ ကုမာရော ထေရော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏံ ကိစ္စံ သော ကတွာ၊ ဇောတယိ ဇိနသာသနံ။

---

**ဒက္ခိဏာရာမအနွယ် ဗန်းမော်ဆရာတော်**

**နိုင်ငံတော် ဗဟိုဝန်ဆောင်**

**သကျသီဟဝင်္ဂသကာ၊သိရောမဏိ၊ ဘီအေ၊**

**အရှင်ကုမာရာဘိဝံသ**

မန္တလေးမြို့ တောင်ပြင် ဗန်းမော်တိုက် ဆရာတော် အရှင်ကုမာရာဘိဝံသ သည် ဒက္ခိဏာရာမဘုရားကြီးတိုက် နယားကျောင်း၌ ကြာမြင့်စွာ သီတင်းသုံး တော်မူ၍ ဂန္ထဓုရ အာဝကို သယ်ယူ ချပို့တော်မူခဲ့သည့် ဒက္ခိဏာရာမအနွယ် ပရိယတ္တိဝန်ဆောင် ဆရာတော် ဖြစ်တော်မူသည်။

**ဖွားမြင် ရှင် ရဟန်းပြုခြင်း**

မြင်းခြံခရိုင် တောင်သာနယ် ရဘဲ့ရွာ၌ သက္ကရာဇ် ၁၂၉၁-ခုနှစ် တော် သလင်းလဆန်း ၁၄-ရက်နေ့တွင် ဖွားမြင်တော်မူသည်၊ အရွယ်ရောက်သော် ရှင်သာမဏေဝတ်၍ သာသနာ့ဝန်ကိုထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၁-ခုနှစ် တပို့တွဲလဆန်း ၁၁-ရက်နေ့တွင် သဒ္ဒါ ကျမ်းတတ် ကံမြင့ချမ်း ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ မိဘများ၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘဝ ဒုလ္လဘကို ရရှိတော်မူခဲ့သည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

ငယ်စဉ်ကပင် "မစဲသုံးပါး၊ ကွဲပြားမရှိ၊ ဒက္ခိဏာရုံ၊ ကျောင်းရွှေဘုံ"ဟူသည်နှင့်အညီ—

၁။ စာအံသံ မစဲခြင်း၊

၂။ ကုဋိဋ္ဌ ရဟန်းသာမဏေ မစဲခြင်း၊

၃။ ကျောင်းတိုက်ဝင်းအတွင်း အသွားအလာ မစဲခြင်း။

ဟူသော မစဲသုံးပါးနှင့် ပြည့်စုံသည့် ဒက္ခိဏာရာမတိုက် နယားကျောင်းသို့ ရောက်ရှိ၍ စာချအကျော် ဆရာတော် အရှင်မေဓိယ၊ အရှင်ဥက္ကံသ၊ အရှင်အရိယဝံသ စသည်တို့ထံတွင် နေ့ဝါ ညဝါ ကျမ်းဂန်အမျိုးမျိုးတို့ကို ဒိုကဲ့သို့ မွှေအာကုံကျေအောင် သင်ယူတော်မူခဲ့လေသည်။

## ဓမ္မာစရိယ သိရောမဏိ ဘွဲ့တံဆိပ်တော် အလှူခံ ရရှိခြင်း

၁၃၁၈-ခုနှစ်တွင် အစိုးရ ပဌမငယ်၊ ၁၃၀၉-ခုနှစ်တွင် အစိုးရ ပဌမလတ်တန်း၊ ၁၃၁၃-ခုနှစ်တွင် အစိုးရ ပဌမကြီးတန်းကို ဖြေဆို အောင်မြင်တော်မူ၍ ၁၃၁၅-ခုနှစ်တွင် တကြိမ်တည်းဖြင့် အစိုးရ စာချတန်း ကိုးကျမ်းလုံးကို ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ သိရောမဏိ" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။

## သက္ကျသီဟဓမ္မာစရိယဝင္ဒီသကာ ဘွဲ့ရရှိခြင်း

၁၃၁၄-ခုနှစ်တွင်သက္ကျသီဟစာသင်တန်းကိုဖြေဆိုရာ နံပါတ်(၁) စွဲလျက် အောင်မြင်တော် မူခဲ့လေသည်။ ၎င်းပြင် ၁၃၁၅-ခုနှစ်တွင် နှစ်မခြားပဲ ဖြေဆိုအောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တ ကုမာရာဘိဝံသ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ ဝင္ဒီသကာ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူခဲ့လေသည်။

## ဘီ-အေဘွဲ့ ရရှိပြန်ခြင်း

တဖန် ၁၉၇၀-ခုနှစ်လောက်တွင် မန္တလေးတက္ကသိုလ်မှ ကျင်းပသည့် ဘီ-အေစာမေးပွဲကို ဖြေဆိုအောင်မြင်တော်မူပြန်သဖြင့် ဘီ-အေ (ဂုဏ်ထူး) ဘွဲ့ကို ရရှိတော်မူခဲ့သည်။ ဆရာတော် အရှင်ကုမာရာဘိဝံသကား စာပေ၌ ထူးချွန်သည့်ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။

## ဂိုဏ်းပေါင်းစုံ နိုင်ငံတော် ဗဟိုဝန်ဆောင်

ဆဋ္ဌသံဂါယနာ မဟာဓမ္မသင်ကြီးတွင် ပဋိဝိဒသာဓက၊ သြသာနသာဓက၊သံဂီတိကာရကဖြစ်၍ စာပေတာဝန်များကို ဆောင်ရွက်တော်မူခဲ့

သည်။ရင်းပြင်ပဌမအကြိမ် ဂိုဏ်းပေါင်းစုံသံဃာ့အစည်းအဝေးကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်ဆောင် ၆၆-ပါးအနက် တပါးအပါအဝင်ဖြစ်၍သည်းကောင်း၊ သံဃာ့အစည်းအဝေးကြီးမှ ရွေးကောက်ခဲ့သည့် နိုင်ငံတော် ဗဟိုဝန်ဆောင် ၃၀၀-တွင် တပါးအပါအဝင်ဖြစ်၍လည်းကောင်း သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသည်။

## ပိဋကတ်ဘာသာပြန် စာပေဖြန့်ချိရေးအဖွဲ့ ဩဝါဒါစရိယတာဝန်

လေးကုဋ္ဌာရာ လောကီ နှစ်လီသော ပညာရပ်များကို ကျွမ်းကျင်တတ်မြောက်တော်မူသော ဓမ္မာစရိယသီးရာမဏ်၊ ဓမ္မာစရိယဝဋံသကာ၊ဘီ-အေ အရှင်ကုမာရမထေရ်သည် ၁၃၄၂-ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁၅-ရက်နေ့မှ ပေါ်ပေါက်သာသည့်ဥက္ကဋ္ဌကြီးဦးနုကြီးမှူးသော "ပိဋကတ်သုံးပုံ အင်္ဂလိပ်ဘာသာပြန် စာပေဖြန့်ချိရေးအဖွဲ့ကြီး" ၏ ဩဝါဒါစရိယဆရာတော်အဖြစ်ဖြင့်လည်း ပါဝင်ဆောင်ရွက်တော်မူခဲ့လေသည်။

ရင်းပြင်ဒက္ခိဏာရာမတိုက် အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ ဦးဆောင်ပြုစုသည့် အ-ဋ-ဋီ ပိဋက ပါဠိ မြန်မာ အဘိဓာန်ကျမ်းကြီးများနှင့် ပါဠိ-ဒပိဋကတ်ကျမ်းကြီးများ ပြုစုရေးအဖွဲ့တွင်လည်း ပါဝင်ဆောင်ရွက်တော်မူသည့် အဘိဓာန်ကျမ်းပြု၊ ကျမ်းညွှန်းကျမ်းပြု ဆရာတော်လည်းဖြစ်တော်မူသည်[၁]။

> ဘာဒ္ဒန္တကုမာရော ထေရော၊ ကုသလော ပိဋကေ ဝိဒူ။
> ဘာသန္တရေသု နေကေသု၊ ဝိညူ ပဏ္ဍိတဇာတိကော။

---

## ဒက္ခိဏာရာမအနွယ် ရွှေဘိုပခန်းဆရာတော်
## ဂိုဏ်းပေါင်းစုံ သံဃာ့ဝန်ဆောင်၊ ကျောက်သဘော်ဝိနည်းခိုရ်
## ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ သာသနဓဇ ဒီဃနိကာယ ပါဠိပါရဂူ
## အရှင်ဝိမလ

ရွှေဘိုမြို့ ပခန်းကျောင်းတိုက်၌ သီတင်းသုံးတော်မူ၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူသော ပရိယတ္တိသာသနဟိတဓမ္မာစရိယ၊ အစိုးရဓမ္မာစရိယ သာသနဓဇ ဒီဃနိကာယ ပါဠိပါရဂူ ဘွဲ့တံဆိပ်တော်ရ ဆရာတော်

---

၁။ မန္တလေးသာသနာဝင်ကျမ်း ဗန်းမော်သာသနာဝင်လည်းကြည့်။

အရှင်ဝိမလသည်လည်း ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြား လေ့လာဆည်းပူး တော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ဆရာတော် ဖြစ်တော်မူသည်။

ဖွားမြင် ရှင် ရဟန်းပြုခြင်း

ဂ.သာခရိုင် ကောလင်မြို့ အင်ပင်လူရွာ အဖ ဦးစိန်-အမိ ဒေါ်ရှုတို့မှ သက္ကရာဇ် ၁၂၉၀-ပြည့်နှစ် တန်ဆောင်မုန်းလဆန်း ၅-ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ ၁၃၀၄-ခုနှစ်တွင် သာမဏေဘဝ၏ သာသနာ့ဝန်ကို ထမ်းတော်မူခဲ့သည်။ ၁၃၁၀-ခုနှစ် ကဆုန်လတွင် ရွှေဘိုမြို့ ပခန်းတိုက် ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ဒက္ခိဏာရာမတိုက်ရောက်ရှိပညာသင်

ရွှေဘိုမြို့ ပခန်းဆရာတော် အရှင်ဒေဝိန္ဒထံတွင် ပညာသင်ကြားတော်မူပြီး မန္တလေးမြို့ ဒက္ခိဏာရာမတိုက် သာသနဇောတိကာရုံကျောင်း အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော် အရှင်နာရဒထံတွင် ရောက်ရှိနေထိုင်တော်မူ၍ ဒက္ခိဏာရာမဝါသီပညာရှင်များ ဖြစ်တော်မူကြသော အရှင်နာရဒ၊ အရှင်အရိယ၊အရှင်ဥက္ကံသာဘိဝံသ၊ အရှင်သီလဝံသ၊ အရှင်ပညာဇောတ၊ အရှင်မေဓိယ-စသည်တို့ထံတွင် ဂန္ထန္တရ အာဝကို သင်ယူ ဘတ်မြောက်တော်မူခဲ့သေသည်။

စာမေးပွဲများ အောင်မြင်ခြင်း

ဆရာတော်သည် ဉာဏ်အလွန်ထက်မြက်သည်။ ဝီရိယသည်း အလွန်ကောင်းသည်။ စာမေးပွဲများကို ဝင်ရောက်ဖြေဆိုတော်မူရာ ငယ် လတ် ကြီး စာမေးပွဲများကို ဆက်တိုက် အောင်မြင်တော်မူခဲ့သည်။ ၁၃၁၅-ခုနှစ်တွင် အစိုးရစာချတန်း ကျမ်းရင်း သုံးကျမ်းကိုလည်း ဖြေဆို အောင်မြင်တော်မူသဖြင့် "သာသနဓဇ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို ရရှိတော်မူသည်။ ၁၃၁၅-ခုနှစ်မှာပင် သက္ကျသီဟ စာချတန်းကို ဖြေဆိုအောင်မြင်တော်မူခဲ့သည့် အပြင် နောက်နှစ်များတွင် သက္ကျသီဟ စာချတန်းကိုပါ ဖြေဆို အောင်မြင်တော်မူသဖြင့် "ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (သိမ်ခြားစာချ)" ဘွဲ့ တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်။ တဖန် ဒီဃနိကာယ်သုံးကျမ်း ပါဠိ အဋ္ဌကထာကို ပါဠိပါဂူ စည်းမျဉ်းအရ ဖြေဆို အောင်မြင်တော်မူသဖြင့် "သာသနဓဇ ဒီဃနိကာယ ပါဠိပါရဂူ"ဘွဲ့တံဆိပ်တော်ကိုသည်း အလှူခံရရှိ တော်မူသည်။

ဂိုဏ်းပေါင်းစုံ သံဃာ့ဝန်ဆောင်

ဆရာတော် အရှင်ဝိမလသည် ရွှေဘိုမြို့ အဂ္ဂမဟာပဏ္ဍိတ ဓမ္မသုခဆရာတော် ဘုရားကြီး၏ သံဃာညီညွတ်ရေး ဩဝါဒကထာကိုလည်း မှမ်းမံစီရင်ရေးသား

တော်မူခဲ့လေသည်။ ၎င်းပြင် ပဌမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ကြီး ဖြစ်မြောက်ရေး သံဃာ့ဝန်းဆောင် ၆၆-ပါးအဖွဲ့တွင်လည်း ဝန်ဆောင် ဆရာတော်အဖြစ်ဖြင့် ပါဝင်ဆောင်ရွက်တော်မူခဲ့သည့်အပြင် ကျောက်သဘော် ဝါဒကို စစ်ဆေးဆုံးဖြတ်ရာ၌ ဘီးခြားဝိနည်းဓိုရ်အဖြစ်ဖြင့်လည်း သာသနာ့ဝန် ကို ဆောင်ရွက်တော်မူခဲ့သည်။

ဘဒ္ဒန္တဝိမလော ထေရော၊ ဒက္ခိဏာရာမပံသိကော။
ဝိမလေ ကိစ္စေ ကရိတွာန၊ ဝိမလသာသနန္ဓရော။

---

### ဒက္ခိဏာရာမအနွယ် ကျောက်မဲမြို့ သဒ္ဓမ္မပါလဆရာတော် အရှင်ကေလာသာဘိဝံသ

ကျောက်မဲမြို့ သဒ္ဓမ္မပါလကျောင်း ဆရာတော် အရှင်ကေလာသာဘိဝံသ သည်လည်း ဒက္ခိဏာရာမတိုက်မဟာ၌ စာပေသင်ကြား ချပို့တော်မူခဲ့သည့် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်း ပြုခြင်း

ရှမ်းပြည်မြောက်ပိုင်း ကျောက်မဲမြို့၌ တရုတ်အမျိုးသား ကုန်သည်ကြီး အဖ ရန်ကွေ့ရှင်းနှင့် အမိ ဒေါ်တီတို့မှ သက္ကရာဇ် ၁၂၈၆-ခုနှစ် ပြာသိုလ ဆန်း ၁၂-ရက်နေ့တွင် ဖွားမြင်တော်မူသည်။ သက်တော် ၁၉-နှစ်ရှိရာ ၁၃၀၅-ခုနှစ်တွင် ရှင်သာမဏေဘာဝ်၌ သာသနာ့ဝန်ကို ထမ်းဆောင်တော် မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၀၆-ခုနှစ် ကဆုန်လဆန်း ၁၃-ရက်နေ့တွင် ကမ္ဘောဇကျောင်း ဆရာတော်ဘုရားကြီး အရှင် သောဘိတ ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိပညာသင်

ကျမ်းဂန်တတ်သိ ပညာရှိတို့ အလွန်လျှင် စုံသင်လှသော ဒက္ခိဏာရာမ ဘုရားကြီးတိုက်သို့ ရောက်ရှိ၍ ဒက္ခိဏာရာမဝါသီ ပညာရှင်မထေရ်တို့အထံ၌ ဂန္ထန္တရအဝဝကို သင်ယူဆည်းပူးတော်မူခဲ့သည်။ ဒက္ခိဏာရာမသည် အရှင် ကေလာသာဘိဝံသ၏ ဘူမိနက်သန်အောင်မြေမှန် ဖြစ်ပေသည်။

## သကျသီဟနှင့် အစိုးရမွေးစရိယ

အရှင်ကေလာသသည် အလွန်လျှင် ဉာဏ်ထက်မြက်သည်၊ ဝီရိယလည်း လွန်ကဲသည်၊ ဉာဏ်ဝီရိယပြည့်စုံသူမှာ အဘယ်မှာလျှင် မအောင်မြင် မပြည့်စုံ ရှိအံ့နည်း၊ မုချပုံသေ အောင်မြင် ပြည့်စုံရမည်ဖြစ်ပေသည်။ ၁၃၀၉-ခုနှစ်တွင် အစိုးရ ပဌမငယ်၊ ၁၃၁၀-ခုနှစ်တွင် အစိုးရ ပဌမလတ်တန်း၊ ၁၃၁၁-ခုနှစ် တွင် အစိုးရ ပဌမကြီးတန်း၊ ၁၃၁၂-ခုနှစ်တွင် စေတီယင်္ဂဏစာသင်တန်း၊ ၁၃၁၃-ခုနှစ်တွင် သကျသီဟ စာချတန်းတို့ကို အောင်မြင်တော်မူသည့်ပြင် ၁၃၁၅-ခုနှစ်တွင် သကျသီဟစာချတန်းကို အပြီးတိုင်အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တကေလာသာဘိဝံသ ပရိယတ္တိသာသနဟိတဓမ္မာစရိယ(သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း၊ ၁၃၁၅-ခုနှစ်မှာပင် အစိုးရစာချတန်း စာမေးပွဲ၌ ကိုးကျမ်းလုံးကို တနှစ်တည်း တစိတ်တည်း အပြီးတိုင် ဖြေဆိုအောင် မြင်တော်မူသဖြင့် "သာသနဓဇသိရိပဝရဓမ္မာစရိယသိရောမဏိ" ဘွဲ့တံဆိပ် တော်ကိုလည်းကောင်း အလှူခံရရှိတော်မူခဲ့လေသည်။

## သဒ္ဓမ္မပါလစာသင်တိုက် တည်ထောင်သာသနာပြု

ဆရာတော် အရှင်ကေလာသာဘိဝံသသည် ကျောက်မဲမြို့၌ သဒ္ဓမ္မပါလ စာသင်တိုက်ကို တည်ထောင်တော်မူ၍ "သည်းခံ နှီးကြား၊ သနားထကြွ၊ နိစ္စမသွေ၊ ခွဲဝေ ရှုတတ်၊ သူမြတ်တို့ဂုဏ်" ဟူသည်နှင့်အညီ နာယကဂုဏ် ခြောက်ပါးလက်ကိုင်ထား၍ စာပေချို့ သာသနာပြုတော်မူခဲ့လေသည်။ယင်း သို့ သာသနာပြုစဉ် ကျုံကနိုင်ဓာတိဓမ္မာစရိယဆရာတော် အရှင်ပညာဘာသ စသူတို့က စာပေချို့ကူညီကြသည်။

## ပျံလွန်တော်မူခြင်း

ယင်းသို့ စာပေချို့သာသနာပြုစဉ် ဝါတော် ၂၄-ဝါအရ သက်တော် ၄၃-နှစ်ရှိရှာ ၁၃၂၉-ခုနှစ် ပြာသိုလဆုတ် ၁၄-ရက်နေ့တွင် ဝမ်းတွင်းသက် တန့်ခေါ် ကင်ဆာရောဂါစွဲကပ်လာသဖြင့် ယင်းရောဂါကို မတော်လှန်နိုင်ပါ သဖြင့် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ကောင်းကင်ဆောက်လည်း၊ မဖောက်မှန်စွာ၊ သေမည်သာတည်း၊
ဘယ်မှာနေနေ၊ မသေသသူ၊ မရှိဟူ၏၊ လိုက်ဂူတောင်ခေါင်၊

အောင်း၍နေလည်း၊ သေမည်မလွဲ၊ မြဲမှတ်စွဲလော့၊ ပင်လယ်ထဲမှာ၊ နေပြန်ပါလည်း၊ မှန်စွာဆတ်ဆတ်၊ လွတ်ရိုးမရှိ၊ သေကုန်ဘိ၏။ လိုလိုကြောက်စရာ၊ စဉ်းစာကာဖြင့်၊ ဘာဝနာအလုပ်၊ မဟုဿာဟ၊ ဖွဲ့လို့လဖြင့်၊ မုချမလစ်၊ အားသစ်ကြကုန်လော့။

---

## ဒက္ခိဏာရာမအနွယ် ပဋိဝိသောကဆရာတော်

### အရှင်ပညောဘာသ

ဗုဒ္ဓသာသနာ့အဖွဲ့ (ယခု သာသနာ့ရေးဦးစီးဌာန)တွင် ပင်တိုင်ပဋိဝိသောကဆရာတော်အပါးဖြစ်တော်မူသော ဆရာတော် အရှင်ပညောဘာသသည်လည်း ဒက္ခိဏာရာမတိုက်ထွက် ပညာရှင်တပါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ဒေးဒရဲမြို့နယ် ကျုံကနိုင်ရွာ၌ အဖဦးရွှေငြိမ်း-အမိ ဒေါ်သိန်းညွန့် တို့မှ သက္ကရာဇ် ၁၂၈၉-ခုနှစ် တပို့တွဲလဆန်း ၁၂-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ အရွယ်ရောက်သော် ရှင်ရဟန်းပြု၍ သာသနာ့ဘောင်ကို ထမ်းဆောင်တော်မူခဲ့သည်။

### ဒက္ခိဏာရာမတိုက်ရောက်ရှိပညာသင်

အရွယ်တော် နုနယ်စဉ်ကပင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဝိဇ္ဇာလယတနကြီးအတွင်းရှိ ဟံသာဝတီကျောင်းသို့ ရောက်ရှိ သီတင်းသုံးတော်မူ၍ နေ့ညဥ်ဝါ ကျမ်းဂန်အရပ်ရပ်ကို တတ်မြောက်အောင် သင်ယူတော်မူခဲ့လေသည်။ အစိုးရမဟာ့စရိယဘွဲ့ကိုလည်း အလှူခံရရှိတော်မူခဲ့သည်။

### သာသနာပြုတော်မူခြင်း

ဆရာတော်သည် အစိုးရမဟာ့စရိယဘွဲ့ကို ရရှိပြီး ဟံသာဝတီကျောင်း၌ နှစ်အနည်းငယ် သီတင်းသုံးတော်မူ၍ ရဟန်းငယ်များ၊ သာမဏေကြီးငယ်များအား စာပေချပို့တော်မူခဲ့သည်၊ ရင်းပြင် ရှမ်းပြည်မြောက်ပိုင်း ကျောက်မဲမြို့ သဒ္ဓမ္မပါလစာသင်တိုက်၌လည်း နှစ်ပေါင်းများစွာ စာပေချပို့ သာသနာပြုတော်မူခဲ့သည်။

## ပင်တိုင်ပဋိဝိသောဓကဖြစ်ခြင်း အသံလွှင့်ကရားဟောခြင်း

၁၉၆၃-ခုနှစ်လောက်မှစ၍ ဗုဒ္ဓသာသနာအဖွဲ့၏ ပင်လျောက်ချက်အရ ကမ္ဘာအေး သီရိမင်္ဂလာကုန်းမြေရှိ ဇမ္ဗူဒီပကျောင်းဆောင်၌ သိတင်းသုံးတော်မူ၍ စာပေကျမ်းဂန်အရပ်ရပ်ကို တည်ဖြတ်သုတ်သင် ပြင်ဆင်တော်မူခဲ့လေသည်။ ယင်းသို့ ကျမ်းစာများ သုတ်သင်ပြင်ဆင်၍ သိတင်းသုံးတော်မူစဉ် ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်အစိုးရ သာသနာရေးဦးစီးဌာန၏ လျှောက်ထားချက်အရ မဟာပဋ္ဌာန်းလိုဏ်ဂူတော်ကြီးအတွင်း ဆုနှင်းသဘင်များ၌ သြဝါဒပေးခြင်း၊ အသံလွှင့်ဌာနမှ တရားဓမ္မဟောပြခြင်း စသည်ဖြင့်လည်း သာသနာပြုတော်မူခဲ့လေသည်။

## ရိုးသားဖြူစင် အလွန်လျှင် တိကျမှုကိုလိုလား

ဆရာတော် အရှင်ပညာဘာသသည် စိတ်ထားဖြောင့်မတ်ဖြူစင်တော်မူသည်။ တဘက်သားအားလည်း ကျည်းတတ်သည့် မထေရ်မြတ်ဖြစ်သည့်ပြင် တိကျမှန်ကန်မှုကိုလည်း အလွန်လိုလားသည့် မထေရ်ဖြစ်တော်မူသည်။ အလှူအဒါန်းလည်း လွန်စွာဝါသနာပါသည်။ ပစ္စည်းအပိုအမို များစွာမထားလှူဒါန်းမှုပြုသည်သာ များသည်။ သို့ဖြစ်၍ ကျောင်းရှင် မဟာစည်ဆရာတော်ဘုရားကြီး စသူတို့၏ ကြည်ညိုလေးမြတ်ခြင်းကိုပင် ခံယူတော်မူရသည်။

ပညောဘာသော မဟာထေရော၊ ပညာယ သံယုတော သုစီ။
သုစိန်ံ ကတ္တဗ္ဗံ သော ဟိ၊ ကတွာ သာသနဘာရဓော။

---

## ဒက္ခိဏာရာမအနွယ် သကျသီဟဝင့်သကာ၊ သိဒရာမကာ

### အရှင်သုနန္ဒ

ဒက္ခိဏာရာမတိုက်ထွက် ဉာဏ်ပညာ ထက်မြက်ထူးချွန်သည့် ပုဂ္ဂိုလ်များတွင် အရှင်သုနန္ဒသည် ပါဝင်ခဲ့လေသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ပဲခူးခရိုင် ကဝမြို့နယ် ဖဒလးရွာ၌ အဖ ဦးပြန့်-အမိ ဒေါ်စောညွန့်တို့မှ သက္ကရာဇ် ၁၂၉၀-ပြည့်နှစ် နယုန်လဆန်း ၇-ရက် သောကြာနေ့တွင် ဖွားမြင်

ခဲ့သည်။ အရှင်သုနန္ဒ လောင်းလျာသည် အကြီးဆုံး သားရတနာဖြစ်သည်။ အရွယ်ရောက်သော် ရှင် ရဟန်းပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

## ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

စာပေဝါသနာရှင် မိတ်ကောင်းဆွေမွန် သီတင်းသုံးဖော်တို့၏ ညွှန်ကြားမှုကြောင့် ငယ်စဉ်ကပင် ဒက္ခိဏာရာမတိုက် ဆရာတော် ဦးကြယ် ကျောင်း (ရွှေဘုံရှိန်ကျောင်း)သို့ ရောက်ရှိ၍ ပညာသင်ကြားခွင့် ရရှိခဲ့သည်။ ဒက္ခိဏာရာမတိုက်၌ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အမျှင်နာရဒ၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးကြယ်၊ စ ချဆရာတော် အရှင်အရိယဝံသ၊ အရှင်ဥက္ကံသ၊ အရှင်ပညာဇောတ စသည်တို့ထံတွင် ဂန္ထန္တရ အဝဝကို မဟုသုတ ဇွဲလုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။

## သကျသီဟ ဝဋံသကာ၊ သိရောမဏိ

စာမေးပွဲများကို ဝင်ရောက်ဖြေဆိုရာ ပခုက္ကူမြို့ ဝိနယာဓိက အကြီးတန်း၊ တိုက်ကြီးမြို့ အမျိုးသား စာမေးပွဲ အငယ်တန်း၊ အကြီးတန်း၊ အစိုးရစာမေးပွဲ ငယ် လတ် ကြီး၊ စေတိယင်္ဂဏ စာသင်တန်း တို့ကို အောင်မြင်ခဲ့သည်။ ၁၃၁၄-ခုနှစ်တွင် သကျသီဟ စာမေးပွဲ စာသင်တန်းကို အောင်မြင်ခဲ့သည့်ပြင် ၁၃၁၅-ခုနှစ်တွင် နှစ်ခြားပဲ သကျသီဟ စာချတန်း စာမေးပွဲ အဋ္ဌကထာကြီး သုံးကျမ်းကို နှစ်ချင်းစွဲ အောင်မြင်သဖြင့် "ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ (ဝဋံသကာ)" ဟူသော ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိခဲ့သည် သာမက ထိုသည့် ၁၃၁၅-ခုနှစ်မှာပင် အစိုးရ စာချတန်း စာမေးပွဲ၌ ကိုးကျမ်းလုံးကို တနှစ်တည်းဖြင့် ဖြေဆိုအောင်မြင်သဖြင့် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ သိရောမဏိ" ဟူသော ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိခဲ့သည်။

အရှင်သုနန္ဒကား နောင်တွင် ရသစာပေ၏ ရသကျမ်းပြု မဟာဝိဇ္ဇာ (ဘုံဘော)ဒုတိယညွှန်ကြားရေးမှူး ဦးရွှေအောင်ဖြစ်၍ အမျိုးဘာသာ သာသနာ ကြီးပွားရေးကို ဆောင်ရွက်ဆဲဖြစ်သည်။

ဒက္ခိဏာရာမဝံသမှိ၊ ပုဂ္ဂလာဝိသောသာ ဗဟူ။
သောပိ အန္တောဂတော ဝ၊ ပုဂ္ဂလဝိသေသော ဝိဒူ။

## ဒက္ခိဏာရာမအနွယ် ပဋ္ဌာနကျော်၊ အဂ္ဂမဟာအကျော်၊ သိရီပဝရ၊ သကျသီဟ ဓမ္မာစရိယ ဝဋ္ဋံသကာ၊ ဘီ-အေ၊ အရှင်ကစ္စာယနာလင်္ကာရ

အကျော် သုံးကျော် ဘွဲ့ထူးနှင့်တကွ "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ၊ သကျသီဟ ဓမ္မာစရိယ ဝဋ္ဋံသကာ" ဘွဲ့တံဆိပ်တော်ရ အရှင်ကစ္စာယနာလင်္ကာရသည်လည်း ဒက္ခိဏာရာမတိုက်၌ ပညာ လေ့လာဆည်းပူးပြီး ဘွဲ့ထူး ဂုဏ်ထူးတို့ကို ရယူခဲ့သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ရွှေဘိုခရိုင် ဝက်လက်မြို့ သရိုင်ရွာ၌ သက္ကရာဇ် ၁၂၉၆-ခုနှစ် ဝါဆိုလဆုတ် ၁၄-ရက် တနင်္လာနေ့တွင် ဖွားမြင်ခဲ့သည်။ သက်တော် ၁၃-နှစ်ရှိရာ သက္ကရာဇ် ၁၃၁၉-ခုနှစ်တွင် ရှင်သာမဏေဘောင်၌ သာသနာ့ဝန် ထမ်းဆောင်ခဲ့လေသည်၊ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၅-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၅-ရက်နေ့တွင် အမရပူရမြို့ ဂန္ဓာရုံဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဇနကာဘိဝံသကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ခဲ့လေသည်။ ငယ်စဉ်က ဦးလေးဖြစ်သော အရှင်ဇနကာဘိဝံသနှင့် စစ်ကိုင်းတောင်ရိုး ဝိဇ္ဇာဒပ္ပဏ်ချောင် ဆရာတော် အရှင်အာစိဏ္ဏ စသည်တို့ထံတွင် ပညာသင်ကြားခဲ့သည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

ဒက္ခိဏာရာမတိုက် ဒေါနခြံကျောင်းသို့ ရောက်ရှိ နေထိုင်၍ စာချအကျော် ဆရာတော် အရှင်နာရဒ၊ အရှင်အရိယဝံသ၊ အရှင်ဥက္ကံသ စသည်တို့အထံတွင် ဂန္ထန္တရ အဝဝကို သင်ယူ တတ်မြောက်ခဲ့သည်။

### ပရိယတ္တိ သာသနာ လင်္ကာရ အကျော်

အရှင်ကစ္စာယနာလင်္ကာရသည် ၁၃၁၀-ခုနှစ်တွင် သကျသီဟ သာမဏေ စာပြန်ပွဲ ပဌမဆင့်၊ ၁၃၁၂-ခုနှစ် ဒုတိယဆင့်၊ ၁၃၁၃-ခုနှစ်တွင် တတိယဆင့်တို့၌ နံပါတ်(၁)ဖြင့်ဖြေဆို အောင်မြင်ခဲ့လေသည်။ ထို့ဖြစ်၍ ပရိယတ္တိ သာသနဟိတ အသင်းက ဆက်ကပ်လှူဒါန်းသော "ပရိယတ္တိ သာမဏေ လင်္ကာရ အကျော်" ဘွဲ့ကို အလှူခံ ရရှိခဲ့လေသည်။ အရှင်ကစ္စာယနာလင်္ကာရကား ဉာဏ်အလွန်ကောင်းသည့် ပုဂ္ဂိုလ်ဖြစ်လေသည်၊

## အစိုးရ ပဌမကျော်

၁၃၁၁-ခုနှစ် အစိုးရ ပဌမငယ်တန်း၊ ၁၃၁၂-ခုနှစ်တွင် အစိုးရ ပဌမလတ်တန်းကို ဖြေဆို အောင်မြင်၍ ၁၃၁၄-ခုနှစ်တွင် ပဌမကြီး ဖြေဆိုသူအာလုံးအနက် ပဌမရရှိကာ အစိုးရ ပဌမကျော်ဘွဲ့ကို ရရှိ အောင်မြင်ခဲ့လေသည်။ အရှင်ကစ္စာယနာလင်္ကာရသည် ထူးချွန်သည့် ပုဂ္ဂိုလ် ဖြစ်လေသည်။

## အဂ္ဂမဟာအကျော်

တဖန် ၁၃၁၅-ခုနှစ် တပေါင်းလတွင် ကျင်းပသည့် အစိုးရ စာချတန်း စာမေးပွဲကို ကျမ်းရင်း သုံးကျမ်းနှင့်ဟာကွ ဂုဏ်ထူးဆောင် ခြောက်ကျမ်းလုံးကို အပြီးတိုင် နံပါတ်(၁)ဖြင့်ပင် ဖြေဆို အောင်မြင်သဖြင့် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ အဂ္ဂမဟာအကျော်"ဖြစ်၍ အောင်မြင်ခဲ့လေသည်။ အရှင်ကစ္စာယနာလင်္ကာရကား ပုဂ္ဂလအာဇာနည် ဖြစ်လေသည်။

## သကျသီဟ ဓမ္မာစရိယ ဝင္ခံသကာ

တဖန် ၁၃၁၆-ခုနှစ် သကျသီဟ စာပြန်ပွဲကြီးမေးခွန်း စာသင်တန်း၌ နံပါတ်(၁)ဖြင့် ဖြေဆို အောင်မြင်ခဲ့သည့်ပြင် ၁၃၁၇-ခုနှစ်တွင် အဋ္ဌကထာကြီး သုံးကျမ်းကို နှစ်မခြားပဲ ဆက်တိုက် ဖြေဆို အောင်မြင်သဖြင့် "ဘဒ္ဒန္တကစ္စာယနာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ(ဝင္ခံသကာ)"ဟူသော ဘွဲ့တံဆိပ်ကို အလှူခံ ရရှိလေသည်။

## လူ့ဘောင်ဆင်း ဘီ-အေ အောင်

နှစ်များမကြာမီ လူထွက်၍ လောကီ ပညာရပ်များကို ဆည်းပူးပြန်ရာ ဘီ အေ ဘွဲ့ကို ရရှိပြန်လေသည်။ နောင်တွင် ဗိုလ်ကြီးကျော်နိုင် အဖြစ်ဖြင့် တိုင်းပြည်ကျိုးကို သည်ပိုးဆောင်ရွက်ဆဲ ဖြစ်သည်။

ဒက္ခိဏာရာမ အာရာမော၊ ပါကဋော မြန်မာ့ဘူတလေ။
ပါကဋာနံ ပုဂ္ဂလာနံ၊ ဥပ္ပတ္တိ အာရာမော ဘဝေ။

## ဒက္ခိဏာရာမအနွယ် သက္ယသီဟ၊ စေတိယင်္ဂဏ၊
## သီရိပဝရ၊ သုသမာစာရ ဓမ္မာစရိယ
## ဝိသိဋ္ဌဒီဃဘာဏက၊ ဒီဃနိကာယကောဝိဒ
## အရှင်ဝိလာသဂ္ဂါဘိဝံသ

သက္ယသီဟ ဓမ္မာစရိယ-စသည့် ဘွဲ့တံဆိပ်တော်များ၏ ပိုင်ရှင်ဖြစ်သော အရှင်ဝိလာသဂ္ဂါဘိဝံသသည် ဒက္ခိဏာရာမတိုက်၌ စာပေသင်ကြားတတ်မြောက် ချပို့ခဲ့သည့် ပုဂ္ဂိုလ်ဖြစ်သည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

မော်သမြိုင် ကျခတ်ချောင်းရွာ၌ အဖ ဦးထွန်းရွှေ-အမိ ဒေါ်လွန်းရင်တို့မှ သက္ကရာဇ် ၁၂၉၄-ခုနှစ် တန်ခူးလဆုတ် ၇-ရက် ဗုဒ္ဓဟူးနေ့တွင် ဖွားမြင် ခဲ့သည်။ သက်တော် ၁၄-နှစ်ရှိရာ ၁၃၀၈-ခုနှစ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဘောင်ကို ထမ်းဆောင်ခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၃-ခုနှစ် တန်ဆောင်မုန်းလတွင် မော်သမြိုင်မြို့ အဂ္ဂမဟာပဏ္ဍိတ တောင် ပေါက်ဆရာတော်ဘုရား အရှင်စက္ကပါလကို ဥပဇ္ဈာယ်ပြု၍ ဥပသမ္ပဒဇာတ် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်။

### ဒက္ခိဏာရာမတိုက်ရောက်ရှိပညာသင်

အသက်အရွယ် ငယ်စဉ်ကပင် ဒက္ခိဏာရာမဝိဇ္ဇာလယတနကြီးသို့ ရောက်ရှိ၍ သာသနဇောတိကာရုံကျောင်း၌ သီတင်းသုံး၍ ဆရာတော် အရှင်နာရဒ၊ အမရပူရကျောင်းဆရာတော် အရှင်ဥက္ကံသာ-စသည်တို့ထံတွင် ဂန္ထန္တရအာဝဝကို ပါရဂူပေါက် တတ်မြောက်အောင် သင်ယူခဲ့သည်။

### စာမေးပွဲများစွာတို့ကို ဖြေဆိုအောင်မြင်ခြင်း

အရှင်ဝိလာသဂ္ဂါဘိဝံသသည်လည်း လွန်စွာ ထူးချွန်သည့် ပုဂ္ဂိုလ်ဖြစ် သည်။ စာမေးပွဲဝင်သမျှ အောင်မြင်သည်ချည်းဖြစ်သည်။ ငယ်မင်္ဂလာအောင် ဇာတာပါသူဖြစ်သည်။

### သာသနဇောသီရိပဝရဓမ္မာစရိယ

အစိုးရစာမေးပွဲငယ် လတ် ကြီးတို့ကို နှစ်ဆက်အောင်မြင်၍ ပဌမကြီးတန်း နှအောင်မြင်ချိန်တွင် အသက် ၁၆-နှစ်သာ ရှိသေးသည်။ရဟန်းသိက္ခာ တဝါရ

၁၃၁၅-ခုနှစ်တွင် အစိုးရစာချတန်းကို ဂုဏ်ထူးဆောင်ကျမ်းများနှင့်တကွ အောင်မြင်၍ "သာသနဓဇသိရိပဝရဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိခဲ့သည်။

## စေတိယင်္ဂဏဓမ္မာစရိယ

သိက္ခာ၁၀ ဝါရမီ ရန်ကုန်မြို့ စေတိယင်္ဂဏစာသင်တန်းကို နံပါတ် (၁) ဖြင့် အောင်မြင်၍ ရဟန်းသိက္ခာ သုံး၀ါအရတွင် စေတိယင်္ဂဏစာချတန်းကို အပြီး တိုင် ဖြေဆိုအောင်သဖြင့် "စေတိယင်္ဂဏ ပရိယတ္တိ ဓမ္မာစရိယ ဂဏဝါစက" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခဲ့လေသည်။

## ပရိယတ္တိသာသနဟိတဓမ္မာစရိယ

ရဟန်းသိက္ခာတ၀ါအရတွင် မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်းမှ ကျင်းပသည့် သက္ကသီဟစာမေးပွဲ စာသင်တန်းစာမေးပွဲကို ဖြေဆိုအောင် မြင်ခဲ့ပြီး ရဟန်းသိက္ခာ သုံး၀ါအရတွင် သက္ကသီဟစာချတန်း အဋ္ဌကထာ ကျမ်းကြီးသုံးကျမ်းကို အပြီးတိုင် ဖြေဆိုအောင်မြင်သဖြင့် "ဘဒ္ဒန္တဝိသာလင္က ဘိဝံသ ပရိယတ္တိသာသနဟိတဓမ္မာစရိယ (သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိခဲ့သည်။

## သုသမာစာရ ဓမ္မာစရိယ

မော်လမြိုင် သုသမာစာရအသင်းမှ ကျင်းပသည့် သုသမာစာရစာမေးပွဲ ငယ် လတ် ကြီးတို့ကို လွယ်ကူစွာ အောင်မြင်ခဲ့ပြီး သုသမာစာရစာချတန်း ကို ရဟန်းသိက္ခာသုံး၀ါအရမှာပင် အောင်မြင်သဖြင့် "သုသမာစာရ ပိဋကတ္တယ ကောဝိဒ" ဘွဲ့တံဆိပ်ကို အလှူခံရရှိခဲ့သည်။

## ဗုဒ္ဓသာသနဝိသိဋ္ဌဒီဃဘာဏက ဒီဃနိကာယကောဝိဒ

ရဟန်းသိက္ခာ ငါး၀ါရရှိချ ၁၃၁၈-ခုနှစ် ကိုးကြိမ်မြောက် ကျင်းပအပ် သော တိပိဋကရွေးချယ်ပွဲတွင် တကြိမ်တည်းဖြင့် ဒီဃနိကာယ်သုံးကျမ်း (က) အာဂုံပြန်ဆိုပွဲ၌ အဘောက်အမလွတ်အောင်၍ သန့်ရှင်းစွာ ပြန်ဆိုနိုင် ခြင်းကြောင့် ဝိသိဋ္ဌဂုဏ်ထူးဖြင့် အောင်မြင်ခြင်းနှင့် (ခ) ဘာသာရေးဖြေပွဲ တွင် အောင်မှတ်ပြည့် အောင်မြင်သဖြင့် "ဗုဒ္ဓသာသနဝိသိဋ္ဌဒီဃဘာဏက၊ ဒီဃနိကာယကောဝိဒ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်။

## စာပေချီးမြှင့်သာသနာပြုခြင်း

ယင်းသို့ဖြင့် ဘွဲ့တံဆိပ်ကော် ငါးထပ်ရ အရှင်ဝိလာသဂ္ဂါဘိဝံသသည် ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်နာရဒ၏ဩဝါဒကို ခံယူ၍ ဘုရားကြီးတိုက်အပြင်ထပ်၌ အသစ်ဆောက်လုပ်အပ်သော မော်လမြိုင်ဒေါ်ပု ကျောင်းသစ်ကို အလှူခံ၍ စာပေချီးမြှင့် သာသနာပြုခဲ့လေသည်။

## သာသနာ့ဘောင်မှ ဆင်းခဲ့ခြင်း

ယင်းသို့ ပါရဂူပေါက် တစ်ခေါ်လောက်အောင် စာပေတတ်မြောက်လှသည့် အရှင်ဝိလာသဂ္ဂါဘိဝံသသည် "မိန်းမယောကျ်ား၊ နှစ်ပါးကြိုက်ကြုံ၊ ရူပါရုံက၊ အရင်စ၍၊ ရာဂေါပါး၊ သာမြေးပွား၏" ဟူသည့်အတိုင်း မာတုဂါမ၏ ရူပါရုံအစ အာရုံငါးဝ ခုနှမ်မိသဖြင့် ရဟန်းဘဝ ဒုလ္လဘမှ ဆင်းခဲ့ရလေသည်။ နှမြောဖွယ်ကောင်းလှပေစွတကား။

အရှင်ဝိလာသဂ္ဂါဘိဝံသ လူ့ဘဝပြောင်းစဉ်က ကျေးဇူးရှင်တပါး ဖြစ်တော်မူသော ဒက္ခိဏာရာမတိုက် စာချအကျော် အမရပူရဆရာတော်က "ဝိလာသနှယ် ဖြစ်မှဖြစ်ရပလေ၊ စာမေးပွဲတွေ အောင်နိုင်ခဲ့ပြီး မာတုဂါမကိုမှ မအောင်နိုင်ပဲ မာတုဂါမက အောင်လိုက်ပြီပေါ့" ဟု မိန့်တော်မူသည်။

ဣသယော တပေါနေ့ စ၊ သီလဝဏ္ဏော ဥပါသကာ။
မာယာဝုံခေန စာဝေသုံ၊ နာရီနံ စရဏာသုတာ။

---

## ဒက္ခိဏာရာမအနွယ် ခေတ္တဉ္ဇူမဥ္ဇရီ ကျမ်းပြု ဆရာတော်

### ဇ ရှင်ဩဘာသ

ခေတ္တဉ္ဇူမဥ္ဇရီ ကျမ်းပြု ဆရာတော် အရှင်ဩဘာသသည် တောင်သာမြို့ သာသန ဝိပုလာရာမတိုက်သစ် ကျောင်းတိုက်၏ နာယကဆရာတော် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်း ပြု

တောင်သာမြို့နယ် တောင်ရိုးဇလုပ်ရွာ၌ အဖ ဦးစံဘ-အမိ ဒေါ်စိမ့်တို့မှ သက္ကရာဇ် ၁၂၄၃-ခုနှစ် ဝါဆိုလဆုတ် ၁၃-ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်

တော်မူသည်။ ၁၃၀၉-ခုနှစ် နယုန်လဆန်း ၈-ရက်နေ့တွင် ရှင်သာမဏေ ဝတ်၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့လေသည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၂-ခုနှစ် တပို့တွဲလဆုတ် ၁၃-ရက်နေ့တွင် သာသနဝိပုလာရာမတိုက်သစ် ဆရာတော် အရှင်ပညာသာရကို ဥပဇ္ဈာယ်ပြု၍ ဥပသမ္ပဒ ဇာတ်ဖြင့် မြင့်မြတ်သော ရဟန်းပဉ္စင်း အဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

တောင်သာမြို့ သာသန ဝိပုလာရာမတိုက်သစ် ဆရာတော် အရှင်ပညာသာရထံတွင် ဝိဋကတ် အခြေခံ ကျမ်းစာများကို သင်ယူတော်မူပြီးနောက် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ကျောင်းတိုက်ကြီးအတွင်းရှိ အမရပူရ ကျောင်းသို့ ရောက်ရှိ နေထိုင်တော်မူပြီး ဆရာတော် အရှင်ဥက္ကံသာဘိဝံသ၊ အရှင်မေဓိယာဘိဝံသ၊ အရှင်ပညာဇောတာဘိဝံသ စသော မထေရ်မြတ်တို့ အထံတွင် ပညာရင်နို့ သောက်စို့တော်မူခဲ့သည်။ ၁၃၂၀-ခုနှစ်တွင် အစိုးရ ဓမ္မာစရိယ စာချတန်းကို ဖြေဆို အောင်မြင်တော်မူခဲ့သည်။

### သာသန ဝိပုလာရာမတိုက်သစ် နာယကဖြစ်ခြင်း

ကျေးဇူးရှင် ဆရာရင်း ဆရာတော် အရှင်ပညာသာရ ပျံလွန်တော်မူသဖြင့် စောစီးစွာပင် ဆရာ၏ အရိုက်အရာကို ခံယူရသဖြင့် ငယ်စဉ်ကပင် သာသန ဝိပုလာရာမတိုက်သစ် ကျောင်းတိုက်၏ နာယကတာဝန်ကို ထမ်းဆောင်တော်မူရသည်။

### ဓာတုတ္တမဥ္စရီကျမ်း ပြုစုရေးသားခြင်း

ဆရာတော်သည် စာသင်ပျို့နု အခြေပြုတို့ ကြည့်ရှုလေ့လာ လွယ်ကူစွာ ကျက်မှတ်ရန် အကျိုးငှာ ဂါထာဗန္ဓပေါင်း ၁၃၉-ဂါထာတို့ဖြင့် တန်ဆာဆင်အပ်သော ဓာတွတ္ထမဉ္စရီ အခြေပြု ဓာတ်စဉ်ကျမ်းကို ပြုစီရင်တော်မူခဲ့လေသည်၊ ကျမ်းဟု အမည်ကပ်ထားသော်လည်း စင်စစ်မှာ "ဓာတွတ္ထမဉ္စရီ ပါဠိ၊ ဓာတွတ္ထမဉ္စရီ နိဿယ" ဖြစ်သည်။

ဓာတွတ္ထမဥ္စရီ ပါဠိ ကျမ်းဦး၌—

၁။ သဗ္ဗလောကတညုံ ဗုဒ္ဓံ၊ ဘူရိပညံ သဿာဒကံ။
ဟာနေဝ သုဒေသိတံ ဓမ္မံ၊ နမာမိ သိရသာ မဟံ၊
၂။ မာတုပဏ္ဍုရကော နေကာ၊ သန္တိ သဓန္တော ပုရာတနာ။
တထာပိ ကောစိ သင်္ခေပါ၊ ကေစိ ဝိတ္ထာရ မူလကာ။

၃။ ဒုက္ကရာ တေန သော့တွန်၊ ဥဂ္ဂဟဏာဓာရဏတ္ထံ။
အနုရူပံဝ မေဓာဝီ၊ ကာယံ ဓာတွတ္ထမုဥ္စရိ၊၊

ဟူသော သုံးဂါထာဖြင့် ဂန္ထာရမ္ဘ ပြု၍ စီရင်တော်မူခဲ့လေသည်။ ကျမ်း၏ အဆုံး၌လည်း "ဓာတွတ္ထမုဥ္စရိနာမ၊ သင်္ခိတာ သဒ္ဒ စေတသာ" စသည့် ၁၁-ဂါထာဖြင့် နိဂုံးအုပ်တော်မူခဲ့လေသည်။

ဆရာတော် အရှင်ဩဘာသသည်လည်း သာသနာပြုလိုစိတ်၊ ကြီးပွားစေလိုစိတ်ရှိသည့် မဟာဗျာသယ ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည်။

ဘဒ္ဒန္တ ဩဘာသော ထေရော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏဝံသံ ပါလေတွာ၊ ဇိနသာသန ဇောတကော။



ဓက္ခိဏာရာမအနွယ် ဆုထူးပန်ဆရာတော်

သိရီပဝရ ဓမ္မာစရိယ၊ ဒီဃဘာဏက၊ ဒီဃနိကာယကောဝိဒ

အရှင်နာယက

ရန်ကုန်မြို့ နတ်မောက်လမ်း ဆုထူးပန်ဆရာတော် အရှင်နာယကသည်လည်း ဒက္ခိဏာရာမအနွယ်ဝင် ဆရာတော်တပါး ဖြစ်တော်မူသည်။

ဖွားမြင် ရှင် ရဟန်းပြုခြင်း

သံတွဲမြို့နယ် ခရမ်းမော်ရွာ၌ အဖ ဦးမောင်ဘ-အမိ ဒေါ်အေးကလေးတို့မှ သက္ကရာဇ် ၁၂၉၄-ခုနှစ် တန်ခူးလတွင် ဖွားမြင်တော်မူသည်။ ငယ်မည် မောင်အေးဖေ ဖြစ်သည်။ ၁၃၀၄-ခုနှစ်တွင် ရှင်သာမဏေဝတ်၍ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၄-ခုနှစ် နတ်တော်လဆုတ် ၃-ရက်မနေ့တွင် နံတော်တောင် ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။

ဒက္ခိဏာရာမတိုက် ရောက်ရှိ ပညာသင်

ခရမ်းမော် တောရကျောင်း ဆရာတော် အရှင်ဝိရိယ၊ အရှင်မေဃဝံသ၊ ရန်ကုန်မြို့ ခြောက်ထပ်ကြီးတိုက်ဆရာတော် အရှင်အာစိဏ္ဏ စသည်တို့ထံတွင် ပညာသင်ကြားတော်မူခဲ့သည်သာမက မန္တလေးမြို့ ဒက္ခိဏာရာမတိုက် တံသွာ

ဝတီကျောင်း၌လည်း သုံးနှစ်ခန့်မျှ သီတင်းသုံးတော်မူ၍ ဒက္ခိဏာရာမတိုက်ကြီး၏ ဓဇူပမ စာချဆရာတော်များ ဖြစ်တော်မူကြသော အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒ၊ အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ စသည်တို့ထံတွင် ဂန္ထဓုရ အဝဝကို သင်ယူတော်မူခဲ့လေသည်။ အစိုးရ စာချတန်းစာမေးပွဲကို ဖြေဆို အောင်မြင်တော်မူပြီး၍ သာသနဓဇ သိရိပဝရ ဓမ္မာစရိယ ဖြစ်ပြီးနောက် တိပိဋကရေစာမေးပွဲများကိုလည်း ဝင်ရောက်ပြန်ဆို ရေးဖြေခဲ့ရာ ၁၃၁၉-ခုနှစ်တွင် ''ဒီဃဘာဏက''ဘွဲ့ကိုလည်းကောင်း၊ ၁၃၂၁-ခုနှစ်တွင် ''ဒီဃနိကာယကောဝိဒ''ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း အလှူခံ ရရှိတော်မူခဲ့လေသည်။

## ကျမ်းစာပြုစုအားထုတ်မှု

အရှင်နာယကသည် နောင်တွင် ရန်ကုန်မြို့ ဆုထူးပန်စာသင်တိုက်၏ နာယကဆရာတော်ဖြစ်တော်မူ၍ စာပေချပို့ခြင်း၊ တရားဓမ္မဟောပြောခြင်း၊ ကျမ်းစာများ ရေးသားပြုစုခြင်းတို့ဖြင့် သာသနာ့ရေးရာများကို ပြုလုပ်တော်မူခဲ့သည်။

ကျမ်းစာများမှာ—

၁။ ဓမ္မာစရိယနိယံ၊

၂။ ကျောင်းထိုင်ရေးရာ စသည်တို့ ဖြစ်ကုန်၏။

## ပျံလွန်တော်မူခြင်း

ယင်းသို့ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သော ရန်ကုန်မြို့ ဆုထူးပန်ကျောင်းတိုက်နာယကဆရာတော် အရှင်နာယကသည် သက်တော် ၄၈-နှစ်၊ သိက္ခာတော် ၂၈-ဝါ ရရှိရာ ၁၃၄၂-ခုနှစ် နယုန်လပြည့်ကျော်တွင် ပျံလွန်တော်မူခဲ့လေသည်။

## သံဝေဂယူရန်

ပညာရှိသူ၊ မရှိသူဟု၊ ကြီးသူငယ်သူ၊ ဘယ်မဟူပဲ၊
ဗိုလ်လူခပင်း၊ လူတသင်းကား၊ သေမင်းနိုင်ငံ၊ လိုက်ရမှန်သည်—
နာမ်ရုပ်နှစ်ဝ အနိစ္စပါတကား။
နာမ်ရုပ်နှစ်ဝ ဒုက္ခပါတကား။
နာမ်ရုပ်နှစ်ဝ အနတ္တပါတကား။

## ဒက္ခိဏာရာမ အနွယ် မေဒိနီစာချ ဆရာတော် သီရိပဝရမဟာဓမ္မရာဇ ဒိုက်ရိုဝ်ယ အဂ္ဂမဟာပဏ္ဍိတ ဝိသိဋ္ဌဒီဃဘာဏကာ၊ ဒီဃနိကာယကောဝိဒ

### အရှင်ဉာဏဝံသ

ရန်ကုန်မြို့ ကျောက်ကုန်းတောရ မေဒိနီကျောင်းတိုက် စာချဆရာတော် အရှင်ဉာဏဝံသသည်လည်း ဒက္ခိဏာရာမ မဟာဝိဇ္ဇာလယ ကြီး၌ သီတင်းသုံးတော်မူ၍ ထူးထွေများလှ ကျမ်းဂန်တို့ကို မဟုဿာဟ ဇွဲလုံ့လဖြင့် သင်ယူတတ်မြောက်တော်မူခဲ့သည့် ပရိယတ္တိဝန်ဆောင်ဆရာတော် ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြု

ပဲခူးခရိုင် အုတ်ကန်ရွာ၌ အဖ ဦးဖိုးချစ်-အမိ ဒေါ်ငွေစိန်တို့မှ ၁၂၆၄-ခုနှစ် ကဆုန်လဆန်း ၁၃ ရက် အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။ ၁၃၀၄-ခုနှစ်တွင် ညောင်လေးပင်မြို့ တောရကြီးကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်အရိယကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေပြု၍ သာသနာ့ဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။ သက်တော် ၂၀-ပြည့်မြောက်ရာ ရန်ကုန်မြို့ ကျောက်ကုန်းတောရ မေဒိနီကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်အာဋ္ဌာရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ဒက္ခိဏာရာမတိုက်၌ ပညာသင်

ညောင်လေးပင်မြို့ အဂ္ဂမဟာပဏ္ဍိတ တောရဆရာတော် အရှင်အရိယနှင့် ရန်ကုန်မြို့ ကျောက်ကုန်းတောရ မေဒိနီဆရာတော် အရှင်အာဋ္ဌာရ စသည်တို့ထံတွင် ပညာသင်ကြားပြီး မန္တလေးမြို့ ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ ဒက္ခိဏာရာမပါဠိ ပညာရှင် မထေရ်မြတ်ကြီးတို့ထံ ပုဒ်နေပုဒ်ထား ပုဒ်သွား ပုဒ်လာ ပုဒ်မှာ ပုဒ်ထပ် စသည်တို့ကို တတ်မြောက်ကျွမ်းကျင်အောင် သင်ယူတော်မူခဲ့လေသည်။

### စာမေးပွဲများအောင်မြင်ခြင်း

ယင်း စာပေကျမ်းဂန်များ လေ့လာဆည်းပူးပြီး စာမေးပွဲများကို ဝင်ရောက်ဖြေဆိုရာ အစိုးရစာမေးပွဲငယ် လတ် ကြီးနှင့်တကွ စာချတန်းစာမေးပွဲကို ဂုဏ်ထူးနှင့်တကွ ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇသိရီပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်၊ "အဂ္ဂတ္ထနိကာယပါဠိပါရဂူ" ဘွဲ့တံဆိပ်၊ ပဲခူးမြို့

"ဝိနယာလင်္ကာရသတ္တိ မမ္မ စရိယ" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူသည်။

## ပိဋကတ်တပုံဆောင်နိုင်

ထို့နောက် ၁၃၁၈-ခုနှစ် ကျင်းပသည့် ကိုးကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲတွင် ဒီဃနိကာယ်သုံးကျမ်းကို (က) အာဂုံပြန်ဆိုပွဲ၌ အထောက်အမလွတ်ကင်းစွာ ပြန်ဆိုအောင်မြင်သဖြင့် "ဝိသိဋ္ဌဒီဃဘာဏက"ကို လည်းကောင်း၊ ၁၃၂၆ ခုနှစ် (၁၇) ကြိမ်မြောက် ကျင်းပအပ်သော တိပိဋကဓရ ရွေးချယ်ပွဲတွင် (ခ) သဘောရေးဖြေပွဲ၌ သုတ္တန္တပိဋက ဒီဃနိကာယ်သုံးကျမ်းကို အောင်မှတ်ပြည့်အောင်မြင်တော်မူသဖြင့် "ဒီဃနိကာယ ကောဝိဒ" ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း အလှူခံရရှိတော်မူခဲ့လေသည်။

ဉာဏဝံသော မဟာထေရော၊ ဉာဏေန သံယုတော သုခီ။
ဒက္ခိဏာရာမံ သဿတွာ၊ သုစိရံ သိက္ခနံ ကရိ။

---

## ဒက္ခိဏာရာမအနွယ် ဂန့်ဂေါမြို့မဆရာတော်

## သိရီပဝရဓမ္မာစရိယ၊ ဝိသိဋ္ဌဒီဃဘာဏက

## အရှင်ဝိသုဒ္ဓ

ဂန့်ဂေါမြို့ မြို့မကျောင်းဆရာတော် အရှင်ဝိသုဒ္ဓသည်လည်း ဒက္ခိဏာရာမ တိုက်ထွက် သာသနာ့ဂုဏ်ဆောင်တပါး ဖြစ်တော်မူသည်။

## ဖွားမြင် ရှင် ရဟန်းပြုခြင်း

ပခုက္ကူခရိုင် မြိုင်မြို့နယ် ကန်သစ်ရွာ အဖ ဦးပေါ်မြိုင်-အမိ ဒေါ်ကျန် တို့မှ သက္ကရာဇ် ၁၂၈၇-ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ရှစ်နှစ်သားအရွယ်တွင် ရှင်သာမဏေဝတ်၍ သာသနာ့ဝန် ထမ်းဆောင်တော်မူခဲ့သည်၊ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၀၆-ခုနှစ် တပို့တွဲလဆန်း ၅-ရက်နေ့တွင် ပခုက္ကူမြို့ မဟာဝိသုဒ္ဓါရာမတိုက် သိမ်တော်ကြီး၌ အဂ္ဂမဟာပဏ္ဍိတ၊ အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့တံဆိပ်တော်ရ ဆရာတော်အရှင်သုန္ဒရ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ဒက္ခိဏာရာမတိုက်၌ ပညာသင် ဝိသိဋ္ဌဒီဃဘာဏကဘွဲ့ရ

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၌ ပိဋကတ်ကျမ်းစာများကို ဆိုဝါ လိုက်ဝါဖြင့် သင်ယူတော်မူခဲ့ပြီး ဒက္ခိဏာရာမတိုက်သို့ ရောက်ရှိ၍ နည်းနာနယ အဝဝကို သင်ယူတော်မူခဲ့လေသည်။ အရှင်ဝိသုဒ္ဓသည် "သာသနဓဇသိရီပဝရ ဓမ္မာစရိယ" နှင့် "ဝိသိဋ္ဌဒီဃဘာဏက" ဘွဲ့တံဆိပ်တော်ရ ပုဂ္ဂိုလ်ဖြစ်သည်[၁]။

ဘဒ္ဒန္တဝိသုဒ္ဓေါ ထေရော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏံ ဒေသာ ပါလေတွာ၊ ဇိနသာသနဘာရဓော။

---

## ဒက္ခိဏာရာမအနွယ်လာပို့ဆရာတော်
## သီရိပဝရဓမ္မာစရိယ ဝိနယပါဠိပါရဂူ၊ ဒီဃဘာဏက
## အရှင်မေဓာဝံသ

ဂန့်ဂေါမြို့နယ် လာပို့ရွာကျောင်း ဆရာတော် "သာသနဓဇသိရီပဝရ ဓမ္မာစရိယ ဝိနယပါဠိပါရဂူ" "ဒီဃဘာဏက" အရှင်မေဓာဝံသသည်လည်း ဒက္ခိဏာရာမတိုက်၌ ပညာသင်ကြားခဲ့သည့် ပုဂ္ဂိုလ်မြတ်ဖြစ်သည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ပခုက္ကူခရိုင် မြိုင်မြို့နယ် ကန်သစ်ရွာ၌ အဖ ဦးပေါ်အေး-အမိ ဒေါ်ဖွားတို့မှ သက္ကရာဇ် ၁၂၉၉-ခုနှစ် ဝါခေါင်လဆန်း ၁၃-ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ ၁၃၁၁-ခုနှစ်တွင် ရှင်သာမဏေဘောဝတ်၍ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၉-ခုနှစ် ကဆုန်လဆန်း ၈-ရက်နေ့တွင် ပခုက္ကူမြို့ တိုင်းပညာဝန် ဦးပင်းဖေနှင့် ဒေါ်စိန်တင်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် သိမ်တော်ကြီးတွင် အဂ္ဂမဟာပဏ္ဍိတ၊ အဘိဓဇမဟာ

---

၁။ မဟာဝိသုတာရာမ နိကာယသာသနာဝင်၊ ၅၉၄-၅၉၅-လည်းကြည့်။

ရဋ္ဌပူရ ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီး၊ အရှင်သုန္ဒရ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သည်။

## ဒက္ခိဏာရာမတိုက် ရှေးကရှိပညာသင်

## ဒီဃဘာဏကဘွဲ့ရရှိ

ပန္နက္ကူမြို့ မဟာဝိသုတာရာမတိုက်၌ ပညာသင်ကြားတော်မူပြီး မန္တလေး ဒက္ခိဏာရာမတိုက် အမရပူရကျောင်း၌ သီတင်းသုံး တော်မူ၍ ဒက္ခိဏာရာမတိုက် စာချဆရာတော်များထံ ဆက်လက်၍ "ပုဒ်နေ ပုဒ်ထား ပုဒ်သွား ပုဒ်လာ" စသည်တို့ကို သင်ယူတော်မူခဲ့လေသည်။ အရှင်မေဓာဝံသသည် သာသနဓဇ သိရီပဝရ ဓမ္မာစရိယ၊ ဝိနယ ပါဠိပါရဂူ၊ ဒီဃဘာဏက ဘွဲ့ရပုဂ္ဂိုလ်မြတ်ဖြစ်သည်။ အရှင်မေဓာဝံသကား ဉာဏ်ထက်မြက်သည်၊ ဝီရိယရှိသည်၊ ဖြောင့်မတ်မြင့်မားသော စိတ်ရှိသူဖြစ်သည်။

မေဓာဝံသော မေဓာဝံသော၊ ဒက္ခိဏာရာမဝံသိကော။
ဒက္ခိဏံ ကိတ္တံ သော ကတွာ၊ ဇိနသာသနဘာရဓော။

---

## ဒက္ခိဏာရာမအနွယ် ရေဦးမြို့ ဝါဆိုကျောင်း စာချဆရာတော်

## သကျသီဟ၊ အစိုးရဓမ္မာစရိယ

## အရှင်ဥတ္တမဉာဏာဘိဝံသ

အရှင်ဥတ္တမဉာဏာဘိဝံသသည် ဒက္ခိဏာရာမတိုက် သာသနဇောတိကာရုံကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေသင်ကြား ကက်မြောက်တော်မူခဲ့သည့် သာသနာ့ဝန်ဆောင် ဆရာတော်တစ်ပါး ဖြစ်တော်မူသည်။

### ဖွားမြင် ရှင် ရဟန်းပြုခြင်း

ရွှေဘိုခရိုင် ရေဦးမြို့နယ် ယှည်းသွင်းရွာ၌ အဖ ဦးဘဒင်-အမိ ဒေါ်ဖွားမေ တို့မှ ၁၃၀၀-ပြည့်နှစ် တန်ဆောင်မုန်း ၁-ရက် တနင်္ဂနွေနေ့တွင် မိဂ္ဂသီရနက္ခတ်ဖြင့် ဖွားမြင်တော်မူသည်။သက်တော် ၁၂-နှစ်ရှိရာ ၁၃၁၂-ခုနှစ် တပို့တွဲလဆုတ်

၂-ရက်နေ့တွင် ရှင်သာမဏေဝတ်၍ သက်တော် ၂၀-ပြည့်မြောက်ရာ ၁၃၁၉-ခုနှစ် တပေါင်းလပြည့်နေ့တွင် ရေဦးမြို့ ဝါးဝိုပါဠိတက္ကသိုလ်ကျောင်းတိုက် ခဏ္ဍသိမ်တော်၌ ကျောင်းအမကြီး ဒေါ်ချီ၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

## ပညာသင်ကြား ငယ် လတ် ကြီး ဓမ္မာစရိယ အောင်မြင်

ခြောက်နှစ်သားအရွယ်တွင် ဆရာတော် အရှင်ကုမာရထံ စတင် ပညာသင်ကြားခဲ့သည်။ ၁၂-နှစ်သားအရွယ်တွင် ရေဦးမြို့ ပါဆိုပါဠိတက္ကသိုလ် ကျောင်းတိုက်သို့ ရောက်ရှိ၍ ပိဋကတ်အခြေခံ ကျမ်းစာများနှင့် ပါဠိတော် အဋ္ဌကထာဋီကာများကို သင်ယူတော်မူခဲ့သည်။ စာမေးပွဲများကိုလည်း ဖြေဆိုရာ ၁၃၁၅-ခု၊ ၁၃၁၆-ခု၊ ၁၃၁၇-ခု၊ ၁၃၁၀-ခုနှစ်များတွင် ငယ်၊ လတ်၊ ကြီး၊ စာချတန်း စာမေးပွဲတို့ကို အစဉ်အတိုင်း ဆက်တိုက် အောင်မြင်တော်မူခဲ့လေသည်။ အစိုးရ ဓမ္မာစရိယ ဘွဲ့ရစဉ်က သက်တော် ၁၈-နှစ်သာရှိသေးသည်။ တကယ့်ထူးချွန်သည့် ပုဂ္ဂိုလ်ပါတည်း။

## ဒက္ခိဏာရာမ ဝိဇ္ဇာလယတနကြီးသို့

အရှင်ဥတ္တမဉာဏကား ပညာသင်ကြားမှု၌ မရောင့်ရဲနိုင်ချေ။ သို့ဖြစ်၍ ဒက္ခိဏာရာမ ဝိဇ္ဇာလယတနကြီးအတွင်းရှိ သာသန ဇောတိကာရုံကျောင်းသို့ ရောက်ရှိ သီတင်းသုံးတော်မူ၍ အဂ္ဂမဟာပဏ္ဍိတ စာချအကျော် ဆရာတော် အရှင်နာရဒထံ အဋ္ဌသာလိနီ အဋ္ဌကထာနှင့် သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ စသော အဋ္ဌကထာဋီကာ နက်နဲစွာတို့ကို သမ္မာဆန္ဒ ဇွဲလုံ့လဖြင့် သင်ယူတော်မူခဲ့လေသည်။ ၎င်းဒက္ခိဏာရာမ မဟာဝိဇ္ဇာလယတနကြီး၏ ဥပမဂဏဝါစက စာချဆရာတော်များ ဖြစ်တော်မူကြသော ဓမ္မာဘိက ကျောင်း ဆရာတော် အရှင် အရိယ၊ အမရပူရကျောင်း ဆရာတော် အရှင်ဥက္ကံသာဘိဝံသ-စသည်တို့ထံတွင်လည်း ဂန္ထန္တရ အဝဝကို ကျနစွာ သင်ယူတော်မူခဲ့လေသည်။

## ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယဖြစ်ခြင်း

၁၃၂၅-ခုနှစ်တွင် သက္ကသီဟ စာသင်တန်းကို ဖြေဆို အောင်မြင်တော်မူခဲ့သည်။ တဖန် ဆက်လက်၍ သက္ကသီဟ စာချတန်းကို ဖြေဆိုပြန်ရာ ၁၃၂၈-ခုနှစ်တွင် အဋ္ဌကထာကြီးသုံးကျမ်းကို နံပါတ် (၁)ဖြင့် အပြီးတိုင် ဖြေဆို အောင်မြင်တော်မူသဖြင့် "ဘဒ္ဒန္တ ဥတ္တမဉာဏာဘိဝံသ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ(သီးခြားစာချ)" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူခဲ့လေသည်။

စာပေချုပ် သာသနာ့ဝန်ထမ်းဆောင်

အရှင်ဥတ္တမညာဏာဘိဝံသသည် ဒက္ခိဏာရာမတိုက်တွင် နှစ်အနည်းငယ် သီတင်းသုံး စာပေချုပ်တော်မူပြီး ဇာတိ ရေဦး မြို့သို့ ပြန်ကြွတော်မူ၍ ဝါဆို ကျောင်း၌ စာပေချုပ် သီတင်းသုံးတော် မူခဲ့လေသည်၊ ဒက္ခိဏာရာမတိုက်ထွက် ပညာရှင် သာသနာ့ဝန်ဆောင်တို့ကား များလှချေကုန်၏။

ဘဒ္ဒန္တဥတ္တမော ထေရော၊ ဥတ္တမော ဇိနသာသနေ။
ဥတ္တမတ္ထံ သ ပတ္တတွာ၊ ဗုဒ္ဓသာသနဘာရဓော။

စတုတ္ထပိုင်းပြီး၏။

# ပဉ္စမပိုင်း

## ဒက္ခိဏာရာမတိုက်၊ သံဃကတိကဝတ် ဥပဒေသတော်

မန္တလေးမြို့ ဒက္ခိဏာရာမတိုက် သံဃသမ္မုတိရ ဆရာတော်ကြီးများသည် ၁၂၉၃-ခုနှစ်၌လည်းကောင်း၊ ၁၃၂၃-ခုနှစ်၌လည်းကောင်း သံဃသုဒ္ဓ သံဃဖာသု ဖြစ်စိမ့်သောငှာ အောက် ဖော်ပြပါ "သံဃာကတိကဝတ် ဥပဒေသတော်"ကို ရေးဆွဲ ထုတ်ပြန်တော်မူခဲ့သည်။

လေးသင်္ချေနှင့် ကမ္ဘာတသိန်း ကာလပတ်လုံး ပါရမီတော်တို့ကို ဖြည့်ကျင့်တော်မူပြီး၍ အထွဋ်အထိပ်သို့ ရောက်တော်မူပြီးသော မြတ်စွာဘုရား၏ သာသနာသုံးပါး ကြီးပွားစည်ပင် စေခြင်းငှာလည်းကောင်း၊ သံဃသုဒ္ဓ သံဃဖာသု ဖြစ်စေခြင်းငှာလည်းကောင်း၊ အာစရိယပရံပရ ပဝေဏီမပျက် ဩဝါဒကို စောင့်ရှောက်စေခြင်းငှာလည်းကောင်း ရည်ရွယ်ရိုးရင်း နှလုံးသွင်းတော်မူကြ၍ ဒက္ခိဏာရာမဝါသီ မထေရ်ကြီးတို့နှင့်တကွ သံဃာတော်အပေါင်းတို့သည် သာသနာတော် သက္ကရာဇ် ၂၄၇၅-ခု၊ ကောဇာ သက္ကရာဇ် ၁၂၉၃-ခု ပြာသိုလပြည့်နေ့ သံဃနာယက ဆရာတော် ကုတ်ကျောင်းပေါ်၌ အားလုံး ဆန္ဒသဘောတူ ပြဋ္ဌာန်း ဆုံးဖြတ်အပ်သော ကတိကဝတ် ဥပဒေသတော်မှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) အရှေ့အလား မီးရထားနှင့် အစိုးရမြေအထိ၊ အနောက်အလား အုတ်တံတား မြေအထိ၊ မြောက်အလား အာနန္ဒာသိမ်နီ မြောက်တံတိုင်းအထိ၊ တောင်အလား ဦးပွားစောကြီးတော် တောင်တံတိုင်းအထိ၊ ဤပဝါကို ခေါ်အတွင်း၌ ကျောင်းထိုင် သံဃာတော်တို့ အများ ဆန္ဒတူ ရွေးကောက်တင်မြှောက်သော သံဃ ပါမောက္ခ သံဃနာယက ဆရာတော်သာ ရှိရမည်။

(ခ) သံဃနာယက ဆရာတော်သည် ကိုက်ရောက်စွမ်းအပ သာသနာ့ရေးကိစ္စနှင့် စပ်လျဉ်း၍ အခြားသော ဂိုဏ်းကောတို့နှင့် ဆက်ဆံရေး

ကိစ္စ ရှိသော်လည်းကောင်း၊ အစိုးရတို့နှင့် မလွဲမရှောင်သာ၍ ဆက်ဆံရေးကိစ္စ ရှိသော်လည်းကောင်း သင့်လျော်သော သမ္မုတိ ဆရာတော် ကျောင်းထိုင်ဆရာတော်တို့ ညှိနှိုင်းတိုင်ပင်၍ အလိုးစုံ သော အမိကရုဏ်း အမှုကိစ္စတို့ကို ဝိနိစ္ဆယ ဆုံးမ ဩဝါဒချ ပေး လိုသောအခါ ယသာမမှ ကျနသော ဝိနိစ္ဆယ ဆုံးမ ဩဝါဒ အမိန့် ထုတ်ဆင့်နိုင်သော အခွင့်အာဏာရှိသည်။

(ဂ) ဒေါ်ကြာရေပတိုက် သံဃိက ဖြစ်သော ပစ္စည်းများကို စေဖန်ရန် အကျိုးငှာလည်းကောင်း၊ ချပနကိစ္စ ပေါ်ပေါက်က စီမံ ရွက် ဆောင်ရန် အကျိုးငှာလည်းကောင်း ကျောင်းထိုင် သံဃာတော်တို့ က အပဒေလာကနက်ဖြင့် အများဆန္ဒတူ ဘာဇကပုဂ္ဂိုလ် ခုနစ်ပါးကို ရွေးကောက် တင်မြှောက်ထားရမည်။ သို့သော် ဒါနရှင်၊ ကိစ္စ ရှင်တို့က မိမိတို့သဘောအတိုင်း လောကထုံးစံဖြစ်သော တိုက်တာ ရေးကို မထိမခိုက်စေပဲ ရွက်ဆောင်ပြုလုပ်လိုက ပြုလုပ်နိုင်သည်။

## ကျောင်းထိုင်ဆရာတော်များ အရေးအခွင့်

(ဃ) တောမြို့ ကျေးရွာကသော်လည်းကောင်း၊ တိုက်တပါးကသော် လည်းကောင်း လာရောက်နေထိုင်လိုသော စာသင်သားကို ဆရာ မိဘ၊ သို့မဟုတ် အုပ်ထိန်းသူ၊ တာဝန်ခံသူတို့က ကိုယ်တိုင်သော် လည်းကောင်း၊ စာဖြင့်သော်လည်းကောင်းတာဝန်ခံယူ ထောက် ခံ လျှောက်ထားချက်ပါမှ နေထိုင်ခွင့် ပြုရမည်။

(င) မိမိတို့ တိုက်တာအတွင်း တကျောင်းမှ တကျောင်းသို့လည်း ကောင်း၊ တိုက်တာမှ ထွက်သွားဟန်ဆောင်၍ တနှစ်မပြည့်မီ အတွင်း အခြားကျောင်းသို့လည်းကောင်း၊ ဝင်ရောက် နေထိုင်လို သော စာသင်သားကို မူလ နေရင်းကျောင်း ကျောင်းထိုင် ဆရာ တော်၏ ခွင့်ပြုချက်ပါမှ နေထိုင်ခွင့် ပြုရမည်။

(စ) မိမိတို့ကျောင်းရှိ စာသင်သားများ၏ ဘွဲ့အမည်၊ သိက္ခာဝါ၊ ဖွား ရာဇာတိ၊ မြို့ရွာနယ်မြေ၊ ဆရာမိဘ၊ သို့မဟုတ် အုပ်ထိန်းသူပါ သော စာရင်းအင်းများကို သေချာစွာ ရေးပြီးလျှင် ဝါဆိုလဆုတ် ၅-ရက်နေ့ထက် နောက်မကျစေပဲ ဆိုင်ရာ ဆရာတော်ထံ တင်သွင်း ရမည်။

(ဆ) (ဃ/င)အပိုဒ်ပါ တာဝန်ခံယူ ထောက်ခံချက် ထောက်ထားချက် ခွင့်ပြုချက် မပါသော စာသင်သားကို နေထိုင်ခွင့်ပြုသော ကျောင်းထိုင် ဆရာတော်သည် နာယကဆရာတော် ချမှတ်သော ဝိနည်းကံ အပြစ်ဒဏ်ကို ခံရမည့်ပြင် ခွင့်ပြုနေထိုင်စေသော စာသင်သားကို လည်း ကျောင်းမှ နှင်ထုတ်ရမည်။

(ဇ) အောက်ပါ စာသင်သားများ လိုက်နာရန် ကတိကဝတ် ဥပဒေကို ကျူးလွန် ဖေါက်ဖြားသော စာသင်သားအား ဆိုင်ရာကျောင်းထိုင်ဆရာတော်က အပြစ်အားလျော်စွာ စီရင်ဆုံးဖြတ် ဆုံးမ ဩဝါဒပေးရမည့် အခွင့်အာဏာ ရှိသည်။ အကယ်၍ သိလျက် အပြစ်အားလျော်စွာ မစီရင်သော ကျောင်းထိုင်ဆရာတော်သည် နာယကဆရာတော် ချမှတ်သော ဝိနည်းကံအပြစ်ဒဏ်ကို ခံရမည်။

## စာသင်သားများ အရေးအခွင့်

(ဈ) ဟကျောင်းတည်း၌ မိမိတို့ အချင်းချင်းသော် လည်းကောင်း၊ တပါးသော ကျောင်းနေပုဂ္ဂိုလ်တို့နှင့်သော်လည်းကောင်း၊ တပါးသော တိုက်တာအရပ်နေတို့နှင့် သော်လည်းကောင်း၊ ရှုပ်သိ လူသိ ခိုက်ရန်ဒေါသ ဖြစ်ပွားခြင်း၊ လက်ရောက်ကျူးလွန်ခြင်း စသော အမှုအခင်း မဖြစ်စေရ၊ ဖြစ်ခဲ့သော် မိမိတို့နေထိုင်ရာ ကျောင်းမှ ထွက်ခွါသွားရမည်။

(ည) မြတ်စွာဘုရား ကဲ့ရဲ့တော်မူအပ်သော လက်နက်စွဲကိုင် သွားလာခြင်း၊ လောင်းတမ်းကစားခြင်း၊ သုရာပါန သိက္ခာပုဒ်ကို ကျူးလွန်ခြင်းတို့ကို အထူး ကြဉ်ရှောင်ရမည်၊ ကျူးလွန်ဖေါက်ဖြားသော ပုဂ္ဂိုလ်သည်လည်း မိမိတို့နေထိုင်ရာ ကျောင်းမှ ထွက်ခွါ သွားရမည်။

(ဋ) ကပ္ပိယဘူမိမှ တပါးသောအရပ်၌ ဗုဒ္ဓပဋိကုဋ္ဌိတ ဖြစ်သော ရုပ်ပွဲ၊ ဇာတ်ရှင်ပွဲ၊ အောလုံပွဲ၊ ဇာတ်ပွဲ အစရှိသော ပွဲလမ်းသဘင် ကြည့်ရှုခြင်း၊ လူတို့၏အဝတ်တန်ဆာကို ဆင်မြန်းသွားလာခြင်း၊ ဝိကာလဘောဇန သိက္ခာပုဒ်ကို ကျူးလွန်ခြင်းတို့ကို အလျှင်းမပြုမလုပ်ရ ကျူးလွန်ဖေါက်ဖြားသော ပုဂ္ဂိုလ်သည် ဝိနည်းကံ အပြစ်ဒဏ် ခံရမည်။

(၄) သမဏသာရုပ္ပ မဖြစ်သော အကပ္ပိယ အနာမာသကို ကိုယ်တိုင်ကိုင်တွယ်၍ ဈေးဝယ်ခြမ်းခြင်း၊ သဘော ရထားလက်မှတ် ယူခြင်း အစရှိသည့်တို့ကို မပြုမလုပ်ရ၊ ကျူးလွန်ပေါက်ကြား သော ပုဂ္ဂိုလ်သည်လည်း ဝိနည်းကံ အပြစ်ဒဏ် ခံရမည်။

(၅) ပုထုဇဉ်တို့အလျောက် တဦးနှင့်တဦး ရန်ခိုက်ဒေါသ ဖြစ်သော်လည်းကောင်း၊ အန္တရာယ်ဖြစ်ရန် ကောင်းကြံစည်သည်ကို သိသော်လည်းကောင်း ဖျန်ဖြေကာကွယ်ခြင်းကို ပြုရမည့်ပြင် ဆိုင်ရာကျောင်းထိုင် ဆရာတော်ကိုလည်း အမြန် လျှောက်ထားရမည်။ ဖုံးလွှမ်း ကွယ်ဝှက်ထားသော ပုဂ္ဂိုလ်သည်လည်း ဝိနည်းကံ အပြစ်ဒဏ် ခံရမည်။

(၆) ကျောင်းထိုင် ဆရာတော်တို့က အကြောင်းလုံလောက်စွာ မပြမူ၍ ကျောင်းမှ ထွက်ခွာသွားရန် ချမှတ်လျှင် မရှိမသေ မထီမဲ့မြင်ခုခံ အန္တုခြင်း မပြုပဲ နာယကဆရာတော်ထံ အသနားခံလျှောက်လွှာ တင်သွင်းနိုင်သည်။

ဝိနည်းကံ အပြစ်ဒဏ်ဆိုသည်ကား အမှုကြီးငယ် အပြစ်ဒဏ်အား လျော်စွာ ရေဒဏ် သဲဒဏ် ၁၀-မှ ၅၀-အထိ ပေးနိုင်သည်။

ဘဒ္ဒန္တဝိမလဗုဒ္ဓိ

ဒက္ခိဏာရာမတိုက် သံဃနာယက ဆရာတော်

၁၂၉၃-ခုနှစ် ပြာသိုလဆန်း ၁၅-ရက် လပြည့်နေ့

## ၁၃၂၃ ခုနှစ် သီတင်းကျွတ်လဆုတ် ၁၃-ရက်နေ့ အလယ်တိုက်ကြီးအပေါ်ထပ် ကျောင်းထိုင်ဘုန်းတော်ကြီးများ အစည်းအဝေးက အညီအညွတ် ပြဋ္ဌာန်းအတည်ပြုကြသည့် ကတိကဝတ်များ

(၁) သံဃိကကျောင်း စသော ဂရုဘဏ်များအတွက် နာယကဆရာတော် အသိအမှတ်ပြုပြီးဖြစ်သော အစောင့်အရှောက် အာဝါသိက ကျောင်းထိုင်ပုဂ္ဂိုလ်ကိုသာ "ရဟန်းသိက္ခာ တည်ရှိနေသမျှ" တိုက်သံဃာက ဆက်လက် အသိအမှတ် ပြုထားရမည်။

(၂) ထိုကျောင်းထိုင်ပုဂ္ဂိုလ် အသက်ရှိစဉ် တစုံတယောက်အား အစောင့်အရှောက် လွှဲအပ်သည့်ကို နာယကဆရာတော်က ဆက်လက်အသိအမှတ် ပြုထားရမည်။

(၃) ထိုကျောင်းထိုင်ပုဂ္ဂိုလ်၏ လဟုဘဏ်ကို ဝိဿာသဂ္ဂါဟအင်္ဂါနှင့် အညီယူ၍ ဂရုဘဏ်ကို အစောင့်အရှောက် တောင်းခံယူထားခဲ့လျှင် ထိုတောင်းခံယူထားသောပုဂ္ဂိုလ်သည် ကိုယ်စားမထားပဲ ကိုယ်တိုင်စောင့်ရှောက်နိုင်ပါက နာယကဆရာတော်က ဆက်လက်အသိအမှတ်ပြုထားရမည်။ အကယ်၍ ကိုယ်တိုင်မနေနိုင်လျှင် သံဃိကဂရုဘဏ်ကို တိုက်သံဃာက ပြန်သိမ်းယူနိုင်သည်။

(၄) မည်သည့် အဓိကရုဏ်းမှုမျိုးမဆို တိုက်တွင်း၌သာ သံဃာက လွှဲအပ်သော နာယကဆရာတော်နှင့် သမ္မုတိဆရာတော်များ၊ သို့မဟုတ် သံဃသမ္မုတိရဂိုဏ်းဝိုင်ပုဂ္ဂိုလ်သုံးပါးတို့၏ အဆုံးအဖြတ်ကိုသာ နာခံပြီး ပြတ်ရမည်။

မှတ်ချက်။ ။ကျွန်ုပ်ဆိုအပ်ခဲ့ပြီးသော ကတိကဝတ် ဥပဒေသတော်သည် ဒက္ခိဏာရာမတိုက် ဝါးမိုးခေတ်အတွင်း၌ သီတင်းသုံးတော်မူကြသော အလုံးစုံသော ပုဂ္ဂိုလ်တို့အပေါ်၌ တည်သည်။

ဘဒ္ဒန္တပဏ္ဍိတာဘိဝံသ

ဒက္ခိဏာရာမတိုက်

သံဃနာယကဆရာတော်

၁၃၂၃-ခုနှစ် သီတင်းကျွတ်လဆုတ် ၁၃-ရက်နေ့

## ဇကွဲ့ကာရာမတိုက် အနှစ်တရာပြည့် သဘင်ကြီး

## (၁၂၀၉-မှ ၁၃၀၉)

သက္ကရာဇ် ၁၂၀၉ ခုနှစ်က အမရပူရ ရှေနန်းရှင် ပုဂံမင်းတရားကြီးလက်ထက်တော် "သတိုးမင်းကြီး သက်တော်ရှည်ဦးပွား"သည် သံသရာဝဋ်မှ ကျွတ်လွတ်ရာမှန် မြတ်နိဗ္ဗာန်ကို ရည်သန်တောင့်တကတော်မူ၍ မဟာမြတ်မုနိ ဂန္ဓကုဋိတော်ကြီးမှ အရှေ့တောင်ယွန်း မဝေးလွန်းလှ လမ်းမကြီး၏ အရှေ့ဘက် နှစ်သက်ဖွယ်ရာ မြေကြန့်လက္ခဏာနှင့်ပြည့်စုံသော သာယာပြေပြစ်သော အရပ်ဝယ် သံတောင် ၈၀-ကျော် ဥဏ်တော် အမြင့်ရှိသော စေတီတော်ကြီးကို တိုက်ဦးဘုရား ရည်မှန်းထား၍ တံတိုင်းမီးတား ခြင်္သေ့များနှင့် တည်ထားကိုးကွယ်ပြီး၍ မရှေးမနှောင်း တပြိုင်နက် မြောက်ဘက်မဟာရံတံတိုင်းနှင့် စပ်လျက် နှစ်သက်ဖွယ်ရာ မင်္ဂလာမြေအပြင်ဝယ် ခြောက်ယေရိယာအကျယ် အဝန်းထား၍ မြင့်မားထူကဲ ခန့်ခိုင်လှသော အုတ်တံတိုင်းကာရံပြီးလျှင် ပြာသာဒ်စနုဘောဂ နှောက်ဆောင်မြေပတ်လည် ကာရံပြီးလျှင် သီတိုင် လျှောက်နယာထောက်၍ အုတ်ကျောက်စီခင်း လှေကားခြောက်စင်းနှင့် ထက်အောက်မကျန် တံခွန်မှန်ကင်း ဒုရင်စွန်ပါ ရွှေလွှာမျက်ပါး အပြည့်ချထားပြီးသော အခါ အရံကျောင်း ခြောက်ကျောင်းနှင့်တကွ မင်္ဂလာကျောင်းတော်ကြီးကို "ပုဂံမင်းတရားကြီး"အား ကုသိုလ်တော်ပွား ပဏ္ဏာတော်အဖြစ် ဆက်သတော်မူလေသည်။

"ဘုရင်မင်းတရားကြီးကလည်း ကျောင်းတော်ပူဇော် ဆင်ယင်ကျင်းပရန် စီမံခန့်ခွဲစေ"ဟုအမိန့်တော်မြတ် ချမှတ်တော်မူပြီးလျှင် ၁၂၀၉ခုနှစ် တပေါင်းလဆန်း ၁၃-ရက်နေ့ မင်္ဂလာအခါတွင် ထွက်တော်မူပြီး ထွက်တော်မူ၍ တံဆိပ်တော်ရ-မရ ပိဋကတ္တယကောဝိဒဂုဏ် ကုံလုံလောက်ငပြည့်ဝတော်မူကြကုန်သော အရှင်တော် သံဃာတော် ၅၀-ပါးတို့ကို—

၁။ ခဲဖွယ်ဘောဇဉ် ချိုချဉ်သမကာ အဖြာဖြာတို့ကို ဆက်ကပ်လှူဒါန်းခြင်း၊

၂။ သီးမျိုးစုံပဒေသာပင် ၅၀-ပင်၊

၃။ မှန်စီရွှေချ ညောင်စောင်းခုတင် ၅၀-ခု၊

၄။ ကြေးစင်ခေါင်းလောင်းတော် ၅၀-လုံး၊

၅။ ရွှေချစာတိုက် ၅၀-လုံး၊

၆။ ပိဋကတ်တော်ကညစ်ရေး စာအင်္ဂါ ၄၀၀၀ ကျော်၊

၇။ ဆင်းရဲသား ဒုက္ခိတတို့အား စေတ္တ ပေးကမ်းရန် အင်္ကျီ၊ ပုဆိုး၊ ပုဝါ၊ ရင်လွှမ်း တဘက် စသည်ပါဝင်သော ပဒေသာပင် ၅၀-ပင်၊

၈။ ဇီဝိတဒါန အသက်ဘေးမှ လွှတ်ရန် ရာဇဝတ်သား ယောကျ်ား-မိန်း ၃၀-ယောက်-

စသည်ဖုံဖုံ အလုံးစုံတို့ကို ဆရာတော် သံဃာတော်များ ရှေ့တော်မှောက်ဝယ် ဘုရင်မင်းတရားကြီး ကိုယ်တော်တိုင် အသီးသီးပိုင်းခြား ရည်မှန်း၍ ရေစက်သွန်းချ ဆက်ကပ်လှူဒါန်း ပေးကမ်း စေတ္တ စွန့်လွှတ်တော်မူပြီးနောက် "ဇာဂရာဘိဓဇ မဟာဓမ္မဇာရာမိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဆရာတော်ဘုရားကြီးအား အပ်နှင်းတင်ထား ကိုးကွယ်တော်မူပြီး ရွှေနန်းတော်သို့ ဝင်တော်မူသည်။

ပဌမတိုက်တော်တည် ကျေးဇူးရှင် အရှင်ဇာဂရာဘိဓဇ (အရှင်ဇာဂရာတိဝံသ) ဆရာတော်ဘုရားကြီးမှစ၍ အဆက်ဆက်သော အာရာမာဓိပတိ သံဃနာယက ဂဏဝါစက စာချဆရာတော်တို့၏ အဇ္ဈာသယ ဝီရိယဖြင့် နေ့နေ့ ညည ချပို့မှုကြောင့် ဇေတဝနာရာမ ကျောင်းတိုက်သည် လွန်စွာ တိုးတက်ကြီးပွား စည်ကားခဲ့လေသည်။ ဇေတဝနာရာမဘုရားကြီးတိုက်ထွက် ပညာရှင်ကိုမှာလည်း မြန်မာတပြည်လုံး အနှံ့အပြားရောက်ရှိ၍ သာသနာပြုကြကုန်၏။ စင်စစ်တမူကား ဇေတဝနာရာမ ဘုရားကြီးတိုက်သည် မြန်မာ့သာသနာတွင် ပဌမတန်း စာသင်တိုက်ကြီးဖြစ်လေသည်။

## နှစ်တရာပြည့်သဘင်ပွဲဆောင်ရွက်ရေး

### သံဃသမ္မုတိရ ဆရာတော် ၁၂ပါး

သက္ကရာဇ် ၁၃၀၉-ခုနှစ်သို့ ရောက်သောအခါ ဇေတဝနာရာမ ဘုရားကြီးတိုက် သက်တမ်း ၁၀၀ ပြည့်မည့်အခါ ဖြစ်ပါ၍ ဖြင့် စိန်ရတုသဘင် ဆင်ယင်ကျင်းပရန် သံဃသမ္မုတိရ အနှစ်တရာပြည့်ပွဲ ဆောင်ရွက်ရေး ဆရာတော် ၁၂-ပါးတို့ကို ရွေးချယ်တင်မြှောက်တော်မူကြသည်။

ယင်းသံဃသမ္မုတိရ အနှစ်တရာပြည့်ပွဲ ဆောင်ရွက်တော်မူကြသော ဆရာတော် ၁၂-ပါးတို့ကား---

၁။ ဖျာပုံကျောင်း ဆရာတော် အရှင်သောဘိတ၊

၂။ အလယ်တိုက်ကြီး ဆရာတော် အရှင်ဇောတိက၊

၃။ မင်းမာအုတ်ကျောင်း ဆရာတော် အရှင်ဇောတိက၊

၄။ ပိဋကတိုက်ကျောင်း ဆရာတော် အရှင်တေဇဝန္တ၊
၅။ ပေတောကျောင်း ဆရာတော် အရှင်သီလဝံသ၊
၆။ တမ္ပဝတီကျောင်း ဆရာတော် အရှင်အရိယဝံသ၊
၇။ ဦးဇာနရကြီးတိုက်ကျောင်း ဆရာတော် အရှင်အာစာရ၊
၈။ မဲဖလန်ကျောင်း ဆရာတော် အရှင်သောဘိတ၊
၉။ ဦးခအုတ်ကျောင်း ဆရာတော် အရှင်နရိန္ဒ၊
၁၀။ ရန်ကုန်ကျောင်း ဆရာတော် အရှင်စန္ဒ၊
၁၁။ တိုက်သစ်ကျောင်း ဆရာတော် အရှင်ဂုဏိန္ဒ၊
၁၂။ တာရာမင်းကျောင်း ဆရာတော် အရှင်ပညာဓောတ—
တို့ဖြစ်ကုန်၏။

ဖော်ပြပါဆရာတော် ၁၂-ပါးတို့သည် တိုက်တာ အုပ်ချုပ်ရေးဆိုင်ရာ သံဃသမ္မုတိရ ဆရာတော်ဘုရားကြီး ငါးပါးတို့နှင့် တိုင်ပင်တော်မူကြ၍ ဒက္ခိဏာရာမ ရပ်ပြည့်သာတင်ကြီးကို ခမ်းနားစွာ ဆင်ယင်ကျင်းပခဲ့ကုန်၏။

## သြဝါဒစကား မြွက်ကြားတော်မူကြ

သက္ကရာဇ် ၁၃၀၉-ခုနှစ် တပေါင်းလဆန်း ၁၃-ရက်နေ့တွင် ရပ်ဝေးမြို့နယ်မှ ကြွရောက်တော်မူလာကြသော တပည့်ကြီးငယ် သံဃာတော်ပေါင်း ၅၀၀-ကျော်၊ မန္တလေးမြို့ လေးပြင်ဖလေးရပ်မှ ကြွရောက်တော် မူလာကြသော သမဂ္ဂသံဃာတော် ၅၀၀-ကျော်၊ တိုက်တွင်းရှိ သံဃာတော် ၉၀၀-ကျော် စုစုပေါင်း သံဃာတော် ၁၉၀၀ (တထောင်ကိုးရာ)ကျော်တို့အား ဆွမ်း ခဲဖွယ် ဘောဇဉ် ချိုချဉ်ယမကာတို့ကို ဆက်ကပ်လှူဒါန်းလုပ်ကျွေးပြီး နေ့လယ် ၁၂-နာရီအချိန်တွင် မဟာသံဃသန္နိပါတ အစည်းအဝေးကြီးကို မင်္ဂလသုတ် ပရိတ်တော်၊ မေတ္တသုတ်ပရိတ်တော်တို့ကို ရွတ်ဆိုသရဇ္ဈာယ်တော်မူကြ၍ အခမ်းအနားကို ဖွင့်လှစ်တော်မူကြသည်။

ထိုအခါ အဓိအစဉ်အရ ဂဏာစရိယ၊ ဂဏပါမောက္ခ ပိဋကတ္တယဝိညူ ဖြစ်တော်မူကြသော ဆရာတော်ဘုရားကြီး အသီးသီးတို့က ဒက္ခိဏာရာမဝါသီ ပုဂ္ဂိုလ်ပြတ်ကြီးတို့၏ ညွှတ္တိဗဟုလဂုဏ်၊ ပရိယတ္တိဗဟုလဂုဏ်၊ သဇ္ဈာယနဗဟုလဂုဏ်တို့ကို သိမ်းကျုံးပေါင်းခြုံလျက် အဖုံဖုံအစုံစုံသော သြဝါဒစကားကို မိန့်ကြားတော်မူကြသည်။

## ဓမ္မဂီတပိုင်းစုံ ရတုပျားစွာဖြင့် ပူဇော်ကြ

ရတနသုံးပါး မဟာသဒ္ဓါပသန္နဖြစ်ကြသော ဒါယကာ ဒါယိကာမ အပေါင်းတို့ကလည်း မိမိတို့၏ ဉာဏ်အမြင်ရှိသလောက် ချီးမြှောက် ပူဇော်

လိုကြသဖြင့် ဓမ္မဂီတဂုဏ အဖုံဖုံ ပိုဒ်စုံရတု ရွတ်မှုသချာ ဆောကာဂုဏ်မြောက် ဖတ်လျှောက်ပူဇော်ကြကုန်၏။

## မင်္ဂလာသြဘာစာတမ်း ဖတ်လျှောက်ခြင်း

ရှင်းပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနာဝင်မင်္ဂလာသြဘာစာတမ်းကိုလည်း တင်သွင်းဆက်သ ဂါရဝမြောက် ဖတ်လျှောက်လေရာ အဆုံးတွင် သာဓုသံကြီး တခဲနက် ပေါ်ထွက်လာလေသည်။ ရှင်းနောက် သံဃာထေရ်ကြီးတို့ကို ရှိခိုးပူဇော် ကန်တော့ကြပြီး ရာပြည့်ပွဲသဘင် အခမ်းအနားကို ရုပ်သိမ်းကြလေသည်။

## အထိမ်းအမှတ် သံဃာ့ဆေးပေးတိုက်

ယင်းနှစ်တရာပြည့်ပွဲသဘင် အထိမ်းအမှတ်အနေဖြင့် သံဃာတော်များအတွက် သံဃဒါန ဆေးပေးခန်းတိုက်ငယ်တလုံးကို ဒက္ခိဏာရာမဘုရားကြီးတိုက်အတွင်းထပ် မြောက်ဘက်တံခါးအထွက် အနီးအရပ်တွင် တည်ထားဆောက်လုပ်ခဲ့ကြကုန်၏။

## ဒက္ခိဏာရာမ တိုက်သက်တရာ မင်္ဂလာသြဘာစာတမ်း

အမရပူရ ရတနာပုဥ္ဇ နဂရနှစ်လီ ဂေါစရဂါမ်မှီသော "ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနာဝင် ဆရာစဉ်ဆက် တိုက်သက်တရာ မင်္ဂလာသြဘာစာတမ်း"ကို အများသူတသိတို့ လေ့လာနိုင်ရန် ဤ၌ ဖော်ပြအပ်ပါသည်။

### ဇယတု သဗ္ဗမင်္ဂလံ

### ၁။ သဗ္ဗညုဘုရားအဖြစ်သို့ ရောက်တော်မူခန်း

အသာမ္ဘိဋ္ဌ ခတ္တိယမျိုး အရိုးသန့်စင် သာကီပင်မင်းစစ် ဓမ္မရာဇ် ဥဒေါင်နွယ်တော်များတူ သယမ္ဘူဇိန ဗုဒ္ဓစဉ်လာ ဝံသာမပျက် စဉ်ဆက်မြတ်နိုး ကျင့်မျိုးကုန်လုံ ပြည့်စုံတော်မူသော မြတ်စွာဘုရားသခင်သည် ရှေးနုစဉ်အခါ ဗျာနလာဘိ တယသီဟု ယောဂီကျင့်လေ့ သုမေဓာရသေ့ ဖြစ်သောအခါဝယ် ဒီပင်္ကရာ မြတ်စွာဘုရား ခြေတော်ရင်း၌ ဝပ်တွားပန်ထွာ နိယတဗျာဒိတ် တဆိပ်နှာမံ ခံတော်မူသည်ကစ၍ လူသားမင်းတို့ စိတ်မျှကြံစည်ခြင်းငှာ မဝံ့ရာသော ဆယ်ပါးပါရမီ စာဂီငါးဝ စရိယာသုံးဖြာ ဗုဒ္ဓါကရသမ္ဘာရကို ဖြည့်ကျင့်ကုံလုံ ပြည့်စုံတော်မူသည့် အဆုံး၌ တွက်ကျူးဆရေ လေးသင်္ချေနှင့်

ကမ္ဘာတသိန်း ပွင့်တော်မူကိန်း စေ့လတ်သော် ထက်ရပ်ဒေဝါ တုသီတာဝယ် စံမှူယ်တော်မူခိုက်တွင် သောင်းတိုက်စကြာဝဠာ နတ်ဗြဟ္မာအပေါင်း သိန်းသောင်းတုံစွာ ညီညာဖြိုးဖြိုး တောင်းပန်ကြရာ ဝန်ခံရှာ၍ မယ်တော်မာယာ ခန်းဝါကြားတိုက် သိုက်မြိုက်သန္ဓေ စွဲနေတော်မူပြီးလျှင် မဟာသက္ကရာဇ် တစ်ကစ်ခြောက်ဆယ် စုန်းကယ်ရှစ်ခု ဥတုဂိမှန္တ ဇဆုန်လ ပုဏ္ဏမီ လုမ္ဗိနီဥယျာဉ်ဝယ် ဖွားမြင်တော်မူပြီးနောက် ဆဲ့ခြောက်နှစ် အသက်တော် စေ့ရောက်တော်မူလတ်သော် သိမ်မွေ့ညာပျော် ယသော်ဒေဝီ ပဒေဟာသီနှင့် ကူညီစုံဖက်တော် မူပြီးနောက် အသက်တော် နှစ်ဆဲ့ကိုနှစ်သို့ ရောက်တော်မူသောအခါ သူနာ သူအို သူသေ ရဟန်း ကြူမြိုန်းဥယျာဉ် မြင်သည့်အကြောင်းဟိတ် နိမိတ်လေးပါး သားယော်ရာဟုလာ ဖွားမြင်ပါကြောင်း ထင်လောင်းတချက် စိတ်စက်မသာ လောကာခလေ့ မနှပျော်မွေ့ပဲ ငြီးငွေ့တော်မူသဖြင့် ထိုနေ့ညဉ့်သန်းခေါင်ယံဝယ် မောင်းကန်နှင့် ကဏ္ဍကတူတကွ သုံးဘော် တောထွက်တော်မူခဲ့၍ အနောမာမြစ်ကမ်း ဗြဟ္မာမင်း လှူဒါန်းသည့် ဖန်ရည်စွမ်းသင်္ကန်းတော်ကို ဆင်မြန်းတော်မူပြီးလျှင် ကျင့်စဉ်ဖမ္မ ဒုက္ကရစရိယာ ခြောက်နှစ်မျှ ကြာလတ်သော် မဟာသက္ကရာဇ် ပြည့်လစ်တရာ စွန်းလာသုံးခု ဥတုဂိမှန္တ ဇဆုန်လ ဇုဏ္ဏ ပန္နရသာရက်နောက်ဆည်းစျာ ချိန်ခါမည်ရှိ ဂိရိမေခလာ နာဂါဦးကင်း တက်စီးလျှင်း၍ မာရ်မင်းရောက်လာ ဗိုလ်ပါကုဋေ မရေတွက်နိုင် စွဲကိုင်လက်နက် တိုက်ဖျက်ကြရာ တို့မြတ်စွာ၏ မေတ္တာလက်နက် မိစ္ဆာနံ့ချက်ကြောင့် မာရ်စစ်ပျက်စီး အောင်မြင်ပြီး၍ ညဉ့်ဦးပုဗ္ဗေ မဇ္ဈေဒိဗ္ဗ မိုးသောက်ထဝယ် ဒသဗလ ဝေသာရဇ္ဇ အသာဓာရဏ ဉာဏ်မျာ ဖြင့် တန်ဆာဆင်အပ်သော အာသဝက္ခယ ဉာဏ်တော်ကို ရတော်မူသောကြောင့် သယမ္ဘူဇိန အတုလမိတ္တ ဝိသုဒ္ဓိနတ် ဘုံသုံးရပ်တွင် အထွတ်ခေါင်မျှား သဗ္ဗညုဘုရား အဖြစ်သို့ ရောက်တော်မူသတည်း။

## ၂။ ပရိနိဗ္ဗာန်စံတော်မူခန်း

အစိန္တေယျ အပ္ပမေယျ ဗုဒ္ဓဘာဝ ဖြစ်ပြီးထသော သုံးလောကမျက်ရှု သဗ္ဗညုဘုရားသခင်သည် သုံးဌာန်လောက အနန္တသတ္တဝါဝေနေယျာတို့၏ အဇ္ဈာသယ အာစာရကို ဗုဒ္ဓစက္ခု အနုအရင့် ထောက်ချင့်ကြည့်ရှုတော်မူလတ်သော် ကိုယ်တော်ရအပ် တရားမြတ်ကား ဆတ်

---

၁။ စုဋ္ဌသာရက် (မူရင်း)

ဆဟ်သစ္စာ သုခုမာနှင့် ဒုဒ္ဒသာမြင် ခေမင်္ဂလာ ဖြစ်ရမည်ဟိတ် စိတ်တော် အကြံ ဖြစ်ပြုန်တော်မူသောအခါ ဗြဟ္မာသဟာမ္ပတိ တုန်လှုပ်ဖိတောင်း အပေါင်းဗြဟ္မာ ခြံရံခါဖြင့် ဆယ်ဖြာလက်သီး ပေါင်းရုံစည်း၍ မြောက်ခြီးတော်ရော် ပူဇော်မြီးခါ အပ္ပါရဇက္ခ ဝေနေယျကြာ ရောင်ဝါမျော်ရှု ဒေသတုဘာဝါ ချမ့် တောင်းပန်တော်မူပြန်သဖြင့် ခြီးပင့် အာရုံ ကာရုညတရား ဖြစ်ပွားတော်မူသည့်အလျောက် ငါးယောက်ပဉ္စဝဂ္ဂီ အစချီလျက် ဓမ္မစက်ကို လည်စေတော်မူကာ မဟာကဿပ သာ၊ ကအား ထူးခြားတစ် သံဃာဂ္ဂိကို ပြုဘိနုဂ္ဂဟာ အနာဂတ သာသနာ့ရောင်ဝါ တည်စိမ့်ငှာ ကည် မဟာမဏ္ဍလ ဒေသစာရီ ကြွချီပြီးခါ မြို့ရွာနိဂုံး ယောတောင်ဖုံးရာ မပုန်းသာသိ ကျွတ်ရာဝေနေ ရှိလေတစ ကြွဘိဒေသစာ ရသာမြိုက်ဆေး တိုက်ကျွေးတော်မူရာ ဝီသာဝသာ ကာလေကုန်ရှောင်း နှစ်ပေါင်းပဉ္စဝီသဝတိ၌ လေးလီပထ မျှတစမှုယ် နှစ်သွယ်ပေါင်းရုံး လေးဆဲ့ငါးဝါပတ်လုံး တွက်ကုံးဆရေ နှစ်ဆဲ့လေးသင်္ချေသော ဘာဗ္ဗပါကိုကို နိဗ္ဗာနဓာတ် ထွက်မြတ်မေ့ ရသမြိုက်ဆေး တိုက်ကျွေးတော်မူပြီးသောအခါ မလ္လာမင်းတို့၏ ပျော်ခင်းမေ့စုံ ရဂုံသာမော အင်ကြင်းတော၌ ရှင်စောမြတ်စွာ ဈာန်ချမ်းသာကို ကြိမ်ဖန်လေ့လာ သမာပတ္တိ ခံစားဘိ၍ ကာလိယာ အဥ္ဇနမင်း ဖွားကြွင်းကောဇာ တရာ့လေးဆယ် ရှစ်ခုကြွယ်ရှင့် သုံးသွယ်ရတု ဥတုဂိမှ ကဆုန်လဝယ် ပုဏ္ဏမီရက် အရုဏ်တက်ချိန် မုနိန်မာရဇိ ဥပါဒိကြွင်း အလျှင်းမရှိ အတိသုခါ နိဗ္ဗူတာနန်း စံမြန်းတော်မူလေသတည်း။

## ၃။ ပဌမသင်္ဂါယနာတင်ခန်း

နိဗ္ဗုတာဝင် တို့ချစ်ရှင်၏ ရွှေစင်အကိ သရီရဓာတ် ရုပ်ကလာပ်ကို အမြတ်ကောင်ရော် ပူဇော်လှုခင်း မကြွင်းဒေဝါ ဗြဟ္မာအပေါင်း သောင်းသောင်းဖြဖြ ဦးတင်သ၍ ပုညာရေး ပွားများ ကြရာ ထိုအခါ ဝယ် ပါဝါပြည်မှ ကုသိနာသို့ ပဉ္စသတာ သံဃာခြံရံ အရဟံထေရ ကဿပကြီး ခရီးအသွား လမ်းအကြားတွင် စကားသတင်း ကြားခြင်း မှာကား ဘုရားမြတ်စွာ နိဗ္ဗုတာသို့ ကြွချာဘလ သတ္တာဟမြောက် ရောက်လေပြီဟု ဘိက္ခုများစွာ ကြားသိရာတွင် ဒိဏ္ဏာသဝ ပုဂ္ဂလများ တရားသံဝေ ရကြလေ၏ လေးထွေအာသဝ ဒေါသမစင် ပုထုဇ္ဇဉ်တို့ မရှင်သေးက ဒုက္ခမချီ ငရိုဒေ၁ တောက်လောင်ကြစဉ် ရှေးယခင်က မှုက်ယှဉ်ဿတ ရန်ဝသိမ်း တောထွက်ကြီး သုဘဒ္ဒသည် ဂေါတမ ဘုရား မြင်တော်ဆင့်ကွက် နှိပ်စက်ကွင်ထား ဒုက္ခများမှ ခုကားမသေ့

လွှတ်ရချေပြီ ပူဇော်ဒက္ခ မရှိကြလင့် ကိုယ်ကျင့်ချင်ရာ ကျင့်နိုင်ပါပြီ ဗာဟိရကား အသွားအလာ ထိခွဲယ်ရာကို မဟာကဿပ နားဝတ် ကျင် စူးဝင်ပမာ ဝမ်းမှာသိုသိပ် ခပ်မဆိတ်နှင့် တိတ်တိတ်သည်းခံ ထဲကြံစိတ်တွင်း နှလုံးသွင်းထား ဘုရားမြတ်စွာ စံရာနဂရ ကုသိနသို့ မြန်းကြွပြီးကာ ပါဒါအစုံ ကြာပဒုံကို ခိုလှုံသိုက်မြိုက် ဦးတိုက်ပြီးကာ နှံ့သာပုံကြီး ထိန်ညီးလုံ့လတ် တေဇောဓာတ်ဖြင့် မပြတ်လောင်ကျွမ်း တခန်းပြီးနောက် ကြွရောက်စုံစွာ ရဟန္တာတို့ မဟာသဘင် စည်းဝေး ခွင်ဝယ် ရှုတင်အဂ္ဂ ကဿပရှင် ဖြစ်အင်နောက်ကြောင်း ပြန်ပြောင်း ထုတ်ဖော် မိန့်တော်မူပြီး ရင့်သီးအန္ဓ လူ့ဗာလတို့ ပက္ခကြီးမား မဖြစ် ပွားမီ မဟေသီ၏ သိင်္ဂီနွတ်ကပါ၍ ပိဋကတ်ကို ပြည့်စည်လာ သင်္ဂါ ယနာ တင်အံ့ငှာနှင့် မဟာထေရ ဂဏပါမောက် ရွေးကောက်ဖို့ရန် အကြံညာဏ်တောင်း ထင်လောင်းတဝ ဒေသမှတ်ရန် ထော်ပြန် ကဿပ လွှဲအပ်ကြရာ ခီဏာသဝ ပဋိသတာ ဂဏာဓိပတိ ရွေးကောက်ဘိ၍ ဂိရိဝဇ နဂရဟု ဌာနသတ်မှတ် ဝါလကပ်ရန် ပြည့်တံပြန်ပြီး အသီး အခြား ကြွသွားထိုထို ရာဇဂြိုဟ်ဟု ဗဟိုဌာန ရောက်ကြလေရာ ရာဇာ အဇာတသတ် မင်းမြတ်ထံသို့ ဟတ္ထကံတောင်း ကျောင်းပေါင်း ဆဲ့ ရှစ်ရပ် အပြီးသတ်အောင် ဆက်စပ်သုတ်သင် ပြုပ်ဆင်ပြီးသော် နန်း တော်တဖန် ဝင်ကြပြန်၍ နိဗ္ဗာန်ကြွသွား မြတ်ဘုရား၏ ပိဋကတ် ပရိယတ်ကို ဆုံးဖြတ်စဉ်လာ သင်္ဂါယနာ ကောင်းစွာတင်လို မိန့်ဆို ကြရာ နေရာဌာန မဏ္ဍပကို လှာတင့်တယ် လိုဘွယ်မရှိ ပြုလုပ်ဘိ၍ မုနိမြတ်ဖျား ဟောကြားခဲ့စကာ မိန့်မြွက်သည့်တိုင်း ဆုတ်ဆိုင်းမသည် လည်ပါစေသား တိုင်းကားပြည်ရွာ မင်းအာဏာစက် အချက်ပိုင်ပိုင် အောင်နိုင်အလှည့် တပည့်တော်ဝန် ကျေပွန်လျှောက်ထား ပြော ကြားပြီးနောက် စရည်းရောက်ရာ ဂူဟာအနီး မဏ္ဍပ်ကြီး၌ ပည်းသီး များဖြာ ထေရ်ရှင်ငါးရာ ရဟန္တာတို့ မဟာကဿပ သံဃကြီး မှူး ဦးစီးနာယက တင်မြှောက်ကြ၍ သတ္တမာသ ခုနစ်လလုံး သီကုံး ဒေသနာ သင်္ဂါယနာ တင်ပြီးခါလျှင် အဇာတသတ် မင်မြတ်ဘုရင် ယခင်ကဖြစ် သက္ကရာဇ်ကို အကုန်ဖြိုရှ၍ အကိုကာခု ပေါင်းစုသာသနာ တပါတည်းသတ် မိန့်တော်မြတ်ကို မှတ်တော်မူရာ တို့ပြည်သာဝယ် အညာတကောင်း မင်းပေါင်းဌာနီ သင်းတွဲပြည်၌ ဇာနည်တဆူ ဇမ္ဗူဒီပ ဓဇမည်သာ ရာဇာနန်ဆယ် ငါးနှယ်ကြွယ်သည် မှာဖွယ် မင်းပြိုင်ဖြစ်သတည်း။

## ၄။ ဒုတိယသင်္ဂါယနာတင်ခန်း

ဗုဒ္ဓသာသနာ မဇ္ဈိမဒေသတွင် ရောင်ဝါထွန်းလင်း သက်ဆင်းစဉ်လာ ဝိနယာကို လွန်စွ နှစ်သက် အဆက်ဆက်ဖြင့် မပျက်ကျင့်ခါ နှစ်တရာမြောက် ရောက်လတ်သောခါ သေဖောက်ကြံစည် ဝဇ္ဇီတိုင်းသား ရဟန်းများတို့ ချက်ဆား ဦးချို ထည့်သိုလှောင်သား အမ်းစားကပင် အပ်သည်ပင်တည်း စတွင်ဆယ်ပါး ဒသဝတ္ထု အဆုံးအားမူ ပြည်သူတို့ထံ ခွက်ခံအသပြာ သုံးစွဲပါမူ အပ်ရာအမူ ဟု ဆပြု၍ ဝတ္ထုဆယ်ဖြာ အခမ္မာစု လူထုအလယ် မဖွယ်မရာ ပြောဟောပါ၍ ဝမ္မာညစ်ကြေး ရန်လေးရန်ဆူ ဖြန့်ဖြူးသတင်း ကြားရခြင်းကြောင့် ထင်လင်းပုံချ သိရစေရန် ရည်သန်တဝ သာသနာ့ရန် ပေါ်ပေါက်ပြန်လည်း တွန်းလှန်ပြုလုပ် အပ်ပေါ်သုက္က ကြောင့်ကြမရှိ နေတုံဘိသော် မလျော်ငါ့မှာ တာဝန်သာဟု ကာကဏ္ဍက ပုတ္တမည်သာ မဟာယသ နာမဓေယျသီ ဝေသာလီသို့ ကြွချီရောက်က ဥဗ္ဗိနယ ပါပဘိက္ခု ပြုမှုတွေ့ဆုံ ကြုံကြိုကာလ ပက္ခကြီးမား သူယုတ်များကို တရားဓမ္မ ဝိနယမှန် ဆုံးမပြန်သည် ဖိဆန်ကြငြား တရားမကပ် သြဝါဒပ်မသီ ဝဇ္ဇီတိုင်းသား ရဟန်းများကြောင့် ရှောင်ရှားဖဲခွာ သမ္ဘာဒေသီ လဇ္ဇီမင်းသား ဖြည့်တင်းစုဆောင်း အပေါင်းသဟာယ သမဂ္ဂတို့ ရာဇဌာနီ ဝေသာလီသို့ ကြွချီချင်းနှင်း စိုးမင်းရွှေမှောက် အချိုရောက်ကာ အနုထောက်အမ ဥပကာရ ကာလာသောက ရာဇအာဏာ ဘယာငြိမ်းချမ်း မှီးငြမ်းရ၍ ရာဇဌာနီ ဝဇ္ဇီမင်းသင်း နိမ်နင်းပြီးခါ ဝါလိကာရုံ ကျောင်းရွှေဘုံ၌ ပေါင်းဆုံခုနစ်ရာ ရဟန္တာပြင် ဖြူစင်သီလ သမဏပေါင်း သိန်းသောင်းမက စည်းဝေးကြ၍ သံဃနာထ နာယကပင် အရှင်ယသ ရေဝတနှင့် သဗ္ဗကာမီ ကြီးမှူးဘိ၍ ဥဗ္ဗိနယ ပါပတရား ပယ်ရှားပြီးလျှင် သုံးအင်ပိဋကတ် ပရိယတ်ကို မပြတ်စဉ်လာ ထေရဝါဒ လဇ္ဇီသံဃာ ကွယ်ကာစောင့်ရှောက် ချီးမြှောက်ရာဇာ ကာလာသောက နန်းမအလယ် စမွယ်သောခါ တို့ပြည်သာဝယ် သဒ္ဓယာပြေပြစ် သဒ္ဓေရခေတ္တရာ ရာဇာဒွတ္တပေါင် တည်ထောင်ပြီးစ ပြိုင်ဆိုင်ကြသည် ရာဇဝံသာ မှတ်ကြောင်းတည်း။

## ၅။ တတိယသင်္ဂါယနာတင်ခန်း

သယမ္ဘူစစ် ဓမ္မရာဇ်မုနိန် ရန်စစ်နှိမ်ပြီး ရိပ်ငြိမ်သာဝှန်း နိဗ္ဗာန်နန်းသို့ ကြွမြန်းတော်မူပြီးနောက် ထွန်းတောက်သာသနာ နှစ်ရာ့သုံးဆယ်ငါးနှစ် ရောက်လစ်သောအခါ ဇမ္ဗူဒီပါ လကျာတောင်ကျွန်း

ထွန်းလင်းအာဏာ ရာဇာကေရာဇ် ဖြစ်တော်မူသော ဓမ္မာသောက မင်းတရားသည် ဘုရားသာသနာ ရသာဝိမုတ် အာသာထုံဖြူစင် ကျင့်စဉ်သီလာ အာစာရနှင့် ဓမ္မပြသော နိဂြောဓမည် မထေရ်ထံမှ နာခံမှတ်သား ပွားများ၍ သဒ္ဓါ သာသနာကို လွန်စွာကြည်ဖြူ အလှူဒါန တုပမရှိ ပေးလှူဘိတောင်း ရှစ်သောင်းလေးထောင် ကျောင်းဆောင်ဘုရား တည်ထားကိုးကွယ် မြို့လယ်မြို့ပ ဒွါရတံခါး မဏ္ဍပ်များ၌ ခြားနားမရှိ ပေးလှူဘ်သား စေတီများနှင့် တရားသံဃာ ဘေသဇ္ဇာပြင် ထေရ်ရှင်နိဂြောဓ ငါးဌာနတွင် နေ့စဉ် ငါးသိန်း လှူကိန်းသတ်မှတ် လာဘ်သပ်ပသော သာသနာတွင် များဖြင့်ပြည့်သီး မြှောက်ခြီးကော်ရော် ပူဇော်လေရာ သာသနာပ ဗာဟိရဝင် တိတ္ထိယင်တို့ ငြိုငြင်လာဘ်သပ် မငတ်ရှိသာ ဖြစ်ကြရာတွင် လာဘ်လာဘကို တောင့်တလိုချင် ခပ်မင်ရှုမျှော် သာသနာတော်တွင်း ဝင်လျှင်း၍သာ ကိုယ့်ဥစ္စာဟူ အယူဝါဒ ပြကြကုန်ပြီး ကံကြီး ကံငယ် ဆက်သွယ်ဝင်ရောက် မွေ့နှောက်ချောက်ချား သံဃာများမှာ ပဝါရဏာ ပြုချင်ပါလည်း ရောရာဒုသိ အလဇ္ဇီဝင် မစင်မကြယ် မဖွယ်ရှိသတ် မလျှောက်ပတ်သဖြင့် ကင်းပြတ်ပဝါရဏာ သတ္တာဝဿ ရှိလေကမူ ရာဇရွှေမြှောက် သတင်းရောက်၍ တယောက်အမတ် စေခိုင်းလတ်သော် ထေရ်မြတ်သံဃာ သိက္ခာကာမ ပုဂ္ဂလတို့ ငြင်းကြပရိသာ မဝင်ပါ၍ အာဏာဖိဆန် အရဟန္တ သီသဥက္ကောင်း တောင်းလောင်းဖြတ်ချွေ သို့ဖြစ်ထွေကို ကြားလေရာဇာ ဓမ္မာသောက ဟဒယပူဆွေး ကြီးလေးအမှု ပြုသူ့တာဝန် ဧကသူဝန်လော ဖြစ်သောဒွိဟ သံသယကို ပျောက်ပါစေငှာ သာသနာမှု ပြုစုပြင်ဆင် သုတ်သင်စိမ့်ငှာ အဟောဂင်္ဂါ အညာဒေသ မျှတမွေ့လျော် မနေတော်မူဘိ မောဂ္ဂလိပုတ္တ တိဿမထေရ် အာဇာနည်ကို ရွှေပြည်ဌာန ပင့်ဆောင်ကြ၍ ဒွိဟအကြောင်း ခွင့်ဟောင်းပုစ္ဆာ ပန်လျှောက်ရာတွင် ဇာတကကာပါဠိ တိတ္တိရဇာတ် ထုံးမှတ်တင်ပြ နိစ္ဆယကို ရကြပြီးနောက် ထပ်လျှောက်ပုစ္ဆာ ဝါဒအယူ မတူကွဲပြား ခြားနားပုံသေ အထွေထွေကို စေ့ရေမှတ်သား မင်းတရားကိုယ်တိုင် ဆိုင်ရာစစ်ဆေး မေးတော်မူပြီး တိတ္ထိကြီး ရှစ်သောင်း နှင်မောင်းတော်မူပြီးလျှင် သန့်စင်သာသနာ သံဃာဥပုသ် ပြုလုပ်ဖို့ရန် တောင်းပန်ပတ်တွား အမေးတင့်ထား၍ မြှောက်စားချီးမြှောက်တော်မူရာ သံဃာတော်တသိန်း တွက်ကိန်းသချာ စည်းဝေးရာတွင် မဟာမောဂ္ဂလိပုတ္တ တိဿမထေရ် ဝါဒီတပါး နှိပ်သောအားဖြင့် ပိုင်းခြားမြွက်ဖော် ကထာဝတ္ထုကျမ်း ဟောတော်မူပြီးအဆုံး၌ စည်းလုံးညီညာ သံဃာအလယ် သုံးသွယ်

ပိဋကတ် ပရိယတ်အောင် တဆောင်သော ရဟန်္တာတို့ကို ရွေးကောက်တော်မူပြီးလျှင် အရှင်မောဂ္ဂလိပုတ္တတိဿ ဗွေန္တိကာမဟာဒေဝ ထေရ်ကြီးမှူး ဦးစီးနာယက ဌာနရိုင်မြို့ အသောကာရုံကျောင်းတော်၌ ရှေးဟောင်းပိဋကတ် ပရိယတ်ကို တည်းဖြတ်သုတ်သင် ဖြူစင်လှစွာ ကိုးလကြာမျှ သင်္ဂါယနာ တင်ကုံးရာ၏ ထိုအခါကာလ အသောကမင်းကမ္ဘာချဉ်းအောင် အသင်းရှောင်ခြည် ထိုထိုပြည်သို့ ဂုဏ်ရည်ကိုးပါး ဘုရား သာသနာ ပွင့်လင်းရေးမှု ပြုစုစည်ပင် တိုးပြည်ခွင်၌ ဘုရင်ရှန်ပေါင် ပြည်ထောင်သေဌ်နှပ်၊ စံခန်းချက်ပွ သာဒရဝတ္တရာ ပြုံငံဆိုင်လာသည် ဝံသာမှတ်တမ်း အစဉ်တည်း။

## ၆။ စတုတ္ထ ပေါတ္ထကာရုဠ္ဍ သင်္ဂါယနာတင်ခန်း

ဗုဒ္ဓသာသနာ နှစ်ရာသုံးဆယ် စွန်းဧယ်ငါးနှစ် တက်သစ်နေဝန်း တင့်ထွန်းပမာ ရောင်ဝါတောက်ပ တတိယသင်္ဂါယနာ တင်ပြီးခါဝယ် မဟာမောဂ္ဂလိပုတ္တ တိဿမထေရ် အရှည်နေခါ သာသနာ၏ တည်ရာဌာန နာဂတကို ဒိဗ္ဗစက္ခု မျှော်တောက်ရှုသော် ကိုးခုဌာန ပစ္စန္တ၌ တည်အံ့သည်ကို မြင်တော်မူရာ ကိုးတိုင်းဌာန ထုတ်ဖော်ပြ၍ အသီးအသီး မထေရ်ကြီးတို့ကို ဦးစီးနာယက သံဃာကံမြောက် ငါးယောက်အစု အပေါင်းပြု၍ ကိုးခုဌာန ဗုဒ္ဓသာသနာ ပြုစေရာတွင် အရှင်မဟိန္ဒ သီဟဠသို့ ချီကြွတို့ရန် ချိန်မှန်ဟုတ် သုတ်သုတ်ခဲ့သွား မယ်တော်ဖျား၏ စံစားနဂရ ဝေဒိသသို့ မြန်းကြွပြီ ခါ နှစ်ရာသုံးဆယ် ခြောက်နှစ်ကယ်မှ သီဟဠသို့ ရှာနအစွမ်း ကောင်းကင်လမ်းဖြင့် ကြွလှမ်းခုနစ်ဖော် ရောက်တော်မူပြီး မင်းကြီးဒေဝါနံ ပိယတိဿ ဇေဌွန်နှင့်ယှဉ် ပွဲသဘင်ကို အစဉ်အဆက် ဆက်လက်ပြင်ဆင် ဆင်ယင်စေလျက် တောကစားထွက်တော်မူရာတွင် အရှင်မဟာမဟိန္ဒ တွေ့ဆုံကြ၍ မမ္မဒေသနာ ရသာမြိုက်ဆေး တိုက်ကျွေးတော်မူသည်မှ ဗုဒ္ဓသာသနာ လွန်စွာကြည်ညို ထိုထိုကောင်းမှု ပြုစုလေရာ လင်္ကာဒီပ သီဟဠ၌ ဗုဒ္ဓသာသနာ တည်ရာမူလ ဂုဏပါဝကစဉ်လာအဆက် မပျက်စေရန် ရည်သန်တောင့်တ ဓမ္မမဏ္ဍပ်ဆင်၍ အရှင်အရိဋ္ဌ သီဟဠသား အများသိဿ ပိဋကစာပေ ပို့ချစေက ထိုကာလမှ အစမူတည် သိန်းဆိုရိပြည့်၌ အရှည်ထာဝရ သိဿစဉ်ဆက်ဆင်းသက်လေရာ သာသနာနှစ် တွက်စစ်လေးရာ စွန်းလာငါးဆယ်တသွယ်တေတ္တိ သ သနေသလာ လက်ာမင်းများ ဆဲ့ရှစ်ပါးမြောက် ခြီးမြောက်သာသနာ သဒ္ဓါဗလဝ ပဋ္ဌဂါမဏိ စိုးဘိဒေသဌ်နှင်း မင်းကြီးလက်ထက် ရှေးအဆက်က ဖြစ်ပျက်ခဲ့ရာ စဏ္ဍာလဘေး တော်မွတ်

ရေးကြောင့် ရှောင်ပြေးထွက်ခွာ ဒီပါဇမ္ဗူ ကူးဘူးအချို့ ငါတို့မူကား ဘုရားမုက္ခပါဠိ ပိဋကတ်ကို မပြတ်လေ့လာ ငြိုငြင်စွာပင် ဤတိုင်းခွင်၌ ဆင်ခြင်လေ့ကျက် မပျောက်ပျက်အောင် ဆောင်ရွက်စတမ်း ကတိ ကမ်း၍ ပင်ပန်းကြီးစွာ လက်ဘဒီပ မလယဉ်၌ ဆာကကတေး အလေးမပြု ဂရုမထား သစ်ဉစားရ၍ ဘုရားနှုတ်ဝပါဠိ ပရိယတ်ကို ရွတ်ဖတ် သနှဇ္ဈာယ် စဉ်ကြယ်သတိ သမာဓိနှင့် ကြီးဘိပညာ ရဟန္တာတို့ လွန်စွာ စောင့်ရှောက် မပျောက်ပျက်အောင် ဆောင်နိုင်သော်သည်း နောက် မည်းနောက်သား ဆောင်ထားခြင်းငှာ မစွမ်းရာတည်း ဤပါဠိသမယ ယခုကပင် ပေထက်တင်မှ သင့်အံ့ထင်မြင် ယခင်စဉ်လာ သီဿာအဆက် ဆင်းသက်ရဟန္တာ ထေရ်ငါးရာတို့ မဟာပမ္မရက္ခိတ နာယကကြီး တင်မြှောက်ပြီးလျှင် ပြည့်ရှင်ဂါမဏိ ဓိပတိမှ မိုးငြမ်းရ၍ မလယဇနပုဒ် သမုတ်သင်းကြိုပ် အာလောကလိုဏ်ကြီး၌ အပြီးတိုင် ဥဿာဟ စတုတ္ထ သင်္ဂါယနာ ပေါတ္ထကာရုဠ တင်သကြသည် တိုပြည်ဒေသ ရာဇဒ္ဓာနီ သရီခေတ္တရာ ရာဇာငါးပါး စံစားနန်းလယ် လွန်စမ္ပယ်သည် မှတ်ဖွယ် စဉ်လာ ဖြစ်သတည်း။

## ၇။ သထုံသာသနာဝံသာခန်း

မောဂ္ဂလိပုတ္တ တိဿမထေရ် အာဇာနည်၏ မိန့်သည့်အတိုင်း ဆုတ် ဆိုင်းမရှိ ဓိမိတာဝန် ကျေပွန်စေရန် ရည်သန်စေတနာ မဟာယသာဟ အရဟန္တဝင် ထရှင်သောဏ ဥတ္တရတို့ သံဃာကိမြှောက် ငါးယောက် အစု အပေါင်းပြု၍ ကိုးခုဌာန ပါကဋဝင် ရာမညတိုင်း အပိုင်းအစိတ် အတိတ်သညာ သုဝဏ္ဏဘူမိ သုဝဏ္ဏဘူမိ မည်ရှိသထုံ တိုင်းရှေ့ဘုံသို့ အစုံထေရ်ကျော် ကြွတော်မူရာ ထိုခါကာလ သမယဝယ် မြို့လယ် နန်းတွင်း သားဖွားလျှင်းက အဘင်းစိုက်စိုက် ယက္ခိုက်ဘီလူး စားဘူး သည်ကြောင့် တိုင်းပြည်ယွတ်ချော သီရိမာသောဏ နာမကျော်ကြား မင်းတရားသည် လက်ပါးစေခံ ခြံရံများစွာ ဗိုလ်ပါမင်းချင်း ခပ်းကျင်း စီးမန် ဘေးရန်စောင့်ရှောက် ငါးယောက်ရဟန္တာ ထေရ်သံဃာကို ယက္ခာဘီလူး အထူးဖြလည် လာချေပြီဟု မထေရ်များထံ ချဉ်းကပ် ရန်စဉ် ရေယဉ်သမုဒ် ဝဲအစုတ်မှ မုဟုတ်ချင်းပင် ပေါ်လွင့်ယက္ခိုက် သိုက်မြိုက်ခြွေရံ ပေါ်လာပြန်သော ဆူညံ့ကြွေးကြော် ဟစ်အော် သောင်းသောင်း အပေါင်းဗိုလ်ပါ ကြောက်တုံ့ရှာက မဟာသောဏ သာဝကသည် ကာယနှစ်မြှာ သီဿာတခု ဖန်ဆင်းပြု၍ လူထုမျက် မှောက် ရှေ့တွင်ခြောက်က လန့်ကြောက်ဟခြား ပြေးလွှားဘီလူး အထူး

နောင်ခါ ဘယာဘေးကင်း ရှင်းလင်းစိမ့်ငှာ မေတ္တာယိုဖိတ် ပရိတ် ရံတား ထားတော်မူပြီးလျှင် ထိုစဉ်အခါ ဗိုလ်ပါများစွာ ပြည့်ရွာလူထု စည်းဝေးပြု၍ ယခုဘေးရန် ဈာန်ပျံထေရ ရှင်သောဏကြောင့် လွတ်ရ ချေပြီ မထေရ်များသာ ကိုးကွယ်ရာဟု ဆယ်ဖြာလက်ချောင်း စုပေါင်း အဥ္စလီ မြှောက်ချီကြရာ မဟာသောဏ ဥတ္တရတို့ ဗြဟ္မဇာလ သုတ္တန်ဖြင့် ထုတ်ဟမြွက်ဖော် ဟောတော်မူရာ သရဏာဂမန ပဉ္စသီလာ ဘည်ရာ များဖြင့် အယူစင်ပြန် သေဘာပန်ပေါင်း ခြောက်သောင်းအရိယာ ဖြစ်လေရာတွင် သမီးငါးရာ စွန်းလာသုံးထောင် ရဟန်းတောင်သို့ တထောင့်ငါးရာ ရာဇာယူ ကုမာရတို့ သာသနာ့ဝန်ထမ်း ရှင်ရဟန်း ဟု မင်္ဂလမ်းသုတ်သင် သုံးအင်ပိဋကတ် ပရိယတ်ကို မပြတ်သင်ယူ အမြစ်မူသ တည်စေကြလျှင် ဘုရှင်သီရိဓာသောဏ ဆန္ဒပြင်းစွာ သဒ္ဓါဗလာ ဗုဒ္ဓမြတ်စွာ သာသနာကို လွန်နိုင်ရှာချီးမြှောက် အားထောက် အကူ ပေးတော်မူရာ မဟာမင်္ဂလ ရာမညတိုင်း တလိုင်သုံးရပ် မာပေါ် မြို့ရွာ သာသနာ့နေ့ရောင် ထွန်းပြောင်စဉ်လာ ဂန္ထာကာဋ သီလသိက္ခာ ပေးလာနှင့် ထေရာစဉ်ဆက် ဆင်းသက်ခဲ့ရာ သာသနာနှစ် ထွက်စဉ် သောခါ ထောင့်ခြောက်ရာတွင် ဝံသာမင်းဆက် မပျက်စဉ်လာ သညာ နာမ သူရိယကုမ္မာ ငယ်မည်သာသော မန္နဟာမင်း ထိန်လင်းစိုးစံ နိုင်ငံအုပ်ချုပ် မင်းလုပ်တော်မူသည့်တိုင်အောင် သာသနာရောင်ခြည် မသိညှိုးကြေး ကားဝေးစင်ကြယ်တော်မူသတည်း။

## ၈။ ပုဂံသာသနာဝံသခန်း

ဗုဒ္ဓသာသနာ ကာသာဝဆောင် တောက်ပြောင်ရ၍ ရာမညတွင် စည်ပင်သာယာ သာသနာနှင့် ဆရာစဉ်ဆက် မပျက်စဉ်လာ ထိုအခါ ဝယ် မဟာဘာလ သီသဗုဒ္ဓ မည်ရှိဆရာ ဒေဆာနှစ်ပါး တပည့်များ တွင် အကျုံးဝင်သည် အရှင်အရဟံ နာမံကျော်ကြား ဘုန်းဘုရားသည် တပါးတိုင်းပြည် လှည့်လည်ပြီးလျှင် ဆင်ခြင်မရှိ ယူမိယူရာ မိစ္ဆာဝါဒီ ဒုဿီလများ ပယ်ရှားသုတ်သင် ဘုရားရှင်၏ သုံးအင်သာသနာ ရသာ မြိုက်ဆေး တိုက်ကျွေးဖို့ရန် ရည်သန်ပြီးခါ ဆဲ့ကိုးရွာစု အပေါင်း ပြု၍ ပုဂံရာမ နဂရမည် ပေါက္ကံပြည်သို့ မှန်းရည်ကိုယ်ထီး ဖော်မမှီးပဲ မြိုင်ကြီးရိပ်သာ ဖြတ်ကျော်သော၍ မြို့ရွာအနီး တောစပ်မှီးခါ နေထိုင် ရာတွင် လုဒ္ဒမုဆိုး တမျိုးအမြင် ဆံပင်မရှိ ငုံးတိတိနှင့် ဝတ်ဘိဖန့်ဝါ ပတ္တာမည်းနက် လွယ်လျက်ထဖုံ့မတုံဘလှုပ် တကုပ်ကုပ်နေ တွေ့ပြေရှိဘူး လူထူးတယောက် အကြံပေါက်ခါ ရာဇာသေဌ်နှင်း ဆက်သနှင်းသော်

လက်ငင်းဥစ္စာ ရလိမ့်ငှာဟု မဟာထေရ်ကျော် အရခေါ်၍ နန်းတော်ရှေ့မှောက် အဆောက်ဆက်ရာ နော်ရထာမည် ရာဇာမင်းကြီး မြင်ကတည်းက ရှင့်သီးဗုဒ္ဓေ ငြိမ်သက်လေစွ အဗ္ဗုဒ္ဒဝယ် မြေဆည်းပူး အထူးရှိမည် မရှိမည်ကို သိလိုရှေးမှောက် သင့်လျောက်ပတ်ရာ နေ့ထိုးပါဟု အခွင့်ပြုက ဘိက္ခုအရပ် စမ္မခဏ်ကို မင်းစံဘမျှ အာသန္န် ခင်းချပြီးခါ နေ့ထိုင်ရာတွင် သဒ္ဓါကြည်ညို ပင်ကိုယ်စိတ်ခတ်ဇော လွတ်လတ်ကာ ဟတ္ထအဥ္ဇလီ လက်အုပ်ချီလျက် ပဝိနှုတ်မြွက် မျိုးဆက်ဝံသာ ဆရာသမား ကျင့်တရားကို လျှောက်ထားတောင်းပန်တော်မူရာ ဝံသာဇာတိ အာစရိယ မုနိညွှန်ကြား အပွားဒေဘာရား ဘောကြား အဆုံး နှလုံးကြည်ဖြူ ကိုယ်ပြည်သူတို့ အယူပဿရွား အရှင်ဘုရားသာ ကိုးကွယ်ရာဟု ဆည်းကပ်မှုကို ပြုတော်မူသည်ကစ၍ ရဋ္ဌခိုမှီး သမထီး နေအရည်းတွေ့ကိုလဲလေဝတ်ဖြူ ပြည်သူအများအမှားကိုပယ် သုံးသွယ်သာသနာ ရှောင်ပါကြည်လင် အရှင်အရဟံ အမိန့်သံကို နာခံပြီးခါ သုခမ္မာပူရ ရဋ္ဌရာဇာ မန္တပါဌာန် ဆက်ရန်ပဏ္ဏာ သဝဏ်လွှာဖြင့် မမ္မာပိဋကတ် ပရိယတ်တဖုံ ပေးပါကုန်ဟု အစုံမှာကြား အမတ်များကို စေပါးသည်တွင် ပြည့်ရှင်မန္တဟာ သာယာချောင်ံ စကားသံကင်း ရိုင်းပြခြင်းကြောင့် စစ်ခင်းနိုင်ထက် တိုက်ဖျက်ဘျင်းတျင်း မင်းနှင့်တကွ သရိရဓာတ် ပိဋကတ်ပါ ထေရ်သံဃာကို ပုဂါရာမ နဂရသို့ သာသနာ့နှစ် တွက်စစ်ဘဖြောင့် တထောင့်ခြောက်ရာ စွန်းလာကော နှစ်ကာသင်္ခ ဆောင်ကြပြီးခါ အနော်ရထာ ရာဇာသေဌ်နင်း မင်းနှင့်တကွ မရမ္မပြည်သူ အယူဝါဒ ဗုဒ္ဓဝါဒီ ပဥ္စသိမ္မ် စွန့်ကြဲဒါန အချို့ကလည်း သမဏဘောင် ရောက်အောင်ကြိုးကုတ် မဟာသာဟ ဝီရိယဖြင့် မူလစင်စစ် အမြစ်သဖွယ် သုံးသွယ်ပိဋကတ် ပရိယတ်ကို မပြတ်ဆည်းပူး အထူးကျင့်ကြံ အရဟံဝံသ ပရမ္ပရစဉ်လာ ဆရာအဆက်ဆက် ဆင်းသက်ခဲ့ရာ နှစ်တရာကျော် အနော်ရထာ ရာဇာနန္ဒဂူဟ ကာသာဝဇောင် ထွန်းတောက်ပြောင်သည် ထိုနောင်သာသနာ ညွန့်ဖြာတက်စ သဒ္ဓါသဘာ သဟာယာနှင့် ပဥ္စဝီသ ဆောက်ပြင်ကလည်း အရဟန္တ်ဝံသ ဥတ္တရာဇီဝ ထေရသီသာ သညာဆပဒ ထေရ်မြတ်လှသည် ဌာနပြည်ရွာ ပြန်သောခါဝယ် လင်္ကာဒီပ သီဟဠမှ မဟိန္ဒနွယ် ဆက်သွယ်ပေါင်းစု ကံပြုလောက်အောင် ပင့်ဆောင်လာရာ ရာဇာနရပတိစည်သူ ကြည်ဖြူသဒ္ဓါ ခြိမ်းမြှောက်ပါ၍ ဝံသာနှစ်သွယ် ဆက်နွယ်စဉ်လာ သာသနာရောင်ခြည် မြန်မာပြည်လုံး သိမ်းကျုံးသာသနာ ပွင့်လင်းဖြာသည် စဉ်လာမပြတ် ဖြစ်သတည်း။

## ၉။ ပင်းယ စစ်ကိုင်း အင်း၀ အမရပူရ သာသနာ၀ံသခန်း

မြန်မာပြည်လုံး နိဂုံးမြို့ရွာ သာသနာရောင် တန်ခိုးပြောင်စဉ် အမှောင်ဖိစီး ပြည်ကြီးပုဂံ မင်းစံဌာန သိုက်နကိန်းခန်း ပျက်သုဉ်းနွမ်းချိန့် ခေတ်ဆန်းချောက်ချား ပျက်ပြားသောခါ ထေရာသိဿ သမဏများစွာ ဘယာကင်းဝေး တောခကျေးဂ မ ထွက်ခွါကြ၍ ဗုဒ္ဓသာသနာ စဉ်လာမပျက် ဆက်လက်စောင့်ထိန်း တိမ်းယိမ်းမရှိ သတိသမ္ပဇဉ် ကြီးစွာယှဉ်၍ နေ့စဉ်မပြတ် ပရိယတ်ကို ရွတ်ဖတ်သင်ကြားရာဇာများက တိုင်းသားပြည်သူ သုံးစုယူ၍ သီဟသူရ မင်းရာဇာအားပင်းယတည်ထောင် ခေါင်းဆောင်နဂရ သာသနာ့မဏ္ဍိုင် မြဲခိုင်ဖို့ထူတည်ဆောက်မှုပြီ သောအခါ ရဟန္တာထွေး ခေါ်ဆေးပည်းသိး ထေရ်ကြီးပေါ်ထွက် ဒိဗ္ဗစက်ကြောင့် အထက်သာသနာ ဆက်ခါပွင့်လင်း သက်ဆင်းသောရာ သာသနာ့နှစ် တွက်စစ်အဖြောင့် တဆောင့်နှစ်ရာ စွန်းလာခြောက်ဆယ် ခြောက်ခုကြွယ်က နန်းနွယ်ဝံသ ဥပရာဇာ ဥဇနာမင်းနန်းတက်လျှင်း၍ ပင်ရင်းသာသနာ ပွင့်လင်းရာမှ အကြောင်းပြု၍ကောင်းမှုအများ စကားကျောင်းတိုက် သိုက်မြိုက်တည်ထွင် ရှေးယခင်က အရှင်အရဟံ ဆက်ပြန်စံသ ဆပဒနွယ် နှစ်သွယ်ဝံသာ ထေရ်သံဃာအား တင်ထားပေးလှူ ကြည်ဖြူသဒ္ဓါ သာသနာကို လွန်စွာချီးမြောက် အထောက်အကူ ပေးတော်မူသည်ကစ၍ မြန်မာ့ဦးစွန်း စောယွန်းတည်ထောင် တောင်စဉ်ရှုဗိုင်း စစ်ကိုင်းသာယာ ရာဇာသတိုးဖျား တည်ထားအင်း၀ နာမသညာ ရတနာပူရ သိဿကုန်းဘောင်တည်ထောင်လောင်းဘုရား သားတော်ဗဒုံ သိုက်ကြုံခေတ်ဆန်း နတ်နန်းဘမျှ တည်ထောင်စသည် အမရပူရ ရာဇဌာနီ လေးလီပြည်ထောင်တိုင်အောင်ဆင်းသက် အဆက်မပြတ် ပရိယတ်သာသနာ သိက္ခာကျင့်စဉ် သမ္ပဇဉ်နှင့် ဉာဏ်ယှဉ်သိပ်သည်း မလိပ်သည်းအောင် ကျင့်ဆောင်ထေရာ ဆရာအဆက်ဆက် ထမ်းရွက်ခဲ့ရာ သာသနာနှစ် တွက်စစ်အဖြောင့် နှစ်ထောင့်သုံးရာ ကိုးဆယ်သာသော် သာယာမြို့ခင်းမင်းချင်းပြည့်စုံ ကုံလုံကြွယ်၀ သေဋ္ဌကုသာ သမာကိဏ္ဏ အမရဌာနီစံမြို့သေဌ်နင်း ပုဂံမင်း၏ သားချင်းသဖွယ် ခင်ဘွယ်မိန့်ကြား ညီဘွားခေါ်တွင် ပြည့်ရှင်ကိစ္စ ထမ်းရွက်လှုရှင့် ရဋ္ဌပြည်ကျိုး သည်ပိုးဆန္ဒပြင်းပြကျေပွန် အတွင်း၀န်ကြီး တသီးတက်ဖြိုး သတိုးမင်းကြီး မဟာသက်တော်ရှည် ဦးပွားသည် ဘုရားသာသနာ ရှည်ကြာကာလ ထာ၀ရတည် စိတ်ကရည်၍ ရှေးတည်ပုထိုး အဋ္ဌရိုးထပ်ဆင့် အမြင့်သံတောင်အတောင်ရှစ်ဆယ် တင့်တယ်ပတ်ဝိုင်း တံတိုင်းမိတား ခြသေ့်များနှင့်

တည်ထားကိုးကွယ် ဆက်သွယ်တသီး ကျောင်းကြီးလေးထပ် ပြာသာဒ်ဆင်ယင် စာမြင်ပတ်လည် ရွှေထည်အမွမ်း တင့်ထွန်းရောင်ဝါ ဥပစာဝိုင်း တံတိုင်းမီးတား စမုခ်တံခါးနှင့် တည်ထားပြီးခါ ရာဇာမင်းတရားကုသိုလ်ပွားဟု ဆက်ငြားလေရာ အင်္ဂါလေးပါး ရသားဆင်မြင်းစစ်သားခင်း၍ ရွှေခင်းနောက်ခင်း ခင်းကျင်းစီမံ ခြံရံမိဖုရား မှူးမတ်များနှင့် မင်းတရားကိုယ်တိုင် ပြီးခိုင်ဇော်ယူ ထွက်တော်မူ၍ သယမ္ဘူစစ် ဓမ္မရာဇ်မြတ်စွာ သာသနာကို ကမ္ဘာချုပ်အောင် တည်ထောင်ပြုစု ဗဟုပကာရ နောင်ကာလ၌ ပြုသအံ့ပင် မျက်မြင်သောအားသဘောထားဖြင့် ထင်ရှားအကျော် အမော်ခေါင်ဟိတ် မင်းတံဆိပ်ဖြင့် အတိတ်ရပြီး မထေရ်ကြီးများ ညွှန်ကြားပြသ ပိဋကဆေကာ သိက္ခာကာမ ဇာဂရန္တ ဘဒ္ဒန္တမည် မဟာထေရ်အား တင်ထားကိုးကွယ် လေးသွယ်ပစ္စယ နုဂ္ဂဟဖြင့် ထောက်မတော်မူဆု မဟာထေရ ဇာဂရ၏ သီသစဉ်သာ ငါးရာဖြင်ဖြင့် အမြဲယှဉ်လာ ပရိသာ၏ ကာသာဝရှေင် ထွန်းပြောင်တောက်ထိန် ခေတ်မမိုန်တည့် အရှိန်တေဇာ သာသနာ၏ မူလာအမြစ် အနှစ်သဖွယ် မြန်နယ်တလွှား တပည့်များကို ပြန့်ပွားဆင်းသက်လေသတည်း။

၁၀။ ပဥ္စမသေလက္ခရာရှင် သင်္ဂါယနာတင်ခန်း

အမရဋ္ဌာနီ မင်းနေပြည်ဝယ် သာကီဝံသ ထေရစဉ်လာ သိက္ခာကာမ သမဏများစွာ ဝိနယာဓရ ဓမ္မဓေကာ သာသနာရှေင် ပြောင်ပြောင်ဝင်းထိန် ထိုအချိန်တွင် ပုရိန္ဒမ ရိုးဒ္ဒရှင် ဘုရင်မင်းတရား မြောက်စားထွတ်တင် လွှတ်ခင်ဘာပါ၊ "မင်းတုန်းစား" ဟု ကျော်ကြားမည်ရှိ "သိရိမဟာ သီဟသူရ ဓမ္မရာဇာ" သညာတံဆိပ် ခပ်နှိပ်နာမံ နန်းရံမင်းသား ဘုန်းတော်ဝါး၍ ကိုယ်စားမင်းဖြစ် လွှဲတုံလစ်သော် နတ်ချစ်ပြည်သူ ကြည်ဖြူကြရာ ရာဇာမင်းသား မင်းတရားသည် ဆယ်ပါးဓမ္မ သင်္ဂဟလေးပါး ကျင့်တရားဖြင့် ရင်သားအတူ ပြည်သူစိုးအုပ် မင်းလုပ်တော်မူပြီးလျှင် ယခင်သာသနာ စဉ်လာဝံသ ထေရနဝါ ပစ္စယာနုဂ္ဂဟ နိဗဒ္ဓဝတ် မချွတ်စေရ ကျင့်ဆောင်လှ၏ ရဋ္ဌစည်ပင် အရှည်မြင်ကြိုက် ခေတ်သိုက်ကိန်းခန်း ခေတ်ဆန်းစနည်း ထုံးနည်းစဉ်လာ မန္တလာစလ ပဗ္ဗတတောင်ခြေ အောင်မြေဌာန ရာဇရိပ်မြုံ ရတနာပုဥ္ဇ မန္တလမည် နေပြည်တော်ကြီး တည်ထောင်ပြီးခါ ဂေါဇာတက်စစ် သက္ကရာဇ်အဖြောင့် တထောင့်နှစ်ရာ စွန်းလာနှစ်ဆယ် ချိန်ခါဝယ်တွင် စမ္ပယ်သိမ်းမြန်း စံနန်းဦးကင် ပွဲကြီးယင်သည် ဘုရင်

မင်းတရား မြှောက်စားဘုန်းရှိ "သီရိသုမင်္ဂလာ စန္ဒာမဟာ တဇောထွ နာမ အတုလဒေဝီ ဘွဲ့ချီးဆောင်ရောင် တောင်ဆောင်တော်မိဖုရား ခင်ဆို"သည် သုံးဘုံနယ်တွင်း လွတ်ကင်းရန်အကျိုး သတိုးမင်းကြီး ဦးပွား ဆောက်ထားကျောင်းကြီး ရန်မီးလောင်ကျွမ်း ညံခ်ိးရိုပ်သာ ချိုတဲ့ရှည်လည်း "လောကမွေ ဖြစ်ကြမ္မတာ သခါရာ"ဟု သဘော ရှု၍ ဂရုမထား ဘုရားမြတ်စွာ သာသနာ၏ တည်ရာမူလ ဓုရနှစ်တွေ အားထုတ်နေသည် မဟာထေရ ဇာဂရ၏ ထာမစွမ်းရည် သိသည် အလျောက် ကျောင်းတော်ဆောက်၍ တံမြှောက်ကိုးကွယ် မြို့နယ် ဒိသာ တောင်မျက်နှာကြောင့် "ဒက္ခိဏာရာမ"ကမွည်းသ၍ ပစ္စယာ နုဂ္ဂဟာ ချီးမြှောက်ရာငယ် ပြည်နယ်တလွှား ကြော်ကြားစည်ပင် ဘုရင်မင်းတုန်း နှလုံးတော်ရည် အောက်မေ့သည်တွင် အရှည်ဆပွား ဘုရားသာသနာ ထာဝရမူ ဘယ်သို့ပြုက ရှည်မှုဖြစ်ဟန် ကျမ်းဂန် အလာ သာသနာပြု ပုဂ္ဂိုလ်စုကို မေးလျှောက်ဆိုသော် ဆရာတော် များ မိန့်ကြာ သည်မှာ ပညာသဘိ သမာဓိများ နောက်သားနောင် လာ မှေးမှိန်ရာမူ အကြောင်းပြု၍ ဘိက္ခုငါးရာ ရဟန္တာတို့ ရာဇာ ဂါမဏိ အမှီရှိခါ ပေါတ္တကာရုဠ စတုဘာသင်္ဂါယနာ တင်ကြရာ၏ မြန်မာပြည်တွင် ရှေးယခင်က မြှောက်ခွင်တလွှား ထင်ရှားပြည့်စုံ ရှမ်းဇလုံသား သိုဟန်ဘွားသည် ဘုရားသားတော် သုံးရာကျော်ကို မလျော်သတ်ဖြတ် ပရိယတ်မွေ ဗုဒ္ဓါနုတ်ကပါ၌ ပိဋကတ်ကို မလတ် ရှာဖွေ မီးတိုက်လေ၏ အကြောင်းတခွင် အောက်ပြည်တွင်လည်း သံလျင် ပိုင်စား မိုက်မှားဝါဒီ ပေါ်တူဂီများ ဘုရားသာသနာ နှောင့်ယှက် လာမူ အကြောင်းပြု၍ ယခုအခါ ရာဇာကောရာဇ် မင်းဖြစ်ကိုက်ကြုံ သုံးပုံပိဋကတ် ပုဒ်ပါဠိအက္ခရာ သဒ္ဒါအတ္ထ ဝါကျသွားလာ ပဗ္ဗာပရ ဒေါသမရှိ ကင်းလွတ်ဘိအောင် နှိုင်းညှိသချာ စိစစ်ပါ၍ သင်္ဂါယနာ သေလာအက္ခရ တင်အပ်လှဟု မိန့်ဟာမြွက်ဖော် ဆိုတော်မူရာ ရာဇာ မင်းတရား ငြိးစာကြံရည် စိတ်ကူးသည်နှင့် တထည်တည်းသာ တူလေစွာဟု သဒ္ဓါတရား ဆထက်ပွားဟု စိတ်အားထက်သန် ပြုရန် တာဝန် ကျေပွန်ကိစ္စ ပြည့်စုံကလျှင် အရှင်ဘုရား သံဃာများသာ စီမံရာမူ ပြုတော်မူပါ ကြားလျှောက်ရာတွင် ရတနာပုဇ္ဇ နဂရလေးပြင် ကြည်လင်ရှင်ပြုံး သီတင်းသုံးခါ သီလာစာရ သမ္ပန္နနှင့် ပိဋကဆောဘာ ဝိနယာဓရ လဒ္ဓါလဋ္ဌန ထေရဂဏာ သမ်ုာအဖြောင့် နှစ်ထောင့်လေး ရာ မြတ်သံဃာတို့ ညီညာဖြဖြ နန်းမဦးကင် ပလ္လင်တော်ရှေ့ သိမ်မွေ့ ကမ္မလာ ခင်းရာဌာန မဏ္ဍပဌ် စည်းဝေးကြပြီး ထေရ်ကြီးပါမောက်

ရွှေးကောက်ကြရာ ဒက္ခိဏာရာမ ယာပထမှီ လဇ္ဇီပေသလာ သိက္ခကာမ တိပိဋကရေဇာဂရမည့် မဟာထေရ်သာ ဤအရာဝယ် စွမ်းဘွယ်တစိ ဗျတ္တိဗလာ ရှိကုန်ရာပြီ ဝစီနူတ်မြွက် မိန့်ချက်ညီညာ မဟာနာယက ပါမောက္ခကြီး တင်မြှောက်ပြီးလျှင် ဘုရားရှင်သာသနာ သချာ အဖြောင့် နှစ်ထောင့်လေးရာ စွန်းသာသဲ့နှစ် သက္ကရာဇ်တွင် သုံးအင် ပိဋကတ် မုက္ခပါဠ်ကို ထွတ်မြတ်သီလာ သာခွဲ အသွင် ဒေါ်ပင်မယွင်း ကျောက်သလင်းထက် သေလက္ခရာရှင်ထ ပဥ္စမသင်္ဂါယနာ မင်္ဂလာသဘင် ပွဲကြီးယင်သည် စည်ပင်သိမ့်သိမ့် တခြိမ့်ခြိမ့်နှင့် မှတ်ပိမ့်ခနောင်လာ ပြီးဆုံးရာတွင် ဘုရင်မင်းတရား လျှောက်ထားပန်ကြား သံဝေဂရှစ် ပါးကို ဘုရားဗျာဒိတ် အတိတ်ထားရာ ကထာဝတ္ထု ကျမ်းပြုဆရာ မဟာတိဿ သဒ္ဒိသမူ နည်းယူစံထား ဝိတ္ထာအားဖြင့် ထင်ရှားပုံသွယ် နိကာယ်ငါးချုပ် နှံ့စပ်မွှေနှောက် သဘောပေါက်အောင် ယူဆောင် တင်ပြ သံဝေဂဝတ္ထုဒီပနီ ကျမ်းဂမ္ဘီကို မိန့်ပြီထင်ရှား ဟောကြားတော် မူရာ ညီလာသဘင် ဘုရင်မင်းတရား မြွက်ကြားသင်မှတ် မိန့်တော်မြတ် ကား တပါးဆရာ ထေရ်သံဃာတို့ ကျမ်းလာထုတ်ပြ သံဝေဂမူ အဆူ လေးရာ ဥပမာကား မြစ်ကြီးငါးသွယ် မြစ်ငယ်ငါးရာ စီးလာသမျှ သမုဒ္ဒသို့ ရောက်ရသည်သာ တူလှစွာတည့် မဟာထေရ သံဝေဂသို့ ဝင်ကြသည်သာ သို့ခြင်းရာကြောင့် ဆရာ့သံဝေ တည်ရစ်စေဟု မိန့် လေမြွက်ဟ ထိုကာလ၌ အတုလဒေဝီ မဟေသီမှာ ဂွမ်းဆီပမာ ပီတိ ဖြာလျက် လက်ယှက်ဦးတင် ဘုရင်မျက်မှောက် လက်မြှောက်ရွှင်ပြ နှမဆရာ ဒီပါဇမ္ဗူ စံတူရှားပါး လျှောက်ထားသောဟူ သူမတူဟန် ထက်သန်ပါရမီ မဟာထေရ်၏ ဂမ္ဘီရဉာဏ် ရင့်သန်သမာဓိ သတိဝေ ဆာ မဟာဥဿာဟ ဝီရိယဖြင့် သာသနာ့ဒါယကာ သင်္ဂါယနာတင် ဘဝရှင်မင်းတရား လျှောက်ထားတောင်းပန် အကြောင်းခံ၍ ကျမ်း ဂန်များစွာ အဖြာဖြာကို မိန့်မှာရေးသား ဘုရားသာသနာ ကြီးပွား ဆူမှု ဂရုပြုခါ ထားခဲ့ရှာသည် ထေရာအပေါင်း ဥသျှောင်ဘည်း။

## ၁၁။ ရတနာပုဥ္ဇ ဒက္ခိဏာရာမ သာသနာဝံသခန်း

ကလိယုဂ ရာဇသက္ကရာဇ် ထွက်စစ်သချာ ထောင့်နှစ်ရာကိုးခု ဥတု ဂိမှန္တ ဖဂ္ဂုဏမာသာ ဇုဏှာတဆဲ့သုံး ဘုန်းလှက်ရှုံးသခင် ဘဝရှင် မင်းတရား ညီဘွားခေါ်တွင် ဘုရင်အကျိုး သည်ဆောင်ပိုးသည့် သတိုးမင်းကြီး မဟာသက်တော်ရှည် အမတ်ကြီးသည် စောထီးမြတ် စွာ သာသနာ၌ တည်ရာထာဝရ အာရာမနှင့် ဝိဟာရကြီး ဆောက်

လုပ်ပြီးက ပည်းသီးများဖြင့် ဖြူစင်ပစ္စယ နုဂ္ဂဟဖြင့် ထောက်မ မြှောက်ချီး တသီးတဖုံ ရတနာပုဏ္ဏ ပဥ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတရား မြှောက်စားဆောင်ရောင် တောင်ဆောင်မိဖုရား ထပ်ပွား တဖန် ဘုံပြန့်ကျောင်းကြီး ဆောက်လုပ်ပြီးလျှင် ကြည်ရွှင်သဒ္ဒါ ပစ္စယာနုဂ္ဂဟ ထောက်မမြှောက်ချီး အသီးသီးတို့ကို သည်းခံတော်မူခြင်း၊ "ဇာဂရာဘိဓဇ သိရိပဝရ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရု၊ ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့ထူး ခံနိုင်နာမံ နှစ်ကြိမ် ခံတော်မူရခြင်း၊ နှစ်ထောင့်သေးရာ ထေရ်သံဃာ၏ မဟာပါမောက္ခ နာယကကြီး ဦးစီးပြီးလျှင် ပဥ္စမသင်္ဂါယနာ သေလက္ခရာရုဋ္ဌ တင်သတော်မူခြင်း၊ ရတနာပုဏ္ဏ နဂရတည်ထွင် ဘုရင်မင်းတရား လျှောက်ထားတောင်းပန် အနကြောင်းခံ၍ ကျမ်းဂန်များစွာ ဂန္ထကာရကို ပြုတော်မူခြင်း၊ ဗုဒ္ဓမြတ်စွာ သာသနာ၏ ပါဒမူလ မြစ်နသဖွယ် သုံးသွယ်ပိဋကတ် ပရိယတ်ကို မပြတ်စဉ်လာ ဓမ္မာသဘင် ဆင်ယင်ပို့ချ နှစ်ကာလကား သတ္တဝီသ သိဿများစွာ ဖြစ်ထွန်းလာမှု ပြုစတော်မူခြင်း၊ ပြီးဆုံးလျှင်းအောင် ခပင်းဥဿုံ အလုံးစုံကို ရွှေဘုံနိဗ္ဗာန် ရည်သန်ပြုစု စတုသဋ္ဌိ သက်တော်ရှိက မနိဘုရား ရှောင်ရှားခြင်းငှာ မတတ်သာသည့် နတ်ရွာနတ်ဌာန် ပြန်လွန်တော်မူသောအခါ ကြော မန္တာတ် မင်းမြတ်ရာဇာ နတ်ရွာကြွသွား သားကြီးရတနာ လွဲအပ်ရာသို့ မဟာထေရ သိဿများစွာ ဇေဋ္ဌာကဝိ ဘုန်းတော်ရှိသည့် "ပဏ္ဍိတာဘိ သိသာလင်္ကာရ ကဝိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု" နာမံ နှစ်ကြိမ်ခံရ ဓမ္မသဘင် ဆင်ယင်စာပွဲ အကျော်စွဲသည့် ထူးကဲဘုန်းခေါင် မာရ်အောင်ရတနာ ဒါယကာမင်းတရား မိခြားဘတူ ကြည်ဖြူသန့်ရှင်း ချီးမြှောက်ခြင်းဖြင့် မိုးညှင်းမင်းသမီး ခိုမှီးဆည်းကပ် မလပ်ပစ္စယာ ဘုန်းပညာရှိ ကဝိအမေဒ် ဒုတိယဆရာတော်ကို လွှဲအပ်တော်မူခဲ့ရာ စဉ်သာဝံသ ကာနိဋ္ဌများစွာ ထိန်းသိမ်းခါလျှင် နှစ်ဖြာနုဂ္ဂဟ ဓမ္မအမွေ ဆက်ခံစေရန် စာပေကျမ်းဂန် နေ့ညဥ့်မှန်စွာ ထက်သန်စေတနာ ချပို့ချသား ထိုအကြားတွင် နောက်သားနောင်လာ ဆက်ကာ ကင်ပ ဒွိဟကင်းကွာ ရှင်းလင်းစွာပင် သုတ်သင်ပြင အက္ခရာဒိသော နေ့ီ ကျမ်းဂမ္ဘီနှင့် နည်းမှီအမြွက် ဒါနုဂ္ဂဟာဒီပနီ နှစ်လိမိန့်ကြား ရေးသားဖော်ပြ ထေရဝသီ သန္တတ္ထိကား နည်းမှီစံပြ ရှာမရအောင် ကျင့်ဆောင်သိပ်သည်း သည်းညည်းခံနိုင် ဂုဏ်ပေါင်းလှိုင်သည် ဦးခိုင်နာယက အာရာမဌ် သွန်သင်ဆုံးမ နှစ်ကာလကား ဒသဝဿာ ရှိသောခါငယ် ထေရာအသက် တွက်ချက်ငါးဆယ် ရှစ်နှစ်ဆွယ်က လူ့နယ်

လောက အလင်းပြုပြီး ငြိမ်းသောနည်းသို့ နှာ်ထိုးခိုအောင်း ဘဝ ပြောင်းသော် ညီတော်သမဂ္ဂ ဒေသသညီ ကနီခေါ်တွင် အရှင်သုန္ဒ- ရာဘိဝံသ နာမသင်ပေါ် နောင်တော်ရိပ်ရာ ဆက်ခံခါလျှင် အာရာ မာဓိပတိ စိုးအုပ်ဘိ၍ ကဝိသက္ခဏာ နာနာနယ သဒ္ဒအဋ္ဌာ ဝါကျတ္ထာ ကို စိတ်ဖြာခေခွဲ ဘနဲ့တဖုံ အာဂုံအာဂါ ဆောင်ခါပြုထုတ် စုဒ်စောဒနာ ပရိဟာရ နည်းလမ်းပြဖြင့် သိသာစဉ်ဆက် ဆင်းသက်စေရန် ကျမ်းဂန် စာပေ ပို့ချခြင်း၏ လေးထွေပစ္စယ မနှမ်းရအောင် အာပေါင် ကုန်သည် များစုံညီသည့် အမည်ပွဲစား ဘုရားဒါယကာ သဒ္ဒါလှန်ကဲ ဦးဖဲကြီး က ဝိဟာရမည် အုဋ္ဌကျောင်းတည်၍ အလှူကြည်ဖြူ ပေးလှူစဉ်ပင် အနုဝံသုန္ဒရ နာယကဖြစ် လေးနှစ်ရောက်သော ဘွားရာဇာတိ ကိစ္စရှိ၍ ကြိဘိုရှိယာ ထိုနှင့်ဆွာငယ် ငါးဆယ်သုံးနှစ် တွက်စစ်အာယု မစ္စု ရာဇာ ဖမ်းယူလာ၍ လိုက်ပါနှုတ်ခွာန် ပြန်လှန်တော်မူသာ အာစာရ ဘိဝံသ နာမဒာကျော် ဆရာတော်သည် ပေါင်းသော်အတူ တအူထုံ့ ဆင်း သားချင်းတူစွာ သမာနာစရိယ သုဇာတမည် မဟာဒေဝိ ကျော် အဖော်သဟဲ ကြီးကဲစိုးချုပ် တိုက်အုပ်ဆရာ ဖြစ်သောခါဝယ် သာသနာမွေ ခံယူလေပြီး မင်းကြီးမင်းကျော်ညည်သူ ဘွဲ့ထူးတန်ခွန်း သစ်တောဝန်မင်း ပဋ္ဌင်းဒါယကာ ပစ္စယာနုဂ္ဂဟ ကာလရှည်ကြာ သဒ္ဓါကြည်ဖြူ ပေးလှူသက်ဆုံး တထုံစံလာ ဆောင့်နှစ်ရာလေးဆယ် စွန်းကယ်ငါးနှစ် သက္ကရာဇ်တွင် ယခင်မိပ္ပရား ဆောက်ထားကျောင်း ကြီး ကုစက်မီးကျွမ်း သိမ်းဝိဟာ ပထဗျာဠ်း သဒ္ဓါလွန်ကဲ လဘက်ပွဲ ရှင် ခေါ်တွင်အမည် ဦးသက်ရှည်နှင့် ကုန်သည်ဘာသာ သဟာယဖြစ် မိဘ် ချစ်ဘက်ယှဉ် ညောင်စဉ်ရပ်ခို ဒေါ်ပိုမည်ရ ကျောင်းအမတို့ တူရသဒ္ဓါ သာသနာဥ္ဓ ရှည်ကြာကာလ ထာဝရတည် စိတ်ကရည်၍ ကြာရှည် သိုက်မြိုက် အုဋ္ဌတိုက်ကျောင်းကြီး မိုးပါနီးမျှ ပြီးစီးအောင်မြင် အရှင်အာစာရာဘိဝံသ ဘဒ္ဒန္တအား တင်ထားကိုးကွယ် လှူဖွယ်ပစ္စယ ထောက်မကြရာ ဆရာသခင် ထေရ်အရှင်လည်း သွန်သင်ပြသ ဓမ္မသဘင် ဆင်ယင်ပို့ချ သဟာယဂုဏ် လွန်ပြည့်စုံသည့် ရန်ကုန်ဆရာတော် နိုင်ငံ ကျော်သည်း အဟော်ဇတ သဒ္ဓပါရဂူ သူမတူဘန် ကျမ်းဂန်ကျနှ ဓမ္မသဘင် ဆင်ယင်ပို့ချ ထိုကာလက အစများဖြင့် စာသင်သိသာ ထောင့်သုံးရာမျှ ရှိကြလေရာ ပညာရင့်သန် ကျမ်းဂန်ကျနှ စာချဆရာ သာသနာ့တွင် ပေါ်လွင်ထင်ရှား ကြော်ကြားများစွာ ပေါ်ထွက်လာ ၏ ဆရာသခင် အရှင်နှစ်ပါး ကျေးဇူးများကြောင့် နောက်သားစဉ်လာ ထေရ်မဟာတို့ ဒက္ခိဏာရာမဝိဟာရ၌ သာသနာ့တံခွန် ထူးချွန်ဖြစ်လိမ့်

နှစ်သိမ့်စရာ ဂဏာစရိယ သာသနာ့ဝဝန် ကျေပွန်ဆောင်ထ ဗုဒ္ဓနှစ်ထွ
ဖြည့်ကျင့်လေသော သတ္တာတီသ နှစ်ကာလရောက် ချီးမြှောက်စိုးမိုး
သေမျိုးဇရာ အိုနာငြိတွယ် သက်ရှစ်ဆယ်က စွန်းကာယ်နှစ်နှစ် တက်သစ်
နေ့ဝန်း နောက်တောင်စွန်းသို့ ခိုယွန်းပမာ ရောင်ဝါကင်းကွယ် နက်
ပြည်နယ်သို့ စမွယ်တော်မူရာ ဝိမသာဗုဒ္ဓ သိရိပဝရ သဉ္ဇာနာမိ
ကန္တိစဉ်သော ထေရ်မဟာကို သံဃာများစွာ နာယကကြီး တင်မြှောက်
ပြီးလျှင် စောထီးမြတ်စွာ သာသနာ၏ ရောင်ဝါမညိုး ရန်မျိုးသုတ်
သင် သုံးအင်ပိဋကတ် ပရိယတ်ကို မပြတ်လေ့သော သီလာစာရ မွေ့အောင့်
ဝတ် မချွတ်စေရ ကျင့်ဆောင်ကြ၏ အနေရွှာနီ ပူရိဉတ္တရာ ချီးပါပျော်
ရွှင် ကြည်လင်စေတနာ သဒ္ဓါဗလဝ ရှုပကလျာ အင်္ဂါပြည့်စုံ ကုံလုံ
ကြွယ်ဝ နေပြောထူ မမယ်ကျူက ကြည်ဖြူသဒ္ဓါ သာသနာ၌ ရှည်ကြာ
ကာသ ထာဝရတည် စိတ်ကရည်၍ မြကြည်နှစ်ခြိုက် အဋ္ဌတိုက်ဝိဟာ
ဆောက်လုပ်ပါ၍ သဉ္ဇာနာမ တမ္ဗဝတီ ဘွဲ့ပုံချီရှင့် ကန္တိဝံသ ဝိမလဗုဒ္ဓိ
ဘုန်းသိရိအား တင်ထားကိုးကွယ် ထိုငယ်အခါ ကမ္ဘာစစ်ကြီး ကူးစက်
မီးကြောင့် တိုင်းသီဂျပန် နိပ္ပန်ဇာ မြန်မာပြည်သုံး စိုးအုပ်ဖုံးသည်
မီးအုံးပမာ သာသနာလည်း ရောင်ဝါပျက်ပြား ရဟန်းများသည်း
ထွက်သွားရှောင်ခွာ ဒက္ခိဏာရာမ ဝိဟာရ၌ ထေရနဝါ မဇ္ဈိမာဟူ
ပေါင်းစုသမဏာ ရေတွက်ရာဝယ် သတာစွန်းလစ် ငါးယောက်ဖြစ်ရှင့်
အမြစ်သာသနာ ဓမ္မာစရိယ ခိုင်ခံ့လှ၍ ခက်မငါ့ဖြာ ပတ္တာညွန့်ရွက်
ကြွေပျက်ပမာ ပရိသာနည်း အခါကြီးတွင် မထေရ်ဆရာ အဋ္ဌာရသ
နှစ်ကာလတိုင် ဦးခိုင်ရှေ့သွား သံဃာများ၏ ကြီးပွားရေးမှု စောင့်ရှောက်
ပြု၍ မဇ္ဈိမရာဇာ အာဏာနယ်ပယ် ရှစ်ဆယ်ငါးနှစ် ထွက်စစ်သက်တော်
နတ်ရွာပျော်သည် ထိုရော်အခါ ရာဇာအရှင်ဂျော့ဘုရင်က ကြည်သင်
ဆက်သ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့ပုံရ၍ ဓမ္မသာင် ဆင်ယင်မပြတ် ပိဋကတ်

စာပေ ချပို့နေရန် ရည်သန်တောင့်တ စာဂဖြာဖြာ သဒ္ဓါကြွေကြွေ့
တမော့ဝိဇ္ဇာ သီလာရုံရှင် ဒေါ်ဒေါ်ခင်နှင့် ကြည်လင်စေတနာ သဒ္ဓါ
ထက်မြက် လာဘက်ပွဲရှင် မည်တွင်ဒေါ်မိ နှစ်ဦးညီသို့ တူဘိသဒ္ဓါ ဝိဟာ
ကျောင်းကြီး အသီးအသီး ဆောက်လုပ်ပြီးလျှင် ထေရ်ရှင်ကို ပင့်တင်
ကိုးကွယ် လေးသွယ်ပစ္စယ နဂ္ဂဟာဖြင့် ထောက်မကူညီ လဇ္ဇီပေသလ သာ
သနာ့ဝန် ကျေပွန်လို့လ ဗျတ္တပဋိဘသာ နှယ်လာစဉ်ဆက် မပျက်ဝံသာ
မဟာထေရ ဂုဏစုဒ္ဓိ ကြီးဘ်ကြောင်းဟိတ် ပဏ္ဍိတ်ဆု ဖြစ်တော်မူလု
ဘဒ္ဒန္တဥက္ကံသမာလာ ထေရ်မဟာကို အာရာမာဓိပတိ သမ္မုတိမြှောက်
တင်မြှောက်ကြရာ မဟာထေရဥက္ကံသလည်း ကမ္ဘာ့စစ်ကြီး ပွားသီ ဆဲပင်

သမ္ဗုဇဉ်နှင့် ကြည်လင်သတိ သမာဓိနှင့် ဝီရိယကူ မေတ္တာမူလျက် ပြည်သူအများကုလားဂျပန် စစ်ဘေးရန်ကြောင့် တောင်းပန်မှီခိုဖြူပြဟူစိုရ်တရားနှလုံးထား၍ သနားကရုဏာ ထိန်းသိမ်းရာတွင် ဓာဝသာ ဆမာသရောက် ယွင်းဖောက်ဇရာ အိုနာဖိစီး မထေရ်ကြီးဝယ် ခုနစ်ဆယ်ကစွန်းကယ်ခြောက်နှစ် သက်တော်ဖြစ်က တက်သစ်နေဝန်း ဂေါယာယွန်းသို့ နတ်နန်းစံပျော် ကြွတော်မူပြန် သံဃာရာမ်ဝယ် ကြွင်းကျန်သိဿ စည်းဝေးပါ၍ ပင်းသာမင်းသား ဆော်က်သားကျောင်းကြီးပျော်မှီးနေထိုင် ကြံခိုင်သမာဓိ ကဝိသက္ခဏာ ပညာဝတီ ခန္တီဓမ္မနာမကြောင်းဟိတ် ပဏ္ဍိတ်တဆူ ဖြစ်တော်မူသော ပင်းသာဆရာတော်ကြီးကို ကျောက်တီးသန္တု ဂရုဂါရဝ သံဃနာယက တင်မြှောက်ကြလျှင် ထေရ်အရှင်လည်း သွန်သင်ဆုံးမ နာယကဂုဏ် ပြည့်စုံနေထိုင်မဏ္ဍိုင်သဖွယ် ပေါ်ယယ်များဖြင့် လူရှင်ရဟန်း သဒ္ဓါပန်းကို ဆင်မြန်းတော်မူစဉ် ရှေးယခင်က တူယှဉ်မိတ်ကြိုက် မဟာမိတ်တို့ အောင်ဟိတ်လွှမ်းမိုး နိုပွန်မျိုးတို့ ရှုံးနိမ့်ဒူးထောက် ရှုံ့ကြောက်စစ်မီးငြိမ်းလေပြီးနောက် သုံးနှစ်မြောက်တွင် အရှင်သေရ နာယက၏ သံဃဇေဋ္ဌာ ဣဿာရမူ ရေတွက်ပြုမူ နှစ်ခုသဿ ဒသမာသာ စွန်းရောက်လာက ဇရာပ်စီး မထေရ်ကြီးဝယ် ခုနစ်ဆယ်ဘ စွန်းကယ်ခုနစ် သက်တော်ဖြစ်က မာရ်ညစ်သမင်း လုယက်ခြင်းကြောင့် ကွေ့ကွင်းသူ့ရွာဒေါ်နတ်ဌာန် ပြန်လွန်တော်မူရာ အာရာမာဓိပတိ ကင်လွှတ်တိတောင်း အပေါင်းသံဃာ ထိန်းသိမ်းရာမူ သမ္မုတိက ပဋ္ဌာနထေရာ ဖွေ့ဆောင်ခါလျှင် သံဃာကြီးငယ် အသွယ်သွယ်တို့ ကြီးကျယ်ဂုဏ်ထူးရှိခဲ့ဘူးသည့် ကျေးဇူးတော်ရှင် အရှင်ဇာဂရ ထည်ဆောင်စသည့်ထေရ်စဉ်လာ ဒက္ခိဏာသာမ နှစ်ဘာလကား ပြည့်ဆတရာ သာသနာရောင် ထွန်းလင်းပြောင်သား နောက်နောင်ရှည်ကြာ တည်အံ့ငှာလျှင် ပူဇော်ယင်ပွဲ တို့ဆင်နွဲသည် ထူးကဲသာစွ မှတ်ဖွယ်တည်း။

၁၂။ ကေပိုဒ် နိဂုံးလင်္ကာ

အောင်မင်္ဂလာ အောင်ကြောင်းဖြာသည့် အောင်ရာဝိသိဋ္ဌ ဗောဓိရိပ်ဝယ် ဘိသိက်မဂ္ဂင် ရွှေလွှင်ဘက် ရေစင်ခံပြီး မင်ဖိုလ်ထီးကို ဖြန့်ချီးစိုက်ထူ ပြည်နိဗ္ဗူကို သိမ်းယူပြီးလျှင် သုံးခွင်သောက ဓမ္မရာဇာ တို့မြတ်စွာသည် ကမ္ဘာဗိုလ်ခြေ ဝေနေယျကြာ သဘ္ဘဝါများ ရင်ဝယ်သားသို့ သနားကရုဏာ ရှေးရှုရာမူ အခါကြောင်းပြု၍ မဇ္ဈိမပဒေသ ပဉ္စနိကာယ်သုံးသွယ်ပိဋကတ် ပရိယတ်ကို မပြတ်ကိုယ်စား မိန့်မြွက်ကြား၍ မှာထား



၁၉၁၂-ခုနှစ် ရန်ကုန်မြို့ ဝိုင်-အမ်-ဘီ-အေ အသင်း၌ စည်းဝေးတော်မူသော ဆရာတော်ကြီးများ

အလျောက် ချွတ်ယွင်းဖောက်ပြား မပြောက်ကျားအောင် ကြံရည်ဆောင်၍ ဘုန်းခေါင်ကဿပ ပဌမသင်္ဂါယနာ မဟာယသ ဒုတိယထေရာ တတိယာမြောက် ချီးမြှောက်သာသနာ လက်ာဒီပ သီဟဠမှာ မဟာမေ့ ရက္ခိတတို့ ပေါ်တ္ထကာရူဠှာ စတုတ္ထာနှင့် မြန်မာဇမ္ဗူ ဆောင်ယူသောဏာ သာသနာ့ဦးခိုင် ပြန့်လိုင်ဝံသာ ပုဂံရာမ ပင်းယဇေယျာ ရတနာပူရ အမရဌာနီ ပဝေဏီဆက် ဆင်းသက်ပြည့်စုံ ရတနာပုဉ္ဇ နဂရတိုင်ရောက် ထွန်းတောက်သာသနာ ဇာဂရာဘိ ကဝိဓဇ ထေရမဟာသေလက္ခရာရှင်ဩ ပဉ္စမသင်္ဂါယနာ တင်ကြရှာ၍ထေရဝါဒ ဂဏာဝံသာ ဒက္ခိဏာရာမ ဝိဟာရမှီ လဇ္ဇီကျင့်သုံး နှလုံးသွင်းခါ သာသနာဆောင် ထွန်းလင်းပြောင်သား ရွှေဆောင်တိုက်ကြီး နည်းမှီ့စရာ နှစ်တရာပြည့်သတာစေ့လည်း သိပ်သည်းစည်လာ ဝံသာမပျက် ဆင်းသက်ထေရာ မွေ့ဇရိယ ပဒုမသွင် စာသင်ပျားနှယ် သောတုယ်တို့ ရစ်သွယ်သောက်စို့ နောက်အဖို့ဝယ် တင့်တယ်သာသနာ ပွင့်လင်းဖြာသည့် ရောင်ဝါတန်ခိုး ထွန်းလိမ့်သောဝ်။ ။

---

## သန့်ရှင်းသော ပိဋကတ်တော် တစုံရရှိရေးဆွေးနွေး

သက္ကရာဇ် ၁၃၁၂-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၇-ရက်နေ့တွင် ရန်ကုန်မြို့ ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းမှ ကြီးမှူး၍ ဆရာတော်ကြီးများ ဆွေးနွေးတော်မူကြရာ ဒက္ခိဏာရာမ ဘုရားကြီးတိုက်မှ အဂ္ဂမဟာပဏ္ဍိတဆရာတော်အရှင်ဣန္ဒာသဘ (ဟံသာဝတီဆရာတော်)၊ အဂ္ဂမဟာပဏ္ဍိတ အရှင်နာရဒ၊ အဂ္ဂမဟာပဏ္ဍိတ အရှင်ဥက္ကံသာဘိဝံသ (ဦးကြယ်)တို့ ပါဝင်ခဲ့သည်။

ထိုစဉ်က အစည်းအဝေးတွင် အားလုံးပါဝင်သော ဆရာတော်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဆရာတော် အရှင်ဥက္ကံသ (ဦးကြယ်) ဒက္ခိဏာရာမတိုက် မန္တလေး။
၂။ ဆရာတော် အရှင်ဣန္ဒာသဘ၊ ဒက္ခိဏာရာမတိုက်၊ မန္တလေး။
၃။ ဆရာတော်အရှင်နန္ဒိမာ၊စံကျောင်းဆရာတော်၊ ခင်မကန့်တိုက်၊ မန္တလေး။
၄။ ဆရာတော် အရှင်သုန္ဒရ၊ မဟာဝိသုတာရာမတိုက်၊ ပခုက္ကူ။
၅။ တောင်ပေါ်ကျောင်းဆရာတော်၊ ရေနံ့ဖြူမြို့။

၆။ ဆရာတော် အရှင်ရေဝတ၊ ညောင်ရမ်းဆရာတော်။
၇။ ဆရာတော် အရှင်သူရိယ၊ မစိုးရိမ်ဆရာတော်၊ မန္တလေး။
၈။ ဆရာတော် အရှင်နန္ဒဝံသ၊ ညောင်ဦးဆရာတော်၊ ပခုက္ကူ။
၉။ ရွှေဟင်္သာဘောဂရဆရာတော်၊ ညောင်တုန်း။
၁၀။ ဆရာတော် အရှင်ကောသလ္လ၊ ခြောက်ထပ်ကြီးဘုရားတိုက်၊ ရန်ကုန်။
၁၁။ ဆရာတော် အရှင်နာရဒ၊ ဒက္ခိဏာရာမတိုက်၊ မန္တလေး။
၁၂။ ဆရာတော်အရှင်ဉာဏာဘိဝံသ၊မြောင်းမြဆရာတော်၊မန္တလေး။

ဖော်ပြပါ ဆရာတော်များ၏ စည်းဝေးဆုံးဖြတ်ချက်အရဒက္ခိဏာရာမတိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော် အရှင်ဇ္ဇနန္ဒာဘိဝံသ၊ အဂ္ဂမဟာပဏ္ဍိတ သာသနဇောတိကာရုံဆရာတော် အရှင်နာရဒ၊ အဂ္ဂမဟာပဏ္ဍိတ ရွှေဘုန်းရှိန်ကျောင်းဆရာတော် အရှင်ဥက္ကံသာဘိဝံသ (ဦးကြွယ်)တို့ ဦးဆောင်သော ဒက္ခိဏာရာမ စာချဆရာတော် ၁၀-ပါးခန့်တို့သည် ဒက္ခိဏာရာမတိုက် သာသနဇောတိကာရုံကျောင်း၌ ပဥ္စမသံဂါယနာတင် ကျောက်စာမူ၊ သီဟိုဠ်မူ၊ ယိုးဒယားမူ၊ အင်္ဂလိပ်မူ စသည်တို့ဖြင့် တိုက်ဆိုင်ပြင်ဆင်တော်မူကြ၍ ဝိုင်၊ အမ် ဘီ၊ အေ အသင်းသို့ ပြန်လည်အပ်နှင်းတော်မူကြသည်။

ထို့နောက် ဆဋ္ဌသံဂါယနာတင်ချန် စီမံကိန်းကြီး ပေါ်လာသဖြင့် ဝိုင်၊ အမ်၊ ဘီ၊ အေ အသင်းက ယင်းစာမူများကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့သို့ ပေးအပ်

...သည်ဟု သိရသည်

...ဟတာ ဝါယာမေနေဝ၊ ဒက္ခိဘော ဝါစကာ ဝိဒူ။
...သဗ္ဗညု ဇိနုစက္ကသ၊ ဝုဍ္ဍိဝိရူဠှိယာ ကရုံ။

...ပူရဆရာတော် အရှင်ဥက္ကံသာဘိဝံသ အမှူးပြုသည့် ... အမရပူ...
ဂဏဝါစက စာချအဘိဓာန် ကျမ်းပြုအဖွဲ့

...ဘုရားကြီး တိုက် သာသနာဝင်ကို ပြုစုရာ၌ အမရပူရ ဆရာ...ဥက္ကံသာဘိဝံသ အမှူးပြုသည့် ဂဏဝါစက စာချအဘိဓာန် ကျမ်း...င်းကိုလည်း သာသနာဝင်သမိုင်းတွင် ဟာကွက်မထားပဲ ဤ၌...ည်၊

...ော်ပြရာ၌ မြန်မာနိုင်ငံ ပရိယတ္တိ သာသနာတော်၌ "တိပိဋကအဘိဓာန်ကျမ်းအဖွဲ့"များ ပေါ်ထွက်လာပုံကိုပါ ထည့်သွင်း...ပ်ပေသည်။

ဒက္ခိဏာရာမ...
တော် အရှင်ဥက္က...
ပြုအဖွဲ့အကြော...
ဖော်ပြအပ်ပါသ...

ယင်းသို့ ဖော်...
ပါဠိ မြန်မာ ...
ဖော်ပြရန် လိုအ...

## ဦးနု တိုက်တွန်းစကား ပြောကြားခဲ့ခြင်း

ဆဋ္ဌသံဂါယနာလုပ်ငန်းကြီး အစမပျိုးခင် ၁၃၁၂-ခုနှစ်က နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုသည် မိမိ၏ နေအိမ်၌ "သီရိမင်္ဂလာ ပရိတ်တော်အဖွဲ့"ကို ဖွဲ့စည်းတည်ထောင်ရန် တိုင်ပင်စဉ် "ဆဋ္ဌသံဂါယနာစီမံကိန်း" "ပိဋကတ်တော် မြန်မာပြန် စီမံကိန်း"များနှင့် တပါးတည်း "တိပိဋကပါဠိ မြန်မာ အဘိဓာန်ကျမ်းကြီး" ရေးသားရန် စီမံကိန်းကို ရေးဆွဲ၍ တိုက်တွန်းစကား ပြောကြားခဲ့လေသည်။

## အဘိဓာန်စနစ်တကျ ရေးဆွဲရေးအဖွဲ့ ဖွဲ့စည်းခြင်း

ဖော်ပြပါ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၏စကားကို အမှီပြု၍—

၁။ အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်ဉာဏုတ္တရ၊
၂။ အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော် အရှင်သောဘန၊
၃။ အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်ဝိသုဒ္ဓ၊
၄။ မြန်မာအဘိဓာန်နှင့် သုတေသန ဆရာပြုအဘိဓာန်ကျမ်းပြုဆရာတော် အရှင်ဩဘာသတို့ ပါဝင်သော သံဃာတော်များအဖွဲ့၊
၅။ အဂ္ဂမဟာပဏ္ဍိတ ဒေါက်တာဆရာလင်း၊ မဟာပညာဗလ ဦးကြီးဖေ စသောပုဂ္ဂိုလ်များ ပါဝင်သော အဘိဓာန်စနစ် ရေးဆွဲရေးအဖွဲ့—

ကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က ဖွဲ့စည်းပေးပြီး ပါဠိသက္ကတဘာသာ၌ ကျွမ်းကျင်သော ဦးမောင်ကလေးကိုလည်း အဘိဓာန် ဌာနမှူးအဖြစ်ဖြင့် ခန့်အပ်ခဲ့လေသည်။

## ကမ္ဘာအေး ဇမ္ဗူဒီပအဘိဓာန်အဖွဲ့

ဖော်ပြပါ ဦးမောင်ကလေးဦးစီးသော အဘိဓာန်အဖွဲ့ကို "ဇမ္ဗူဒီပအဘိဓာန်အဖွဲ့"ခေါ်သည်။ ၁၉၅၃-ခုနှစ် ဒီဇင်ဘာလမှ စ၍ တိပိဋကပါဠိ မြန်မာ အဘိဓာန်ကျမ်းကြီးအတွက် ပိဋကတ်သုံးပုံ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့မှ ဝေါဟာရပုဒ်များကို ဆရာခြောက်ယောက်စုခဲ့ရာ ၁၉၅၆-ခုနှစ် ဒီဇင်ဘာလ ၃၁-ရက်နေ့အထိ ဝေါဟာရပုဒ်ပေါင်း ၂၅၀၀၀၀-ခန့် ရရှိခဲ့လေသည်။

အဘိဓာန်ရေးသားမှုလုပ်ငန်းကိုမူ ၁၃၁၈-ခုနှစ် နတ်တော်လ (၁၉၅၆-ခုနှစ် နိုဝင်ဘာလ)မှစ၍ ပြုလုပ်ကြကုန်၏။ ၁၃၁၉-ခုနှစ်တွင် ဦးမောင်ကလေး

အသက်ကြီး၍ နုတ်ထွက်သွားသောအခါ အရှင်သီလာနန္ဒာဘိဝံသက အသင်းခန်ကျမ်းပြုမှူးအဖြစ် တာဝန်ယူ ဆောင်ရွက်တော်မူသည်။

ထို့နောက် အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်ဉာဏဗုဒ္ဓ ဂျပန်ပြည်မှ ပြန်ကြွလာသောအခါ ဆရာတော်အရှင်ဉာဏဗုဒ္ဓသည် အဘိဓာန်အဖွဲ့၌ နာယက အဖြစ်ဖြင့် ပါဝင်တော်မူခဲ့လေသည်။ ဦးဗိုလ်မောင်က အဘိဓာန်၏ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်သည်။နောင်တွင် ဦးဗိုလ်မောင် အဘိဓာန်ဌာနမှူး ဖြစ်လာသည်။

ယင်းသို့ ကြိုးပမ်းခဲ့ရာ ၁၃၂၅-ခုနှစ်တွင် "အ"မှ "အနိဋ္ဌက" အထိ ပုဒ်များပါဝင်သည့် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ(၁) ပေါ်ထွက်ခဲ့လေသည်။

၁၃၂၈-ခုနှစ်တွင် "အနု"မှ "အနဗ္ဘာကိုရဏ" အထိပုဒ်များပါဝင်သည့် တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းကြီးအတွဲ(၂) ပေါ်ထွက်ခဲ့လေသည်။

အရှင်သီလာနန္ဒာဘိဝံသလည်း အနားယူခဲ့သည်။ အရှင်သီလာနန္ဒာဘိဝံသအနားယူသဖြင့် အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်ဉာဏဗုဒ္ဓက ဆက်လက်၍ ဦးစီးပြုစုရာ ၁၃၃၃-ခုနှစ်တွင် "အဗျဂ္ဂ" မှ "အဠ္ဌာရသ" အထိပုဒ်များပါဝင်သည့် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ(၃) ပေါ်ထွက်ခဲ့လေသည်။

၁၃၃၄-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၃-ရက်နေ့တွင် ဆရာတော် အရှင်ဉာဏဗုဒ္ဓ ပျံလွန်တော်မူ၍ တဖန် ဆရာတော် ဦးပညာသာမိဝံသ၊ ဦးမာဃိန္ဒာဘိဝံသတို့နှင့် ဇမ္ဗူဒီပကျောင်းဆောင် အဘိဓာန်အဖွဲ့က ဆက်လက် ရေးသားပြုစုခဲ့ရာ ၁၃၄၂-ခုနှစ်တွင် "အာ" မှ "ဥတြာသေယျ"အထိပုဒ် များပါဝင်သည့် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ(၄) အပိုင်း(၁) ပေါ်ထွက်ခဲ့လေသည်၊

## မစိုးရိမ်နာယကစာချအဘိဓာန်အဖွဲ့

တော်လှန်ရေးအစိုးရလက်ထက် ရောက်ရှိလာသော အခါတွင် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး မြန်မြန် ပြီးစေလိုကြသဖြင့် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့အတွင်းရေးမှူး(နောင်တွင် အုပ်ချုပ်ရေးအရာရှိချုပ်၊ အထူးအကြံပေးအရာရှိ၊ ဝန်ထမ်းရွေးချယ်လေ့ကျင့်ရေးအဖွဲ့ဝင်၊ နိုင်ငံတော်ကောင်စီဝင်) ဦးလှမောင်သည် မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက် ကျောင်းဒကာရှင် အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီး အရှင်သူရိယာဘိဝံသအမှူး

ရှိသော မစိုးရိမ်တိုက် နာယကစာချအဖွဲ့အား တိပိဋက ပါဠိမြန်မာ အဘိဓာန် ကျမ်းကြီးကို ကူညီရေးသားပြုစုပါရန် လျှောက်ထားခဲ့လေသည်။

ယင်းသို့လျှောက်ထားသဖြင့် မစိုးရိမ်တိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးကောသလ္လ ဦးစီးသော မစိုးရိမ်နာယက စာချအဖွဲ့က "က" ဝဂ်ဆိုင်ရာ ပုဒ်များရေးသားပြုစုရာ ၁၃၃၀-ပြည့်နှစ်တွင် "က" မှ "ကိလေဒေတ္ဝာ" အထိ ပုဒ်များပါဝင်သည့် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ(၅)ပေါ် ထွက်ခဲ့လေသည်။

ဆက်လက်၍ ရေးသား ပြုစုတော်မူပြန်ရာ ၁၃၃၄-ခုနှစ်တွင် "ကိလေသ" မှ "ကောရ" အထိပုဒ်များ ပါဝင်သည့် တိပိဋက ပါဠိမြန်မာ အဘိဓာန် ကျမ်း ကြီးအတွဲ (၆)ပြီးစီးခဲ့လေသည်။ ဆက်လက်၍ "ပ" ဝဂ်တွင် ဖ၊ ဗ၊ ဘ၊ မ ဆိုင်ရာ ပုဒ်များကို ဆက်လက် ပြုစုတော်မူကြဆဲဖြစ်သည် [၁]။

## မဟာဝိသုဒ္ဓါရုံ ဂဏဝါစက အဘိဓာန်အဖွဲ့

မန္တလေးမြို့အနောက်ပြင်ဝိသုဒ္ဓါရုံတိုက်မှ ဂဏဝါစက စာချဆရာတော်များ သည်လည်း ဗုဒ္ဓသာသနာအဖွဲ့ (သာသနာရေးဦးစီးဌာန) ၏ လျှောက်ထား ချက်အရ ၁၃၂၇-ခုနှစ် တပို့တွဲလမှစ၍ "စ" ဝဂ်ဆိုင်ရာ ပုဒ်တွဲများကို အဘိဓာန်ကျမ်း ပြုစုတော်မူကြရာ ၁၃၃၁-ခုနှစ်တွင် "စ" မှ "ဆိဗ္ဗေယျ" အထိ ပုဒ်များ ပါဝင်သည့် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ (၇)ပေါ်ထွက်ခဲ့လေသည်။

တဖန် ဆက်လက်၍ ရေးသားပြုစုတော် မူကြရာ ၁၃၃၅-ခုနှစ်တွင် "ဆိဒ္ဒ" မှ "ဏာပစ္စယတ္တ" အထိ ပုဒ်များ ပါဝင်သည့် တိပိဋက ပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ (၈) ပေါ်ထွက်ခဲ့လေသည်။

ဆက်လက်၍ "ပ" ဝဂ်ဆိုင်ရာ ပ-အက္ခရာနှင့် တွဲပုဒ်များကို ဆက်လက်၍ အဘိဓာန်ကျမ်း ပြုစုရေးသားတော်မူကြကုန်၏။

## ပခုက္ကူမဟာဝိသုတာရာမ အဘိဓာန်အဖွဲ့

၁၃၂၈-ခုနှစ်မှစ၍ ပခုက္ကူ မဟာဝိသုတာရာမတိုက်မှ ဂဏဝါစက ဆရာ တော်များ "တ" ဝဂ်ဆိုင်ရာ တိပိဋက ပါဠိမြန်မာအဘိဓာန်ကျမ်းကြီးကို ပြုစု ရေးသားတော်မူကြရာ ၁၃၃၂-ခုနှစ်တွင် "တ" မှ "ဒေဝမေဃာမ" အထိ ပုဒ်များပါဝင်သည့် တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းကြီး အတွဲ(၉) ပေါ် ထွက်ခဲ့လေသည်။

---

၁။ ပ-ဆိုင်ရာပုဒ်များကို ဝိသုဒ္ဓါရုံ အဘိဓာန်အဖွဲ့က ပြုစုသည်။

တဖန်ဆက်လက်၍ ပြုစုကြပြန်ရာ ၁၃၃၆-ခုနှစ်တွင် "ဒ" မှ "ဒွေဠကပုစ္ဆာ" အထိ ပုဒ်များပါဝင်သည့် တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အတွဲ(၁၀) ပေါ်ထွက်ခဲ့လေသည်။

ဆက်လက်၍ ဆရာတော်အရှင်ကေလာသ ဦးစီးသည့် ကျမ်းပြုဆရာတော်များအဖွဲ့သည် "ဓ" (ဓောက်ချိုက်)မှစ၍ တွဲပုဒ်များကို ဆက်လက်၍ ပြုစီရင်တော်မူကြကုန်၏။

ဒက္ခိဏာရာမ ဘုရားကြီးတိုက် အဘိဓာန်အဖွဲ့

နိုင်ငံတော် အစိုးရ ဗုဒ္ဓသာသနာ အဖွဲ့ (သာသနာရေးဦးစီးဌာန) သည် ဒက္ခိဏာရာမဘုရားကြီး တိုက် အမရပူရကျောင်းဆရာတော်အရှင်ဥက္ကံသာဘိဝံသ အမှူးရှိသည့် စာချဆရာတော်များအား "အ" ဝဂ်ဆိုင်ရာပုဒ်များကိုအဘိဓာန် ရေးသားပြုစုပေးပါရန် လျှောက်ထားလေသည်။ ယင်းသို့လျှောက်ထားသဖြင့် ၁၃၃၀-ခုနှစ် နယုန်လမှစ၍ အဘိဓာန်ရေးခြင်း "ပါဠိပဒပိဋက ကျမ်းညွှန်းကျမ်းကြီး" များကို ရေးသားပြုစုတော်မူခဲ့ရာ၊ ၁၃၃၄-ခုနှစ်တွင် "ယ" မှ "ဝိဠ္ဌာရိဒိ္ဌိဓာဒိ"အထိ ပုဒ်များ ပါဝင်သည့် "အ" ဝဂ်အပိုင်း (၁)ပါဠိ ပဒပိဋက ကျမ်းညွှန်းအဘိဓာန်ကြီးပေါ်ထွက်ခဲ့လေသည်။

ဆက်လက်၍ ရေးသားပြုစုတော်မူကြရာ ၁၃၃၅-ခုနှစ်တွင် "ဝိညတ္တ" မှ "သင်္ဂါဟက" အထိ ပုဒ်များ ပါဝင်သည့် အပိုင်း (၂) ပါဠိပဒ ပိဋက ကျမ်းညွှန်းအဘိဓာန်ကြီး ပေါ်ထွက်ခဲ့လေသည်။

မဆုတ်မနစ်ဆက်လက်၍ ပြုစုရေးသားတော် မူကြရာ ၁၃၄၀-ပြည့်နှစ်တွင် "သင်္ဂါဟက" မှ "သဠာယတနဓမ္မာ" အထိပုဒ်များပါဝင်သည့် "အ" ဝဂ် အပိုင်း(၃)ပါဠိပဒပိဋကကျမ်း ညွှန်း အဘိဓာန်ကြီး ပေါ်ထွက်ခဲ့လေသည်။

ဝင်းပြင် ကျန်ရှိသော ပုဒ်များကို ဆက်လက်၍ ပါဠိပဒပိဋကကျမ်းညွှန်း ပြုစုရေးသားတော်မူပြီး "အ" ဝဂ် တိပိဋက ပါဠိမြန်မာ အဘိဓာန်ကျမ်းကြီးများကို ဆက်လက်ပြုစုတော်မူကြကုန်၏။ ဒက္ခိဏာရာမဘုရားကြီးတိုက် ဂဏဝါစကဆရာတော်တို့အား စာချမှုနှင့် အဘိဓာန်ကျမ်းများ ပြုစုမှု တို့၌ လိမ္မာကျွမ်းကျင်တော် မူကြကုန်၏။

ဝါစနေ သောဓနေစာပိ၊ ဒိဗ္ဗသုဌာနေသု ကောဝိဒေါ။
ဒက္ခိဏာရာမေ ဝါစကာ၊ ဗုဒ္ဓသာသနမာမကာ။

---

၁။ ဤသာသနာဝင်ကျမ်းကြီးပြုစုသူ၊



ဒက္ခိဏာရာမ ဘုရားကြီးတိုက် အဘိဓာန်အဖွဲ့ဝင် ဆရာတော်များ

## ဒက္ခိဏာရာမတိုက် ပါဠိပဒပိဋကတ်ကျမ်းညွှန်းနှင့်

## တိပိဋကပါဠိမြန်မာအဘိဓာန် ကျမ်းပြုအဖွဲ့ဝင်ဆရာတော်များ

၁။ ဆရာတော် အရှင်ဥက္ကံသာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)၊ အမရပူရအောင်သဗ္ဗညာတ်ကျောင်း နာယက ဆရာတော်၊ ဒက္ခိဏာရာမတိုက်၊ မန္တလေး။

၂။ ဆရာတော် အရှင်သီလာစာရ၊ သဒ္ဓမ္မ ဝေဒန္တကောဝိဒ၊ ပုသိမ်ကျောင်း၊ ဒက္ခိဏာရာမတိုက်။

၃။ ဆရာတော် အရှင်မေဓိယာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)၊ နယားကျောင်း၊ ဒက္ခိဏာရာမတိုက်။

၄။ ဆရာတော် အရှင်နန္ဒဝံသာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (မူလစာချ)၊ အစိုးရဓမ္မာစရိယ၊ မော်ဂါရစ်ကျောင်း၊ ဒက္ခိဏာရာမတိုက်။

၅။ ဆရာတော် အရှင်ကုမာရာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ ဝင္ကသဘာ၊ အစိုးရဓမ္မာစရိယ သိရီမင်္ဂလာ၊ ဘီ-အေ၊ ဗန်းမော်တိုက်၊ မန္တလေး။

၆။ ဆရာတော် အရှင်ဇနိန္ဒ၊ အစိုးရဓမ္မာစရိယ၊ ရွှေဘုန်းရှိန်ကျောင်း၊ ဒက္ခိဏာရာမတိုက်။

၇။ ဆရာတော် အရှင်ဩဘာသာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ)၊ အစိုးရဓမ္မာစရိယ၊ ပခန်းကျောင်း၊ ဒက္ခိဏာရာမတိုက်။

၈။ ဆရာတော် အရှင်သိရိန္ဒ၊ အစိုးရဓမ္မာစရိယ၊ မင်းမာကျောင်း၊ ဒက္ခိဏာရာမတိုက်။

၉။ ဆရာတော် အရှင်သုန္ဒရ၊ အစိုးရဓမ္မာစရိယ နယားကျောင်း၊ ဒက္ခိဏာရာမတိုက်။

၁၀။ ဆရာတော် အရှင်ဩဘာသ၊ အစိုးရဓမ္မာစရိယ၊ တမ္ပဝတီကျောင်း၊ ဒက္ခိဏာရာမတိုက်။

၁၁။ ဆရာတော် အရှင်နန္ဒိယ၊ အစိုးရဓမ္မာစရိယ၊ မော်ဂါရစ်ကျောင်း၊ ဒက္ခိဏာရာမတိုက်။

၁၂။ ဆရာတော် အရှင်ပညောဘာသာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ၊အစိုးရဓမ္မာစရိယ၊ပခန်းကျောင်း၊ ဒက္ခိဏာရာမတိုက်။

၁၃။ ဆရာတော် အရှင်ပဏ္ဍိတာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ စေတိယင်္ဂဏ ဓမ္မာစရိယ၊အစိုးရဓမ္မာစရိယ၊ပခန်းကျောင်း၊ ဒက္ခိဏာရာမတိုက်။

၁၄။ ဆရာတော် အရှင်စန္ဒာဘာသာဘိဝံသ၊ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ၊ စေတိယင်္ဂဏ ဓမ္မာစရိယ၊ နယားကျောင်း၊ ဒက္ခိဏာရာမတိုက်။

[ဤစာရင်းတား ကျမ်းပြုအဖွဲ့ ဖွဲ့စဉ်က စာရင်းဖြစ်သည်။]

## ထိပ်တန်း ပရိယတ္တိ စာသင်တိုက် မဟာဝိဇ္ဇာလယတနကြီး

ဒက္ခိဏာရာမဘုရားကြီးတိုက်သား သာသနာတော်တွင် ထင်ရှားလှသည့် ကျောင်းတိုက်ကြီးဖြစ်သည်။ မြန်မာနိုင်ငံတွင် သံဃာတော်အများဆုံး သီတင်းသုံး၍ ပရိယတ္တိ အလုပ်ကို စောက်ချ၍ ပြုလုပ်ရာ ထိပ်တန်း ပရိယတ္တိ စာသင် တိုက်ကြီးဖြစ်သေသည်။ တိုက်သား တည်သည့်မှ ယနေ့ကျနေအောင် တိပိဋက ပဉ္စနိကာယကျမ်း အားသုံးကို သုံးလိုခြေ ချေလိုနှောက် တတ်မြောက်တော် မူသည့် ဂဏဝါစက ကျမ်းဂန်ဘတ် ပုဂ္ဂိုလ်မြတ်တို့ အဆက်မပြတ် ပေါ်ထွန်းရာ "မဟာဝိဇ္ဇာလယတနကြီး" လည်း ဖြစ်ပေသည်။

## ကျောင်းပေါင်း ခြောက်ဆယ်ကျော်

ဖော်ပြပါ ဒက္ခိဏာရာမဘုရားကြီးတိုက်၌ အလယ်တိုက် ကျောင်းတော်ကြီး အပါအဝင် ကျောင်းပေါင်း ၆၂-ကျောင်းရှိသည်။ ယင်း ကျောင်းပေါင်း ၆၄-ကျောင်းရှိသည်ဟု ဆိုရာ၌ ကျောင်းများကို အုပ်ချုပ်သည့် ကျောင်းထိုင် ဆရာတော်ဘို့ကို သတ်မှတ်၍ ၆၄-ကျောင်း ဆိုခြင်း ဖြစ်သည်။ ကျောင်း အဆောက်အအုံများမှာ ၁၀၀-ကျော်ရှိသည်။

ကျောင်း ၆၄-ကျောင်းတို့ကား—

| | |
|---|---|
| ၁။ ပေဘောအုတ်ကျောင်း၊ | ၆။ ပတ္တမြားရတနာကျောင်း၊ |
| ၂။ ဦးရန်ကုန်ကျောင်း၊ | ၇။ ဖျာပုံကျောင်း၊ |
| ၃။ မြင်းတန်းကျောင်း၊ | ၈။ ကဗျာနန်ကျောင်း၊ |
| ၄။ တိုက်သစ်ကျောင်း၊ | ၉။ လယ်ပေါ်ကျောင်း၊ |
| ၅။ ကျောင်းသစ်ကျောင်း၊ | ၁၀။ ပင်းတယကျောင်း၊ |

၁၁။ တိုင်းချစ်ကျောင်း၊
၁၂။ အာဇာနည်ကျောင်း၊
၁၃။ ဦးဆယ်ကျောင်း၊
၁၄။ ဦးဉာဏောဘာသ
ကျောင်း၊
၁၅။ နဂါးကျောင်း၊
၁၆။ အောင်နန်းရိပ်သာ
ကျောင်း၊
၁၇။ လယ်ဝန်ကျောင်း၊
၁၈။ အသုတ်ကျောင်း၊
၁၉။ စိတ္တသုခကျောင်း၊
၂၀။ ဒေါနန္ဒြာအုတ်ကျောင်း၊
၂၁။ စစ်ကိုင်းကျောင်း၊
၂၂။ အလယ်အုတ်တိုက်
ကျောင်းတော်ကြီး၊
၂၃။ ပွဲစားကြီးကျောင်း၊
၂၄။ သာသနာ့လင်္ကာရ
ကျောင်း၊
၂၅။ ရှမ်းပွဲအုတ်ကျောင်း၊
၂၆။ ရွှေဘိုကျောင်း၊
၂၇။ ကြံခင်းကျောင်း၊
၂၈။ ဣစ္ဆာသယဝိဇ္ဇာဒေးကျောင်း၊
၂၉။ သိမ်ကျောင်း၊
၃၀။ မိုးကုဘ်ကျောင်း၊
၃၁။ ကံသာယာကျောင်း၊
၃၂။ ဦးထွန်းချိကျောင်း၊
၃၃။ မိတ္ထီလာကျောင်း၊
၃၄။ ပင်းသာကျောင်း၊
၃၅။ ဟံသာဝတီကျောင်း၊
၃၆။ ပိဋကတ်တိုက်ကျောင်း၊
၃၇။ ကျိုက်လတ်ကျောင်း၊
၃၈။ ဦးသာသနကျောင်း၊
၃၉။ ဆရာတော်ဦးကြယ်
ကျောင်း၊
၄၀။ တာရာမင်းကျောင်း၊
၄၁။ အမရပူရကျောင်း၊
၄၂။ ပုသိမ်ကျောင်း၊
၄၃။ နယားနေကျောင်း၊
၄၄။ ရတနာပုံကျောင်း၊
၄၅။ မန္တာဂါရကျောင်း၊
၄၆။ ကန်ကာလေးကျောင်း၊
၄၇။ မင်းမာနကျောင်း၊
၄၈။ ဦးခအုတ်ကျောင်း၊
၄၉။ ပျော်ဘွယ်အုတ်ကျောင်း၊
၅၀။ အတုလကာရီ
ဆင်မင်းကျောင်း၊
၅၁။ ဝါဆိုကျောင်း၊
၅၂။ တမ္ပဝတီကျောင်း၊
၅၃။ အောင်ရတနာကျောင်း၊
၅၄။ ရတနာမဥ္ဇူကျောင်း၊
၅၅။ ဂုဏဝတီကျောင်း၊
၅၆။ ဓမ္မသုခကျောင်း၊
၅၇။ ဝဇီရမုဒ္ဒါစိန်ကျောင်း၊
၅၈။ သာသနဇောတိကာရုံ
ကျောင်း၊
၅၉။ မင်္ဂလာအုတ်ကျောင်း၊
၆၀။ ရွှာဟိုင်းကျောင်း၊
၆၁။ ဒဂုံကျောင်း၊
၆၂။ အင်းလေးကျောင်း၊
၆၃။ သီရိမင်္ဂလာ
တိုက်ကျောင်း၊
၆၄။ ဦးဇာဂရကြီးကျောင်း —

အားဖြင့် ၆၄-ကျောင်းတို့ ဖြစ်ကြကုန်၏။

A

သံဃာတော်ဦးရေ

ဒက္ခိဏာရာမဘုရားကြီးတိုက်၌ သံဃာတော်အများဆုံး သီတင်းသုံးစဉ်က ၁၃၀၁ (တထောင့်သုံးရာ) အထိ ရှိဘူးကြောင်း သိရ၏။ ၁၀၀၀ (တထောင်) ကျော် တထောင်ခန့်တို့လည်း တချို့ နှစ်၌ ရှိခဲ့ဘူးသည်။ ဒုတိယကမ္ဘာစစ် ပြီးသည့်ခေတ်တွင်ကား ရဟန်းတော် ၆၀၀-ခန့်၊ သာမဏေ ၃၀၀-ခန့် နှစ်ရပ်ပေါင်း ၉၀၀-ခန့် ရှိတတ်သည်။ ရံခါ ၈၀၀-ပတ်ဝန်းကျင် ရှိတတ်သည်။ စင်စစ်အားဖြင့် ဒက္ခိဏာရာမဘုရားကြီးတိုက်ကား မြန်မာနိုင်ငံ သာသနာတွင် အကြီးဆုံးသော မဟာဝိဇ္ဇာယာတနကြီး ဖြစ်လေသည်။ တနည်းဆိုရသော် မြန်မာနိုင်ငံ၏ အကြီးဆုံးသော "ဗုဒ္ဓဘက္ကသိုလ်ကြီး" ဖြစ်လေသည်။ ဥပမာ ဆိုရလျှင် တခေတ်တခါက သီဟိုဠ်၌ အတုမဲ့ ကျော်စောခဲ့သည့် မဟာဝိဟာရ ကျောင်းတိုက်ကြီးနှင့် တူလှချေ၏။

ဒက္ခိဏာရာမ အာရာမော၊ ပါကဋော မြန်မာ့ဘူတလေ။
ဝိသာလော ဝိတ္ထိဏ္ဏောစေဝ၊ သီဟဋ္ဌေ ဝိဟာရော ယထာ။

ပဌမပိုင်းပြီး၏။

## ဒက္ခိဏာရာမသာသနာဝင်အပြီးသတ်ခြင်း

ဒက္ခိဏာရာမဘုရားကြီးတိုက် သာသနာဝင်သည် အလွန်လျှင် စိတ်ဝင်စားစရာလည်း ကောင်း၏။ ရေးစရာ သမိုင်းမှတ်တမ်းတင်စရာ အချက်အလက်တို့သည်လည်း များစွာရှိကုန်၏။ ဒက္ခိဏာရာမတိုက်တွင် သာသနာ့ဝန်ဆောင် ပညာရှင်တို့မှာလည်း လွန်စွာများလှကုန်၏။

ဤသာသနာဝင်ကျမ်း ပြုစုသူအနေဖြင့် ဒက္ခိဏာရာမ သာသနာဝင်၌ လေ့လာသိရှိပြီးတို့ကိုပင် ကုန်အောင်မှတ်တမ်း မတင်နိုင်ပါ။ အလွန်လျှင် များပြားလှသောကြောင့် ဖြစ်သည်။

မန္တလေး သာသနာဝင် ကျမ်းကြီးတွင် အလွန်လည်းထူးခြား၊ ဘုရားရှင်သာသနာတော်၌ သံဃာတော် တထောင်ပြည့်ပြည့် တထောင်ခန့် တထောင်ကျော်တို့ သီတင်းသုံးရာ သံဃာ့အာရာမ်ဗိမာန်ကြီး၏ သမိုင်း၊ သာသနာဝင် တခုအနေဖြင့် တည်ရှိသင့်သည်လည်းဖြစ်ရကား ဤ ဒက္ခိဏာရာမသာသနာဝင်ကို "မန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲ" အဖြစ်စီရင်အပ်ပါသည်။

အတော်အသင့်ပြည့်စုံပြီဟု ဆိုနိုင်လောက်သော ဤ "ဒက္ခိဏာရာမ သာသနာဝင်" ကို ဖော်ပြရာ မန္တလေးသာသနာဝင်ကျမ်း ဒုတိယတွဲကို ဤတွင် လက်စသတ်လိုက်ပါပြီ။

သုဇနာနံ ပသာဒါယ၊ သံဝေဂတ္ထာယ မေကတော။<br>
ဒက္ခိဏာရာမဝံသောယံ၊ သမတ္တော သာဓုဝဏ္ဏိတော။

---

## မန္တလေး သာသနာဝင်ကျမ်း ဒုတိယတွဲ နိဂုံး

၁။ ပခုက္ကူပုရသေဋ္ဌာ၊ ပစ္ဆိမေ အာသိ ဝိဿုတာ။
စတုဂါဝုတဒေသမှိ၊ ကန်ချပ် ဂါမော သုသောဘနော။

ဘုရားမြတ်စွာ သာသနာရောင် တောက်ပြောင်ထိန်ဝင်း လင်းလက်ရာ ဖြစ်သဖြင့် မြို့မွန် မြို့မြတ် ဖြစ်သော ပခုက္ကူမြို့၏ အနောက်ဘက် လေးဂါဝုတ်ပမာဏ ဝေးကွာသောအရပ်၌ ပခုက္ကူခရိုင်အတွင်း ကျော်စောခြင်းရှိသော ရွာ၏ လေးဘက်လေးတန်၌ ကျောင်းကန်ဘုရား စေတီပုထိုး အမျိုးမျိုးတို့ဖြင့် တင့်တယ်သာယာလှသည့် ကန်ရပ်ရွာကြီး တည်ရှိလေသည်။

၂။ ဒွိနော ဒွိဝေက သာကမှိ၊ တမှိ ဇာတေန ဇာတိယာ၊
လင်္ကာ ဘာရတအာဒီသု၊ ဝုဋ္ဌပုဗ္ဗသုတေသိနာ။

ထိုကန်ရပ်ရွာကြီး၌ မူလ ချက်မြှုပ် အနေအားဖြင့် ၁၂၈၂-ခုနှစ်၌ မွေးဖွားသော[1] သီဟိုဠ်နိုင်ငံ (သီရိလင်္ကာနိုင်ငံ) ဘာရတခေါ်သည့် အိန္ဒိယနိုင်ငံ အစရှိသော နိုင်ငံရပ်ခြားတိုင်းတပါးတို့၌ ကြာမြင့်စွာ နေခဲ့ဘူး၍ သက္ကတ ပရာကရိတ်၊ အင်္ဂလိပ်၊ သီဟိုဠ် ထိုထို ဘာသာန္တရစာပေ ဗဟုသုတ သမိုင်း ရာဇဝင် အမျိုးမျိုးကို ရှာမှီးလေ့လာ သင်ယူလေ့ရှိသော။

၃။ ဝိသုတာရာမသီဟာနံ၊ သိက္ခိတေန တိပေဋကံ။
သန္တိကေ နဝဝဿာနိ၊ သံဂီတိကိစ္စကာရိနာ။

ပခုက္ကူမြို့ မဟာဝိသုတာရာမ ဝိဇ္ဇာလယတနကြီး၌ တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ မဟာထေရ် အစရှိကုန်သော မဟာဝိသုတာရာမ ဂါထာ ပညာရှင် မထေရ်မြတ်တို့၏အထံ၌ ကိုးနှစ်ဘိုင် ပိဋကသုံးပုံကို သင်ယူခဲ့သော ဆဋ္ဌသံဂါယနာ မဟာမွေသဘင်ကြီး၌ ပဋိဝိသောဓက၊ ဩဝါဒါနုသာသက ဖြစ်၍ စာပေလုပ်ငန်း အဝဝကို ပြုလုပ်လေ့ရှိသော။

---

၁။ ၁၂၈၂-ခုနှစ် နတ်တော်လဆုတ် ၁၁-ရက်နေ့တွင် ဦးဘရှန်-ဒေါ်လှမိတို့မှ ဖွားမြင်သည်။ မြင်းခြံနယ် ကန်တိမ်ရွာ ဦးဘသင်း-ဒေါ်စိန်ခတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်သည်။ ပခုက္ကူခရိုင် ကန်ရင်ရွာ ဦးပျော်ပါး-ဒေါ်သောင်း ပတို့က လည်းကောင်း၊ ညောင်တုန်းမြို့ ကျုံတမာရွာ ဦးကျော်သင်-ဒေါ်စိန်ချစ် တို့က လည်းကောင်း သိမ်ထပ်၍ ဒါနပြုကြသည်။ ပခုက္ကူမြို့ တပ်ကြားရပ် ကျောင်းအုပ်ဆရာကြီး ဦးဘညွန့်-ကျောင်းအုပ်ဆရာမကြီး ဒေါ်ပု တို့က သားအမှတ်ဖြင့် ကိုးကွယ် လှူဒါန်းကြသည်။

၄။ ဒက္ခိဏာရာမဝါသီနံ၊ သန္တိကေပိ သုဝိညုနံ။
သိက္ခိတေန တိံသဝဿာ ထေရေန ဟိ ယသသိနာ။

ရတနာပုံဘွဲ့မည်ထိုသော မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် အမရပူရကျောင်းဆရာတော် အရှင်ဥက္ကံသာဘိဝံသ အစရှိသော ပညာရှင်မထေရ်မြတ်တို့အထံ၌လည်း သင်ယူအပ်သော နည်းနာနယ အဘာတ်ပညာ အဝ ၁၀ ရှိသော ရဟန်းသိက္ခာ ဝါသုံးဆယ်ရှိပြီး မထေရ်ကြီးဖြစ်သော တပည့်တပန်း အခြံအရံနှင့်လည်း ပြည့်စုံသော။

၅။ သုန္ဒရေ ပုရသေဋ္ဌမှိ၊ သုန္ဒရေ ဝိသုတေ သုဘေ။
သုန္ဒရေ ဇောတိပါလမှိ၊ ဝသတာ ဂဏဝါစိနာ။

ကောင်းမြတ်တင့်တယ် နေချင်စဖွယ်ကောင်းလှသော ပခုက္ကူ ပိဋကတ်အတတ် မြို့တော်မြတ်၌ တင့်တယ်သာမော ကျော်စော ထင်ရှားလှသော မဟာဝိသုတာရာမ ဝိဇ္ဇာယတနကြီးအတွင်း၌ တိပိဋကပါရဂူမိ ဒီဃဒဿီ ကျေးဇူးရှင် ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရမဟာထေရ်၊ အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာမဟာထေရ်၊ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသမဟာထေရ်တို့ သီတင်းသုံး၍ ဓူရနှစ်ပါး ပွားများအားသစ်ရာ ဌာနမွန်ဖြစ်သဖြင့် တင့်တယ်သာယာ နေချင်စရာ ကောင်းလှသော သာသန ဇောတိပါလကျောင်းကြီး၌ နေထိုင်လျက် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပါတိမောက်၊ ရူပသိဒ္ဓိ၊ ဋီကာကျော်၊ ကင်္ခါဝိတရဏီအဋ္ဌကထာ ဟူသော စာငယ် စာလတ် ကျမ်းဂန်များနှင့် တကွ ဒီဃနိကာယ် ပါဠိအဋ္ဌကထာ၊ မဇ္ဈိမနိကာယ် ပါဠိအဋ္ဌကထာ၊ သံယုတ္တနိကာယ် ပါဠိအဋ္ဌကထာ၊ အင်္ဂုတ္တရနိကာယ် ပါဠိအဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာကြီးများ၊ ခုဒ္ဒကနိကာယ်အပါအဝင် နေတ္တိပါဠိအဋ္ဌကထာ ဟူသော မာဂဓနှင့် မုဒ္ဓဗောဓ၊ အမရကောသ၊ စာဏက်နီတိ အစရှိသော သက္ကတဘာသာ စသည့် ဘာသန္တရကျမ်းဂန်အမျိုးမျိုးကို ချုပ်ကိုင်လေ့ရှိသော အကျွန်ုပ်သည်—

၆။ နိဿာယ ဣတိဟာသေစ၊ သိလာလိပိပဘုတယော။
ဗဟုလေ ဂန္ထသေဋ္ဌေပိ၊ ကတောယံ ဝိဒုမာနိတော။

သမိုင်းရာဇဝင် သာသနာဝင် အတ္ထုပ္ပတ္တိ ကျမ်းဂန်အမျိုးမျိုး၊ ကျောက်စာ အစရှိသော သမိုင်းမှတ်တမ်း စာတမ်းအမျိုးမျိုး၊ တခြားတပါးသော သက်ဆိုင်စပ်သွယ်ရာ ကျမ်းဂန်မွန်အမျိုးမျိုးတို့ကို မှီငြမ်းပြု၍ ပညာရှင်အပေါင်းတို့ နှစ်ထောင်း ဝမ်းသာ ထောမနာအပ်သော ဤမန္တလေးသာသနာဝင် (ဒုတိယတွဲ)ကျမ်းကြီးကို ကြိုးပမ်းရေးသား အပ်ပါသတည်း။

၄။ တိဋ္ဌတံ အယံ မေ ဂန္ထော၊ သုသာရော ယာဝ သာသနံ။
တိဋ္ဌတော ၀ သုတေသီနံ၊ သုဝံသံ သုပ္ပကာသယံ။

အကျွန်ုပ် များလှ ထွေပြား ဝိုင်းဝိုင်လည်နေသော စာချစာရေး အလုပ်ကိစ္စတွေကြားမှ စိတ်အားထက်သန်စွာ ရေးသားပြုပြင် စီရင်အပ်သော ဤမန္တလေးသာသနာဝင် (ဒုတိယတွဲ)ကျမ်းကြီးသည် ဘုရားမြတ်စွာ သာသနာ ရောင်ခြည် တည်ရှိသမျှ ကာလပတ်လုံး သာသနာဝင်သမိုင်း အတ္တုပ္ပတ် သုတေသီတို့အား ကောင်းမြတ်သော အနွယ်အဆက်ကို ပြလျက်တည်ထွန်းပါစေသတည်း။

၅။ အနေန သုဝိသိဋ္ဌေန၊ ပုညေနညေန ကမ္မုနာ။
မနိသိဘ ဂုရူပော ၀၊ ဂစ္ဆေယျုံ အမတံ သိဝံ။

ဤမန္တလေး သာသနာဝင် (ဒုတိယတွဲ)ကျမ်းကြီးကို ရေးသားပြုစု ကြိုးပမ်းရသော ကောင်းမှုထူးနှင့် အခြားကျမ်းဂန်များကို ရေးသားပြုစုရသော ကောင်းမှု၊ စာပေကျမ်းဂန် ပို့ချရသော ကောင်းမှု အစုစုကြောင့် ပညာရှင်ချည်းများသာ ဖြစ်တော်မူကြသော ကျေးဇူးတော်ရှင် မဟာထေရ်မြတ်ကြီးတို့အတူ အမတကျွန်းငူ သိဝနန်းသို့ စံမြန်းရပါစေသတည်း။

မန္တလေးသာသနာဝင်ကျမ်း (ဒုတိယတွဲ) အလုံးစုံပြီးပြီ။

## အရှင်ကေလာသပြုစုသော

## ကျမ်းစာများ

၁။ အဘိဓမ္မာဂုဏ်ရည်။
၂။ တိပိဋက အတ္ထုဒ္ဓါရသူစိကျမ်း။
၃။ တိပိဋက သုတ္တသူစိကျမ်း။
၄။ အင်္ဂလိပ်ပါဠိ အဘိဓာန်။
၅။ ပါဠိအင်္ဂလိပ် အဘိဓာန်။
၆။ သက္ကတ မြန်မာအဘိဓာန်။
၇။ ပခုက္ကူသာသနာဝင်။
၈။ မဟာဝိသုတာရာမ သာသနာဝင်။
၉။ မန္တလေးသာသနာဝင် ပထမတွဲ။
၁၀။ မန္တလေးသာသနာဝင် ဒုတိယတွဲ။
၁၁။ မန္တလေးသာသနာဝင် တတိယတွဲ။
၁၂။ မန္တလေးသာသနာဝင် စတုတ္ထတွဲ။
၁၃။ မန္တလေးသာသနာဝင် ပဉ္စမတွဲ။
၁၄။ မန္တလေးသာသနာဝင် ဆဋ္ဌမတွဲ။
၁၅။ မန္တလေးသာသနာဝင် သတ္တမတွဲ။
၁၆။ မန္တလေးသာသနာဝင် အဋ္ဌမတွဲ။
၁၇။ မန္တလေးသာသနာဝင် နဝမတွဲ။
၁၈။ မန္တလေးသာသနာဝင် ဒသမတွဲ။
၁၉။ မန္တလေးသာသနာဝင် ဧကာဒသမတွဲ။
၂၀။ မန္တလေးသာသနာဝင် ဒွါဒသမတွဲ။
၂၁။ မန္တလေးသာသနာဝင် တေရသမတွဲ။
၂၂။ မန္တလေးသာသနာဝင် စုဒ္ဒသမတွဲ။
၂၃။ မန္တလေးသာသနာဝင် ပန္နရသမတွဲ။
၂၄။ ပုဂံသာသနာဝင်။
၂၅။ ပင်းယသာသနာဝင်။
၂၆။ အင်းဝသာသနာဝင်။
၂၇။ စစ်ကိုင်းသာသနာဝင်။
၂၈။ အမရပူရသာသနာဝင်။
၂၉။ စွန်းလွန်းပဋိပတ္တိ သာသနာဝင်။
၃၀။ သီဟိုဠ်ရဟန္တာများ။

၃၁။ သီဟိုဠ်ဘုရား စုံသမိုင်း။
၃၂။ စေတိယပုဗ္ဗတ္တိဒီပနီ။
၃၃။ ပခုက္ကူ ဘုရား စုံသမိုင်း။
၃၄။ ပခုက္ကူ ရှင်ကျင့်ဝတ်။
၃၅။ ပခုက္ကူ စာချုန်ည်း။
၃၆။ ပခုက္ကူ ဧရာဝတ်ချက်ကျမ်း။
၃၇။ ပခုက္ကူ သဒ္ဒါသုတ်နက်။
၃၈။ ပခုက္ကူ ဂုဏ်တော်ဖွင့်။
၃၉။ ပခုက္ကူ ဘုရားခိုးကျမ်း။
၄၀။ ပခုက္ကူ စာစပ်ကျမ်း။
၄၁။ ပခုက္ကူ နိပါတ်နက်များကျမ်း။
၄၂။ ပခုက္ကူ ပရိတ်နိဿယကျမ်း။
၄၃။ ပါဠိ ပါဌ မဉ္ဇူရိ ပါဠိဖတ်စာ။
၄၄။ ဥပုသ်သည်များလက်စွဲ။
၄၅။ တိပိဋကပါဠိ မြန်မာအဘိဓာန်အတွဲ ၉-(ပါဝပ်ပြုစု)။
၄၆။ တိပိဋကပါဠိ မြန်မာအဘိဓာန် အတွဲ ၁၀-(ပါဝင်ဦးစီးပြုစု)။
၄၇။ တိပိဋကပါဠိ မြန်မာအဘိဓာန် အတွဲ ၁၁-(ဦးစီးပြုစု)။
၄၈။ တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ၏ ထေရုပ္ပတ္တိဒီပနီနှင့် အဖိုးတန် စာပေများ။
၄၉။ အဘိဓဇ မဟာရဋ္ဌဂုရု အရှင်သုန္ဒရ၏ မဟာထေရစရိတ။
၅၀။ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသ၏ ထေရဝုတ္တန္တ ဒီပနီ။
၅၁။ ကျောက်ဖူ ဆရာတော် အရှင်ကလျာဏ၏ ကလျာဏ ထေရဂုဏ်ရည်။
၅၂။ ဝါးကန်ဆရာတော် အရှင်သုန္ဒရ၏ ဝါးကန် ထေရဂုဏ်ရည်။
၅၃။ သံပုရာပင်ကုန်း ဆရာတော် အရှင်အရိယ၏ အရိယ ထေရဂုဏ်ရည်။
၅၄။ ကျွန်းဦးရွာ မဟာဝိဇိတာရာမတိုက် ဆရာတော် အရှင်ဉာဏုတ္တရ၏ မဟာဝိဇိတာရာမ ထေရပဒါန်။
၅၅။ ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရ၏ မဟာထေရဝုတ္တန္တပ္ပဒီပိကာ။
၅၆။ အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာ ဆရာတော်ဘုရားကြီး၏ မဟာထေရလလိတ။
၅၇။ သာသနာပိုင် ဆရာတော် ဦးဧယျ ထေရုပ္ပတ္တိ။

၅၈။ အရှင်သုန္ဒရ ဆရာတော်ဘုရားကြီး၏ ဘုန်းတော်ဘွဲ့ ဂါထာ ခြောက်ဆယ် ပါဌ် နိဿယ။
၅၉။ အရှင်နန္ဒဝံသ ဆရာတော်ဘုရားကြီး၏ ဘုန်းတော်ဘွဲ့ ဂါထာ ရှစ်ဆယ် ပါဌ် နိဿယ။
၆၀။ အရှင်ပညာ ဆရာတော်ဘုရားကြီး၏ ဘုန်းတော်ဘွဲ့ ဂါထာ ကိုး ဆယ် ပါဌ် နိဿယ။
၆၁။ ရေစကြို ဆရာတော်ဘုရားကြီး၏ ဘုန်းတော်ဘွဲ့ ဂါထာ ၁၀၀- ပါဌ် နိဿယ။
၆၂။ ကျွန်းဦး ဆရာတော်ဘုရားကြီး၏ ဘုန်းတော်ဘွဲ့ ဂါထာသုံးဆယ် ပါဌ် နိဿယ။
၆၃။ လက္ခဏာတော် သုံးဆယ့်နှစ်ပါး ဘုရားရှိခိုး ဂါထာ ပါဌ် နိဿယ။
၆၄။ လက္ခဏာတော်ငယ် ရှစ်ဆယ် ဘုရားရှိခိုး ဂါထာ ပါဌ် နိဿယ။
၆၅။ တရာ့ရှစ်ကွက် စက်လက္ခဏာ ဘုရားရှိခိုး ဂါထာ ပါဌ် နိဿယ။
၆၆။ နမက္ကာရ ပါဌ် နိဿယ။
၆၇။ ရှင်ဥပဂုတ် ရှိခိုး ဆယ့်နှစ်ဂါထာ ပါဌ် နိဿယ။
၆၈။ ပဋ္ဌာနသီခ သီချင်း ဂါထာ ပါဌ် နိဿယ။
၆၉။ မြစ်ခြမြို့ အာဘယာရာမတိုက် သောဘနာလင်္ကာရသိမ် မော်ကွန်း ပါဌ် နိဿယ။
၇၀။ မရဏာဿတိ ဘာဝနာ။
၇၁။ မူလပဏ္ဏာသ အဋ္ဌကထာ ဂဏ္ဌိ။
၇၂။ ပိဋကတ်သုံးပုံ ဘုရားရှိခိုး (၁၁၅-ဂါထာ ပါဌ် နိဿယ)။
၇၃။ မဟာဝံသပါဌ် (သီဟိုဠ် ပါဠိမှ မြန်မာအက္ခရာပြန်ရေး)။
၇၄။ ဒီပဝံသ ပါဌ် (သီဟိုဠ် ပါဠိမှ မြန်မာပါဠိပြန်ရေး)။
၇၅။ အဋ္ဌရိယပဒါန်နှင့် အဖိုးတန်စာပေများ။
၇၆။ ပဉ္စက္က၊ အဘိဓာန် နိဿယသစ်။
၇၇။ တိပိဋကရေ ဝုတ္တနယသန္နိပနိကျမ်း၊
၇၈။ ကဝိဒပ္ပဏ နီတိပါဌ် နိဿယ။
၇၉။ တိပိဋကရေ ဝုတ္တနယ စီကာသိနီ။
၈၀။ ဆယ့်နှစ်ရာသီဘွဲ့ဂါထာ ပါဌ် နိဿယ။
၈၁။ ရေနံချောင်းမြို့ ရွှေတောင်တိုက်အုပ် ဆရာတော် အရှင်ဇဏ္ဏာ စာရ၏ ထေရဝုဘ္ဘဝိလာသိနီ။
၈၂။ သမန္တကူဋဝဏ္ဏနာ ပါဌ် (သီဟိုဠ် ပါဠိမှ မြန်မာပါဠိပြန်ရေး)။

၈၃။ မဟာဝိသုတာရာမ နိကာယ ဝတ်ရွတ်စဉ်အဖွင့်။
၈၄။ မဟာဝိသုတာရာမ နိကာယ သာသနာဝင်သစ်။
၈၅။ မဟာဝိသုတာရာမိက ဂဏဝါစက နိကာယ သမိုင်းမှတ်တမ်း။
၈၆။ မဟာစည် ထေရုပ္ပတ္တိဝိလာသိနီ။
၈၇။ သာသနာဝင် ဘွဲ့တံဆိပ်တော်များသမိုင်း။
၈၈။ ၁၃၄၀-ပြည့်နှစ် အဘိဓဇ မဟာရဋ္ဌဂုရု ဆရာတော်ကြီး ၃-ပါး နှင့် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ကြီး ၁၁-ပါးတို့၏ အဖြာ တော်စဉ် ထေရုပ္ပတ္တိသင်္ခိပနီ။
၈၉။ အဂ္ဂမဟာပဏ္ဍိတ အရှင်ဂန္ဓမာ၏ မဟာထေရဝိက္ကီဠိတ။
၉၀။ ပခုက္ကူ အဖိုးတန်စာပေများ။
၉၁။ မိဘမြတ် ကျေးဇူး။
၉၂။ ထနောင်းခလ ထေရဂုဏ်ရည်။
၉၃။ ၁၃၄၁-ခုနှစ် အဘိဓဇ မဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီး ၂-ပါးနှင့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီး ၆-ပါးတို့၏ အဖြစ်တော်စဉ် မဟာထေရုပ္ပတ္တိ ပကာသိနီ။
၉၄။ ပခုက္ကူ ရွှေဘန်တစ် ဘုရားသမိုင်း။
၉၅။ ပဌမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးသမိုင်းကျမ်း။
၉၆။ ရွှေကူဘုရားသမိုင်း။
၉၇။ နှင်းကျိုင်ရှစ်ဆူ ဗုဒ္ဓဝင်။
၉၈။ ကလျာဏီသာသနာဝင် (ပဲခူး ကလျာဏီသာသနာဝင်)။
၉၉။ ပခုက္ကူ နမောဘာသ အနက်များကျမ်း။
၁၀၀။ ဆရာမြတ် ကျေးဇူး။

---